
ဗဟစ်ရှိတ်ဇေဝရ်
ကျမ်း
بہشتی زیور مکمل مدلل
မောင်လါနာမုဟာမ္မဒ်မူစာ (မဇ္ဇာဟိရ်)
မြန်မာပြန်သည်
{ပထမပိုင်း}

من يرد الله به خيرا يفقهه في الدين

# بہشتی زیور مکمل و مدلل

از حکیم الامت جامع شریعت و طریقت حضرت مولانا اشرف علی صاحب تھانوی

မောင်လာနာ ရှားဟ်အရှ်ရဖ်အလီထာနဝီ (ရဟမတုလ္လာဟ်)
သခင်ကြီး ပြုစုခဲ့သော

# ဘဟာစ်ရှ်တီ ဇေဝရ်ကျမ်း

(ပထမပိုင်း)

[ပထမတွဲ မှ ပဉ္စမတွဲ အထိ]

အလ်ဟာဂျ်
မောင်လာနာ မုဟမ္မဒ် မူစာ (မဇ္ဇာဟေရီ)
မြန်မာပြန်သည်။

 အစ္စလာမ်ယဉ်ကျေးမှုစာပေတိုက်

၃၅-လမ်း၊ (၈၄/၈၅-ကြား) မန္တလေးမြို့။

# ဤကျမ်းတွင်

၁။ (ဆွလလ္လာဟု)ဟူ၍ ရေးသားထားသည်တွင် (ဆွလလ္လာဟို၊ အလိုင်ဟော့၊ ဝစလ်လမ်)ဟု အပြည့်အဝ ဖတ်ဆိုပါရန်။

၂။ (ရသွေ့) ဟူ၍ ရေးသား ထားသည်တွင် (ရသွေ့ယလ္လာဟို၊ တအာလာ အန္ဟို)ဟု အပြည့်အဝဖတ်ဆိုပါရန်၊ ၎င်းအမျိုးသမီးအမည် နောက်တွင် ရေးထားသည် ဖြစ်သော် (ရသွေ့ယလ္လာတို၊ တအာလာ၊ အန္ဟာ) ဟု အပြည့်အဝ ဖတ်ဆိုပါရန်။

၃။ (ရဟော့) ဟူ၍ ရေးသားထားသည်တွင် (ရဟ်မတုလ္လာဟ်၊ အလိုင်ဟ်) ဟု အပြည့်အဝ ဖတ်ဆိုပါရန်။

ဤမေတ္တာရပ်ခံချက်သည် ကျွန်တော် ရေးသမျှ ကျမ်းတိုင်းအတွက် ဖြစ်သည်၊ ကျမ်းလေးမည်စိုး၍ အတိုကောက်သာလျှင် ရေးခဲ့ပါသည်။


| | | |
|---|---|---|
| ပထမအကြိမ် | ⇨ | ၁၉၆၄-ခု အောက်တိုဘာလ။ |
| ဒုတိယအကြိမ် | ⇨ | ၁၉၆၈-ခု အောက်တိုဘာလ။ |
| တတိယအကြိမ် | ⇨ | ၁၉၇၅-ခု မေလ။ |
| စတုတ္ထအကြိမ် | ⇨ | ၁၉၇၇-ခု ဩဂုတ်လ။ |

- ဘာသာရေးဆိုင်ရာ စာမူပုံနှိပ်ထုတ်ဝေခွင့် မှတ်ပုံတင်အမှတ် (၅၉၀)
- မျက်နှာဖုံး ပုံနှိပ် ထုတ်ဝေခွင့်ပြု လက်မှတ် အမှတ် (၄၃)
- ၁၉၇၇-ခု ဩဂုတ်လ၊ စတုတ္ထအကြိမ် အုပ်ရေ ၁၀၀၀၊
- ထုတ်ဝေသူ မုဟမ္မဒ်မူစာ မြ/၀၁၀၇၇၊
- အစ္စလာမ်ယဉ်ကျေးမှုစာပေတိုက် ၃၅-လမ်း၊ (၇၄/၇၅-ကြား)မန္တလေးမြို့။
- ပုံနှိပ်သူ မုဟမ္မဒ်မူစာ မြ/၁၀၅၉၅၊
  ယဉ်ကျေးမှုပုံနှိပ်တိုက် ၃၅-လမ်း၊ (၇၄/၇၅-ကြား) မန္တလေးမြို့။

سند المسلسلات من شيخ الحديث حضرت الحاج [illegible] الشهير بمظاهر علوم سهارنفور

بسم الله الرحمن الرحيم

الحمد لله الذى نوارت الائه الشهيرة - واتصلت بنعمائه العزيزة . والصلوة والسلام على من ارسل بجوامع الكلم
بشيرا ونذيرا - وبمسلسل الفضل المبين رحمة للعالمين منيرا - وعلى نوادر اله وصحبه الحملة لمبشرات النبى الامين -
وعلى اتباعه الاوائل والاواخر الحماة للدين المتين - اما بعد فيقول العبد المفتقر الى رحمة ربه القوى محمد زكريا
ابن العلامة حافظ القران والحديث الشيخ محمد يحيى ساعده الله تعالى ما اظهر وما اخفى ان اخانا فى الدين
المولوى محمد موسى ابن الشيخ المولوى محمد يونس المتوطن بمدينة ماندلے (برما) سمع مني وهما قرئ على الرسائل الثلاثة
اولها الفضل المبين فى المسلسل من حديث النبى الامين وثانيها الدر الثمين فى مبشرات النبى الامين وثالثها النوادر
من احاديث سيد الاوائل والاواخر - كلها من مصنفات حجة الاسلام وقدوة الانام الشاه ولى الله الدهلوى ايضا
الحديث المسلسل بضيافة الاسودين " التمر والماء " والحديث المسلسل باجابة الدعاء عند الملتزم وطلب
منى اجازتها فاجزته ان يرويها عنى كما اجازنى بها حافظ القران والحديث العلامة الاوحد سيدى
ابو ابراهيم حبيب الله خليل احمد شرفه الله وكرم يوم الغد - بشرائطها المعتبرة عند اهل
هذه الطريقة المثلى - واوصيه بتقوى الله تعالى فى العلن والنجوى - وان يجتنب الاحداث فى الدين والتفريق
بين المسلمين - وان يحترز عن طلب لذات الدنيا وحطامها - وعن اساءة الادب باكابر الامة وهداتها -
وان لا ينسانى ومشائخى من صالح دعواته فى خلواته وجلواته واسأل الله تعالى ان ينفعنى به
واياه وان يوفقنا لما يحب ويرضاه وصلى الله تبارك وتعالى على خير خلقه سيدنا ومولانا محمد
واله وصحبه وبارك وسلم كما يحب ربنا ويرضى بعدد ما يحب ويرضى +

العبد

محمد زكريا

بسم الله الرحمن الرحيم



نحمده ونصلي على رسوله الكريم اما بعد فان اخانا في الدين الشيخ الفاضل محمد موسى

ابن المولوي محمد يونس المتوطن بلدة مانڈلے (برما) دخل هذه المدرسة العربية الشهيرة

بمظاهر علوم الواقعة ببلدة سهارنفور (يو-پی) صانها الله تعالى عن الآفات والشرور في اواخر

شهر جمادى الاولى سنة احدى وسبعين بعد الف وثلثمائة (سنة ١٣٧١ھ) من الهجرة النبوية على صاحبها

الف الف صلوة وتحية واقام فيها اربعة سنين وثلثة اشهر فقرأ وسمع الكتب من العلوم المختلفة فمن علم التفسير تفسير سورة البقرة

من انوار التنزيل واسرار التاويل للعلامة الشيخ القاضي ناصر الدين ابو سعيد عبد الله بن عمر البيضاوي وتفسير الجلالين وتفسير

مدارك التنزيل - ومن علم الحديث الصحاح الستة نعني بها الجامع الصحيح للامام البخاري والجامع الصحيح للامام مسلم

ابن الحجاج القشيري والجامع الصحيح للامام الترمذي مع كتاب الشمائل له والسنن للامام ابي داود السجستاني والسنن للامام النسائي والسنن

للامام ابن ماجة القزويني والاكثر من شرح معاني الآثار للامام الطحاوي والموطا للامام مالك بن انس المدني والموطا للامام

محمد بن الحسن الشيباني ومشكوة المصابيح ومن علم اصول الحديث مقدمة المشكوة وشرح نخبة الفكر ومن علم الفقه المجلدات الثلاث الاول

من الهداية والمجلدين الاولين من شرح الوقاية ونبذا من الدر المختار ورسم المفتي ومن علم اصول الفقه التوضيح مع حاشية التلويح ومن علم الادب

المقامات الحريري والسبع المعلقات ومن علم البلاغة والمعاني مختصر المعاني ومن علم المنطق سلم العلوم ومن علم القراءة والتجويد

المقدمة الجزرية والفوائد المكية وجمال القرآن • فلما فرغ طلب السند فنعطيه هذا السند للدرجة الثانية ونوصيه

بتقوى الله تعالى في السر والعلانية وبلزوم السنة السنية واجتناب البدع المضلة وان لا ينسانا عن صالح دعواته

في خلواته وجلواته واخر دعوانا ان الحمد لله رب العلمين والصلوة والسلام على حبيبه خير خلقه سيدنا

ومولانا محمد وعلى اله واصحابه اجمعين • كتب في ١٠ ارشعبان سنة ١٣٧٥ھ

امضاءات الاراكين والمدرسين

အိန္ဒိယနိုင်ငံ ဆဟာရန်ပူရ် မြို့ရှိ မဇ္ဇာဟိရုလ်ဥလူးမ် အရဗီ ကျောင်းတော်က၊ မောင်လာနာ မုဟမ္မဒ်မူစာအား ပေးအပ်သော 'ဘွဲ့' စနဒ်။

بِسۡمِ اللّٰہِ الرَّحۡمٰنِ الرَّحِیۡمِ

# ကျမ်းဦးစကား

## ဗိစ်မေ့ဟိတအာလာ

ဤဘဟစ်ရှိတီဇေဝရ်ကျမ်းသည် ကျော်ကြားသော ကျမ်းတစ်စောင် ဖြစ်သည်၊ ဤကျမ်းထွက်ပေါ်လာသည်မှာ နှစ်ပေါင်း(၆၀)ရှိပေပြီ၊ မူရင်းကျမ်းရှင် မောင်လာနာ ရှားဟ် မုဟမ္မဒ် အရှ်ရဖ်အလီထာနဝီ (ရဟာမတွလ္လာဟ်) သခင်ကြီးသည် အမျိုးသမီးများ အတွက် သက်သက်ရည်စူး၍ ရေးသားတော်မူခဲ့ခြင်း ဖြစ်ပေသည်၊ စာမျက်နှာတိုင်းတွင် ဘေး၌ အမျိုးသားများ အတွက်လည်း ဖေါ်ပြထားပေသည်၊ မြန်မာပြန်ဆိုရာ၌ အမျိုးသမီး အမျိုးသားဟူ၍ နှစ်မျိုးခွဲကာ ရေးလျှင် ကျမ်းမှာ ရှည်လျားသွားမည်ဖြစ်သည်၊ ထို့ကြောင့် ကျွန်တော်သည် ပါရှိသမျှသော (မတ်စ်အလဟ်) များကို အမျိုးသား အမျိုးသမီး နှစ်ဦးနှစ်ဝကိုရည်စူး၍ပြန်ဆိုလိုက်ခြင်းဖြစ်သည်၊ အမျိုးသားများနှင့် မသက်ဆိုင်သော နေရာတွင် အမျိုးသမီးများအတွက်ပင်ဖြစ်ကြောင်း ပေါ်လွင်စွာ ရေးပြီးလျှင် အမျိုးသားများအတွက် သက်သက်ဖြစ်နေသော နေရာတွင် အမျိုးသမီးများနှင့် မသက်ဆိုင်ကြောင်းများကို ပေါ်လွှင်စေရန် ဂရုတစ်စိုက် ပြန်ဆိုလိုက်ခြင်း ဖြစ်ပေသည်။

ကျမ်းအစပိုင်းတွင် ပါဝင်သောအချက်များကို မြန်မာစာဖတ် ပရိသတ် အတွက် မလိုအပ်ဟု ယူဆကာ ချန်လှပ်ခဲ့ပြီးလျှင် စစ်မှန်သော ပုံပြင်များမှ စတင်၍ ပြန်ဆိုလိုက်ခြင်းဖြစ်သည်၊ ပြန်ဆိုရာ၌ မူရင်း အာဘော်အတိုင်း ဖြစ်စေရန် ကြိုးစားလျှက် ပြန်ဆိုလိုက်သည်။

အာလင်မ် ဓမ္မပညာရှင်များသည် ဤဘာသာပြန် ကျမ်းကို ကြည့်ရှုကာ မူရင်းကျမ်း ဖြစ်သော အင်မ်ဒါဒိယဟ် တိုက်ထုတ် ဒေယိုဘန်ဒ် ကျောင်းတော်၏ အာလင်မ် ပညာရှင့်များ ဟာရှိယဟ် မှတ်ချက် ရေးသည့် ဘဟစ်ရှိတီဇေဝရ်ကျမ်းနှင့် တိုက်ကြည့်ကြပါရန် ''အနူးအညွတ်'' ပန်ကြားလိုပေသည်၊ ချွတ်ချော်မှု တွေ့ရှိခဲ့သော် သတိပေးကဝမ်းသာစွာ လက်ခံ ပြင်ဆင်မည် ဖြစ်ပါကြောင်း။

မုဟမ္မဒ်မူစာ (မန္တာဟော့ရီ)

# ကျမ်းပြုသူ ပုဂ္ဂိုလ်၏ အတ္ထုပ္ပတ္တိ အကျဉ်း

မောင်လာနာ ရှားဟ် မုဟမ္မဒ် အရှ်ရဖ်အလီ ထာနဝီ သခင်သည် ဟစ်ဂျ်ရီတော် ၁၂၈၀-ခုနှစ် ရဗီအွလ်အာခင်ရ်လ(၅)ရက် အင်္ဂါနေ့ နံနက် ဖဇ်ဂျ်ရ်အချိန် ခနမထွက်မီ (ထာနဟ်ဘဟူးန်) ရွာကြီး၌ မွေးဖွားတော်မူလေသည်။

သခင်၏ဖခင် အဗ်ဒွလ်ဟပ်က်(ရဟာမတွလ္လာဟ်)သည် မီရတ်မြို့ထဲ၌ မြေပိုင်ရှင်ကြီး တစ်ဦးဖြစ်လေသည်၊ သခင်မွေးဖွား သန့်စင်ပြီးနောက် (၁၄)လ အကြာတွင်သား တစ်ယောက်ဖွားမြင်ပြန်သဖြင့် နို့ထိမ်းထားရလေသည်၊ သက်တော်(၅)နှစ်အရွယ်တွင် မိခင် ဖြစ်သူသည် ကွယ်လွန်သွားတော်မူလေသည်။

အိန္ဒိယပြည်ကို မွတ်စလင်မ်များ မစိုးမိုးခင် အခါသမယက (မိုဇတ်ဖရ်နဂရ်) မြို့နယ် တွင် ရာဂျဟ်ဘဟီးမ် မည်တွင်သော စော်ဘွားသည် ရွာတစ်ရွာတည်ခဲ့လေသည်၊ ထိုရွာကို မိမိအမည်နာမတပ်၍ (ထာနဟ်ဘဟီးမ်) ဟု မှည့်ခေါ်သမုတ်ခဲ့လေသည်၊ တစ်စတစ်စနှင့် မွတ်စလင်မ်များ ရောက်လာကြ၍ ၎င်းရွာကို(မုဟမ္မဒ်ပူးရ်)ဟု ခေါ်ကြပြန်သည်၊ သို့သော် ဤအမည်သည် ကျော်ကြားမှုမရှိဘဲ ဖြစ်ခဲ့သည်၊ (ထာနဟ်ဘဟီးမ်) မှ တစ်ဖြည်းဖြည်း ပြောင်းလဲကာ(ထာနဟ်ဘဟူးန်)ဖြစ်သွားလေသည်၊ ပထမက ၎င်းရွာကြီးတွင် လူဦးရေ လေးထောင်ခန့် ရှိလေသည်၊ ယခု နောက်ပိုင်းတွင် ခြောက်ထောင်ကျော် ခုနှစ်ထောင်ခန့် ရှိလာသည်။

သခင်သည်(၁၂)နှစ်အရွယ်ကပင် ညများ၌ထ၍ တဟဂျ်ဂျုဒ် နမာဇ်များကို ဝတ် ပြုတော်မူခဲ့လေသည်၊ မီရတ်မြို့၌ အခြေခံ ဖွာရစီဘာသာရပ်များကိုသင်ယူတော်မူခဲ့သည်၊ ဟာဖွိဇ် ဟိုစိုင်န်အလီ ထံတွင် ကုရ်အာန် ကျမ်းတော်မြတ်ကို ကျက်မှတ် အာဂုံဆောင်ခဲ့ လေသည်၊ မောဖ်လာနာ ဖွတဟ်မုဟမ္မဒ် ဆွာဟိဗ် ထံတွင် အရဗီအခြေခံ ပညာရပ်များ သင်အံတော်မူခဲ့သည်၊ ပြီးနောက် ဒေယိုဘန်ဒ်ကျောင်းတော်တွင် (၅)နှစ်တိတိ အရဗီ ပညာကို ကုန်ဆုံးအောင် သင်အံတော်မူလေသည်။

ထိုသို့ ကျောင်းသားဘဝ၌ပင် သခင်သည်(ဇီရိုဘန်)အမည်ရှိ ဖွာရစီကဗျာစာအုပ် တစ်အုပ်ကို ရေးသားတော်မူလေသည်၊ ထိုစာအုပ်ရေးစဉ်က သခင်၏ သက်တော်သည် (၁၈)နှစ်မျှပင်ရှိပေသည်၊ ဒေယိုဘန်ဒ်ကျောင်းတော်မှ ထွက်သောအခါ သခင်၏ သက် တော်သည် (၁၉-၂၀)ခန့် ရှိနေလေပြီ။

သခင်သည် အားလပ်သော အချိန်များတွင် အပျော်အပါးကို လိုက်စားတော် မမူဘဲ ဒေယိုဘန်ဒ်ကျောင်းတော်၏ပညာရေးဗဟိုဌာနမှူး မောင်လာနာမုဟမ္မဒ်ယအ်ကူးဗ် (ရဟာမတွလ္လာဟ်)သခင် ထံတော်တွင် ခ,စား၍ ပညာ ဆည်းပူးလေ့ ရှိတော်မူလေသည်၊ မောင်လာနာ ရရှီးဒ်အဟ်မဒ်ဂန်ဂိုဟီ (ရဟာမတွလ္လာဟ်) သခင်သည် ဒေယိုဘန်ဒ်ကျောင်း

တော်သို့ နှစ်ပတ်လည် စာမေးပွဲစစ်ဆေးရန် လာတော်မူလေရာ ရှိုင်ခွလ်ဟင်းဒ် မောင်လာနာ မဟ်မူးဒ်ဟစန် (ရဟမတုလ္လာဟ်) သခင်သည် သခင့်၏ပညာအရည်အချင်းတော်ဖုံများကိုပြောပြသဖြင့် ခက်ခဲခဲယဉ်းသော ပုစ္ဆာများကိုမေးလေရာ သခင်သည် လွယ်လင့်တကူပင် ဖြေဆို အောင်မြင်တော်မူခဲ့လေသည်။

ထိုအချိန်က(ကာနီပူးရ်)မြို့တွင် (ဖိုင်သွေ့ အာမ်)မည်သော ကျောင်းတစ်ကျောင်းရှိလေသည်၊ သခင့်အားခေါ်ယူသဖြင့် ဟစ်ဂျ်ရီတော် ၁၃၀၁-ခုနှစ်တွင် လစာ ၂၅-ကျပ်ဖြင့် ကျောင်းဆရာအဖြစ် သွားရောက်လုပ်ကိုင်ခဲ့လေသည်၊ တစ်မဟုတ်ချင်းပင် မြို့ပေါ်၌သခင်၏ ပညာ တတ်ကျွမ်းမှုများမှာ ကျော်ကြား၍သွားလေသည်၊ နေရာတိုင်းလိုလိုပင်တရားပွဲများ ကျင်းပခဲ့သည်။

ကျောင်းအုပ်ချုပ်သောသူများသည် ဤသည်ကိုအမြတ်ထုတ်ကာ သခင်၏တရားပွဲများတွင် ကျောင်းအား (ကျုန်ဒဟ်) အလှူငွေများ ထည့်သွင်း ကူညီကြရန် ဆော်သြရန်အတွက် စိုင်းပြင်းကြလေသည်၊ သခင်သည် တရားတော်မြတ်အရ ဤသည် မလုပ်ပိုင်ဟုန်မြက် တားဆီး ပိတ်ပင်လေသည်၊ နောက်ဆုံးတွင် သခင်သည် ကျောင်းမှ နှုတ်ထွက်တော်မူလေသည်။

ဤသည်ကို ဂျာမေ့ အ်ဗလီ ဂေါပက လူကြီးများက သိကြသဖြင့် သခင့်အားမပြန်စေဘဲ ခေါ်ယူကြလေသည်၊ သခင်သည် ဗလီဗတ်ကျောင်းတော်၌ပင် ကျောင်းသားများအား စာသင်ကြား ပို့ချတော်မူလေသည်၊ သခင်သည် ကျောင်းအား ဗလီ ဝတ်ကျောင်းတော် နှင့် လျော်ညီစေရန် အတွက် ( ဂျာမေ့ အွလ် အို့ လူးမ် ) ဟု မှည့်တွင်စေတော်မူသည်။

သခင်သည် ၁၄-နှစ် တိုင်တိုင် စာပြခြင်း၊ တရားဟောခြင်း၊ ကျမ်း ပြုစုခြင်း၊ ဖတ်ဝါ ခမ္မသတ် ဆုံးဖြတ်ခြင်းများ ပြုတော်မူခဲ့လေသည်၊ ၁၄-နှစ် ပြည့်မြောက်ပြီးနောက် ဟာဂျီ အင်မ်ဒါဒွလ္လာဟ် (ရဟမတုလ္လာဟ်) သခင်၏ ဆန္ဒ အရ ဟစ်ဂျ်ရီတော် ၁၃၁၅-ခုနှစ်တွင် ထာနဟ်ဘဟူးန် သို့ ပြန်ကြွသွားတော်မူလေသည်။

ဟစ်ဂျ်ရီတော် ၁၃၀၁-ခုနှစ်တွင် ကာန်ပူးရ် မြို့၌ ပညာသင်ကြား ပို့ချပေးနေစဉ်မှာပင် သခင်သည်ဖခင်နှင့်အတူ ဟဂျ် ပြုမူဆောင်ရွက်ရန် မက်ကဟ် မြို့တော်သို့ သွားရောက်ခဲ့လေသည်၊ ထိုစဉ်က ဟာဂျီ အင်မ်ဒါဒွလ္လာဟ် (ရဟမတုလ္လာဟ်) သခင်သည် မက်ကဟ် မြို့တော်တွင် နေထိုင်တော်မူလေသည်၊ သခင့်ကို မပြန်ရန် တားမြစ်လေရာ ဖခင်က မခွဲနိုင်သဖြင့် ပြန်လိုက်ခဲ့ရလေသည်။

ဟစ်ဂျ်ရီတော် ၁၃၁၀-ခုနှစ်တွင် ဟာဂျီ အင်မ်ဒါဒွလ္လာဟ်(ရဟမတုလ္လာဟ်)ဆရာသခင်၏အပါးတော်တွင် နေလိုသောဆန္ဒပြင်းပြလာသဖြင့် ဖခင်သည် တဖန် ဟဂျ်ပြုမူရန်ကြွမြန်းသွားပြန်လေသည်၊ ၁၃၁၁-ခုနှစ်မှာပင် ပြန်ကြွလာတော်မူလေ၏။

ဟာစ်ဂျ်ရီတော် ၁၃၁၅-ခုနှစ်မှ စတင်၍ သခင်သည် ကွန်လွန်တော်မူသည် အထိ ထာနဟ်ဘာဟူးန်၌ပင်နေထိုင်တော်မူလေသည်၊ သခင်တွင် ဇနီးတော်နှစ်ပါး ရှိလေသည်။

မကွယ်လွန်မီ ၅-နှစ်ကတည်းက သခင်သည် အစာမကြေခြင်း၊ ဝမ်းရောင်ခြင်း၊ ဝမ်းလျှောခြင်း စသည့်ရောဂါများစွဲကပ်ခဲ့လေသည်၊ နောက်ဆုံးတွင် အားအင်ချိနဲ့ကာ အိပ်ရာ၌လဲတော်မူလေသည်၊ ထိုရောဂါဖြင့်ပင် ဟာစ်ဂျ်ရီတော် ၁၃၆၃-ခု၊ ရဂျဗ်လ ၁၆-ရက်၊ ဇူလိုင်လ ၁၉၊ ၁၉၄၃-ခုနှစ် တနင်းလာနေ့ည သက်တော် ၈၂-နှစ်၊ ၂-လ၊ ၁၁-ရက်တွင် ကွယ်လွန်တော်မူလေသည်၊ (ဝအင်န်နာလစ်လာဟော့၊ ဝအင်န်နာ၊အော့လိုင်ဟော့၊ ရာဂျေ့အူးန်)။

သခင် ကွယ်လွန်တော်မူသော သတင်းသည် တစ်မဟုတ်ချင်း ပျံ့နှံ့သွားလေရာ ပြည်ပိုင်အစိုးသည် အမြို့မြို့မှ အထူး သီးသန့်ရထားများကို ထွက်စေလေသည်၊ လူတို့သည် အမြို့မြို့အရွာရွာမှလာရောက်ကြလေသည်၊ ကြွရောက်လာသောလူထုမှာ များပြားလှသောကြောင့် ဂျနာဇာဟ်နမာဇ်ကို အီဒဂါးဟ် ကွင်းပြင်တွင် ဖတ်ရလေသည်။

သခင် ပြုစု ရေးသားတော်မူခဲ့သော ကျမ်း စာအုပ်များသည် တစ်ထောင်ကျော် ရှိလေသတည်း....။

မုဟမ္မဒ်မူစာ [မဇ္ဇာဟေရီ]
(၃၀-၁၀-၆၄)သောကြာနေ့။

❋❋❋❋❋❋❋❋❋ ❋❋❋❋❋❋❋❋❋

နံပါတ် မာတိကာ စာမျက်နှာ



## ဘာဟစ်ရှိတီ ဂျောင်ဟာရ်ကျမ်း ဒုတိယတွဲ



## ဘာဟစ်ရှိတီ ဇေဝရ်ကျမ်း တတိယတွဲ

## ဘဟာစ်ရှိတီ ဈေဝါင်ဟရ်ကျမ်း တတိယတွဲ

# ဘာဟစ်ရှိတီ ဇာဝရ်ကျမ်း စတုတ္ထတွဲ

## ဘဟစ်ရှ်တီ ဇျောင်ဟရ်ကျမ်း စတုတ္ထတွဲ



## ဘဟစ်ရှ်တီ ဇေဝရ်ကျမ်း ပဉ္စမတွဲ

## ဘဟစ်ရှိတီ ဇျောင်ဟရ်ကျမ်း ပဥ္စမတွဲ




# ဘဟာစ်ရှ်တီဇေဝရ်ကျမ်း

## ပထမတွဲ

### မှန်ကန်သောပုံပြင်များ

တမန်တော် မုဟမ္မဒ် (ဆွလလ္လာဟု)ကိုယ်တော် မိန့်ဟောတော်မူသည်။ လူတစ်ဦးသည် တောတွင်း၌ရှိစဉ်ရုတ်တရက်မိုးတိမ်တိုက်တစ်ခုအတွင်းမှဤအသံကိုကြားရလေသည်၊ မည်သူ၏ ဥယျာဉ်သို့ မိုးရွာသွန်းပေးလော့။ ဤအသံနှင့်အတူ မိုးတိမ်သည် တရွေ့ရွေ့သွားလျက် ကျောက်စရစ်ကုန်းပေါ်တွင် သည်းထန်စွာ ရွာသွန်းလေသည်။ မိုးရေများသည် ချောင်းတစ်ခုတွင် စုပေါင်းလျက် စီးဆင်းသွားလေသည်။

ဤသူသည် ထိုစီးတွေသွားသော ချောင်းရေ နောက်မှ လိုက်၍ သွားလေသည်။ လူတစ်ဦးသည် မိမိဥယျာဉ်တွင် မတ်တတ်ရပ်လျက် ပေါက်ပြားဖြင့် ရေလမ်းပေးနေသည်ကို မြင်ရလေသည်။ ထိုသူက ဥယျာဉ်မှူးအား မေးမြန်းသည်မှာ 'အို....အသျှင်မြတ်၏ ကျေးကျွန် အသင့်နာမည်မည်သို့ခေါ်ပါသနည်း'၊ ထိုသူက မိုးတိမ်ကြားမှကြားရသောနာမည်ကိုပင် ပြောပြလေသည်။

ထို့နောက် ဥယျာဉ်မှူးက' အို....အသျှင်မြတ်၏ကျေးကျွန် အသင်သည် ကျွန်ုပ်၏ နာမည်ကို အဘယ့်ကြောင့် စုံစမ်းပါသနည်း'ဟု မေးမြန်းလေသည်။

ထိုသူကပြောပြသည်မှာ 'ကျွန်ုပ်သည် မိုးတိမ်တွင်းမှအသံတစ်ခုကိုကြားရပါသည် သင့်၏နာမည်ကို ခေါ်ဆို၍ ထိုဥယျာဉ်အားမိုးရွာသွန်းပေးရန် အမိန့်ပေးပါသည်။

'သင်သည် အဘယ်သို့သော ကောင်းမှု ကုသိုလ်ပြုလုပ်၍ ဤမျှခန့် ဆုတောင်းပြည့်နေပါသနည်း'ဟု မေး၏။ ဥယျာဉ်မှူးက ပြောသည်မှာ 'အသင်က မေးမြန်းသော အခါတွင် ကျွန်ုပ်ဖြေဆိုရပါတော့အံ့။

"ကျွန်ုပ်သည် ဥယျာဉ်မှ ထွက်သမျှသော ကောက်ပဲ သီးနှံ သစ်သီး ဝလံ များကို ကြည့်၍ ထိုအနက်မှ သုံးပုံတစ်ပုံကိုလှူဒါန်းမှုပြုပါသည်။ တစ်ပုံကို မိမိနှင့်သားသမီးများ အတွက် စားသုံးရန်ထားပါသည်။ တစ်ပုံကိုတဖန် ဤဥယျာဉ်၌ပင် စိုက်ပျိုးခြင်း ပြုပါသည်ဟု ဆိုလေ၏။

**အကျိုးကျေးဇူး။** 'စွဗ်ဟာနလ္လာဟ်' အဘယ်မျှ အလ္လာဟ်အသျှင်မြတ်၏ ကြီးမား လှသော ကရုဏာတော်ဖြစ်သနည်း။ အကြင်သူသည် ထိုအသျှင်၏ အမိန့်တော်ကို လိုက်နာဆောင်ရွက်လျှင် ထိုသူ၏အလုပ်ကို အကွယ်မှ ဤနည်း စီမံဆောင်ရွက်မှုကိုဖြစ်စေရာ ထိုသူကိုယ်တိုင်ပင် မသိလိုက်ချေ။ အမှန်ပင်အကြင်သူသည် အလ္လာဟ် အသျှင်မြတ်အဖို့ဖြစ်အံ့။ အလ္လာဟ်အသျှင်မြတ်သည် ထိုသူ့အဖို့ဖြစ်တော်မူ၏။ အလ္လာဟ် အသျှင်မြတ်အား ကျေးဇူးသိသူကို အလ္လာဟ်အသျှင်မြတ်က ဆုလာဘ်များ ပေးသနားတော်မူလေသည်။

# ဒုတိယပုံပြင်

ရစူလွလ္လာဟ် (ဆွလလ္လာဟို) ကိုယ်တော်မြတ်က တရံရောအခါ မိန့်ဟောတော်မူသည်မှာ....ဗနီအစ္စရာအီလ်လူမျိုးတို့တွင် လူသုံးဦးရှိလေသည်။ တစ်ဦးမှာ ကုဋ္ဌနူနာစွဲသူ။ ဒုတိယမှာ- ခေါင်း၌ ဆံပင်မရှိသော ခေါင်းပြောင်သူ။ တတိယသူမှာ- မျက်စိ မမြင်သူတို့ဖြစ်လေသည်။

အလ္လာဟ်အသျှင်မြတ်သည် ထိုသူတို့အား စမ်းသပ်တော်မူလိုသဖြင့် ၎င်းတို့ထံသို့ 'ဖွရစ်ရှိတ်ဟ်' ကောင်းကင်တမန်တစ်ပါးအား စေလွှတ်တော်မူလိုက်လေသည်။

ကောင်းကင်တမန်သည် ပထမ ကုဋ္ဌနူနာစွဲကပ်သူထံသို့လာရောက်၍ အသင်အဘယ် အရာကိုနှစ်ခြိုက်သနည်းဟုမေးမြန်း၏။ ထိုသူကပြောသည်မှာ- ကျွန်ုပ်သည်ကောင်းသော အဆင်းနှင့် လှပသောအရေကို ရလို၍၊ ဤရောဂါဘေးဆိုး ထွက်ခွာသွားခြင်းကို လိုလားပါသည်။ ဤရောဂါကြောင့်၊ လူများသည် ကျွန်ုပ်အားမိမိအနီးအပါး၌ ထိုင်ခွင့်မပေး ကြပါ၊ ရွံရှာစက်ဆုပ်ကြပါသည်။

ထိုကောင်းကင်တမန်က မိမိလက်ဖြင့် ထိုသူ၏ ခန္ဓာကိုယ်အား သုတ်သပ်လိုက်၏။ ထိုအချိန်၌ပင် ကျန်းမာ ပကတိဖြစ်ရှိ၍ ကောင်းသော ကိုယ်ရေနှင့် လှပသော အဆင်း အရောင် ထွက်ပေါ်လာလေသည်။ ထို့နောက် အသင်သည် အဘယ်ပစ္စည်းဝတ္ထုကို ပိုမို လိုချင်ပါသနည်းဟုမေး၏။ ထိုသူက ကုလားအုတ်ကို လိုချင်ကြောင်း ပြော၏။ ထိုအခါ ဗိုက်ရှိသော ကုလားအုတ်မ တစ်ကောင်ကိုလည်း သူ့အား ပေး၍ အလ္လာဟ် အသျှင်မြတ် သည် ထိုသတ္တဝါ၌ 'ဘရ်ကတ်' မင်္ဂလာ တိုးပွားခြင်း ပေးသနားတော်မူပါစေသတည်းဟု ဆို၏။

ထို့နောက် ဦးခေါင်းပြောင်သူ ထံသို့ လာရောက်၍ အသင်သည် အဘယ်အရာကို နှစ်ခြိုက်ပါသနည်းဟုမေး၏။ ကျွန်ုပ်၏ဆံပင်များ ကောင်းစွာပြန်ထွက်လာ၍ ဤရောဂါ

ထွက်ခွာသွားခြင်းကိုလိုလားပါသည်။ လူတို့သည် ဤခေါင်းပြောင်ခြင်းအား စက်ဆုပ်ကြပါသည်။ ထိုအခါ 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန်က မိမိလက်ဖြင့်ထိုသူ၏ဦးခေါင်းအား သုတ်သပ်လိုက်ရာ၊ ချက်ချင်းပင် ဆံပင်များ ပေါက်လာ၍ ကောင်းမွန်သွားလေသည်။ ထို့နောက် အသင့် အဘယ်ပစ္စည်းကို နှစ်သက်သနည်းဟုမေး၏။ ထိုသူက နွားမကိုရလိုကြောင်းဆို၏။ ထိုအခါ ဇီးရှိသောနွားမတစ်ကောင်ကိုပေး၍ အလ္လာဟ်အသျှင်မြတ်သည် ထိုသတ္တဝါ၌ 'ဘရ်ကတ်' မင်္ဂလာ တိုးပွားခြင်း ပေး သ နား တော်မူပါစေသတည်းဟု ဆို၏။

ထို့နောက် မျက်စိမမြင်သောသူ၏ထံသို့လာ၏ အသင်သည် အဘယ်အရာကိုလိုချင်သနည်းဟုမေး၏။ အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်၏မျက်စိအစုံအား အလင်းရစေ၍ ခပ်သိမ်းသောလူအပေါင်းအား ကြည့်မြင်နိုင်ရန် ပြုပေးတော်မူခြင်းကို လိုလားပါသည်ဟု ဆို၏။

ထို'ဖွရစ်ရှိတဟ်' ကောင်းကင်တမန်က မျက်စိထက်ကိုလက်ဖြင့် သုတ်သပ်လိုက်ရာ အလ္လာဟ်အသျှင်မြတ်က ထိုသူ၏မျက်စိကို အလင်းရစေတော်မူ၏။

ထို့နောက် အသင်အဘယ်ပစ္စည်းကိုနှစ်ခြိုက်သနည်းဟုမေး၏။ ထိုသူက ဆိတ်ကိုရလိုကြောင်းဆို၏။ ထိုအခါ ၎င်းသူအား ဇီးရှိသော ဆိတ်မတစ်ကောင်ကိုပေး၏။

သုံးဦးစလုံးသောသူတို့၏ သားကောင်များသည် သားငယ်များ မွေးဖွား၏။ ရက်အနည်းငယ်မျှအတွင်း၌ ထိုသူတို့၏ ကုလားအုတ်များ နွားများ ဆိတ်များဖြင့် တောအုပ်တစ်ခုလုံး ပြည့်ကျပ်သွားတော့၏။

ထို့နောက် ထိုကောင်းကင်တမန်တော်သည် အသျှင်မြတ်အမိန့်တော်ဖြင့် ယခင်ပထမလာစဉ်က ရုပ်ဆင်းအတိုင်း ကုဋ္ဌနူနာ ပျောက်ကင်းသွားသူထံသို့ လာရောက်ပြန်၍ ကျွန်ုပ်သည် အလွန်ဆင်းရဲသောသူဖြစ်ပါသည်။ ကျွန်ုပ်သည် လမ်းခရီး၌ အားလုံးသောပစ္စည်းဝတ္ထုများဆုံးပါးကုန်သဖြင့် ယနေ့ကျွန်ုပ်(ဒေသသို့)ပြန်ရောက်ရန် အသျှင်မြတ်မှတစ်ပါး မည်သည့် အမှီသဟဲမျှ မရှိပါ။ သင့်အားထိုအသျှင်မြတ်၏ နာမတော်ဖြင့် ထိုအသျှင်သည် သင့်အား ကောင်းသောအဆင်းနှင့် ကောင်းသောအရေပြားကို ပေးသနားတော်မူသော အသျှင်ဖြစ်သည်။ သင့်ထံမှ ကုလားအုတ်တစ်ကောင် တောင်းဆိုပါသည်။ ၎င်းအပေါ်တွင် စီးနင်း၍ မိမိအိမ်သို့ပြန်နိုင်ရန် ဖြစ်ပါသည်။

ကုဋ္ဌနူနာရှင်က ဤမှထွက်သွားလိုက်ပါ၊ ဝေးစွာရှောင်ပါ၊ ကျွန်ုပ်သည် မြောက်မြားစွာသော တာဝန်များကို ထမ်းရွက်နေရပါသည်၊ သင့်အား ပေးရန် ထိုအတွင်း၌ ဝေစု မရှိပါဟုဆို၏။

ကောင်းကင်တမန်က အသင့်အား ကျွန်ုပ် သိကျွမ်းဖူးဟန်ရှိပါသည်။ သင်သည် ကိုယ်ရေ ရောဂါသည်တစ်ဦးဖြစ်၍ လူများကသင့်အား စက်ဆုပ်ရွံရှာခြင်းဖြစ်၍ သင်သည် ဆင်းရဲနွမ်းပါးသူတစ်ဦးမဟုတ်ခဲ့ပါလော၊ ထိုနောက်အသျှင်မြတ်က အသင့်အားဤမျှခန့် ဥစ္စာပစ္စည်းများကို ပေးမ, သနားတော်မူခြင်း မဟုတ်ပါလော့ဟု ဆို၏။

ထိုသူကကောင်းလေစွ၊ ဤပစ္စည်းဥစ္စာများသည် ကျွန်ုပ်၏မျိုးစွာသောဘိုးဘေး အဆက်ဆက်ကတည်းက ရှိလာသော ပစ္စည်းများသာ ဖြစ်သည်ဟု ဆို၏။ 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန်က 'အကယ်တန္တု အသင်သည် မုသား ဆိုငြားအံ့ အသျှင်မြတ်သည် သင့်အား ပထမမူလအတိုင်း ပြန်၍ ပြုပါစေသား' ဟု ဆိုလေသည်။

ထို့နောက် ခေါင်းပြောင်သူ၏ထံသို့ ယခင်ပထမ လာစဉ်က ရုပ်အဆင်းအတိုင်း ရောက်လာ၏။ သူ့အား အထက်နည်းအတိုင်းမေး၏၊ ခေါင်းပြောင်သော သူကလည်း ထိုနည်းအတိုင်းပင်ဖြေဆို၏။ ဖွရစ်ရှိတဟ်ကောင်းကင်တမန်က 'အကယ်တန္တု အသင်သည် မုသားဆိုငြားအံ့ အသျှင်မြတ်သည် သင့်အား ပထမမူလအတိုင်း ပြန်၍ပြုပါစေသား' ဟု ဆိုလေသည်။

ထို့နောက် မျက်မမြင်ထံသို့ ယခင်ပထမလာစဉ်က ရုပ်ဆင်းအတိုင်းရောက်လာ၏။ ဖွရစ်ရှိတဟ် ကောင်းကင်တမန်က ကျွန်ုပ်သည် ခရီးသည် အာဂန္တုဖြစ်ပါသည်။ ဝတ္တုပစ္စည်းမရှိသဖြင့် အလ္လာဟ်အသျှင်မြတ်မှတစ်ပါး မှီခိုရာကျွန်ုပ်၌မရှိပါ၊ အသင်၏မျက်လုံးနှစ်သွယ်ကို တဖန်ပြန်၍အလင်းရစေတော်မူသော အလ္လာဟ်အသျှင်မြတ်၏ နာမတော်ဖြင့် သင့်ထံမှ ဆိတ်တစ်ကောင် ပေးရန် တောင်းဆိုပါသည်။ ၎င်းကိုဖန်တီး၍ ခရီးကိုပြန်ရန် ဖြစ်ပါသည်ဟု ဆိုလေသည်။

မျက်မမြင်က ဆိုသည်မှာ....မှန်ပေသည် ကျွန်ုပ်သည်မျက်စိကွယ်နေရာမှ အလ္လာဟ် အသျှင်မြတ်၏ ကရုဏာတော်သက်သက်ဖြင့် အလင်းရောင် ပေးသနားခြင်းခံရပါသည်။ အသင့် စိတ်၌ အလို ရှိသရွေ့ ဆိတ်များကို ယူဆောင်ပါလော့၊ ထားလိုသမျှကို ထားခဲ့ပါလော့ အသျှင်မြတ်ကို ကျိန်ဆိုပါ၏ အဘယ်ပစ္စည်းကိုမှ အသင့်အား ကျွန်ုပ်မတားမြစ်ပါဟုပြန်ကြား၏။ 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန်က အသင်၏ပစ္စည်းကို အသင့်ထံ၌ပင်ထားပါလော့။ ကျွန်ုပ်သည်တစ်စုံတစ်ရာမျှအလိုမရှိပါ၊ သင်တို့သုံးဦးအားအဘယ်သို့ စိတ်သဘော ရှိသည်ကို စမ်းသပ်လိုသော အကြောင်းသက်သက်မျှသာ ဖြစ်သည်။ စမ်းသပ်၍ ကား ပြီးလေပြီ။ အလ္လာဟ် အသျှင်မြတ်သည် အသင့်အား သဘောတူ နှစ်ခြိုက်တော်မူလေပြီ။ ထိုသူနှစ်ဦးကား အလ္လာဟ်အသျှင်မြတ် မနှစ်မြို့သူများ ဖြစ်ကြလေပြီဟု ပြောကြားလေသတည်း

**အကျိုးကျေးဇူး။** စဉ်းစားကြရန်မှာ— အသျှင်မြတ်အား ကျေးဇူးကန်းသူတို့သည် အဘယ်ကဲ့သို့ ဆုံးရှုံးကြသနည်း။ အားလုံးသော သုခစည်းစိမ်များကိုရုပ်သိမ်းခြင်းခံရလေသည်။ မူလရှိရင်းအတိုင်းပြန်ဖြစ်ကြရသည့်ပြင် အသျှင်မြတ်၏ မနှစ်မြို့ခြင်းကိုလည်းခံကြရလေသည်။ လောကီလောကုတ္တရာ နှစ်ဌာနနှ၌ အလိုမပြည့်ဖြစ်ကြရလေသည်။ ၎င်းမျက်မမြင်မှာ ကျေးဇူးကို သိတတ် သောကြောင့် အဘယ်မျှ အကျိုးကျေးဇူးကိုခံစားရပါသနည်း။ စည်းစိမ်များဥစ္စာများလည်းတည်တန့်၍အလ္လာဟ်အသျှင်မြတ်၏ သဘောတူနှစ်ခြိုက်မှုကိုလည်း ရရှိသည့်ပြင် လောကီလောကုတ္တရာ နှစ်ဌာနစလုံး၌ ပျော်ရွှင် သာယာ အလိုပြည့်ဝခြင်း ဖြစ်ရှိလေသတည်း။

# တတိယပုံပြင်

တရံရောအခါ (အွမ်မေ့စလ်မာ) (ရသွေ့)သခင်မကြီးထံသို့ အသားကြော်များ တစ်နေရာမှရောက်လာ၏။ တမန်တော်မြတ်သည် အသားကိုနှစ်သက်တော်မူ၏။ထို့ကြောင့် အွမ်မေ့စလ်မာ (ရသွေ့) သခင်မကြီးက အိမ်စေအမျိုးသမီးအား ဤအသားကြော်ကို ကိုယ်တော်မြတ် သုံးဆောင်ရန် အတွက် စို့ပေါက်တွင် တင်ထားစေရန် အမိန့်ရှိသဖြင့် စို့ပေါက်တွင် သူမသည် တင်ထား၏။ ဤအတော အတွင်း၌ တောင်းရမ်းသူ တစ်ဦး လာရောက်၍ တံခါးပေါက်တွင်ရပ်၍ အလ္လာဟ်အသျှင်မြတ်၏ နာမတော်အားဖြင့်လှူဒါန်း ကြပါလော့။ အသျှင်မြတ် (ဘရ်ကတ်) တိုးပွားမှု ပြုပါစေသော်ဝ်ဟု အသံပြု၏။

အိမ်တွင်းမှအသျှင်မြတ်သည် သင့်ကိုလည်း (ဘရ်ကတ်)တိုးပွားမှုပြုပါစေသော်ဝ်ဟု ပြန်ကြားလေသည်။ ထိုစကား၌ ပေးလှူရန် တစ်စုံတစ်ရာမျှ မရှိဟု ဆိုလိုလေသည်။ ထို တောင်းရမ်းသူသည် ထွက်ခွာသွားလေသည်။

မကြာမီ ကာလအတွင်း တမန်တော်မြတ် ကြွလာတော်မူလေသည်။ အို- အွမ်မေ့ စလ်မာ၊ သင်မထံတွင် ပွဲတော်တည်ရန် တစ်စုံတစ်ရာ ရှိပါသလော့ဟု မိန့်တော်မူ၏။

မှန်လှပါရှိပါကြောင်းဟုလျှောက်တင်၍ အိမ်စေအမျိုးသမီးအား ကိုယ်တော်မြတ် အတွက် အသားကြော်ကိုယူခဲ့ရန် အမိန့်ပေး၏။ သူမသည် အသားကြော်ကိုယူရန်သွားရာ အသားကြော်ဟူ၍လုံးဝမရှိဘဲ ကျောက်တုံးတစ်တုံးသာလျှင်တွေ့ရလေသည်။ထိုအခါကိုယ် တော်မြတ်က ဤသို့ဖြစ်ခြင်းသည် သင်မတို့သည် တောင်းရမ်းသူအား မပေးမလှူဘဲနေခြင်း ကြောင့် အသားကြော်သည် ကျောက်ခဲဖြစ်သွားလေပြီဟု မိန့်တော်မူလေသည်။

**အကျိုးကျေးဇူး။** စဉ်းစားကြလော့၊ အလ္လာဟ်အသျှင်မြတ် နာမတော်ဖြင့် တောင်းရမ်းသူအား မပေး မလှူသည့် အတွက် ယင်းသို့ အသားကြော်မှာ ကျောက်တုံးဖြစ်သွားရလေသည်။ ဤနည်းပင် အကြင်သူသည် တောင်း ရမ်းသူအား ပရိယာယ်ပြုကာ ကိုယ်တိုင်စားသောက်ခဲ့သော်. ကျောက်တုံးကို စားခြင်းပင် ဖြစ်၏။သူ၏သဘောမှာ စိတ်ခက်ထန် မာမြင်းခြင်း တိုးတက် ဖြစ်ပွားလာတတ်လေသည်။

အဘယ့်ကြောင့်ဟူမူ ကိုယ်တော်မြတ်၏ အိမ်တော်သူများနှင့်ပတ်သက်၍ အသျှင် မြတ်၏ ကရုဏာတော်နှင့် သနားကြင်နာမှုကြောင့် အသား၏ ပုံသဏ္ဌာန်ကို ကျောက်ဖြင့် အထင်အရှား ပြောင်းလဲ ပြသတော်မူ၍ ၎င်းအား မစားသုံးမိရန် ကာကွယ်ပေးခြင်း ဖြစ်လေသည်။

# စတုတ္ထပုံမြင်

ရစူလူလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မြတ်ကြီး၏ ခလေ့တော်မှာ (ဖွဂျိရ်-နမာဇ်) ဝတ်ပြုပြီးလျှင် မိမိ၏ဆွဟာဗဟ်များဘက်သို့ မျက်နှာမူ၍ သင်တို့အနက်ညက မည်သူသည် အိပ်မက်မြင်မက်သနည်းဟု မိန့်တော်မူလေ့ရှိ၏။

အကယ်၍ တစ်စုံတစ်ယောက်သောသူသည် အိပ်မက်မြင်မက်ခဲ့သော် မြင်မက်ပုံကို လျှောက်တင်လျှင် ကိုယ်တော်မြတ်သည် မိဋ္ဌုံကို ပြန်ကြားတော်မူ၏။

ခလေ့တော်အတိုင်း တစ်ရံရောအခါ အားလုံးအားမေးမြန်းတော်မူရာ မည်သူမျှ မမြင်မက်ကြောင်း လျှောက်ထားကြ၏။ ထိုအခါ ကိုယ်တော်မြတ်က ကျွန်ုပ်သည် မနေ့ညက အိပ်မက်တစ်ခုမြင်မက်သည်မှာ- လူနှစ်ဦး ကျွန်ုပ်ထံ လာရောက်၍ ကျွန်ုပ်၏ လက်ကို ဆွဲကိုင်ကာ မြင့်မြတ်သော မြေပြင်ဘက်သို့ ခေါ်ဆောင် သွားကြလေသည်။ တွေ့မြင်ရသည်မှာ- လူတစ်ယောက်က ထိုင်လျက် တစ်ယောက်က မတ်တပ်ရပ်ကာ ထိုသူ၏ လက်၌ သံမီးညှပ်ကို ကိုင်ထားလေသည်။ ထိုင်နေသူ၏ဦးခေါင်းကို သံမီးညှပ်ဖြင့်ကိုက်ဖြတ်ရာ၊ လည်ဂုတ်တိုင်ရောက်လေသည်။ ထို့နောက် ဒုတိယသူ၏ ဦးခေါင်းကိုလည်း ယင်းသို့ပင် ပြုလုပ်ပြန်၏။ တဖန် ထိုဦးခေါင်းသည် အကောင်း ပကတိ ပြန်ဖြစ်သွား၏။ ထို့နောက်တဖန် သူ့အားဤသို့ပင်ပြုလုပ်ပြန်၏။ ကျွန်ုပ်က ဤအရာသည်အဘယ်သို့နည်းဟု မေးမြန်းရာ၊ ထိုသူနှစ်ဦးက ရှေ့သို့ ဆက်လက်ကြွတော်မူပါဟု ပြောလေသည်။

ကျွန်ုပ်တို့သည်ရှေ့သို့ဆက်လက်သွားကြရာ၊ လူတစ်ယောက် လျောင်းလဲနေသည်ကို တွေ့မြင်ရ၏။ သူ၏ခေါင်းရင်း၌ လူတစ်ယောက်သည် ကြီးမားလေးလံသော ကျောက်တုံးကြီးကို ကိုင်မ,၍ ရပ်နေ၏။ လျောင်းလဲနေသူ၏ ဦးခေါင်းအား ထိုကျောက်တုံးဖြင့် တအားထု၏။

ထိုကျောက်တုံးသည် သူ၏ဦးခေါင်းကို ထုပြီးနောက် တဖန်လွင့်စင်၍ ဝေးသော နေရာသို့သွားကျ၏။ တဖန်ထိုသူသည် ကျောက်တုံးကို ပြန်ကောက်ရန် သွားသောအခါ ပြန်၍ ယူမလာမီ အတွင်း အထုခံရသူ၏ခေါင်းသည် မူလအတိုင်း ပကတိ ကောင်းမွန် သွားပြန်၏။ ထို့နောက်တဖန် ယခင်နည်းအတိုင်းအထုခံရပြန်၏။ ကျွန်ုပ်က ဤသူသည် အဘယ်သူနည်းဟုမေးရာ၊ ထိုသူနှစ်ဦးက ရှေ့သို့ဆက်လက်ကြွတော်မူပါဟုပြောလေ၏။

ကျွန်ုပ်တို့သည် ရှေ့သို့ဆက်လက်သွားကြရာ လိုဏ်ဂူတစ်ခုသို့ ရောက်သွားကြလေသည်။ ထိုလိုဏ်ဂူသည် မုန့်ဖိုနှင့်သဏ္ဍာန်တူ၍ အောက်မှကျယ်၍ အပေါ်အဝ ကျဉ်းလေသည်။ ထိုမီးဖိုအတွင်းမှ မီးဟုန်းဟုန်း တောက်နေလေသည်။ ထိုမီးတွင်း၌ မြောက်မြားစွာသော ယောကျ်ားနှင့် မိန်းမများသည် ဝတ်လစ်စလစ်ဖြင့် ပြည့်ကျပ်လျက် ရှိလေသည်။

မီးလုံးသည် အပေါ်သို့တက်လာတိုင်း လူများလည်း အပေါ်သို့တက်လာကြ၍ အံ့ထွက်လာမတတ် ဖြစ်ပြီး မီးလုံး အောက်သို့ ပြန်ကျသွားလျှင် လူများလည်း ပြန်ကျသွားကြပြန်၏။

ကျွန်ုပ်က ဤအရာကား အဘယ်သို့နည်းဟု မေးမြန်းရာ ထိုလူ နှစ်ဦးက ရှေ့သို့ ဆက်လက် ကြွတော်မူပါဦးဟု ပြောလေသည်။

ကျွန်ုပ်တို့သည်ရှေ့သို့ ဆက်လက်သွားကြရာ၊ သွေးအတိပြီးသောချောင်းတစ်ခုကို တွေ့ရှိကြလေသည်။ ထိုချောင်း၏ ဗဟိုတွင် လူတစ်ယောက် ရပ်လျက် ရှိ၍၊ ကမ်းပါး၌ လူတစ်ဦးရပ်လျက်ရှိလေသည်။ ထိုသူ၏ရှေ့မှောက်၌ ကျောက်တုံးများ များစွာ ပုံလျက်ရှိလေသည်။ ချောင်း၏ဗဟိုမှသူသည် ကမ်းပါးသို့လာ၍ ကမ်းပေါ်တက်ရန် ကြံဆောင်လျှင်ကမ်းပါး၌ ရပ်နေသူသည် ထိုသူ၏ မျက်နှာအား ကျောက်ခဲဖြင့် တအားပစ်ပေါက်ရာ၊ ထိုသူသည်ချောင်းအလည်သို့ ပြန်ရောက်သွားလေသည်။ ချောင်းအတွင်းမှထွက်ပြေးလိုတိုင်း ထိုနည်းအတူ ကျောက်ခဲဖြင့်ထု၍ သူ့အားပြန်မောင်းပစ်လေသည်။ ကျွန်ုပ်က ဤအရာကား အဘယ်သို့နည်းဟု မေးမြန်းရာ၊ ထိုသူနှစ်ဦးက ရှေ့သို့ ဆက်လက်ကြွတော်မူပါဦးဟု ပြောလေသည်။

ကျွန်ုပ်တို့သည်ရှေ့သို့ ဆက်လက်သွားကြပြန်ရာ၊ စိမ်းလန်းစိုပြည်လှသော ဥယျာဉ်ကြီး တစ်ခုသို့ ရောက်သွားကြလေသည်။ ထိုဥယျာဉ်တွင်း၌ မြင့်မားလှသော သစ်ပင်ကြီးတစ်ပင်ရှိ၍ အပင်ရင်း၌အဘိုးအိုတစ်ဦးနှင့် မြောက်မြားစွာသောကလေးများ ထိုင်နေကြလေသည်။

သစ်ပင်ကြီး၏ အနီး၌ အခြားလူတစ်ဦး ထိုင်နေရာ၊ သူ၏ရှေ့မှောက်၌ မီးများတောက်လောင်နေရာ၊ ထိုသူသည် မီးကိုမှုတ်ပေးနေ၏။

ထို့နောက် ထိုလူနှစ်ဦးသည် ကျွန်ုပ်အား သစ်ပင်ထက်သို့ ခေါ်ဆောင်သွားကြလေသည်။ သစ်ပင်၏ ပင်မအလည်ပိုင်း၌ အလွန်ကောင်းမွန်သော ဗိမာန် တစ်ဆောင်ရှိရာ၊ ထိုဗိမာန် အတွင်းသို့ ခေါ်ဆောင်သွား၏။ ကျွန်ုပ်သည် ဤကဲ့သို့သော ဗိမာန်ကို ဘယ်သောအခါကမှ မမြင်ဘူးခဲ့ချေ။ ထိုဗိမာန်အတွင်း၌လူပျို၊ လူအို၊ ယောကျ်ား၊ မိန်းမ၊ ကလေးများ မြောက်မြားစွာ ရှိလေသည်။ ထို့နောက် ယင်းဗိမာန်မှ အပြင်သို့ ခေါ်ဆောင်၍ အထက်သို့ ခေါ်ဆောင်သွားပြန်လေသည်။

ထိုနေရာ၌ ဗိမာန် တစ်ဆောင်သည် ပထမ ဗိမာန်ထက်ပင် ကောင်းမွန်လေရာ ထိုဗိမာန်တွင်းသို့ ခေါ်ဆောင်သွား၏။ ထိုဗိမာန်တွင်း၌ လူအိုများ လူပျိုများ ရှိကြလေသည်။

ကျွန်ုပ်က ထိုလူနှစ်ဦးအား သင်တို့သည် ကျွန်ုပ်အား တစ်ညလုံးလှည့်လည်စေခဲ့လေပြီ၊ ဤကိစ္စအားလုံးသည်အဘယ်သို့ လျှို့ဝှက် နက်နဲသောကိစ္စများဖြစ်ပါသနည်း ပြောပြပါလော့ဟု မိန့်ဆို၏။

ထိုနှစ်ဦးက ပြန်ပြောသည်မှာ ဦးခေါင်းကို အခွဲခံနေရသူအား ကိုယ်တော်မြင်သည်မှာ- ထိုသူသည် မုသားဝါဒီ ဖြစ်လေသည်။ သူသည် မုသားစကား ပြောဆိုသူ ဖြစ်၍ ထိုမုသားစကားသည် တစ်ကမ္ဘာလုံး ကျော်ကြားသွားသည် ဖြစ်ပါကြောင်း၊ သူသည် 'ကေယာမတ်'နေ့တိုင် ဤနည်း ပြစ်ဒဏ်ပေးခြင်း ခံနေရပါလိမ့်မည်။

ခေါင်းကို ကျောက်ခဲနှင့်အထုခံနေရသောသူကို ကိုယ်တော်မြင်ရသည်မှာ- သူသည် ထိုသူဖြစ်လေသည်။ အလ္လာဟ်အသျှင်မြတ်က ထိုသူ့အား ကုရ်အာန်၏ အတတ်ပညာကို ပေးသနားသော်ငြားလည်း ညအချိန်တွင် မောဟဖြင့်အိပ်စက်၍၊ နေ့အချိန်၌ လိုက်နာကျင့်သုံးခြင်း မပြုဘဲ နေခဲ့သူဖြစ်လေသည်။ 'ကေယာမတ်'နေ့တိုင် ၎င်းသူသည် ယင်းသို့ ပြစ်ဒဏ်ပေးခြင်း ခံနေရအံ့။

လှိုဏ်ဂူတွင်း၌ မီးဖိုတွင် ကိုယ်တော်မြင်ရသော သူများမှာ- ကာမေသုမိစ္ဆာစာရကံ ကျူးလွန်ကြသောသူများ ဖြစ်ကြလေသည်။ သွေးချောင်း အတွင်း၌ မြင်ရသောသူမှာ- အတိုးစားသောသူ ဖြစ်ပါသည်။

သစ်ပင်အောက်တွင်ရှိသော အဘိုးအိုမှာ- တမန်တော် အစ်ဗ်ရာဟီးမ် (အလိုင်ဟစ္စလာမ်)သခင် ဖြစ်လေသည်။ ထိုအဘိုးအို၏ ပတ်ဝန်းကျင်တွင် မြင်ရသော ကလေးများမှာ အရွယ်မရောက်သေးသော ကလေးများ ဖြစ်ကြလေသည်။

မီးကို မှုတ်ပေးနေသောသူမှာ- မာလစ်က် (ဒိုဇခ်) ငရဲမှူးဖြစ်သည်။- ကိုယ်တော် အဦးဆုံး ဝင်ရောက်သော ဗိမာန်မှာ- သာမန်မွတ်စလင်မ်များ၏ ဘုံဗိမာန်ဖြစ်ပါသည်။ ဒုတိယဘုံဗိမာန်မှာ- (ရှဟီဒ်)များ၏ ဘုံဗိမာန် ဖြစ်ပါသည်။

ကျွန်တော်သည် 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန် ဂျစ်ဗ်ရာအီလ်ဖြစ်၍ ဤသူမှာ မီကာအီလ် ဖြစ်ပါသည်။ ထို့နောက် ဦးခေါင်းမော်၍ ရှုတော်မူပါလော့ဟု ဆိုသဖြင့် ကျွန်ုပ်သည် ဦးခေါင်းကိုမော်ကြည့်သောအခါ ကျွန်ုပ်အပေါ်မှ တိမ်တိုက်အဖြူတစ်ခုကို မြင်ရလေသည်။ ဤအရာသည် ကိုယ်တော်၏ ဘုံဗိမာန်ဖြစ်ပါသည်ဟု ပြောပြလေသည်။ ကျွန်ုပ်က ကျွန်ုပ်အား လွှတ်ပါလော့ မိမိဘုံဗိမာန်သို့ ဝင်ရောက်မည်ဟု ပြောရာ၊ ယခု ကိုယ်တော်၏သက်တမ်း ကြွင်းကျန်ပါသေးသည် သက်တမ်းမကုန်ဆုံးသေးပါ၊ အကယ်၍ ကုန်ဆုံးခဲ့သော် ယခုပင် ကြွတော်မူနိုင်ပါကြောင်းဟု ပြောလေသည်။

**အကျိုးကျေးဇူး။** သိမှတ်ကြရန်မှာ.... နဗီတမန်တော်များ၏ အိပ်မက်သည် (ဝဟီ) ဖြစ်လေသည်။ ဤအကြောင်းအရာ အထုပ္ပတ္တိ အပေါင်းသည် တစ်ကယ်အစစ်အမှန်ဖြစ်လေသည်။ ဤဟဒီးသ်တော်အရ များစွာသော အကြောင်း ကိစ္စများကို သိရှိရလေသည်။ (ပထမ) မုသား စကား ပြောဆိုခြင်းသည် အဘယ်မျှ ပြစ်ဒဏ်ကြီးသနည်း။ (ဒုတိယ) ပညာတတ်ပါလျက် ပညာနှင့်အညီ မကျင့်ဆောင်သူ။ (တတိယ)ကာမေသုပြစ်မှားကျူးလွန်သူ။ (စတုတ္ထ)အတိုးအညွန့်စားသုံးသူ။ အလ္လာဟ်အသျှင်မြတ်သည် ခပ်သိမ်းသော မွတ်စလင်မ်များအား ဤအလုပ်များမှ ကင်းဝေးရန် စောင့်ထိန်းတော်မူပါစေသတည်း။

# အကီဒဟ်များ အကြောင်း

အကီဒဟ် ဟူသည်ကား- တစ်စုံတစ်ရာသော အကြောင်းကို မှန်ကန်သည် ဟုတ်မှန်သည်ဟု သိ၍ စိတ်ဖြင့် အမှန်ဟုယုံကြည်ခြင်းကို ခေါ်လေသည်။ (အစ္စလာမ်သာသနာ၏ အယူဝါဒကို အကီဒဟ်ဟု ခေါ်သည်။)

အကီဒဟ် ၁။ ခပ်သိမ်းကုန်သော စကြာဝဠာ လောကအပေါင်းသည် ပထမလုံးဝမရှိဘဲ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်က ဖန်ဆင်းတော်မူသောအခါမှပင် ထင်ရှားစွာ တည်ရှိလာခြင်းဖြစ်သည်။

အကီဒဟ် ၂။ အလ္လာဟ် အသျှင်မြတ်သည် တစ်ပါးတည်း တည်ရှိတော်မူ၏။ မည်သူ့ကိုမျှ မှီခိုအားထားခြင်းမရှိ၊ မည်သူ့ကိုမျှမမွေးဖွား၊ မည်သူကမျှ မွေးဖွားခြင်းမဟုတ်၊ အိမ်ထောင်ဘက်လည်းမရှိ၊ မည်သူမျှ ထိုအသျှင်နှင့် ဂုဏ်ရည်တူမရှိ။

အကီဒဟ် ၃။ အမြဲထာဝရ တည်ရှိလျက်၊ အမြဲထာဝရ တည်ရှိနေမည်။

အကီဒဟ် ၄။ မည်သည့်ဝတ္ထုပစ္စည်း တစ်စုံတစ်ရာမျှ ထိုအသျှင်နှင့် တူသည်မရှိ။ အတုမရှိ၊ မြင့်မြတ်တော်မူသော အသျှင် ဖြစ်သည်။

အကီဒဟ် ၅။ ထိုအသျှင်သည် အမြဲရှင်လျက် ရှိတော်မူ၍ (အိုခြင်း၊ နာခြင်း၊ သေခြင်း၊ ဖေါက်ပြန်ပြောင်းလဲခြင်းမရှိ။) အရာရာကို စွမ်းဆောင်တော်မူ၏။ မည်သည့်အရာမှ ထိုအသျှင်၏ အသိဉာဏ်တော်နှင့် လွတ်ကင်းခြင်းမရှိ။ အကြွင်းမရှိ မြင်တော်မူ၍၊ အကြွင်းမရှိကြားတော်မူ၏။ အမိန့်တော်ပေး၏။ သို့ရာတွင် ထိုအသျှင်၏အမိန့်စကားသည် ကျွန်ုပ်တို့၏ စကားကဲ့သို့ မဟုတ်ပေ။

အလိုဆန္ဒရှိတော်မူရာပြုတော်မူ၏။ မည်သူတစ်ဦးတစ်ယောက်မျှ တားဆီးကန့်ကွက် ပိတ်ပင်နိုင်ခြင်းမရှိ၊ ထိုအသျှင်သည် ခ,ဝပ်ကိုးကွယ် ဆည်းကပ်ထိုက်သော အသျှင်ဖြစ်၏။ ထိုအသျှင်အား မည်သူ တစ်ဦးတစ်ယောက်မျှ တုဖက်ယှဉ်ပြိုင် နိုင်သူမရှိ။ မိမိ ဖန်ဆင်းထားသော 'ဗန္ဒဟ်' အပေါင်းအား ကရုဏာထားတော်မူ၏။ အစိုးရတော်မူသော အသျှင်ဖြစ်၍၊ ချွတ်ယွင်းချက် အပေါင်းနှင့် ကင်းဝေး သန့်စင်တော်မူ၏။ ထိုအသျှင်သည်ပင် မိမိ၏ ကျေးကျွန်များကို ဘေးအန္တရာယ် အပေါင်း တို့မှ ကာကွယ် စောင့်ရှောက်တော်မူ၏။ ထိုအသျှင်သည် ဂုဏ် ကျက်သရေ အပေါင်း နှင့် ပြည့်စုံတော်မူ၍ ခပ်သိမ်းကုန် အပေါင်းတို့ထက် ကြီးကျယ်တော်မူသော အသျှင်ဖြစ်၏။ ခပ်သိမ်းကုန်သော အရာဝတ္ထု အပေါင်းကို ဖန်ဆင်းတော်မူသော အသျှင်ဖြစ်၏။ ထိုအသျှင်ကို မည်သူကမျှ ဖန်ဆင်းသည် မဟုတ်။

အပြစ် အကုသိုလ်များကို ခွင့်လွှတ်ချမ်းသာပေးနိုင်တော်မူသော အသျှင်ဖြစ်သည်။ စွမ်းဆောင်နိုင်တော်မူသောအသျှင်၊ များစွာပေးကမ်း မ,စတော်မူသောအသျှင်၊ စားနပ်ရိက္ခာ ပေးပို့ သနားတော်မူသောအသျှင်ဖြစ်၍ အလိုတော်ရှိလျှင် အကြင်သူ၏ စားနပ်ရိက္ခာကို ဆုတ်ယုတ်ကျပ်တည်းစေ၍၊ အလိုတော် ရှိလျှင် အကြင်သူ၏ စားနပ် ရိက္ခာကို ကျယ်ဝန်း ပေါများစေတော်မူလေသည်။

အကြင်သူအားအလိုတော်မရှိလျှင် နှိမ့်ချတော်မူ၍၊ အကြင်သူအား အလိုတော်ရှိလျှင် မြှင့်တင်တော်မူ၏။ အကြင်သူအားအလိုတော်ရှိလျှင် ဂုဏ်ကျက်သရေကို ပေးတော်မူ၍၊ အကြင်သူအား အလိုတော်ရှိလျှင် သေးသိမ်ခြင်းကို ပေးတော်မူ၏။ တရား မျှတတော်မူသော အသျှင်ဖြစ်၍၊ အလွန့် နူးညံ့ သိမ်မွေ့တော်မူပြီးလျှင် ခန္တီ သည်းခံခြင်း တရားတော်နှင့် ပြည့်ဝတော်မူသောအသျှင်ဖြစ်သည်။ ထိုအသျှင်အား ခ,ဝပ် ရိုကျိုးသောသူတို့အား ဂုဏ်ပြုတော်မူသော အသျှင်ဖြစ်သည်။ တောင်းဆုကို ဖြည့်နိုင်တော်မူသော အသျှင် ဖြစ်သည်။ စွမ်းအင် ကြီးမားတော်မူသော အသျှင် ဖြစ်သည်။ ခပ်သိမ်းကုန်အပေါင်းတို့အပေါ်၌အစိုးရတော်မူသောအသျှင်ဖြစ်၏။ ထိုအသျှင်ကို မည်သူမျှအစိုးမရ။ ထိုအသျှင် ပြုလုပ်သမျှ ကိစ္စအပေါင်းတို့သည် အလိမ္မာ ဉာဏ်ပညာနှင့် ကင်းလွတ်သည်ဟူ၍ မရှိ၊ အလုပ်ကိစ္စအပေါင်းကို ပြုပြင်ဖန်ဆင်းတော်မူသော အသျှင်ဖြစ်၏။

ထိုအသျှင်သည် ခပ်သိမ်းသောသူတို့ကို ဖန်ဆင်းတော်မူသော အသျှင်ဖြစ်၍၊ ထိုအသျှင်သည်ပင် သေပြီး နောက် ‘ကေယာမတ်’ နေ့၌ တဖန် ပြန်ရှင်စေတော်မူမည့် အသျှင်ဖြစ်သည်။ ထိုအသျှင်သည် သတ္တဝါ တို့၏ အသက်ကို ရှင်စေတော်မူ၍၊ ထိုအသျှင်ပင် သတ္တဝါတို့၏ အသက်ကို သေစေတော်မူ၏။

ထိုအသျှင်အား နိမိတ်လက္ခဏာ ဂုဏ်ပုဒ်များဖြင့် အားလုံး သိကြ၏။ ထိုအသျှင်၏ မူလ (သာတ်) တော်၏ နက်နဲခြင်းကို မည်သူမျှ မသိနိုင်ကြချေ။ အကုသိုလ် ပြုမိသူတို့၏ ဝန်ချတောင်းပန်မှုကို လက်ခံကျေအေးတော်မူ၏။ ပြစ်ဒဏ်တပ်ရိုက် စီရင်ထိုက်သူတို့အား ပြစ်ဒဏ်ခတ်တော်မူ၏။

ထိုအသျှင်သည် လမ်းမှန် တရားကို ညွှန်ပြတော်မူ၏။ လောက၌ ဖြစ်ပျက်သမျှ အပေါင်းတို့သည် ထိုအသျှင်၏ အာဏာ အမိန့်တော်ဖြင့် ဖြစ်ပျက်ကြရကုန်၏။

ထိုအသျှင်၏ အမိန့်အခွင့်မရဘဲ မြူမှုန် ပင် မကြွနိုင်ချေ။ ထိုအသျှင်သည် အိပ်စက်ခြင်း၊ ငိုက်မြည်းခြင်း မရှိ၊ ထိုအသျှင်သည် စကြာဝဠာ အနန္တကို ထိန်းသိမ်းထားရခြင်းကြောင့် မောပန်းတော်မူခြင်းမရှိ။ ထိုအသျှင်သာလျှင် ခပ်သိမ်းကုန်သော အရာများကို ထိန်းသိမ်းထားတော်မူလေသည်။

ထိုနည်းပင် အားလုံးသော မွန်မြတ် ကောင်းမွန်သည့် နောက် အချင်း လက္ခဏာများနှင့် ပြည့်စုံတော်မူ၍ မကောင်းသော ကျေးဇူးမရှိသော မည်သည့် အချင်း လက္ခဏာ နိမိတ်မျှ ထိုအသျှင်တွင် မရှိ၊ ညစ်ညူးခြင်းအပေါင်းတို့နှင့် ကင်းဝေး သန့်ရှင်းဆုံးသော အသျှင် ဖြစ်တော်မူ၏။

အကီဒဟ် ၆။ ထိုအသျှင်၏ ခပ်သိမ်းသော ဂုဏ်တော်အပေါင်းသည် အမြဲဖြစ်၍ အမြဲတည်လျက်ရှိ၏။ ထိုအသျှင်မြတ်၏ မည်သည့် ဂုဏ်ပုဒ်မျှ မည်သည့်အခါမဆို ပြောင်းလဲခြင်းမရှိ။

အကီဒဟ် ၇။ ဖန်ဆင်းခံရသောသတ္တဝါများ၌ရှိသော ဂုဏ်ပုဒ်များမှ ထိုအသျှင် ကင်းစင်တော်မူ၏။ ကုရ်အာန် ကျမ်းတော် နှင့် ဟဒီးသ် သြဝါဒတော်များတွင် အချို့နေရာများ၌သုံးနှုန်းထားသည်များမှာ ၎င်းတို့၏ အဓိပ္ပါယ်ရင်းကို အလ္လာဟ်အသျှင်မြတ်ကိုလွှဲအပ်ရမည်။ ထိုအသျှင်သာလျှင် ၎င်းတို့၏ အရင်းမူလကို သိတော်မူလေသည်။ ကျွန်ုပ်တို့သည် စုံစမ်းမေးမြန်းစောကြောခြင်းမရှိဘဲ ဤနည်း ယုံကြည်ကြသည်။ 'အီမာန်' ယူကြသည်မှာ ၎င်း၏ အဓိပ္ပါယ် သဘောသည် တိကျ မှန်ကန်သည်ဟု ယုံကြည် ယူဆရမည်။ သို့ ယုံကြည်ယူဆခြင်းပင်အကောင်းဆုံးဖြစ်၏။ သို့မဟုတ် ၎င်း၏သင့်လျော်သောအဓိပ္ပါယ် ပေး၍၊ သိရှိနားလည်ရန် ပြုလုပ်ရမည်။

အကီဒဟ် ၈။ လောက၌ အဆိုး နှင့် အကောင်း ဖြစ်ပျက်သမျှ အပေါင်းကို မဖြစ်ပျက်မီအလျင် အမြဲအစဉ် အသျှင်မြတ် အကြွင်းမရှိ သိတော်မူပြီးဖြစ်၏။ သိတော်မူသည့်အတိုင်း ၎င်းနှစ်ရပ်ကို ဖန်ဆင်း ပြုပြင်ထားတော်မူ၏။ ဤအရာကို 'တပ်က်ဒီရ်'ဟု ခေါ်သည်။ မကောင်းသောအရာကိုဖန်ဆင်းထားတော်မူခြင်း၌ အလွန် လျှို့ဝှက်နက်နဲခြင်း ရှိလေရာ၊ ၎င်းကို လူတိုင်းနားလည်နိုင်ခြင်း မရှိချေ။

အကီဒဟ် ၉။ (ဗန္ဒဟ်)ကျွန် (လူသား) အပေါင်းအား အလ္လာဟ်အသျှင်မြတ်က အသိတရား နှင့် အလိုဆန္ဒကို ပေးအပ်ထားတော်မူ၏။ ထိုအသိတရားနှင့် အလိုဆန္ဒအရ သူတို့သည် ကုသိုလ်နှင့် အကုသိုလ်ကို မိမိသဘောဖြင့် မိမိတို့ဘာသာ ပြုလုပ်ကြ၏။

သို့ရာတွင် 'ဗန္ဒဟ်'တို့၌ မည်သည့် အလုပ်ကိုမျှ ဖန်ဆင်းနိုင်သော စွမ်းအားမရှိချေ။ မကောင်းမှုကိုပြုလျှင် အလ္လာဟ်အသျှင်မြတ် မနှစ်သက်၊ ကောင်းမှုကိုပြုလျှင် အသျှင်မြတ် နှစ်သက် သဘောကျတော်မူ၏။

အကီဒဟ် ၁၀။ အလ္လာဟ်အသျှင်မြတ်သည် 'ဗန္ဒဟ်'များအား ၎င်းတို့ မလုပ်နိုင် မစွမ်းနိုင်သော အလုပ်ကို အမိန့်ပေးတော်မမူချေ။

အကီဒဟ် ၁၁။ မည်သည့်အရာမျှ အသျှင်မြတ်၏ တာဝန် ဝတ္တရား ဟူ၍ မရှိ၊ ထိုအသျှင်မြတ်က တစ်စုံတစ်ရာကို ကရုဏာတော်ထားရှိပါမူ ထိုအသျှင်၏ သက်သက်ကြည့်ရှု ထောက်ပံ့ မစမှုမျှသာ ဖြစ်လေသည်။

အကီဒဟ် ၁၂။ အလ္လာဟ်အသျှင် စေလွှတ်တော်မူသော နဗီရစူလ် တမန်တော်များသည် 'ဗန္ဒဟ်' များအား ဖြောင့်မတ်သော တရားလမ်းမှန် ညွှန်ပြရန် အလို့ငှာ မြောက်များစွာ ပွင့်ပေါ်ခဲ့ကြကုန်၏။

ထိုတမန်တော်နဗီရစူလ်အပေါင်းသည် အကုသိုလ်မှုနှင့်လွတ်ကင်းတော်မူကြကုန်၏။ ထိုတမန်တော်အပေါင်း မည်မျှ ရှိသည်ဟူသော အမှန်အရေအတွက်ကို အသျှင်မြတ်သာလျှင် သိတော်မူ၏။

ထိုတမန်တော် နဗီရစူလ်များအား မှန်ကန်ကြောင်း သက်သေပြနိုင်ရန် အလ္လာဟ်အသျှင်မြတ်က ၎င်းတို့၏လက်ဝယ် အမျိုးမျိုးအဖုံဖုံ ခက်ခဲဆန်းကြယ်လှသော လူတို့ မစွမ်းမပြုလုပ်နိုင်သော ကိစ္စများကို ၎င်းတို့ ထင်ရှားစွာပြုလုပ်ပြသစေတော်မူ၏။ ဤသို့သော ကိစ္စများကို 'မုအ်ဂျေဇဟ်' တံခိုးတော်များဟု ခေါ်၏။

ထိုတမန်တော်များ အနက် အားလုံးထက် ပထမ အဦးဆုံးမှာ အာဒမ် (အလိုင်ဟစ္စလာမ်) သခင်ဖြစ်၏။ အားလုံးထက် နောက်ဆုံးမှာ (ဟာဇရတ်မုဟမ္မဒ်ဆွလလ္လာဟု) ကိုယ်တော်မြတ်ဖြစ်၏။ ကြွင်းသမျှတမန်တော်များမှာ ထိုတမန်တော်နှစ်ပါးပွင့်ပေါ်သော ခေတ်၏ ကြားကာလ၌ ပွင့်ပေါ်ကြကုန်၏။ ထို့နောက်အချို့မှာ အလွန်ကျော်ကြား၏။

(ဥပမာ) - တမန်တော် နူးဟ်(အလိုင်ဟစ္စလာမ်)၊ တမန်တော် အစ်ဗ်ရာဟီးမ် (အလိုင်ဟစ္စလာမ်)၊ တမန်တော်အစ္စဟားက်(အလိုင်ဟစ္စလာမ်)၊ တမန်တော်အစ္စမာအီလ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ယအ်ကူးဗ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ယူစွဖ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ဒါဝူးဒ်(အလိုင်ဟစ္စလာမ်)၊ တမန်တော် စိုလိုင်မာန် (အလိုင်ဟစ္စလာမ်)၊ တမန်တော် အိုက်ယူးဗ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် မူစာ (အလိုင်ဟစ္စလာမ်)၊ တမန်တော် ဟာရူးန် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ဇကရီယာ (အလိုင်ဟစ္စလာမ်)၊ တမန်တော် ယဟ်ယာ (အလိုင်ဟစ္စလာမ်)၊ တမန်တော် အီစာ (အလိုင်ဟစ္စလာမ်)၊ တမန်တော်အင်လ်ယားစ်(အလိုင်ဟစ္စလာမ်)တမန်တော်အလ်ယစအ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ယူနွတ်စ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် လူးတွ် (အလိုင်ဟစ္စလာမ်)၊ တမန်တော်အစ်ဒ်ရီးစ်(အလိုင်ဟစ္စလာမ်)၊ တမန်တော်သလ်ကစ်ဖ်လ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် စွာလေးဟ်(အလိုင်ဟစ္စလာမ်)၊ တမန်တော် ဟူးဒ် (အလိုင်ဟစ္စလာမ်)၊ တမန်တော် ရှိုအိုင်ဗ်(အလိုင်ဟစ္စလာမ်)။

အကီဒဟ် ၁၃။ နဗီ တမန်တော် အပေါင်း တို့၏ အရေအတွက်ကို အလ္လာဟ်အသျှင်မြတ်က မည်သူ့ကိုမျှ ပြသ သိစေတော်မမူချေ။ ထို့အတွက် ဤသို့ အကီဒဟ် ယုံကြည်မှုထားရမည်မှာ အလ္လာဟ်အသျှင်မြတ်ထံတော်မှ စေလွှတ်သမျှသော နဗီ တမန်တော်အပေါင်းတို့အား ကျွန်ုပ်တို့သည် 'အီမာန်' ယုံကြည်ခြင်း ရှိကြပါသည်၊ ကျွန်ုပ်တို့သည် အမည်နာမနှင့် သိရှိရသော တမန်တော်များကိုလည်းကောင်း၊ မသိရှိသော တမန်တော်များကိုလည်းကောင်း ယုံကြည်ကြပါ၏။

အကီဒဟ် ၁၄။ နဗီရစူလ် တမန်တော်များတို့တွင် တချို့သော တမန်တော်များသည် တချို့တို့ထက် အဆင့်အတန်း ပိုမိုကြီး၏။ အားလုံးတို့ထက် အဆင့်အတန်း အကြီးဆုံးမှာ ကျွန်ုပ်တို့၏တမန်တော် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်မြတ် ဖြစ်တော်မူလေသည်၊ ထိုကိုယ်တော်၏နောက်မည်သည့်တမန်တော်သစ် တစ်ဦးတစ်ယောက်မျှပွင့်ပေါ်ရန်မရှိတော့ချေ၊ ကေယာမတ် ကမ္ဘာဆုံးသည်တိုင်အောင် လူသားနှင့် ဂျင်န် အားလုံးတို့၏ နဗီတမန်တော်သည် ကိုယ်တော်မြတ်ဖြစ်လေသည်။

အကီဒဟ် ၁၅။ ကျွန်ုပ်တို့၏ နဗီတမန်တော် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်အား အလ္လာဟ်အသျှင်မြတ်က နိုးကြားလျက်ရှိစဉ် ခန္ဓာကိုယ်နှင့်တကွ (မတ်က်ကဟ်မြို့မှ) ဗိုင်တွလ်မိုကတ်ဒတ်စ် မြို့တော်သို့ ၎င်းထိုမှတဆင့် မိုးကောင်းကင် ၇-ထပ် အထက်သို့ ၎င်းထိုမှ အလ္လာဟ်အသျှင်မြတ်အလိုတော်ရှိရာကို ခေါ်ဆောင်တော်မူ၍ တဖန်မတ်က်ကဟ် မြို့တော်သို့ ပြန်လည်ပို့တော်မူလေသည်၊ ၎င်းကို (မဲအ်ရာဂျ်)ဟုခေါ်၏။

အကီဒဟ် ၁၆။ အလ္လာဟ်အသျှင်မြတ်သည် တချို့သောမခ်လူးက်များကို 'နူရ်' ရောင်ခြည်တော်ဖြင့် ဖန်ဆင်းတော်မူ၍ ထို'မခ်လူးက်'များကို ကျွန်ုပ်တို့ မျက်စိများဖြင့် မမြင်နိုင်ရန် ဖုံးကွယ်ထားတော်မူ၏၊ ထို'မခ်လူးက်'များကို (မလာအေကဟ်) သို့မဟုတ် (ဖွရစ်ရှ်တဟ်) ကောင်းကင်တမန်ဟုခေါ်လေသည်။

မြောက်မြားစွာသော အလုပ်ကိစ္စများကို ၎င်းတို့အား ဆောင်ရွက်ရန် လွှဲအပ်ခန့်ထားတော်မူ၏ ၎င်းတို့သည် အသျှင်မြတ်၏ အမိန့်တော်နှင့် ဆန့်ကျင်၍ မည်သည့် အလုပ်ကိုမျှမလုပ်ကြချေ၊ ခန့်ထားသောအလုပ်ကိုသာ ပြုလုပ်လျက်ရှိကြ၏။

၎င်းတို့အနက် လေးပါးသော (မလာအေကဟ်)မှာ အလွန်ကျော်ကြားလေသည်။

၁- ဟဒ္ဒရတ်ဂျစ်ဗ်ရာအီလ် (အလိုင်ဟစ္စလာမ်)၊ ၂- ဟဒ္ဒရတ်မီကာအီလ် (အလိုင်ဟစ္စလာမ်)၊ ၃- ဟဒ္ဒရတ်အစ္စရာဖွီလ် (အလိုင်ဟစ္စလာမ်)၊ ၄- ဟဒ္ဒရတ် အဇ်ဇ်ရာအီလ် (အလိုင်ဟစ္စလာမ်)တို့ ဖြစ်ကြသည်။

အလ္လာဟ်အသျှင်မြတ်သည် အချို့သော မခ်လူးက်များကို မီးဖြင့် ဖန်ဆင်းတော်မူ၏၊ ၎င်းတို့ကိုလည်း ကျွန်ုပ်တို့မမြင်ရချေ၊ ထိုမခ်လူးက်များအား (ဂျင်န်)ဟူ၍ ခေါ်လေသည်၊ ၎င်းတို့၌ အဆိုး့အကောင်း အမျိုးမျိုးရှိလေသည်၊ ထိုမခ်လူးက်များမှာ ပေါက်ဖွားခြင်းနှင့် သားသမီးများ ရှိကြလေသည်၊ ထိုမခ်လူးက်မျိုးများတို့တွင် အလွန်ကျော်ကြားဆိုးသွမ်းသောသူမှာ အစ်ဗ်လီစ် ခေါ် ရှိုင်တွာန်ဖြစ်လေသည်။

အကီဒဟ် ၁၇။ မွတ်စလင်မ်တို့သည် 'အေဗာဒတ်'အသျှင်မြတ်အားခစား၍ ဝပ်မှုကို ကောင်းစွာပြုလုပ်၍ မကောင်းမှုများမှ ကြဉ်ရှောင်လျက် လောကီမှုများအား လိုလားနှစ်သက်ခြင်းမထားဘဲ တမန်တော်မြတ်၏ အနှ အတာ ဟူဟူသမျှကို ကောင်းစွာ ခံယူလိုက်နာလျှင်ထိုသူသည် အလ္လာဟ်အသျှင်မြတ် ချစ်မြတ်နိုးသောသူ အဖြစ်သို့ရောက်၏၊ ဤသို့သောသူကို 'ဝလီ'သူတော်စင်ဟူ၍ ခေါ်လေသည်၊ ထိုပုဂ္ဂိုလ်မျိုးမှ တစ်ရံတစ်ခါ ဤသို့သောကိစ္စရပ်များ ဖြစ်ပေါ်တတ်၏၊ ထိုကိစ္စမျိုးကို အခြားသော သာမန်လူသားတို့ ပြုလုပ်ခြင်းငှါ မစွမ်းနိုင်သော အရာဖြစ်လေသည်၊ ထိုသို့သော ကိစ္စမျိုးကို 'ကရာမတ်' တန်ခိုးဣဒ္ဓိပါဒ်ဟု ခေါ်လေသည်။

အကီဒဟ် ၁၈။ ဝလီသူတော်စင်များသည် အဘယ်မျှခန့်ပင် ကြီးကျယ်သော အဆင့်အတန်းသို့ ရောက်လင့်ကစား နဗီတမန်တော်များနှင့် အဆင့်အတန်း တူရန်မဖြစ်နိုင်ချေ။

အကီဒဟ် ၁၉။ အဘယ်မျှပင် အသျှင်မြတ်၏ ချစ်မြတ်နိုးခြင်း ခံရသူဖြစ်စေ သူတို့နှင့် အာရုံမချွတ်ယွင်းသေးသမျှ ကာလပတ်လုံး 'ရှရအ်' တရားဥပဒေကို လိုက်နာဆောင်ရွက်ရန် ဖွ်ရသူ ဖြစ်၏၊ နမာဇ်ရိုဇဟ်နှင့် အခြားသော မည်သည့် အေဗာဒတ်မျှ ခွင့်လွှတ်ခြင်းခံရမည်မဟုတ်၊ အကုသိုလ်ဖြစ်မည့် အလုပ်များကိုလည်း ထိုသူ့အတွက်လုပ်ပိုင်ခွင့်မရှိချေ။

အကီဒဟ် ၂၀။ အကြင်သူသည် ရှရီအတ် တရားဥပဒေနှင့် ဆန့်ကျင်ခဲ့သော် ထိုသူသည် အသျှင်မြတ်၏ချစ်မြတ်နိုးသူ မဖြစ်နိုင်ချေ၊ အကယ်၍ ထိုသူ၏လက်ဖြင့် တစ်စုံတစ်ခုသော ထူးဆန်းအံ့ဩဘွယ်ကိစ္စကိုပြုလုပ်ပြသသော်လည်း ထိုအရာသည် မှော်အတတ်သော်လည်းကောင်း၊ စုံးကဝေ-တစ္ဆေ-မိစ္ဆာ အတတ်သော်လည်းကောင်း ဖြစ်ရမည်၊ ၎င်းကို ယုံကြည်ရန်မထိုက်။

အကီဒဟ် ၂၁။ ဝလီသူတော်စင်များသည် အချို့ လျှို့ဝှက်အပ်သော ကိစ္စများကိုအိပ်မက်၌ ဖြစ်စေ၊ နိုးကြားလျက်ဖြစ်စေ သိရှိရလေသည်။ ယင်းသို့ သိရှိခြင်းကို 'ကရှ်ဖ်' သို့မဟုတ် 'အင်လ်ဟာမ်'ဟု ခေါ်လေသည်၊ ယင်းသို့ သိမြင်ခြင်းကို ရှရီအတ် တရားတော်နှင့် ကိုက်ညီလျှင် လက်ခံသင့်၍ မကိုက်ညီလျှင် စွန့်ပယ်ရမည်။

အကီဒဟ် ၂၂။ အလ္လာဟ်အသျှင်မြတ်နှင့် ၎င်း ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က 'ဒီန်'သာသနာရေးနှင့် ဆိုင်ရာ ခပ်သိမ်းသော ကိစ္စများကို ကုရ်အာန်နှင့် ဟဒီးသ်ကျမ်းများတွင် ဗန္ဒာများအား ပြသထားတော်မူလေသည်၊ ယခုသာသနာရေး၌ တစ်စုံတစ်ရာ အသစ်တီထွင်လုပ်ပိုင်ခွင့်မရှိချေ၊ ဤသို့သော အသစ်တီထွင်ခြင်းကို ဗိဒအတ်ဟုခေါ်လေသည်၊ ဗိဒအတ်သည် အလွန်ကြီးလေးသော အပြစ်ဖြစ်လေသည်။

**ရှင်းလင်းချက်။** အထက်တွင်ပြဆိုခဲ့သော စကား၏အလိုမှာ ဤသို့တည်း။ အလ္လာဟ်အသျှင်မြတ်နှင့် တမန်တော်မြတ်တို့က သာသနာရေးနှင့်ဆိုင်ရာ ခပ်သိမ်းကုန်သောစကားများကို ဗန္ဒဟ်များအား (အိုစူလေ ကွလ်လီယဟ်) အခြေခံပညတ်တော်များဖြင့်လည်းကောင်း၊ တဖွ ရီအာတေ ဂျဇ်အီယဟ် နည်းဥပဒေ ပညတ်တော်များဖြင့်လည်းကောင်း၊ ထို့ပြင်တိုက်ရိုက်နည်းဖြင့်လည်းကောင်း၊ သွယ်ဝိုက်သောနည်းဖြင့်လည်းကောင်း၊ အစရှိသော နည်းမျိုးစုံဖြင့် (တစမကျန်) သင်ကြားပြသထားလေသည်။ ထို့ကြောင့် ယခုသာသနာရေးနှင့် ပတ်သက်၍ စကားသစ်၊ တရားသစ်တို့ကို တီထွင်ခြင်းမပိုင်ချေ။ သို့မဟုတ် အကြင်အသစ်စကားသည် အခြေခံပညတ်တော်များတွင်မရှိ၊ ထိုအခြေခံပညတ်တော်နှင့် ထင်ရှားစွာ ဆက်စပ်မှုမရှိလျှင် ၎င်းကို 'ဗိဒအတ်'ဟု ခေါ်သည်။ ၎င်းနောက် 'ဗိဒအတ်'သည် ကြီးလေးသော အပြစ်ဖြစ်၏။

ဤရှင်းပြချက်ဖြင့် သိရှိရသည်မှာ ဆူဟာဗဟ်(ရသွေ့)သခင်များ တာဗေ့အီန်များ မွဂျီတဟစ်ဒ် အေမာမ်ကြီးများ၏ မိန့်ကြားချက်များသည် အခြေခံပညတ်တော်မှ ထုတ်နှုတ်ထားခြင်းအတွက် ဗိဒအတ် မဟုတ်ချေ။ ဟုတ်ပါ၏ အကြင် အလုပ်များသည် တရားတော်၏ 'ဒလီလ်'သာဓကများနှင့် မကိုက်ညီလျှင် ၎င်း'ဗိဒအတ်' လုပ်သူများက ထိုအလုပ်များကို သာသနာတော်တွင် အစမ္မနည်းထိုးသွင်းပေးထားခဲ့လျှင် ၎င်းထိုအလုပ်များသည် မုချကေန် 'ဗိဒအတ်'ဖြစ်လေသည်။

အကီဒဟ် ၂၃။ အလ္လာဟ်အသျှင်မြတ်သည် မြောက်မြားစွာသော ကျမ်းကြီးကျမ်းငယ်အသွယ်သွယ်ကို ကောင်းကင်မှ ဂျစ်ဗ်ရာအီလ် (အလိုင်ဟစ္စလာမ်) ကောင်းကင်တမန်မှတဆင့် များစွာသော နဗီရစူလ် တမန်တော်များထံ ထုတ်ပြန်ချပေးတော်မူ၏။ ယင်းသို့ချပေးခြင်းသည် မိမိတို့၏ တပည့်နောက်လိုက် အုပ်စုများအား သာသနာရေးဆိုင်ရာ ကိစ္စရပ်များကို ပြောဟောရန်ဖြစ်လေသည်။ ထိုကျမ်းစာများအနက် ကျမ်းကြီးလေးသွယ်မှာ အလွန်ကျော်ကြားလေသည်။

၁။ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သခင်အား တောင်ရာတ်ကျမ်း။
၂။ တမန်တော်ဒါဝူးဒ်(အလိုင်ဟစ္စလာမ်)သခင်အား ဇဗူရ်ကျမ်း။
၃။ တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)သခင်အား အင်န်ဂျီလ်ကျမ်း။
၄။ ကျွန်ုပ်တို့၏ တမန်တော်မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်အား ကုရ်အာန်ကျမ်း။

ကုရ်အာန် ကျမ်းတော်မြတ်သည် နောက်ဆုံး ချမှတ်ထုတ်ပြန်သော ကျမ်းဖြစ်လေသည်။ ယခုမည်သည့်ကျမ်းမှ ကောင်းကင်မှလာရန်မရှိ။ ကမ္ဘာဆုံးသည်တိုင် ကုရ်အာန်ကျမ်းမြတ်၏ အမိန့်ဥပဒေသာလျှင် အတည်ဖြစ်လေသည်။

အခြားသော ကျမ်းစာများမှာ လမ်းမှား၊ အယူမှားသော သူများက အနည်းအများ ပြင်ဆင်ပြောင်းလဲထားကြ၏။ သို့ရာတွင် ကုရ်အာန်ကျမ်းမြတ်မှာ ဗိန္ဒုတစ်လုံးမျှ မတိမ်းမစောင်းစေရန် အလ္လာဟ်အသျှင်မြတ်က ထိန်းသိမ်း စောင့်ရှောက် ထားတော်မူသည်ဟု ကြေငြာထားတော်မူ၏။ ထိုကျမ်းအား မည်သူမျှ ပြုပြင်ပြောင်းလဲ ပြင်ဆင်ခြင်းမပြုနိုင်ချေ။

အကီဒဟ် ၂၄။ ကျွန်ုပ်တို့၏ တမန်တော် မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်မြတ်ကြီးအား မျက်ဝါးထင်ထင် ဖူးမြင်လိုက်ကြရကုန်သော မွတ်စလင်မ်များကို ဆွဟာဗီဟုခေါ်လေသည်။ ထိုပုဂ္ဂိုလ်များ၏ ထူးခြားကြီးကျယ်ခြင်းများ လာရှိလေသည်။ ထိုပုဂ္ဂိုလ်အပေါင်းအား ချစ်ခင်ကြည်ညိုခြင်း ကောင်းသော အထင်အမြင် ရှိကြရန် ထိုက်၏။ အကယ်၍ ထိုပုဂ္ဂိုလ်များသည် အချင်းချင်းတိုက်ခိုက်မှု စိတ်ဝမ်းကွဲမှုကိုကြားရသော် ၎င်းကိုမေ့မှားလစ်ဟင်းမှုဟု မှတ်ယူရမည်။ ၎င်းတို့အား မကောင်းမပြောရ။

ဆွဟာဗီ (ရသွေ့) သခင်များ အပေါင်းတို့တွင် အားလုံးထက် သာလွန်သော ဆွဟာဗီ လေးပါးရှိလေသည်။

ဟာသွရတ်အဘူဗကရ်စွစ်ဒီးက် (ရသွေ့) သခင်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မရှိသည့်နောက် တမန်တော်၏ နေရာတွင်ထိုင်၍ သာသနာတော်၏ အရေးကိစ္စအပေါင်းကို စီမံဆောင်ရွက်တော်မူလေသည်။ ထို့အတွက်ကြောင့် ဤပုဂ္ဂိုလ်အား ပထမမြောက် 'ခလီဖွာ' ကိုယ်စားလှယ်တော်ဟု ခေါ်လေသည်။ ရှိသမျှအုမ္မတ်အပေါင်းတို့အပေါ်တွင် ဤပုဂ္ဂိုလ်သည် မြင့်မြတ်ဆုံးဖြစ်လေသည်။

ထိုသခင်၏နောက် ဟာသွရတ်အုမရ် (ရသွေ့) သခင်ဖြစ်၏ ဤသခင်သည် ဒုတိယမြောက် ကိုယ်စားလှယ်တော်ဖြစ်လေသည်။

ထိုသခင်၏နောက် ဟာသွရတ်အွတ်စ်မာန် (ရသွေ့) သခင်ဖြစ်လေသည်။ ဤသခင်သည် တတိယမြောက် ကိုယ်စားလှယ်တော်ဖြစ်လေသည်။

ထိုသခင်၏နောက် ဟာသွရတ်အလီ (ရသွေ့) သခင်ဖြစ်လေသည်။ ဤသခင်သည် စတုတ္ထမြောက် ကိုယ်စားလှယ်တော်ဖြစ်လေသည်။

**ရှင်းလင်းချက်။** ဤ အကြောင်းအရာ များသည် ဆွဟာဗဟ် (ရသွေ့) သခင်ကြီးများထံ ထင်ရှားစွာ သိရှိရလေသည်၊ ၎င်းနောက် တမန်တော်မြတ် (ဆွလလ္လာဟု) ကိုယ်တော် သက်တော် ထင်ရှားတော်မူစဉ် တမန်တော်မြတ် ထံမှ အတည်ပြု ဆုံးဖြတ်ချက် ချထားခဲ့ပြီးဖြစ်လေသည်၊ အဘယ်ကြောင့်ဟူမူ အမီရွလ်မုအ်မေ့နီးန် အလီ(ရသွေ့)သခင် အမိန့်ရှိခဲ့သည်မှာ.... အဓိပ္ပါယ်- ကျွန်ုပ်တို့ နဗီတမန်တော်၏

နောက် အွမ္မတ် အားလုံးတို့တွင် အမြတ်ဆုံး ပုဂ္ဂိုလ်သည် အဘူဘကရ်(ရသွေ.)သခင်ပင် ဖြစ်၏။

ဤနည်းပင် မွတ်စ်နဒ်အဲဟ်မဒ်ကျမ်း၌ ဟသ္စရတ် အဗ်ဒွလ္လာဟ် အစ်ဗ်နို့ အုမရ် (ရသွေ.)သခင်က မိန့်ကြားခဲ့သည်မှာ....

ကိုယ်တော်သခင်၏နောက် နဗီတမန်တော်မြတ်၏ 'အွမ္မတ်' များတွင် အမြတ်ဆုံး ပုဂ္ဂိုလ်သည် အဘူဘကရ် (ရသွေ.) သခင်ပင်ဖြစ်၏။

သို့ရှိလေရာ ယင်းအကြောင်းနှင့် ပတ်သက်၍ စောဒကတက်ခြင်းသည် ဆွဟာဗဟ် (ရသွေ.) သခင်ကြီးများ နှင့် တမန်တော်မြတ် (ဆွလလ္လာဟု) ကိုယ်တော် အပေါ်၌ စောဒကတက်ရာ အမှန်ပင် ရောက်လေ၏။

အကီဒဟ် ၂၅။ ဆွဟာဗီများသည် အဘယ်မျှခန့် အဆင့်အတန်း မြင့်မြတ်သည် ဆိုသော် အကြီးဆုံးသော 'ဝလီ' သူတော်စင်ပင်လျှင် အဆင့် အတန်း အနိမ့်ဆုံးသော ဆွဟာဗီနှင့် ညီမျှသော အဆင့်အတန်းသို့ မရောက်နိုင်ချေ။

အကီဒဟ် ၂၆။ တမန်တော် ကိုယ်တော်မြတ်ကြီး၏ သားတော် သမီးတော် မြေးတော်၊ မြစ်တော်၊ အနွယ်တော်များနှင့် ကြင်ရာတော် သခင်မ အပေါင်းတို့အား ရိုသေလေးစားခြင်းပြုကြရန်ထိုက်၏။ သားတော် သမီးတော်များ အနက် အားလုံးထက် အဆင့် အတန်း မြင့်မြတ်သူမှာ ဟသ္စရတ် ဖွာတွေမဟ် (ရသွေ.) သခင်မ ဖြစ်လေသည်။ ကြင်ရာတော် သခင်မများတွင် ဟသ္စရတ် ခဒီဂျဟ် (ရသွေ.) သခင်မနှင့် ဟသ္စရတ် အာ အေရှဟ်(ရသွေ.)သခင်မတို့ ဖြစ်လေသည်။

အကီဒဟ် ၂၇။ 'အီမာန်' တည်မြဲမှုသည် အလ္လာဟ်အသျှင်မြတ်နှင့် ရစူလ်ကိုယ် တော်မြတ်ကို ခပ်သိမ်းသော ကိစ္စများ၌ မှန်ကန်သည်ဟု ယုံကြည် ယူဆခြင်း အပေါ်၌ တည်၏။ အလ္လာဟ်နှင့်ရစူလ်၏ အမိန့်ဩဝါဒ တစ်ခုခုကို ဒွိဟမကင်းရှိခြင်း။ မုသားဟု ထင်ခြင်း။ သို့မဟုတ် ထိုအရာများ၌အပြစ်ရှာခြင်း။ သို့မဟုတ် ထိုအရာများကို ပြောင် လှောင်ခြင်း အားလုံးတို့သည် 'အီမာန်' ပျက်သွားစေလေသည်။

အကီဒဟ် ၂၈။ ကုရ်အာန် နှင့် ဟဒီးသ်တော်များ၏ ထင်ရှားသော အဓိပ္ပါယ် သဘောကိုမနှာယူခြင်း၊ အဓိပ္ပါယ်ဆွဲဆောင်၍ မိမိလိုလားချက်ပါအောင် အလွဲအဓိပ္ပါယ် ပေးခြင်းသည် မကောင်းသော ဘာသာရေးကိစ္စဖြစ်လေသည်။

အကီဒဟ် ၂၉။ အကုသိုလ်မကောင်းမှုပြုခြင်းကို ပြုပိုင်လုပ်ပိုင်သည်ဟု ယူဆလျှင် 'အီမာန်'ပျက်၏။

အကီဒဟ် ၃၀။ အကုသိုလ်မှုသည် အဘယ်မျှခန့်ပင် ကြီးမားစေကာမူ ထိုအမှုကို မကောင်းဟု ယူဆလျှက်ရှိလျှင်'အီမာန်'မပျက်၊ သို့သော်'အီမာန်'၏အင်အားလျော့နည်းခြင်း ဖြစ်၏။

အကီဒဟ် ၃၁။ အ်လ္လာဟ် အသျှင်မြတ်အား မလေး မခန့် မကြောက် မရှိနေခြင်းနှင့် ထိုအသျှင်၏ ကရုဏာတော်ကို မက်ကင်းမှု ဖြစ်ခြင်းသည် 'ကွဖ်ရ်' ဘာသာပျက်၏။

အကီဒဟ် ၃၂။ တစ်စုံတစ်ယောက်ထံတွင် 'ဂိုင်ဗ်'အကွယ်၌ ဖြစ်ရန်ပျက်ရန် ကိစ္စများကိုမေးခြင်း၊ ၎င်းအားယုံခြင်း 'ကွဖ်ရ်' ဖြစ်၏။

အကီဒဟ် ၃၃။ 'ဂိုင်ဗ်'အကွယ်၌ ဖြစ်ပျက်မည့်ကိစ္စများကို အလ္လာဟ်အသျှင်မြတ်မှတစ်ပါးမည်သူမျှမသိချေ။ သို့သော်နဗီတမန်တော်များကို 'ဝဟီ'အားဖြင့်လည်းကောင်း 'ဝလီ' သူတော်စင်များကို 'ကရှ်ဖ်' 'အင်လ်ဟာမ်' အားဖြင့် လည်းကောင်း၊ သာမန်လူသားတို့သည် နိမိတ်လက္ခဏာအားဖြင့် အချို့သောကိစ္စရပ်များကို သိနိုင်လေသည်။

အကီဒဟ် ၃၄။ လူတစ်ဦးတစ်ယောက်၏ အမည်ကို ဖေါ်၍ 'ကာဖွင်ရ်' ဟူ၍ ပြောဆိုခြင်း သို့မဟုတ်'လအ်နတ်'ကျိန်ဆဲမှုပြုခြင်းသည် ကြီးသောအကုသိုလ်ဖြစ်လေသည်။ သို့သော် ညှဉ်းပန်း နှိပ်စက်သူများအပေါ်၌ 'လအ်နတ်'၊ မုသား စကား ပြောသူများအပေါ်၌ 'လအ်နတ်' ဟု ပြောနိုင်လေသည်။ သို့ရာတွင် အကြင်သူတို့၏ အမည်ကို ဖေါ်ထုတ်၍ အလ္လာဟ် အသျှင်မြတ် နှင့် ရစူလ် ကိုယ်တော်က 'လအ်နတ်' ဆိုခဲ့သောသူများအားလည်းကောင်း၊ သို့မဟုတ် 'ကာဖွင်ရ်'ဖြစ်ကြောင်း သတင်းပေးခဲ့သူများအားလည်းကောင်း၊ ထိုသို့သောသူများအား 'ကာဖွင်ရ်' ဆိုခြင်း၊ 'မလ်အူန်' ဆိုခြင်းသည် အပြစ် မဖြစ်ချေ။

**ရှင်းလင်းချက်။** ဤစကားတွင် နှစ်ပိုင်းရှိ၏။ ပထမပိုင်းတွင် လူတစ်ဦးတစ်ယောက်၏အမည်ကိုခေါ်၏။ 'ကာဖွင်ရ်'ဆိုခြင်းသည် ကြီးလေးသောအပြစ်ဖြစ်၏။

ဒုတိယပိုင်းမှာ တစ်ဦးတစ်ယောက်၏အမည်ကိုဖေါ်၍'လအ်နတ်'ကျိန်ဆဲခြင်းသည် ကြီးလေးသော အပြစ်ဖြစ်၏။

## သို့ရှိလေရာ ပထမပိုင်း၏ အဓိပ္ပါယ်မှာ ဤသို့ရှိ၏။

လူတစ်ဦးတစ်ယောက်၏ အမည်ကိုဖေါ်၍ 'ကာဖွင်ရ်' အစစ်သဘောဖြင့် ခေါ်ခြင်းသည် အကယ်၍ထို(အပြောခံရသူသည်)'ကာဖွင်ရ်'အစစ်အမှန်မဖြစ်ခဲ့သော် ကြီးသောအပြစ်ဖြစ်၏။ အဘယ့်ကြောင့်ဟူမူ ထိုသို့ ပြောဆိုခြင်းတွင် 'အင်လ်မေ့ဂိုင်ဗ်'အကွယ်ကို သိကြောင်း ကြွေးကြော်ရာ ရောက်သောကြောင့် ဖြစ်၏။

ဟုတ်ပါ၏။ ၎င်းသူ၏ထင်ရှားသော အခြေအနေကိုကြည့်၍ 'ကာဖွင်ရ်' ဆိုခြင်း၊ ထိုသူအား 'ကာဖွင်ရ်' များကဲ့သို့ဆက်ဆံခြင်းသည် ၎င်းထိုသူက မိမိကိုယ်ကို 'ကာဖွင်ရ်' ဖြစ်ကြောင်း ဝန်ခံလျှင် အပြစ်မရှိချေ။

သို့မဟုတ် အစ္စလာမ်ဘာသာဝင်ဟူ၍ကား ကြွေးကြော်၏။ သို့ရာတွင် သာသနာ၏ အရေးကြီးသော အဓိကအချက်များအနက် အချို့ကို ငြင်းဆန်၏။ ဥပမာ- 'ရာဖွဲ့သွ' များ၊ ၎င်းတို့သည် ညီအစ်မနှစ်ယောက်ကိုတစ်ချိန်တည်း 'နေကာဟ်' လက်ထပ်၍အတူထားခြင်းကို 'ဟရာမ်' မဖြစ်ဟု အယူရှိကြသည်။

၎င်းနောက် ကုရ်အာန်ကျမ်းတော်မြတ်ကို 'အီမာန်' မယူကြချေ။သာမက ကုရ်အာန်ကျမ်းမြတ်ကို ပြုပြင်ပြောင်းလဲပြီးဟု ယူဆကြသည်။

၎င်းနောက် အာအေရှာ် (ရသွေ့) သခင်မ၊ အဘူဘာကရ် စွဒ်ဒီးက် (ရသွေ့)၊ အုမရ်ဖွာရူးက်(ရသွေ့)၊ အွတ်စ်မာန်ဃနီ (ရသွေ့)သခင်ကြီးများအား အတွင်း အပြင် 'မုအ်မင်န်' ဖြစ်ကြောင်း မယုံကြည်ကြချေ။

တမန်တော်မြတ် (ဆွလလ္လာဟု) ကိုယ်တော်သည် အာအေရှာ် (ရသွေ့) သခင်မနှင့် တကွ၊ ထိုဆွဟာဗဟ် သခင်ကြီးများ အပေါ်တွင် အတွင်း အပြင် (အဆင်းရော အချင်းပါ) 'မုအ်မင်န်' အစစ်အမှန်ဖြစ်ကြောင်း ယုံကြည်ချက်သည် နမာဇ်၊ ရိုဇဟ် အစရှိသောကျင့်ဝတ်များသည် တမန်တော်မြတ်(ဆွလလ္လာဟု)ယူဆောင်လာကြောင်း (ဒွိဟမရှိ) ယုံကြည်ကြသကဲ့သို့ ယုံကြည်တော်မူ၏။

ဤအတွက်ကြောင့် ထိုဆွဟာဗဟ်သခင်ကြီးများ၏ 'အီမာန်' ကို ငြင်းဆန်ခြင်းသည် မုချကေန် တမန်တော်မြတ်(ဆွလလ္လာဟု)အား ငြင်းဆန်ရာ မည်၏။

ဒုတိယပိုင်း၏ အဓိပ္ပါယ်မှာ ဤသို့ရှိ၏။ တစ်ဦးတစ်ယောက်၏ အမည်ကို ဖေါ်၍ 'လအ်နတ်' ကျိန်ဆဲခြင်းသည် ထိုသူသည် မွတ်စလင်မ်ဖြစ်စေ၊ သို့မဟုတ် အစစ်အမှန်မဟုတ်သော 'ကာဖွင်ရ်' ဖြစ်စေ ကြီးလေးသော အပြစ် ဖြစ်၏။

အဘယ့်ကြောင့်ဟူမူ၊ အကယ်၍ ထိုသူသည် 'ကာဖွင်ရ်' အစစ်အမှန် မဟုတ်ခဲ့သော် အလ္လာဟ်အသျှင်မြတ်၏ အသိဉာဏ်တော်တွင် ထိုသူသည် 'ရဟ်မတ်' မဟာကရုဏာပွားများခြင်း ခံရသူတစ်ယောက် ဖြစ်ကောင်းဖြစ်နိုင်လေသည်။

لِكَوْنِهِ مُؤْمِنًا بَاطِنًا أَوْ ظَاهِرًا حَالًا وَمَآلًا

အကယ်၍ထိုသူသည် အလ္လာဟ်အသျှင်မြတ် အသိတော်တွင် 'ရဟ်မတ်' အပြုံခံရသူဖြစ်နေလျှင် ထိုသူအပေါ်၌ ကျိန်ဆဲခြင်း မပိုင်ပေ၊ အကယ်၍ ထိုသူသည် မွတ်စလင်မ် ဖြစ်နေမူ၊ ထိုအခါ၌ထိုသူ့အပေါ်ကွင် မကျိန်ဆဲထိုက်ကြောင်း ပို၍ ထင်ရှားလေသည်။

لِاَنَّ كُلَّ مُؤْمِنٍ مَرْحُوْمٌ وَّلَيْسَ بِمَلْعُوْنٍ

'မုအ်မင်န်' ဟူသမျှသည် 'ရဟ်မတ်' အပြုခံရသူများဖြစ်ကြကုန်၏။ 'လအ်နတ်' 'ရဟ်မတ်' တော် ဘောင်မှ နှင်ထုတ်ခြင်း ခံရသူများမဟုတ်ကြချေ။

အကီဒဟ် ၃၅။ လူတို့သေပြီးနောက် မြေမြှုပ်နှံခြင်း ပြုသည်ဖြစ်စေ၊ မပြုသည် ဖြစ်စေ မည်သို့ပင် ရှိစေကာမူ ထိုသူ၏ထံသို့ 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန် နှစ်ပါး တစ်ဦး၏ အမည်မှာ 'မွန်ကရ်' ခေါ်၍ တစ်ဦး၏ အမည်မှာ 'နကီရ်' ခေါ်လေသည်။ ၎င်းတို့က လာရောက်မေးမြန်းမည်မှာ သင့်အား ဖန်ဆင်းမွေးမြူတော်မူသောအသျှင် မည်သူ ဖြစ်သနည်း။

သင်၏ 'ဒီန်' သာသနာကား အဘယ်နည်း။

တမန်တော်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုပြ၍မေးမည်မှာ ဤပုဂ္ဂိုလ်ကား အသူနည်း။

အကယ်၍ သေသူသည် 'အီမာန်' ရှိသူဖြစ်ခဲ့သော် ကောင်းမွန်စွာ ဖြေကြားနိုင်အံ့။

ထို့နောက် ၎င်းသူအဖို့ အမျိုးမျိုးသော သုခချမ်းသာရရှိအံ့။ 'ဂျန္နတ်' သုခဘုံ၏ဘက်သို့ ပြူတင်းတံခါးပေါက်များဖွင့်ပေးအံ့၊ ထိုအတွင်းမှ အေးမြ၍ မွှေးကြိုင်လှသောရနံ့များ ဝင်လာအံ့၊ သေသူသည် နှစ်ခြိုက်စွာ အိပ်စက်အံ့။

အကယ်၍ သေသူသည် 'အီမာန်' ရှိသူ မဟုတ်သော် မေးသမျှမေးခွန်းအား ကျွန်ုပ် ဘာမျှ မသိပါဟု ဖြေကြားအံ့၊ ထို့နောက် ၎င်းသူသည် အလွန်ပြင်းပြ ခက်ထန်သော ပြစ်ဒဏ်သည် ကမ္ဘာပျက်သည်တိုင် ခံစားနေရအံ့။

အချို့သောပုဂ္ဂိုလ်များအား အသျှင်မြတ်က ယင်းသို့ 'မွန်ကရ်-နကီရ်' စစ်ကြော မေးမြန်းခြင်းမှ ခွင့်လွှတ်တော်မူ၏။ သို့ရာတွင် ဤခံစား စံစားရသော ကိစ္စကို သေသူတို့ သည် သိကြ၏။ ကျွန်ုပ်တို့မှာ မမြင်ကြရချေ။

(ဥပမာ)- အိပ်နေသောသူသည်အိပ်မက်တွင်း၌မြင်တွေ့နေရသောအကြောင်းအရာ များကို အိပ်သူ၏ဘေးမှ ထိုင်နေသူသည် ဘာမျှ မသိမမြင်ရသကဲ့သို့တည်း။

အကီဒဟ် ၃၆။ သေလွန်ပြီးနောက် နေ့စဉ် နံနက်အချိန် နှင့် ညနေချိန်တို့တွင် သေလွန်သူတို့ နေထိုင်ရမည့် ဌာနကို ပြသခြင်းမှု၏။ သုခဘုံတွင် စံစားရမည့်သူတို့အား

သုခဘုံကို ပြသစေ၍ သတင်းကောင်းပေး၏။ ငရဲဘုံတွင် ခံရမည့်သူများကို ငရဲဘုံအား ပြသစေ၍ ဝမ်းနည်းပူဆွေးမှုကို တိုးပွားစေ၏။

အကီဒဟ် ၃၇။ ကွယ်လွန် သေဆုံးပြီးသူတို့ အတွက် 'ဒိုအာ' ဆုမွန်တောင်းဆို ပေးလျှင်လည်းကောင်း၊ တစ်စုံတစ်ရာ လှူဒါန်းပေးကမ်း၍လည်းကောင်း ထိုသူတို့အတွက် ပေးပို့လျှင် သူသေ၌ 'သဝါဗ်'ကုသိုလ်ရောက်၏။ ယင်းသို့ပြုလုပ်ပေးခြင်းဖြင့် သေသူ၌ ကြီးမားသော အကျိုးကျေးဇူး ဖြစ်ရှိလေသည်။

အကီဒဟ် ၃၈။ အလ္လာဟ်အသျှင်မြတ်နှင့် ရစူလ်တမန်တော်မြတ်တို့က 'ကေယာမတ်' ရှင်ပြန်ထရမည့် နေ့နှင့် ပတ်သက်၍ နိမိတ် လက္ခဏာများကို ဟောပြော ပြသထားသမျှသည် ဧကန်မုချဖြစ်ရမည်။

အေမာမ်မဟ်ဒီ(အလိုင်ဟစ္စလာမ်)သခင်ပွင့်ပေါ်လာအံ့။ အလွန်တရားမျှတစွာဖြင့် အုပ်ချုပ်မင်းလုပ်အံ့။ မျက်စိတစ်ဖက်ကန်းသော 'ဒဂျ်ဂျာလ်' ပေါ်ထွက်အံ့။ ကမ္ဘာတစ်ခုလုံးအား မွှေနှောက် ဖျက်ဆီးမှု ပြုအံ့။ ဒဂျ်ဂျာလ်အား သတ်ဖြတ်ရန် အတွက် ဟသ္ဗရတ် အီစာ(အလိုင်ဟစ္စလာမ်)သခင် မိုးကောင်းကင်မှ ဆင်းသက်လာ၍ ၎င်းအား သတ်ဖြတ်သုတ်သင်အံ့။

ယာဂျူးဂျ်နှင့်မာဂျူးဂျ်ခေါ် လူမျိုးတို့သည် အလွန်စွမ်းရည်ရှိကြအံ့။ တစ်ကမ္ဘာလုံးတွင် ၎င်းတို့ပျံ့နှံ့အံ့။ ရန်းရင်းဆန်ခတ်မှု ဆူညံသောင်းကျန်းခြင်းပြုအံ့။ ထို့နောက် အသျှင်မြတ်၏ အမျက်တော်ရှခြင်းခံရ၍ သေကြေပျက်စီးခြင်းဖြစ်ကြရအံ့။

အံ့သြဘွယ်ရာကောင်းသော သတ္တဝါတစ်ကောင် မြေထဲမှပေါ်ထွက်လာအံ့။ လူတို့အား ၎င်းက စကားပြောအံ့။

အနောက် နေဝင် အရပ်မှ နေမင်း ထွက်ပြူလာအံ့။ ကုရ်အာန်ကျမ်းတော်ကို ရုပ်သိမ်းအံ့။

ရက်ပိုင်းအနည်းငယ်အတွင်း၌ 'အီမာန်'ရှိသူအပေါင်းသေဆုံးကြအံ့၊ တကမ္ဘာလုံး 'ကာဖွင်ရ်' တို့ဖြင့် ပြည့်လျှံသွားအံ့။ ထို့အပြင်လည်း အခြား မြောက်မြားစွာသော ဖြစ်ရန်, ပျက်ရန်,များ ရှိသေးသည်။

အကီဒဟ် ၃၉။ နိမိတ်လက္ခဏာ အားလုံးစုံပြီးနောက် 'ကေယာမတ်' အခမ်းအနားများစတင်အံ့။ ဟသ္ဗရတ်အစ္စရာဖွီလ်(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ဖြင့် 'စူရ်' တံပိုးမှုတ်အံ့၊ ဤတံပိုးသည် အလွန် ကြီးမား၍ ဦးချိုသဖွယ်ဖြစ်လေသည်။ ထိုတံပိုးမှုတ်လျှင် ကမ္ဘာ မြေပြင် တစ်ခုလုံးနှင့် မိုးကောင်းကင်များသည် ပြိုကွဲ၍ အပိုင်းပိုင်း အစစ ဖြစ်ကုန်အံ့။ ခပ်သိမ်းသော ဝေနေယျ သတ္တဝါ အပေါင်း သေကြေ ပျက်ပြုံးခြင်း ဖြစ်ကြအံ့။ သေလွန်ပြီးသူများ၏ ဝိညာဉ်များမှာ သတိလစ်

မေ့သွားကြကုန်အံ့။ သို့ရာတွင် အလ္လာဟ် အသျှင်မြတ် အကာ အကွယ် ပေးထားသူ များ၏ ၀ိညာဉ်များမှာ မူလအခြေဌ်ရှိအံ့။ ကာလအတန်ကြာမျှ ဤသို့သောအခြေအနေ တွင် ရှိနေအံ့။

အကီဒယ် ၄၀။ ထို့နောက် ခပ်သိမ်းကုန်သောစကြာ၀ဠာအပေါင်းကို အသျှင် မြတ်အလိုတော်ဖြင့် ပြန်လည်၍ဖန်ဆင်းတော်မူရန် ဒုတိယအကြိမ်မြောက် 'စူရ်' တံပိုးမှုတ် စေတော်မူအံ့။ ယင်းသို့ မှုတ်လိုက်လျှင် စကြာ၀ဠာအပေါင်း ပြန်လည် ဖြစ်ရှိလာအံ့။ သေပြီးသူအပေါင်း ရှင်လာကြအံ့။

'ကေယာမတ်' တရားစစ်ဆေးမည့် ကွင်းပြင်ကြီး၌ အားလုံး စုဝေးကြရအံ့။

ထိုနေရာ၌ တွေ့ကြုံရမည့် ဘေးဒုက္ခများမှ ကြောင့်ကြ စိုးရိမ်၍ နဗီတမန်တော် အပေါင်းတို့ထံ လူသားတို့သည် လျှောက်လဲ ချွတ်ကယ် ပေးရန် သွားရောက် ချဉ်းကပ် ကြကုန်အံ့။ နောက်ဆုံး၌ ကျွန်ုပ်တို့၏ နဗီတမန်တော် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော် မြတ်သည် လျှောက်လဲ ချွတ်ကယ်ခြင်း ပြုတော်မူအံ့။ (တရား မျှတခြင်း၏) ချိန်ခွင်ကို ထောင်၍၊ ကောင်းမှု နှင့် မကောင်းမှုများကို ချိန်တွယ်စေပြီး စာရင်းပြုလုပ်စေအံ့။

အချို့သော ပုဂ္ဂိုလ်များမှာ စာရင်းမပြုလုပ်ရတော့ဘဲ 'ဂျန္နတ်' သုခဘုံသို့ သွား ရအံ့။ ကောင်းသောသူများ၏ ကုသိုလ်စာရင်းကို လက်ယာဘက် လက်တွင်လည်းကောင်း မကောင်းသောသူများ၏ အကုသိုလ် စာရင်းကို လက်ဝဲဘက်တွင်လည်းကောင်း ပေးအပ် ခြင်း ပြုအံ့။

တမန်တော် မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်မြတ်သည် မိမိ၏ 'အုမ္မတ်' တပည့် တော် များအား 'ကောင်သရ်' ကန်တော်မှ ရေကို တိုက်ကျွေးတော်မူအံ့၊ ထိုရေသည် နို့ထက် ဖြူ၍ ပျားရည်ထက် ချိုအံ့။

ထို့နောက် (ပွုလ်စွေရာတ်) ခေါ် တံတားတော်သို့ လျှောက်ကြရအံ့။ ကောင်း သောသူတို့သည် တဖက်သို့ ကောင်းစွာ လျှောက်သွားနိုင်၍ 'ဂျန္နတ်' သုခ ဘုံသို့ ရောက် သွားအံ့။

မကောင်းသော သူတို့မှာ ထိုတံတားထက်မှ လိမ့်ကျ၍ 'ဂျဟန္နမ်' ငရဲမီးတွင်းသို့ ရောက်သွားအံ့။

အကီဒယ် ၄၁။ 'ဂျဟန္နမ်' ငရဲဘုံသည် ဖန်ဆင်းပြီးပြီ ဖြစ်လေရာ ထိုအတွင်း၌ မြွေများ၊ ကင်းများ နှင့် အမျိုးမျိုးအဖုံဖုံသော အပြစ်ဒဏ်များ တည်ရှိလေသည်။

ငရဲခံရသူတို့အနက် အနည်းငယ်မျှ 'အီမာန်' ရှိသောသူအား မိမိ၏ မကောင်းမှုနှင့် တန်သရွေ့သာ ခံရပြီး တမန်တော်မြတ် နှင့် သူတော်စင်ကြီးများ၏ လျှောက်လဲ ချွတ် ကယ်ပေးမှုဖြင့် ငရဲမှလွတ်မြောက်ပြီး 'ဂျန္နတ်' သုခဘုံသို့ ၀င်ရအံ့။ အဘယ်မျှခန့် အပြစ်

ရှိသူပင်ဖြစ်စေဟူ၏။ 'ကာဖွင်ရ်နှင့်မွရှ်ရစ်က်'တို့မှာ ငရဲ၌ အမြဲထာဝရ ခံနေရမည့် အပြင် သူတို့၌ သေခြင်းလည်း ရှိမည်မဟုတ်။

အကီဒဟ် ၄၂။ 'ဂျန္နတ်' ခေါ် သုခဘုံလည်း ဖန်ဆင်းထားတော်မူပြီး ဖြစ်ရာ ထိုဘုံ၌ အမျိုးမျိုး အဖုံဖုံသော ချမ်းသာ ပျော်မွေ့ဖွယ်ရာ စည်းစိမ် သုခများ တည်ရှိ၍ သုခဘုံသားတို့မှာ မည်သည့်အပူအပန် ကြောက်ရွံ့စိုးရိမ်စရာမျှ ရှိမည်မဟုတ်၊ သူတို့သည် သုခဘုံ၌ အမြဲထာဝရ စံစားကြရ၍ ထိုအတွင်းမှ ထွက်ရမည်မဟုတ်၊ သေခြင်းလည်း ရှိမည်မဟုတ်။

အကီဒဟ် ၄၃။ အကုသိုလ် နည်းပါးသူကို အပြစ် ပေးလိုက ပေး၍၊ အကုသိုလ် များသူကို မိမိကရုဏာတော်ဖြင့် ချမ်းသာပေးလိုကပေး၍၊ လုံးဝ အပြစ်မပေးဘဲ ထား လိုက ထားရန်မှာ အလ္လာဟ်အသျှင်မြတ်၏ သဘောတော်အတိုင်းသာ ဖြစ်လေသည်။

အကီဒဟ် ၄၄။ ရှစ်ရ်က်ခေါ် အလ္လာဟ်အသျှင်မြတ် နှင့် အခြား တစ်စုံတစ်ဦး သောသူအား ယှဉ်တွဲကိုးကွယ်ခြင်းသည်လည်းကောင်း၊ 'ကွဖ်ရ်'ခေါ် အလ္လာဟ်အသျှင်မြတ် အား ငြင်းဆန် ပယ်ရှား၍ ဘာသာအယူပျက်သော အလုပ်ကိုလုပ်သောသူကို အလ္လာဟ် အသျှင်မြတ်သည်မည်သည့်အခါမှ ခွင့်လွှတ်ချမ်းသာပေးတော်မူမည်မဟုတ်၊ ထို'ရှစ်ရ်က်' နှင့် 'ကွဖ်ရ်'မှ တစ်ပါး အခြားသောအပြစ်များကို မိမိ၏ကရုဏာတော်ဖြင့် ချမ်းသာပေး တော်မူလိုက၊ ပေးတော်မူလိမ့်မည်။

အကီဒဟ် ၄၅။ အကြင်သူတို့၏အမည်နာမကို ဖေါ်ထုတ်၍ 'ဂျန္နတ်'သုခဘုံသား ဖြစ်မည့်အကြောင်းကို အလ္လာဟ်အသျှင်မြတ် နှင့် အသျှင်မြတ်၏ တမန်တော်တို့က မိန့်ဆို ချက်ရှိသူများမှအပ အခြားသူများကို'ဂျန္နတီ'ဖြစ်သည်ဟု အတိအကျအမိန့်မပေးနိုင်ချေ။ သို့သော် ကောင်းမြတ်သော နိမိတ် လက္ခဏာများကို ကြည့်၍ အထင်အမြင်ကောင်း ထား ခြင်းနှင့် ထိုအသျှင်၏ ကရုဏာတော်ကို မက်အာသီသထားရန် ထိုက်သည်။

အကီဒဟ် ၄၆။ 'ဂျန္နတ်' သုခဘုံ၌ အားလုံးသော စည်းစိမ်အပေါင်းတို့တွင် အကြီးကျယ်ဆုံးသည် အလ္လာဟ် အသျှင်မြတ်အား ဖူးမြင်ရခြင်း ဖြစ်လေသည်။ သုခဘုံ သားတိုင်း ဤအကျိုးကို ခံစားကြရအံ့။ ၎င်း၏ အရသာသည် ခပ်သိမ်းသော အရသာ စည်းစိမ်အပေါင်းကို မေ့ပျောက်စေအံ့။

အကီဒဟ် ၄၇။ လောက၌ နိုးကြားနေစဉ် သာမန်စက္ခုဖြင့် အလ္လာဟ်အသျှင် မြတ်အား မည်သူမျှ မဖူးမြင်ခဲ့ကြချေ ၊မည်သူမျှလည်းဖူးမြင်ရမည် မဟုတ်ပေ။

အကီဒဟ် ၄၈။ လူသားတစ်ဦးသည် တစ်သက်ပတ်လုံး မည်မျှပင် ကောင်းသော အဖြစ်နှင့် နေသည်ဖြစ်စေ၊ မကောင်းသောအဖြစ်နှင့် နေသည်ဖြစ်စေ၊ မည်သည့်အဖြစ်နှင့် အဆုံးသတ်လျှင် ထိုအဖြစ်၏ အစားပင်ရမည်။ ('ခါတေမဟ်' အဓိကဖြစ်သည်။)

အကီဒဟ် ၄၉။ လူတစ်ဦးသည် တစ်သက်လုံးတွင် မည်သည့် အခါ၌ ဖြစ်စေ၊ 'တောဝ်ဗဟ်'တောင်းပန် ဝန်ချခြင်းပြုသည်ဖြစ်စေ၊ သို့မဟုတ် မွတ်စလင်မ်အဖြစ်၌ တည်သည်ဖြစ်စေ အလ္လာဟ်အသျှင်မြတ် ထံတော်၌ လက်ခံ၏။

သို့သော်- သေတော့မည့် အချိန် အသက်ငင်နေစဉ် 'အသာဗ်' ပြစ်ဒဏ်ပေးမည့် 'ဖ္မရစ်ရှိတဟ်' ကောင်းကင်တမန်များအား မြင်ရသောအခါကျမှ 'တောဝ်ဗဟ်' ပြုခြင်း၊ 'အီမာန်'ယူခြင်းတို့ကို လက်ခံတော်မမူချေ။

## အခိုဒ်။

ထို့နောက် သင့်လျော်လိမ့်မည်ဟု မှတ်ယူသဖြင့် အချို့သော မကောင်းသော အကီဒဟ်၊ မကောင်းသော ဓလေ့ ထုံးစံ နှင့် ကြီးသော အကုသိုလ်မှုများကို အများအားဖြင့် ဖြစ်ပေါ်လျက် ရှိလေရာ၊ ၎င်းတို့အား 'အီမာန်'၌ ဆုံးရှုံးမှု ရောက်ရှိနိုင်သည်များကိုဖေါ်ပြပေအံ့၊ သို့မှသာ လူတိုင်း ၎င်းတို့ကို ရှောင်ကြဉ်နိုင်ကြရန်ဖြစ်ပေသည်။

ထိုအရာများအနက် အချို့မှာ လုံးဝ 'ကုဖ်ရ်ရှစ်ရ်က်' ဖြစ်၍၊ အချို့မှာ ဖြစ်ရန် နီးကပ်နေ၏။ အချို့မှာ 'ဗိဒအတ်'နှင့်လမ်းမှားဖြစ်နေ၍၊ အချို့မှာ အကုသိုလ်သက်သက်သာဖြစ်လေသည်။ အချုပ်မှာ- အားလုံးကို ရှောင်ကြဉ်ရန် ဖြစ်လေသည်။

ထို့နောက် ၎င်းအကြောင်းများကို ဖေါ်ပြပြီးနောက် အကုသိုလ်ပြုခြင်းအားဖြင့် လောကဋ္ဌ ဆုံးရှုံးမှုနှင့် ကုသိုလ်ပြုခြင်းအားဖြင့် လောကဋ္ဌ အကျိုးကျေးဇူးရှိပုံကို အနည်းအကျဉ်းဖေါ်ပြပါအံ့။ အဘယ့်ကြောင့်ဟူမူ လောကီရေး အရှုံးနှင့်အမြတ်ကို လူသားတို့သည် ပိုမိုဂရုစိုက်ကြလေသည်။ ထိုဂရုစိုက်သောအားဖြင့် ကောင်းမှုကုသိုလ်ကို လုပ်နိုင်သော စွမ်းအားနှင့် အကုသိုလ် မကောင်းမှုမှ ကြဉ်ရှောင်နိုင်ကောင်း ကြဉ်ရှောင်နိုင်မည်ဖြစ်ပေသည်။

## ကွဖ်ရ်နှင့် ရှစ်ရ်က် ဖြစ်စေသော အရာများ၏အကြောင်း

'ကွဖ်ရ်'၏အဓိပ္ပါယ်မှာ မယုံကြည်ခြင်း၊ ငြင်းဆန်ခြင်း၊ ကျေးဇူးကိုမသိတတ်ခြင်းဖြစ်၍ 'ရှစ်ရ်က်'၏ အဓိပ္ပါယ်မှာ အလ္လာဟ်အသျှင်မြတ်နှင့် အခြားအရာ တွဲဖက်ယှဉ်ပြိုင်မှုပြုခြင်းကိုခေါ်၏။

'ကွဖ်ရ်'ကိုနှစ်သက်ခြင်း။ 'ကွဖ်ရ်'၏ အလုပ်များ စကားများကို အကောင်းဟုမှတ်ယူခြင်း၊ အခြားသူတစ်ဦးမှ'ကွဖ်ရ်'၏ တစ်စုံတစ်ခုသောကိစ္စကိုပြုလုပ်စေခြင်း၊ တစ်စုံတစ်ခုအကြောင်းဖြင့် မိမိ၏'အီမာန်'ယုံကြည်မှုမှ နောင်တရခြင်း၊ အကြောင်းသော်ကား

အကယ်၍ မွတ်စလင်မ်သာမဖြစ်ခဲ့လျှင် မည်သည့်အလုပ်ကို ရရှိအောင်မြင်မည်ဟု ပြောခြင်း၊ သားသမီးတစ်ဦးတစ်ယောက်သေဆုံး၍ပူဆွေးပြီး ဤစကားမျိုးပြောခြင်း အသျှင်မြတ်ကိုက သူ့ကိုသတ်လိုက်တာပါ။ တစ်ကမ္ဘာလုံးမှာ သေစေဘို့ ဤအသျှင် လုပ်နေတာပါ။ အသျှင်မြတ်ဟာ ဒီလိုမလုပ်သင့်ပါဘူး၊ ကိုယ်တော်အသျှင် ပြုလုပ်သကဲ့သို့ ဤသို့ နှိပ်စက်ခြင်း မည်သူမျှ မပြုပါဘူး။

အလ္လာဟ်နှင့်ရစူလ်၏ မည်သည့်အမိန့်တော်ကို မကောင်းဟု မှတ်ထင်ခြင်း ထိုအမိန့်တော်များ၌ အပြစ်ရှာခြင်း၊ မည်သည့်နဗီတမန်တော်ကိုဖြစ်စေ သို့မဟုတ် 'မလာအစ်က်' ကောင်းကင်တမန်ကိုဖြစ်စေ ရှုတ်ချခြင်း၊ ၎င်းတို့အား အပြစ်ရှာခြင်း၊ တစ်စုံတစ်ဦးသော သူတော်ကောင်း သို့မဟုတ် 'ပီရ်' သခင်အား ကျွန်ုပ်တို့၏ အပြစ် အားလုံးကို အချိန်ကာလတိုင်း မုချ အသိ ရှိသည်ဟု အယူဝါဒထားခြင်း၊ နက္ခတ်ဆရာ၊ ဘုန်းကြီး၊ ဗေဒင်ဆရာ၊ နတ်ကတော် စသည်တို့ထံတွင် မိမိ၏ ဖြစ်ရန်,ပျက်ရန် နောက်ကွယ်သတင်းများကို မေးခြင်း၊ သို့မဟုတ် 'ဖွာလ်' ဖွင့်စေ၍ ၎င်းကို အမှန်ဟုမှတ်ယူခြင်း၊ သို့မဟုတ် သူတော်ကောင်း တစ်ပါးပါး၏ ပြောစကားများမှ 'ဖွာလ်' အတိတ်ကောက်၍ ၎င်းကို အမှန်ဟု မှတ်ယူခြင်း၊ တစ်စုံ တစ်ဦးသော ပုဂ္ဂိုလ်အား ကြားသိနိုင်သည် ဟူ သော အမှတ်ဖြင့် ဝေးလံသော ဒေသမှ ခေါ်ခြင်း၊ တစ်စုံတစ်ဦးသောသူအား ကောင်းကျိုး, ဆိုးကျိုး, ပေးနိုင်စွမ်း ရှိသည်ဟု မှတ်ယူခြင်း၊ တစ်စုံတစ်ဦးသောသူထံမှ အလိုဆန္ဒ စားနပ်ရိက္ခာ သားသမီး တောင်းခြင်း၊ တစ်စုံတစ်ဦးသောသူ၏ အမည်ဖြင့် ဥပုသ်စောင့်ခြင်း၊ တစ်စုံတစ်ယောက်သောသူအား 'စစ်ဂျ်ဒဟ်' ဦးချခြင်း၊ တစ်စုံတစ်ယောက်သောသူ၏ အမည်ဖြင့် တိရစ္ဆာန်ဘေးမဲ့လွှတ်ခြင်း၊ သို့မဟုတ်ရည်စူး၍ပူဇော်ပ,သခြင်း၊ တစ်စုံတစ်ဦး၏အမည်ဖြင့် ကိုးခြင်း၊ တစ်စုံတစ်ဦးသောသူ၏ သင်္ချိုင်းကိုဖြစ်စေ အဆောက်အအုံကိုဖြစ်စေ 'တွဝါဖ်' လှည့်ပတ်ခြင်း၊ အသျှင်မြတ်၏ အမိန့်တော်နှင့် ယှဉ်ပြိုင်၍ အခြားသူ တစ်ဦး၏ စကား သို့မဟုတ် ထုံးဓလေ့ကို ဦးစားပေးခြင်း၊ သို့မဟုတ် တစ်စုံတစ်ဦး၏ ရှေ့ဝယ် ဦးညွှတ်ခြင်း၊ သို့မဟုတ် အရုပ်ကြီးကဲ့သို့ မတုန်မလှုပ်ရပ်နေခြင်း။

အမြောက်ပေါ်တွင် ဆိတ်ကိုတင်၍ပ,သခြင်း၊ တစ်စုံတစ်ယောက်သောနာမည်ဖြင့် တိရစ္ဆာန်ကို 'သဗ်ဟ်' ပြု, သတ်ဖြတ်ခြင်း။

'ဂျင်န်' စုံး၊နတ်၊တစ္ဆေ၊ပြိတ္တာ စသည်တို့ ထွက်ခွာသွားရန်အတွက် ခေါ်ပစ်ခြင်း၊ တစ္ဆေစာတို့ကိုကျွေးခြင်း၊ ကြက်၊ ဆိတ် လှီး၍ ပ,သခြင်း၊ ကလေးများ အသက်ရှည်၍ အဖတ်တင်ရန်အတွက် သူ၏ချက်ကြိုးကိုပူဇော်ခြင်း၊ တစ်စုံတစ်ဦးသောသူအား အော်ဟစ်တ,သ တိုင်တန်းခြင်း၊ တစ်စုံတစ်ခုသော နေရာဌာနကို 'ကအ်ဗဟ်' နှင့် တန်းတူထား၍ ရိုသေကိုင်းရှိုင်းမှုပြုခြင်း၊တစ်စုံတစ်ဦးသောသူ၏အမည်ဖြင့် ကလေး၏ နားနှင့် နှာခေါင်း

ပေါက်ခြင်း၊ နွားဆွဲ၊ နွားဆွဲ စသည့် ဆင်ပေးခြင်း၊ တစ်စုံတစ်ဦးသောသူ၏ အမည်ဖြင့် ပိုက်အကို လက်မောင်း၌ ချိတ်နှောင်ခြင်း၊ သို့မဟုတ် လည်ပင်းတွင် ကြိုးနီ ဘူးပြာ ဆွဲတားခြင်း။

သတ္တိသားအား 'စဲဟ်ရာ' ပုလဲကုန်း-ပန်းကုန်း ဆွဲခြင်း၊ ဟိန္ဒူ ဆံဦးစွန်းပုတ်မျိုး ထားခြင်း၊ ရသေ့-ရဟန်း ကဲ့သို့ ဝတ်ဆင်ခြင်း၊ တစ်ဦးဦး၏နာမည်နှင့် 'ဖွကိရ်'အဝတ် ဝတ်ပေးခြင်း၊ အလီဗခ်ရှ်၊ ဟိုစိုင်န်ဗခ်ရှ်၊ အဗ္ဗဒွန်နဗီ စသည့် နာမည် ထားခြင်း၊ တိရစ္ဆာန်တစ်ကောင်ကောင်အား သူတော်ကောင်းတစ်ပါးပါး၏ အမည်ဖြင့် မှည့်ခေါ်၍ သူ့အား အရိုအသေပေးခြင်း၊ လောကီ အလုပ် ကိစ္စများကို ဂြိုဟ်နေ ဂြိုဟ်ပြောင်းခြင်း ကြောင့်ဖြစ်ပျက်သည်ဟုယူဆခြင်း၊ လ,ကောင်း လ,ယုတ် ရက်ရာဇာ ပြဿဒါး ပေးခြင်း၊ ရွေးခြင်း၊ မကောင်းသော အတိတ်နိမိတ်ကောက်ယူခြင်း၊ 'ဖွာလ်'နှိုက်ခြင်း၊ တစ်စုံတစ်ခု သော ရက်နှင့်လ,ကို ပြဿဒါးမကောင်းသော ရက်လ,ဟုမှတ်ယူခြင်း၊ သူတော်စင် တစ်ပါးပါး၏အမည်ကို အမြဲအစဉ်အားဖြင့် တ,သစီးဖြန်းခြင်း၊ 'ခိုဒါ'နှင့် ရစူလ် အကယ်၍ အလိုတော်ရှိခဲ့လျှင် အဘယ်အလုပ်တော့ အောင်မြင်မှာဘဲဟု ဆိုခြင်း၊ တစ်စုံတစ်ယောက် သောသူ၏ အမည်ကိုဖြစ်စေ ဦးခေါင်းကိုဖြစ်စေ 'ကအမ်'ကျိန်ဆိုခြင်း၊ ဓါတ်ပုံ ရုပ်ပုံများ ထားခြင်း၊ အထူးသဖြင့် တစ်ဦးတစ်ယောက်သော သူတော်စင်၏ ရုပ်ပုံကို 'ဘရ်ကတ်'ရှိရန် ဟူ၍ထားခြင်း၊ ထိုပုံကို အရိုအသေပေးခြင်း။

**ရှင်းလင်းချက် ၁။** ဤမတ်စ်အလဟ် ပြဿနာအပေါ်၌ အချို့ 'ဂျာဟင်လ်' ပညာမဲ့ တို့က စောဒက ဝင်ကြလေသည်။ သို့ရာတွင် ကျွန်ုပ် တို့သည် ဤ မတ်စ်အလဟ် ပြဿနာ အပေါ်တွင် မောင်လာနာ အဗ်ဒွလ်ဟိုင်ယ် သခင်ကြီး၏ 'ဖွာတ်ဝါ'ကို တင်ပြအပ်ပါသည်။ ဤ'ဂျာဟင်လ်'များသည် ထိုပုဂ္ဂိုလ်ကြီး အား မိမိတို့၏ ဆရာ သခင် ဟူ၍လည်း ယုံကြည် ယူဆကြ၏။ ၎င်းနောက် မှန်ကန် စစ်မှန်သော 'အာလင်မ်' ပညာရှင်ကြီးများ တွင်လည်း အပါအဝင် ဖြစ်ကြောင်း ရေတွက်ကြလေသည်။

ထိုသခင်ကြီး၏ ပြုစု ရေးသားသော ကျမ်းများကိုလည်း သာကေအဖြစ် အခိုင် အမာ ယူဆကြလေသည်။ သခင်ကြီး၏ ရေးသားချက်မှာ အောက်ပါအတိုင်း ဖြစ်၏။

**အဖြေ။** 'အပ်ဒ်'ဟူသော ပုဒ်သည် အလ္လာဟ်အသျှင်မှလွဲ၍၊ အခြား အရာများ ဘက်တွင် ပတ်သက်၍ဆက်ဟဲ့ပါက မပိုင်ချေ။

အကယ်၍ဤကဲ့သို့သော အမည်ကို ထားခြင်းဖြင့် 'ရှစ်မ်းက်' တ,ဖက် ခြင်း၏ အမိန့်မရှိစေကာမူ 'အဗ်ဒ်'၏ အဓိပ္ပါယ်သည် နာခံခြင်း၊ အစေ

အပါးဖြစ်ခြင်း၊ ကျွန်ဖြစ်ခြင်းကို ရရှိသဖြင့် 'ရှစ်ရ်က်'၏ အနံ့ အသက် နှင့် မကင်းလွတ်ချေ ဟူ၏။ ထို့ကြောင့် ဘဟစ်ရှိတိ ဇေဝရ် ကျမ်းတွင် ဤသို့ 'ရှစ်ရ်က်' အနံ့အသက် ပါရှိနေသောကြောင့် ဤမတ်စ်အလဟ်ကို 'ရှစ်ရ်က် နှင့် ကွဖ်ရ်' ဖြစ်စေသော အကြောင်းတွင် ထည့်သွင်း ဖေါ်ပြ လိုက်ရခြင်း ဖြစ်ပေသည်။

ကုရ်အာန် ကျမ်းတော်မြတ် နှင့် ဟဒီးသ်တော်များတွင် ယင်းသို့သောအမည်နာမများမှည့်ခေါ်ခြင်းကိုတားမြစ်ထားလေသည်။ 'အိုလမာ' ပညာရှင်ကြီးများကလည်း ယင်းအကြောင်းနှင့်ပတ်သက်၍ နေရာ အသီးသီးတွင် ရှင်းလင်း ဖေါ်ပြထားလေသည်။ 'ဒလီးလ်' သာဓကများကား တဖ္ဖ်စီရ် ဂျလာလိုင်န်၊ ရှင်ရ်အတွလ် အစ္စလာမ်၊ မွလ္လာ အလီကာရီ ၏ ရှရ်ဟ်ဖေ့ကဟ်အတ်က်ဗရ်၊ မွလ္လာအလီကာရီ၏ ရှရ်ဟ်မစ်ရှ်ကာတ်၊ အစ်ဗ်နို မုဟမ္မဒ် မတ်က်ကီ၏ ရှရ်ဟေ မင်န် ဇားဂ်ျ အစရှိသည့် ကျမ်းများတွင် အတိအလင်း ရှင်းလင်း ဖေါ်ပြထားလေသည်။

## (ရှင်းကျမ်းများတွင် ဖတ်ရှုပါကုန်)

မဂျ်မူအဟ်ဖွတာဝါ ဒုတိယတွဲ စာမျက်နှာ ၂၉၆-၂၉၇။

'အလီဗခ်ရှ်' အမည်တွင် 'ရှစ်ရ်က်'၏ သံသယ ဖြစ်ခြင်းမှာ ဤအကြောင်းများ ကြောင့်ဖြစ်၏။ 'အလီ'ဟူသောအမည်သည် 'အဗ်ဒ်'ဟူသော ပုဒ်ကဲ့သို့ပင် ရောထွေးလျက် ရှိ၏။ အကြောင်းဆိုသော် အလီသခင်၏အမည်နှင့် အလ္လာဟ်အသျှင်၏ နာမံတော်သည် ရောထွေးနေသောကြောင့်တည်း။ များစွာသောလူထုထံ၌ အလီသခင်၏ အမည်သာလျှင် ပေါ်လွင် ထင်ရှားနေ၏။ (အလ္လာဟ်အသျှင်မြတ်၏ နာမံတော်လည်း အလီပင်ဖြစ်သည်) ထိုအကြောင်းကို အများလူထု မသိကြချေ။

'ဟိုစိုင်န်ဗခ်ရှ်' ဟူသော အမည်မှာ ပေါ်လွင် ထင်ရှားလျက် ရှိ၏။ 'ဟိုစိုင်န်' ဟူသောနာမသည် ဟိုစိုင်န်သခင်ဖြစ်၏၊ 'ဗခ်ရှ်'ဟူသောပုဒ်မှာ-ပေးခြင်းအနက်ကိုဟော၏။ ထို့ကြောင့် 'ဟိုစိုင်န်-ဗခ်ရှ်'၏ အဓိပ္ပါယ်မှာ ဟိုစိုင်န်သခင်၏ ပေးခြင်းခံရသူ ဟူ၍ ရသောကြောင့် ဤအမည်၌ 'ရှစ်ရ်က်'၏ သံသယဖြစ်ခြင်းတွင် ဒွိဟဖြစ်နေရန် မလိုချေ။ ဤသို့ ဒွိဟဖြစ်ခြင်းသည် ကြီးစွာသော အသိဉာဏ် ကင်းမဲ့ခြင်းသာ ဖြစ်လေသည်။

**ရှင်းလင်းချက် ၂။** အလိုသဘောကား ဤသို့ရှိ၏။ ယောက်ျား မိန်းမများ၌ ဟိန္ဒူ ရာဖွေသီ အစရှိသည် တို့၏ ထုံးတမ်း စဉ်လာ

(အယူအဆ)များသည် ရောနှောပေါ်ပေါက်လျက်ရှိကြ၏။ ထိုသူတို့သည် နက္ခတ်ဗေဒင် နတ်ကတော် အစရှိသည်တို့ထံ၌ ရက်ရာဇာ ပြဿဒါးနေ့ရက်များ မေးမြန်းလေ့ရှိကြ၏။ မေးမြန်းလေ့ရှိ၏။ ယင်းသို့မေးမြန်းကြခြင်းသည် 'ရှရီအတ်' တရားတော်နှင့် ဆန့်ကျင်၏။ အဘယ့်ကြောင့်ဟူမူ 'ရှရီအတ်'တရားတော်တွင် ရက်ပုတ်, ရက်စပ်, ရက်ရာဇာ ပြဿဒါးဟူ၍ အလျဉ်းမပါရှိချေ၊ ဤအလုပ်သည် 'ကွဖ်ရ်-ရှစ်ရ်က်' အလုပ်များအနက်မှ ဖြစ်သည်။ ၎င်းတို့၏ လမ်းစဉ်သာလျှင် ဖြစ်၏။ မွတ်စလင်မ် တို့၏ လမ်းစဉ် အလျဉ်း မဟုတ်ချေ။

အထက်ပါ ရှင်းလင်းချက်သည် 'ရှရီအတ်'တရားတော်မှ အရေးတကြီး သို့မဟုတ် အစစ်အမှန်အားဖြင့် မည်သည့်နေ့ရက်၏ အကောင်း, အဆိုး သတ်မှတ်ချက်ကို မေးမြန်းခြင်းအားဖြင့် 'ကွဖ်ရ်-ရှစ်ရ်က်' ဖြစ်သည်ဟု မဆိုလိုချေ။ တရားတော်က သတ်မှတ်ပေးထားသည်ကို မည်သည့် မွတ်စလင်မ်တစ်ဦးတစ်ယောက်က (ကွဖ်ရ်-ရှစ်ရ်က် ဖြစ်သည်ဟု) ဆိုနိုင်ပါအံ့နည်း၊ ဤကား စေဒကရှင်များ၏ မာနထားခြင်း၊ ရန်ငြိုးထားခြင်းမျှသာ ဖြစ်သည်။ ထို (စောဒကတက်)သူ များကား တင်ပြသူ၏ သဘော ဆန္ဒ နှင့် အလွန်ကွာခြား၏။ အဓိပ္ပါယ်မရှိ၊ မဆီလျော်သော နေရာတွင် ဤအကြောင်းကို ဝေဖန်ကြခြင်း ဖြစ်ပေသည်။

တဖန် 'ရှရီအတ်' တရားတော်၌ အချို့ရက်များသည် အချို့လုပ်ငန်းများအတွက် ကောင်းသည်။ အချို့ရက်များသည် အချို့လုပ်ငန်းများ ဆိုးသည်ဟူသော သတ်မှတ်ချက် ရှိ,မရှိပြဿနာကား တစ်ခြားပင် ဖြစ်လေသည်။

ထို့ကြောင့် ဘဟာစ်ရှိတီဇေဝရ်သည် ယင်းပြဿနာနှင့် ပတ်သက်၍ ဆိတ်ငြိမ်စွာနေ၏။ ထို ပြဿနာ အပေါ်၌ ထောက်ခံခြင်း၊ ကန့်ကွက်ခြင်း မပြုချေ။ သို့ရှိရာ အထက်က ဤ ရက်ပုတ်, ရက်စပ် နှင့် ပတ်သက်၍ ကျွန်ုပ်တင်ပြသော 'မတ်စ်အာလဟ်' ပြဿနာပေါ်၌ တရားတော် နှင့် ကွဲလွဲသည် ဟူသော စောဒကရှင်တို့၏ စွပ်စွဲချက်သည် မှား၏။

၎င်းနောက် မေးမြန်းခြင်းဟူသောအဓိပ္ပါယ်မှာ အယုံအကြည်နှင့် မေးမြန်းခြင်းကို ဆိုလိုသည်၊ မေးမြန်းခြင်းဟူသမျှကို မဆိုလိုပေ။

(ဥပမာ)- မွတ်စလင်မ်ကျမ်းတော်၌ လာရှိသည်။

အဓိပ္ပါယ်ကား— အကြင်သူသည် ဗေဒင် နက္ခတ်ဆရာ အင်္ဂဝိဇ္ဇာများထံ သွား၍ တစ်စုံတစ်ရာ မေးမြန်းသော် ထိုသူ့အဘို့ ညဉ့်ပေါင်းလေးဆယ်၏ နမာဇ်များကို လက်ခံတော်မမူချေ။

**ရှင်းလင်းချက် ၃။** သိရှိရန်မှာ တရားဝင် (ဖွာလ်) အတိတ်ကောက်ခြင်းနှင့် အများယူဆလုပ်ကိုင်နေကြသော အတိတ်ကောက်ခြင်းမှာ များစွာခြားနား၏။ အချို့သူတို့ လုပ်ကိုင်နေကြသော အတိတ်ကောက်ခြင်းမှာ ဟိန္ဒူနှင့် အခြားသူများ၏ ထုံးစံဓလေ့များဖြစ်လေသည်။

ဖွာလေ့ရှရ်အီ တရားဝင် 'ဖွာလ်' အတိတ်ကောက်ခြင်း ဤသို့ဖြစ်၏၊ တစ်ဦးတစ်ယောက်သောသူ၏ နှုတ်မှထွက်လာသော 'ဘရ်ကတ်' မင်္ဂလာစကားကို ကြားရ၍ အလ္လာဟ်အသျှင်မြတ်ထံတော်မှ ကောင်းချီးမင်္ဂလာ ရောက်ရှိမည်ကို မက်ထားခြင်း၊ မျှော်လင့်ခြင်းဖြစ်သည်။

ထုံးစံအရအတိတ်ကောက်နည်းကား လက်ဖဝါးတွင် ယားယံက ငွေဝင်မည်ဟု မှတ်ယူခြင်း၊ တစ်ဦးတစ်ယောက်ကနှာချည်လိုက်သောအခါ မိမိအလုပ်အကိုင်အောင်မြင်မည်မဟုတ်ဟုယူဆခြင်း၊ လက်ယာဘက်မျက်ခုံးလှုပ်သော် ပျော်ရွှင်ရမည်၊ မင်္ဂလာရှိသည်ဟုယူဆခြင်း၊ လက်ဝဲဘက် မျက်ခုံးလှုပ်သော် ပူပန်သောက ရောက်မည်ဟု ယူဆခြင်း၊ ဤကဲ့သို့သော အတိတ်ကောက်ခြင်းသည် ဗေဒင်နက္ခတ်မေးခြင်းတွင် အပါအဝင်ဖြစ်၏၊ တရားဝင် အတိတ်ကောက်ယူခြင်း၌ မပါဝင်ချေသာမက မကောင်းသောအတိတ်ကောက်ခြင်းသည် (တွေ့ယရတ်)တွင် အပါအဝင်ဖြစ်၏၊ ၎င်းနောက် (တွေ့ယရတ်)သည် ရှစ်ရ်ကအလုပ်များတွင် အပါအဝင်ဖြစ်လေသည်။

اَلطِّيَرَةُ شِرْكٌ

မကောင်းသော အတိတ်ကောက်ခြင်းသည် 'ရှစ်ရ်က်'ဖြစ်၏ဟု ဟဒီးသ်တော်တွင် လာရှိလေသည်။

သို့ရှိလေရာ အချို့သော အသိဉာဏ်မဲ့သူတို့က အတိတ်ကောက်ခြင်း 'ဖွာလ်'နှိုက်ခြင်းကို အချုပ်အားဖြင့် ပိုင်သည်ဆို၍ ဘဟာစ်ရှိဘ်တီဇေဝရ်တွင် ပါရှိသော မတ်စ်အလဟ်ပြဿနာသည် မှားသည်ဟု ယူဆနေကြခြင်းသည်၊ ထင်ရှားသော လမ်းမှားခြင်း နှင့် ကြီးစွာသောမိုက်မဲခြင်းနှင့် အသိဉာဏ်ကင်းမဲ့ခြင်း သာလျှင်ဖြစ်ပေသည်။

**ရှင်းလင်းချက် ၄။** ရုပ်ပုံ၏ အလိုမှာ.... သက်ရှိ သတ္တဝါတို့၏ ပုံကို ဆိုလိုသည်။

ဤမတ်စ်အလဟ်၏ ရည်ရွယ်ချက်မှာ ခေတ်သစ်ရောင်ခြည် ဟပ်မိနေသူများအဖို့ မိမိတို့၏မိတ်ဆွေသင်္ဂဟတို့၏ ဓါတ်ပုံများကို ထားကြသည့်အတွက် ၎င်းတို့အားပြုပြင်ရန် ရည်ရွယ်သည်။

သို့မဟုတ် အမှော်ခေတ်၏ စံ့လန်းယုံကြည်မှုများလွှမ်းမိုးလျက် သူတော်ကောင်းများ၏ ဓါတ်ပုံများကို (တဗရ်ရွတ်က်) တိုးပွားမင်္ဂလာ ရှိစေရန်အလို့ငှါ ချိတ်ဆွဲထားကြခြင်း၊ ၎င်းနောက် ထိုရုပ်ပုံများအား ရှိသေကိုင်းညွှတ်ခြင်းတို့သည် အဘယ်အဖြစ်၌မဆို 'ရှစ်ရ်က်' ဖြစ်လေသည်။

၎င်းနောက် ရုပ်ပုံဆိုရာ၌ ရုပ်ပုံတိုင်းကိုမဆိုလိုပေ၊ သက်ရှိသတ္တဝါဖြစ်စေ၊ သက်မဲ့ဖြစ်စေ၊ ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ လိုအပ်သည်ဖြစ်စေ၊ မလိုအပ်သည်ဖြစ်စေ သေးသိမ်သည်ဖြစ်စေ၊ မြင့်မြတ်သည်ဖြစ်စေ၊ အချို့သော ပညာမဲ့တို့၏ ထင်မြင်ယူဆသကဲ့သို့ဟူ၍ ယင်းအကြောင်းနှင့်ပတ်သက်၍ 'ဆွဟီဟ်' မွတ်စလင်မ်ကျမ်းတွင် ဂျစ်ဗ်ရာအီလ်(အလိုင်ဟစ္စလာမ်)သခင် မိန့်ကြားသည့်စကားလုံးမှာ ဤသို့တည်း။

إِنَّا لَا نَدْخُلُ بَيْتًا فِيهِ كَلْبٌ وَلَا صُورَةٌ

အဓိပ္ပါယ်.... ကျွန်ုပ်တို့သည် ထိုအိမ်၌ဝင်ရောက်ခြင်းမပြု အကြင်အိမ်၌ ခွေးနှင့် ရုပ်ပုံရှိလျှင်ဟူ၏။ အဘယ်ကြောင့်ဟူမူ ဟဒီးသ်တော်တွင် 'စူရတ်' ရုပ်ပုံနှင့် (ကလ်ဗ်) ခွေးဟူသောပုဒ်သည် စာလုံးအားဖြင့် ခြုံ၍ဆိုထားပြီး အနက်အဓိပ္ပါယ်အားဖြင့် သတ်မှတ်ထား၏။ ဤနည်းပင် ဘာဟစ်ရှိတီဇေဝရ်ကျမ်း၌လည်း ရုပ်ပုံဟူသောစကားကို ခြုံ၍ ပင်ဖော်ပြ၍ အဓိပ္ပါယ်ကိုမူ သတ်မှတ်ထားသည်ကို သတိပြုပါလေ။

## ဗေဒအတ်များ မကောင်းသော ဓလေ့ထုံးတမ်းများ မကောင်းသော စကားများ၏ အကြောင်း။

သင်္ချိုင်းများအပေါ်တွင် ကြီးကျယ်စွာ ပွဲလမ်းပြုလုပ်ခြင်း၊ မီးခွက်ထွန်းခြင်း၊ မိန်းမများ ထိုနေရာသို့သွားခြင်း၊ (ဂေလာဖ်) စော်င်များ တင်ထားခြင်း၊ သင်္ချိုင်းကို အခိုင်အမာအဆောက်အအုံ ဆောက်လုပ်ခြင်း၊ သူတော်ကောင်းများ သဘောကျစေရန်

သင်္ချိုင်းများကို အလွန်အကျူး အရိုအသေပြုခြင်း၊ 'တအ်ဇီယာ' ခေါ် သင်္ချိုင်းပုံ ပြုလုပ်ထားသောအရာကိုလည်းကောင်း၊ သင်္ချိုင်းကိုလည်းကောင်း နမ်းရှုံ့ခြင်း၊ လျှာဖြင့်လျက်ခြင်း၊ မြေကိုလိမ်းခြင်း၊ 'တဝ္ဂါဖ်' လှည့်ပတ်ခြင်း၊ ဦးချခြင်း၊ သင်္ချိုင်းများရှိရာဘက်သို့နမာဇ်ဖတ်ခြင်း၊ အချို့မုန့်ဆန့်ဂွလ်ဂိုလာမုန့် စသည်တင်ခြင်း၊ 'တအ်ဇီယာ' ပူဇော်ဝမ်းနည်းသော အထိမ်းအမှတ်အလံ စသည်ထားခြင်း၊ ၎င်းအပေါ်၌ ဟလ်ဝါမုန့်နှင့် 'မလီဒါ' မုန့်ချိုတင်ခြင်း၊ သို့မဟုတ် ၎င်းကို 'စလာမ်ဆိုခြင်း၊ တစ်စုံတစ်ခုသော ပစ္စည်းကို မကိုင်ကောင်းဟုမှတ်ယူခြင်း၊ မိုဟာရ်ရမ်လ၌ ကွမ်းမစားခြင်း၊ ဒန်းမဆိုးခြင်း၊

လင်ယောကျ်ားအပါးသို့ မချဉ်းကပ်ဘဲနေခြင်း၊ နီသောအဝတ်အထည်ကို မဝတ်ခြင်း၊ (ဗီဗီကီ၊ စွဟာနတ်က်)ခေါ် စားနပ်ရိက္ခာကို ယောကျ်ားများအား စားရန် မပေးခြင်း၊ သေသူအိမ်တွင် ၃-ရက်နှင့် ရက်ပေါင်းလေးဆယ်မြောက် စသည်များကို အတည်ပြုပြီး အရေးကြီးသည်ဟု မှတ်ယူ ပြုလုပ်ခြင်း၊ လိုအပ်နေပါလျှက် မိန်းမ၏ ဒုတိယ (နေကာဟ်)ထိမ်းမြားခြင်းကို (သစ္စာဖေါက်) မကောင်းဟု ယူဆခြင်း၊ ထိမ်းမြားခြင်း၊ ခတ္တနာပြုခြင်း၊ စာဖတ်ခြင်းစသည်တို့တွင် မိမိ၌ ငွေကြေး ချေငချိခြင်းမရှိသော်လည်း မိရိုးဖလာ ဓလေ့ထုံးစံများကို လိုက်နာ ပြုလုပ်ခြင်း၊ အထူးသဖြင့် ငွေကြေး ချေးငှါး၍ ပွဲလမ်းသဘင်၊ ဓါတ်စက်၊ (ကက်ဆက်၊ ဗွီဒီယို) စသည် ပြုလုပ်ခြင်း။

သင်္ကြန်ပွဲ၊ မီးထွန်းပွဲများ၏ ဓလေ့ထုံးစံများကို ပြုလုပ်ခြင်း၊ 'စလာမ်'ပေးရမည့်နေရာတွင် အခြား စကားဖြင့် (ဗန္ဒဂီ) မင်္ဂလာရှိပါစေ စသည် ဆိုခြင်း၊ သို့မဟုတ် ဦးခေါင်းပေါ် လက်တင်ရုံတင်၍ ဦးညွတ်ခြင်း၊ အမျိုးသမီး တို့သည် မတ်၏ သား ခဲအို၏သား အရီး၏သား ကြီးတော်၏သား ဖြစ်သော တဝမ်းကွဲမောင်များတူများ၏ရှေ့တွင် အရှက်မဲ့စွာ လာခြင်း၊ သို့မဟုတ် သူစိမ်းများ၏ ရှေ့မှောက်တွင် လာခြင်း၊ မြစ်ဆိပ်မှ ရေအိုးဖြင့် ရေခတ်၍ သီချင်းဆိုခြင်း၊ တီးမှုတ်၍ လာခြင်း၊ အတီးအမှုတ်နှင့် သီချင်းများ နားထောင်ခြင်း၊ ကချေသည်များကို ကစေခြင်း၊ ကြည့်ခြင်း၊ သဘောကျ၍ ၎င်းကချေသည်များကို ဆုလာဘ် ချခြင်း၊ ဆွေဂုဏ် မျိုးဂုဏ်မောက်ခြင်း၊ တစ်စုံတစ်ယောက်သောသူတော်ကောင်း၏ အဆက်အနွယ်ဖြစ်ခြင်းကို လွတ်မြောက်ချမ်းသာရမှုအတွက် လုံလောက်လေပြီဟု မှတ်ယူခြင်း၊ အမျိုးအနွယ် ညံ့သူများအား ကဲ့ရဲ့ပြောဆိုခြင်း။

သက်မွေးဝမ်းကြောင်းအလုပ်ကို သေးသိမ်သည်ဟုထင်ခြင်း၊ လိုသည်ထက် ပိုမို၍ တစ်စုံတစ်ယောက်အား ချီးကျူးခြင်း၊ မင်္ဂလာဆောင်များ၌ အပိုသုံးဖြုန်းခြင်းနှင့် စကားဖျင်း- စကားရှုတ်များပြောခြင်း၊ ဘာသာခြားများ၏ ထုံးစံဓလေ့ကို ပြုလုပ်ခြင်း၊ သတို့သားအား တရားတော်နှင့်ဆန့်ကျင်သောအဝတ်အစားကိုဝတ်ပေးခြင်း၊ လက်ကောက်ဝတ်

နှင့်နဖူး ရင်းလည်ပင်းတွင်စည်းသော ပန်းကုန်းရတနာကြိုးကို စည်းခြင်း၊ မီးပွဲကျင်းပခြင်း၊ အပိုအမိုချုံထွင်၍ လုပမှုပြင်ဆင်ခြင်း၊ အိမ်တွင်းသို့ မိန်းမများအလယ်ခေါ်ဝီတွင် သတို့သားအားခေါ်လာခြင်း၊ သို့မဟုတ်ရှေ့မှောက်သို့လာရောက်ခြင်း၊ ချောင်းမြောင်း၍ သတို့သားအား ကြည့်ခြင်း။

သိတတ်သူ, ဉာဏ်ရှိသူ, အရွယ်ရောက်သူ,ခယ်မ စသည့်အပျိုတစ်စုက သတို့သား ရှေ့မှောက်လာရောက်ခြင်း၊ သတို့သားအား ရယ်ရွှင်ဖွယ်စကားများဖြင့် ပြောင်လှောင် ကျီစယ်ခြင်း၊ မင်္ဂလာဆောင်ပြီးလေးရက်မြောက်သောနေ့၌ ၄ ံးစံအားဖြင့်ကစားခြင်း၊ သတို့သားနှင့် သတို့သမီးတို့ လဲလျောင်းသောနေရာတွင် ဝန်းဝိုင်း၍ ၎င်းတို့ပြောသော စကားကို နားထောင်ခြင်း၊ ချောင်းမြောင်းကြည့်ခြင်း၊ စကားကို ချောင်းမြောင်း နားထောင်၍ သိရလျှင် တခြားသူများအား ဖေါက်သည်ချခြင်း၊ အဝတ်ဝါဝတ်ဆင်၍ ထိုင်စေခြင်း၊ နမာဇ် 'ကဿွာ' အဖြစ်ခံ၍ ရှက်သဖြင့် အခန်းအပြင်မထွက်ခြင်း၊ မာန ထောင်လွှားမော်ကြွားလို၍ 'မဟ်ရ်' ခန်းဝင့်ကြေး များများသတ်မှတ်ခြင်း။

ပူပန်သောက ရောက်သောအခါ ဟစ်အော် ကြွေးကြော်၍ ငိုခြင်း၊ မျက်နှာနှင့် ရင်ဘတ်ကိုထုခြင်း၊ ဖွဲ့နွဲ့ငိုခြင်း၊ သုံးစွဲနေသော အိုးခွက်များကို ပေါက်ခွဲပစ်ခြင်း၊ ကိုယ်နှင့်ထိသော အဝတ်အားလုံးကို လျှော်ပစ်စေခြင်း၊ လပေါင်းများစွာ ထိုအိမ်၌ သနပ်မပြုလုပ်ခြင်း၊ မည်သည့်ပျော်ပွဲရွှင်ပွဲမျှ မလုပ်ခြင်း၊ သတ်မှတ်ထားသော ရက်များတွင် တဖန်အသစ်လုပ်၍ အပူပွဲကျင်းပခြင်း၊ စည်းကမ်းထက်လွန်၍ လှုပတင့်တယ်မှု၌မွေ့လျော်ခြင်း၊ ရိုးရိုးသားသားနေလျှင် ဝတ်စားမှုကိုမကောင်းဟုထင်ခြင်း၊ အိမ်တွင်ရုပ်ပုံ ဓါတ်ပုံများချိတ်ဆွဲထားခြင်း၊ ကွမ်းအစ်နှင့် ရေဘူး, ရေမွှေးဘူး, စွရ်မာဘူး, စွရ်မာတန် စသော ပစ္စည်းများကို ရွှေထည်,ငွေထည် ပြုလုပ်သုံးစွဲခြင်း။

အလွန်ပါးလွှာသောအင်္ကျီကိုဝတ်ဆင်ခြင်း၊ အသံမြည်သောလက်ဝတ်တန်ဆာတို့ကို ဝတ်ဆင်ခြင်း၊ အောက်ခံ ဘောင်းဘီကျပ်ဝတ်ခြင်း၊ မိန်းမများသည် ယောကျ်ားများ စုဝေးရာသို့သွားခြင်း၊ အထူးသဖြင့်(တအ်ဇီယာ)ငိုပွဲကြည့်ရန် နတ်ပွဲ, ဘုရားပွဲ, သချိုင်းပွဲ ကြည့်ရန်သွားခြင်း၊ ယောကျ်ားများ ပုံပန်းသဏ္ဌာန်ကဲ့သို့ ဝတ်ဆင်ခြင်း၊ ခန္ဓာကိုယ်တွင် ပရဲ,ထိုးကွင်းစသည်ထိုးခြင်း၊ ညလုံးပေါက်သီချင်းဆို၍ မအိပ်ဘဲအလဟဿစကားပြော နေခြင်း၊ မန်းမှုတ်ပြုစားခြင်း၊ လှုပတင့်တယ်ရန်အတွက် သံတိုင်နှင့်အမိုးများတွင် မြေနီ သုတ်လိမ်းခြင်း၊ ခရီးသွားသောအခါ သို့မဟုတ် ခရီးမှပြန်သောအခါ သူစိမ်းများကို လည်ချင်းယှက်၍နှုတ်ဆက်ခြင်း။

ကလေးအဖတ်တင်ရန်အတွက် ယောကျ်ားကလေး၏ နားနှင့်နှာခေါင်းကိုဖေါက်ခြင်း၊ ယောက်ကျ်ားကလေးများကို နားကွင်း,နားတောင်း,လည်ပတ်, နားသံသီးများ

ဆွဲပေးခြင်း၊ ပိုးထည် သို့မဟုတ် ဆူးပန်းဖြင့် ဆိုးသောအထည် သို့မဟုတ် ကိုကုမ်ဖြင့် ဆိုးသောအထည် သို့မဟုတ် လည်ဆွဲ, သို့မဟုတ် ခြူ, ဘယက်, စသော တန်ဆာပလာများ ဆင်ပေးခြင်း၊ အငိုတိတ်ရန် ဘိန်းကျွေးခြင်း၊ ရောဂါ ပျောက်ကင်းစေရန် အလို့ငှါ ကျားနို့ နှင့် ကျားသားကို တိုက်ကျွေးခြင်း၊ ဤကဲ့သို့ အမျိုးမျိုးသော အကြောင်းများ ရှိလေရာ၊ နမူနာအားဖြင့် ဤမျှခန့်သာ ဖေါ်ပြလိုက်ပါသည်။

**ရှင်းလင်းချက် ၁။** တမန်တော်မြတ် (ဆွ)က မိန့်ကြားတော်မူသည်မှာ-

لَعَنَ اللّٰهُ زَائِرَاتِ الْقُبُوْرِ وَالْمُتَّخِذِيْنَ عَلَيْهَا الْمَسَاجِدَ وَالسُّرُجَ رواه الترمذي

အဓိပ္ပါယ်- 'ကဗရ်' သင်္ချိုင်းတွင် ဇေယာရတ်ပြုသူ မိန်းမများကို လည်းကောင်း ထိုကဗရ်ပေါ်၌ ဗလီပြုလုပ်သူများကိုလည်းကောင်း၊ ထိုကဗရ်ပေါ်၌ မီးထွန်းသူများကို လည်းကောင်း၊ အလ္လာဟ်အသျှင်မြတ်က 'လအ်နတ်'ပြုတော်မူ၏။ (တင်ရ်မေဿီကျမ်း)

ဤဟာဒီးသ်တော်တွင် 'ကဗရ်' ပေါ်၌ မီးထွန်းခြင်းကို အတိအလင်း တားမြစ်ထား၏။ ယင်းသို့တားမြစ်သည့် အကြောင်းရင်းကား ဤသို့တည်း....။ ကဗရ်ပေါ်တွင် မီးထွန်းခြင်းဖြင့် အလွန်ကြီးမားသော အန္တရာယ်များရှိလေသည်။ (၎င်းအန္တရာယ်ကား- အခြား မဟုတ်၊ 'ရှစ်ရ်က်' ဖြစ်သော ကဗရ် ကိုးကွယ်မှုပင် ဖြစ်၏) သို့အတွက်ကြောင့် ရှစ်ရ်က်၏ တံခါးကို ပိတ်ဆို့ရန်အလို့ငှါ ထိုမီးထွန်းခြင်းကို တားမြစ်ခဲ့ခြင်း ဖြစ်သည်။

သို့ရှိရာ အချို့သူများသည် ဤမျှနက်နဲသော တရားသဘောကို နားမလည်ကြဘဲ 'ဝလီ'သူတော်စင်ကြီးများအား အရှိအသေပြုခြင်းကို အကြောင်းပြု၍ မီးထွန်းပိုင်သည်ဟု ပြောဆိုကြသည်။ ၎င်းနောက် အကြင် ဂုဏ်ပြုခြင်းသည် ရှစ်ရ်က်၏ စည်းဝိုင်းအတွင်းသို့ ရောက်၏။ သို့မဟုတ် ရှစ်ရ်က်၏ ဘက်သို့ ရောက်စေနိုင်သော အရာဟူသမျှသည် မလုပ်ပိုင်ကြောင်း ၎င်းသူတို့ သတိမမူကြချေ။

ဤအဆိုများကြောင့် တိကျ ပြတ်သားစွာ (ဖာရွမ်) ပြုလုပ်ထားသော အမိန့်ပညတ်တစ်ခုကို အသို့လျှင် အပိုင်ပြုနိုင်ပါအံ့နည်း။

သတိပြုရန်မှာ- အကြင် 'မွတ်စ်တဟာဗ်' အလုပ်တစ်ခုခုတွင် အကျိုးတစ်ခုခု ရှိ၏။ ၎င်းနောက် ဤမွတ်စ်တဟာဗ် အလုပ်မှာပင် ကြီးစွာသော အကျိုးပျက်စီးမှု အန္တရာယ် ရှိနေပါမူ အကျိုးပြုမှုကို လျစ်လျူရှု၍ အကျိုးယုတ်မှုပျက်စီးမှုကိုသာ ရှေ့ရှုရလေသည်။

အကြောင်း ဆိုသော် အလ္လာဟ် အသျှင်မြတ်က ဖဲကစားခြင်း၊ အရက်သောက်ခြင်းနှင့် ပတ်သက်၍ အမိန့်တော်ရှိထားသည်။

يَسْـَٔلُونَكَ عَنِ الْخَمْرِ وَالْمَيْسِرِ قُلْ فِيهِمَا إِثْمٌ كَبِيرٌ وَمَنَافِعُ لِلنَّاسِ وَإِثْمُهُمَا أَكْبَرُ مِن نَّفْعِهِمَا ـ

အဓိပ္ပါယ်။ အို.... မုဟမ္မဒ် (ဆွလလ္လာဟု) အသင်အား အရက် သောက်ခြင်း၊ ဖဲကစားခြင်း နှင့် ပတ်သက်၍ မေးမြန်းသူတို့အား မိန့်ကြားကုန်လော့၊ ထိုအရက် နှင့် ဖဲတို့တွင် ကြီးကျယ်သောအပြစ်ရှိလေသည်။ ၎င်းနောက် လူတို့အား အကျိုးဖြစ်စေသည်။ ၎င်းနောက် ထိုအရက် နှင့် ဖဲတို့၏ အပြစ်သည် ထိုနှစ်မျိုးစလုံး၏ အကျိုး ပြုခြင်းထက် ပိုမို ကြီးကျယ်လေသည်။

ရှုကြကုန်လော့၊ အရက် နှင့် ဖဲတို့သည် လူတို့အားအကျိုး အာနိသင် ပြုပါလျက် ပျက်စီးစေတတ်သော အပြစ်အန္တရာယ်ကို ရှေ့ရှု၍ အကျိုးပြုမှုကို စွန့်လွှတ်ခါ မျက်ကွယ် ပြုထားလေသည်။

သို့ရှိလေရာ 'ကဗုရ်'များပေါ်တွင် မီးထွန်းခြင်းလည်း အကယ်၍ အကျိုးတစ်ခုခု ရှိနေစေကာမူ ကြီးကျယ်လှစွာသော ပျက်စီးဆုံးရှုံးမှု အန္တရာယ်များ အကြောင်း ပျက်စီးခြင်းများကို ယနေ့ကျွန်ုပ်တို့မျက်မှောက်တွင် ထင်ရှားစွာ တွေ့မြင်နေကြရ၏။

၎င်းနောက် ထိုလွန်ကဲစွာ အရှိအသေပြုမှုကြောင့် လူအများတို့သည် ထင်ရှားစွာ 'ရှစ်ရ်က်' ပြုလုပ်ခြင်းတွင် နစ်မွန်းလျက် ရှိကြကုန်၏။

မည်သည့်နည်းနှင့်မျှ ယင်းသို့သောအလုပ်များကို လုပ်ပိုင်ခွင့်မပြုနိုင်ချေ။

၎င်းနောက် မည်သူ တစ်ဦးတစ်ယောက်၏ ပြောဆိုချက်ကြောင့် ကိုယ်တော်မြတ် (ဆွလလ္လာဟု)၏ အမိန့်ဩဝါဒတော်ကို မစွန့်ပယ်နိုင်ချေ။

အချို့သော ပညာမဲ့တို့သည် တစ်ဖက်မှ ဟဒီးသ်တော်ကို လိုက်နာပါသည်ဟု ကြွေးကြော်လျက် (ဖိုကဟာအ်) ‘ဖွေကဟ်’ရှင်ကြီး များ၏ ဆုံးဖြတ် ချမှတ်ထားသော ဆုံးဖြတ်ချက်များကို စွန့်လွှတ်ထားကြသည်မှာ အံ့ဩဘွယ်ရာပင် ဖြစ်လေသည်။ အခြား တစ်ဖက်မှာမူ ပညာရှင် အချို့ အဆိုကို အကာအကွယ်ပြု၍ ထင်ရှားသော သာဓက အထောက်အထား များကို စွန့်ပယ်ကြကာ (တရားတော်) ကို လျှော့ပေါ့ကြလေသည်။ ရံဖန်ရံခါ ကျယ်ဝန်းစွာ လုပ်ကိုင်နိုင်သော အခွင့်အရေး ရှိပါလျက် ထိန်းသိမ်း စောင့် ရှောက်အပ်သည့်သဘောဖြင့် ပြဋ္ဌာန်းထားသောပညတ်များကို လက်လွှတ်ခြင်း၌တွင် အပြစ် ရှာကြကုန်၏။

ရံဖန်ရံခါ ဤသို့ လျှော့ပေါ့ကြ၏။ လူအများသည် ( မွရှိရစ်က် ) အဖြစ်သို့ လည်းကောင်း၊ ရုပ်တုကို ကိုးကွယ်သည့် အဖြစ်သို့ ရောက်ရှိ သွားသည့်တိုင်အောင် ကရု မပြုကြချေ၊ သာမက ‘ရှစ်ရ်က်’နှင့် ရုပ်တုကိုးကွယ်မှုတို့၏ အုတ်မြစ်ကို ခိုင်မြဲအောင်ပြုလုပ် ကြလေသည်။

အချုပ်ကိုဆိုသော်- ‘ကဗရ်’များ အပေါ်၌ မီးထွန်းခြင်းသည် ခိုင်မာ ထင်ရှား သော သာဓက အထောက်အထားများအရ၊ ‘ဟရာမ်’ဖြစ်လေသည်။ ၎င်းနောက် ယင်း အလုပ်သည် အစ္စလာမ် သာသနာတော်တွင် ရုပ်တု ကိုးကွယ်မှု အဖြစ်ကို ခိုင်မြဲအောင် ပြုလုပ်ပေးသော အလုပ်များအနက် တစ်ခုအပါအဝင် ဖြစ်၏။

၎င်းနောက် (အကြင်အလုပ်တစ်ခုသည်) ‘ရှစ်ရ်က်’၏ ဘက်သို့ ပို့ဆောင်စေသည့် အလုပ်ဖြစ်ကြောင်း လက်တွေ့မျက်မြင် ဖြစ်ပြီးနောက် ဤအဖြစ်မျိုးတွင် ကောင်းသော အချက်တစ်ခုခုကို အကြောင်းပြု၍ ဆန့်ကျင်ဘက် ပြုလုပ်ခြင်းဖြင့် ထိုအလုပ်၏ ‘ဟရာမ်’ ဖြစ်ခြင်းကို မဖယ်ရှားနိုင်ချေ။

၎င်းနောက် ဤသို့သော အလုပ်များကို ပြုလုပ်ပိုင်သည်ဟု မည်သည့်‘အာလင်မ်’ တစ်ဦးတစ်ယောက်၏ပြောဆိုချက်မျှ အခိုင်အမာမဟုတ်ချေ။ ဤအခန်း၏ နိဂုံးအချုပ်မှာ ဤသို့ဖြစ်၏။ ဤအလုပ်ကို လုပ်ပိုင်သည်ဆိုသောဘက်သို့ ပါသွားသော ‘အာလင်မ်’များ သည် ဤအလုပ်ကိုလုပ်ခြင်းအားဖြင့် မည်မျှ ပျက်စီးဆုံးရှုံးနိုင်သည် ဟူသော အချက်ကို စဉ်းစားဆင်ခြင်နိုင်သော စွမ်းအား မရှိကြချေ၊ သို့ရာတွင် ပျက်စီး ဆုံးရှုံးမှုများ ထင် ရှားစွာ ပေါ်ပေါက်လာပြီး နောက် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ထိုအသစ်တီထွင် ထားသော လုပ်ငန်းစဉ် အပေါ်တွင် လိုက်နာ ဆောင်ရွက်ရန် အခွင့် အလမ်း မရှိကြ တော့ချေ။

**ရှင်းလင်းချက်** ၂။ မိန်းမများ 'ကဗရ်' သင်္ချိုင်းသို့ သွားခြင်းသည် နဂို မူလက တရားဝင် ဖြစ်ခဲ့၏။ သို့ရာတွင် အပြင်မှ ပေါ်ပေါက်လာသော အန္တရာယ်များကြောင့် တရားဝင် မဟုတ်တော့ချေ။

မမှာ ဆိုသော်- ဗလီ ဝတ်ကျောင်းတော်သို့ သွားခြင်း၊ 'ဂျမာအတ်'များတွင် ပါဝင် ရောနှောခြင်းတို့ဖြစ်သည်၊ သာမက 'ကဗရ်'သင်္ချိုင်းများတွင် သွားခြင်းအားဖြင့် ပျက်စီးမှုများ ပိုမိုများပြားပေသည်။ အဘယ့်ကြောင့်ဟူမူ များသော အားဖြင့် ကဗရ် သင်္ချိုင်းများသည် တောများတွင်ရှိနေသောကြောင့် ဂုဏ်ကျက်သရေပျက်စီးထိခိုက်မည်ကို ပိုမို စိုးရိမ်ရလေသည်။

**ရှင်းလင်းချက်** ၃။ မစ်ရှ်ကာတ်ကျမ်းတွင် ပါရှိသည့်မှာ-

عَنْ جَابِرٍ قَالَ نَهٰى رَسُوْلُ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ اَنْ
تُجَصَّصَ الْقَبْرُ وَاَنْ يُّبْنٰى عَلَيْهِ وَاَنْ يُّقْعَدَ رواه مسلم
وَفِيْهِ اَيْضًا عَنْ اَبِىْ مُرْثَدٍ الْغَنَوِيِّ قَالَ قَالَ رَسُوْلُ اللّٰهِ
صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ لَا تُجَصِّصُوْا عَلَى الْقُبُوْرِ وَلَا تُصَلُّوْا
اِلَيْهَا رواه مسلم وَفِيْهِ اَيْضًا عَنْ اَبِى الْهَيَّاجِ الْاَسَدِيِّ
قَالَ قَالَ لِىْ عَلِىٌّ اَلَا اَبْعَثُكَ عَلٰى مَا بَعَثَنِىْ عَلَيْهِ رَسُوْلُ اللّٰهِ
صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ لَا تَدَعْ تِمْثَالًا اِلَّا طَمَسْتَهٗ وَلَا
قَبْرًا مُشْرِفًا اِلَّا سَوَّيْتَهٗ رواه مسلم وَفِيْهِ اَيْضًا عَنْ
جَابِرٍ قَالَ مَنَعَ رَسُوْلُ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ اَنْ تُجَصَّصَ
الْقُبُوْرُ وَاَنْ يُّكْتَبَ عَلَيْهَا وَاَنْ تُوْطَاَ رواه الترمذى

'ရေဝါယတ်'များတွင် 'ကဗရ်' သင်္ချိုင်းကို အင်္ဂတေဖြင့် အခိုင်အမာ လုပ်ခြင်းနှင့် ပတ်သက်၍ အထင်အရှား တားမြစ်ချက်ပါရှိ၏။ ထို့အပြင် 'ကဗရ်'ပေါ်၌ အဆောက်အအုံ တစ်ခုခုပြုလုပ်ခြင်း၊ ထို'ကဗရ်'ပေါ်၌ ကမ္ဗည်းထိုးခြင်း၊ ထို'ကဗရ်'ဘက်သို့ လှည့်၍ 'နမာဇ်'ဝတ်ပြုခြင်း၊ ထို'ကဗရ်'ကို ပို၍မြင့်အောင်ပြုလုပ်ပေးခြင်းတို့နှင့် ပတ်သက်၍လည်း တားမြစ်ချက်များ အတိအလင်း ပါရှိလေသည်။

ထို'ကဗရ်'ပေါ်၌ ဗလီပြုလုပ်ခြင်း၊ မီးထွန်းခြင်း နှင့် ပတ်သက်၍ တားမြစ်ချက်များကား အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်လေသည်။

အထက်တွင် မိန့်ကြားထားသော သာဓကများကို စဉ်းစားဆင်ခြင်ခြင်းအားဖြင့် ကိုယ်တော်မြတ်(ဆွလလ္လာဟု) ရည်ရွယ်ချက်သည် 'ကဗရ်' သင်္ချိုင်းများတွင် ကြီးကျယ်ခမ်းနားစွာ ပြုလုပ်ခြင်း မပေါ်ပေါက်စေရန်နှင့် လူအပေါင်းတို့သည် ထို'ကဗရ်'များကို ကိုးကွယ် ဆည်းကပ်မှု မပေါ်ပေါက်စေရန် ရည်ရွယ်၍ မိန့်ကြား ထားတော်မူကြောင်း ထင်လင်းစွာ သိရှိရပေသည်။

သို့ရာတွင် ရှိုက်ခ် အဗ်ဒွလ် ဂနီနာဗ် လေစီ အစရှိသော ပုဂ္ဂိုလ်များက ဤမျှ ထင်ရှား ခိုင်မာသော အထောက်အထား သာဓကများကို ဆန့်ကျင်ကြ၏။ ၎င်းနောက် အကြင် အလုပ်များကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)က အမည်ကိုဖော်၍ ထင်ထင်ရှားရှား မိန့်ကြား တားမြစ်ချက် တို့ကို ထိုပုဂ္ဂိုလ်များက မကြောက် မရွံ့ (ဗိဒအတ် ဟစနဟ်)ဟု ဆိုကြ၏။

၎င်းနောက် ဤမျှနှင့် မရပ်နားသေးပေ သစမက ပိုးမွှားတိရစ္ဆာန်ဆိုကိုထားခြင်း၊ ခြုံထည် အဝတ်များကို ထားခြင်း၊ မီးပူဇော်ခြင်း၊ 'ကဗရ်'များတွင် လိမ်းရန် အတွက် ဆီများ ထားခြင်း စသည်ဖြင့် ဤကဲ့သို့သော အလုပ်များကိုလည်း အပိုင် ပြုလုပ်ကြလေသည်။

၎င်းနောက် ထိုပုဂ္ဂိုလ်များက ဤသို့ အကြောင်း ပြကြလေသည်။ ဤသို့ ပြုလုပ်ခြင်းဖြင့် ဝလီအောင်လေယာ အွလ္လာဟ်များအား ရိုသေလေးစားရာရောက်သည်။ ယင်းသို့ ပြုလုပ်ခြင်းတွင် အများလူထုသည် ထိုသူတော်ကောင်းများအား အထင်အမြင် သေးကြမည် မဟုတ်ဟူ၏။

ယခု တရားမှန်ကန်မှုကို အလိုရှိသူများ စဉ်းစားကြစေလိုသည်မှာ- ဤသို့ ပြုလုပ်ကြခြင်းသည် တရားတော်နှင့် ထင်ရှားစွာ ဆန့်ကျင်သည် မဟုတ်ပါလော။ တမန်တော်မြတ်၏ တရားတော်နှင့် ယှဉ်ပြိုင်၍ တရားသစ် တီထွင်ခြင်း မဟုတ်ပါလော။

အဘာယ် ကြောင့်ဟူမူ 'ရှရီအတ်' တရားတော်ရှင် ကိုယ်တော်တိုင်က ယင်းအလုပ်များကို ပိတ်ပင် တားမြစ်တော်မူ၍ ထိုအလုပ်များကို ပြုကျင့် ဆောင်ရွက်သူများအား (လအ်နတ်) ကျိန်ဆဲတော်မူခဲ့သည်။ ရှိုက်ခ်သခင်ကြီးများ စသည်တို့က မူရင်း အလုပ်များကို လုပ်ပိုင်သည် ပိတ်ပင် တားမြစ်ရန် မထိုက်ဟု ဆိုကြသည်၊ ထို့ပြင် (ဗိဒအတ်ဟစနဟ်) ကောင်းသော ဗိဒအတ်ဟူ၍လည်းကောင်း၊ 'စွန္နတ်'တော်ဟူ၍လည်းကောင်း သက်မှတ် ပြောဆိုကြလေသည်။ အံ့ဘွယ်ရာပဝ်၊ အမှန်တရား ဤသို့ရှိ၏၊ 'ကဗရ်'များကို အင်္ဂတေဖြင့် လုပ်ခြင်း၊ အမိုးအကာ အဆောက်အအုံများ ပြုလုပ်ခြင်း၊ မီးထွန်းခြင်းတို့သည် လူအများ အတွက် ကြီးကျယ် ထင်ရှားသော (ရှစ်ရ်က်)၏ တံခါးကို ဖွင့်ပေးလေသည်။

ရင်းနောက် အကြင် အလုပ်သည် ထင်ရှားသော သာဓက အမိန့်တော်များတွင် တားမြစ်ထား၏။ ထိုအလုပ် ဟူဟူသမျှ တို့သည် (ဗိဒအာတေ စိုင်ယေ အဟ်) မကောင်းသော 'ဗိဒအတ်'များ ဖြစ်၍၊ 'ရှရီအတ်' တရားတော်ရှင်၏ ရည်ရွယ်ချက်နှင့် ကွဲလွဲဆန့်ကျင်လေသည်။ (ဗိဒအတေ ဟစနဟ်) ကောင်းသော ဗိဒအတ် မဟုတ်ချေ။ 'စွန္နတ်'လည်းမဟုတ်ချေ။ ဗိဒအတေ ဟစနဟ်နှင့် ပတ်သက်၍ အထက်ပါ သခင်ကြီးက ရေးသားခဲ့သည်မှာ....

اَنَّ الْبِدْعَةَ الْحَسَنَةَ الْمُوَافِقَةَ لِمَقْصُوْدِ الشَّرْعِ تُسَمّٰى سُنَّةً

အဓိပ္ပါယ်.... ကေန်မုခ္ဈ 'ဗိဒအတ်ဟစနဟ်' ဆိုသည်မှာ- 'ရှရီအတ်'တရားတော်၏ ရည်ရွယ်ချက်နှင့် ညီညွတ်သောအရာကိုခေါ်သည်၊ ၎င်းကို'စွန္နတ်'ဟုခေါ်၏၊ (ဗိဒအတ်ဟစနဟ်)ဟူ၍ကား လုံးဝမရှိပေ။ အကြင် ရေးသားချက်ဖြင့် သိရှိရသည်မှာ- မည်သည့် အလုပ်သစ် တစ်ခုသည် 'ဗိဒအတေ ဟစနဟ်' သို့မဟုတ် 'စွန္နတ်' ဖြစ်ရန် အတွက် (ရှာရစ်အ်) 'ရှရီအတ်' တရားတော်ရှင်၏ ရည်ရွယ်ချက် နှင့် ကိုက်ညီရန် အရေးကြီးလေသည်။

အထက်တွင် ဖေါ်ပြခဲ့သော အလုပ်အကိုင်များသည် 'ရှရီအတ်' တရားတော်ရှင်၏ ရည်ရွယ်ချက်နှင့် ဆန့်ကျင်ကွဲလွဲမှုမှုမက ထင်ရှားစွာ ပိတ်ပင် တားမြစ်ထားသော အရာ

များဖြစ်လေသည်။ သို့ရှိလေရာ ထိုအလုပ်များသည် ကေန်မုချ(ဗိဒအာတေ့ စိုင်ယေ့ အဟ်) ဖြစ်ရမည်။ ၎င်းနောက် အဆိုပါသခင်ကြီး နှင့် ၎င်း၏ နောက်လိုက် နောက်ပါများ၏ အဆိုသည် ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)၏ မိန့်ခွန်းတော်နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လေသည်။ ၎င်းနောက် ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ရည်ရွယ်ချက် ဖြစ်သော 'ရှစ်ရ်က်'၏ တံခါးကို ပိတ်ဆို့ တားမြစ်ချက် ဖြစ်လေရာ၊ ပကတိ လက်ခံတော်မူမည် မဟုတ်ချေ။

၎င်းနောက် ထိုပုဂ္ဂိုလ်များ အကြောင်းပြခဲ့သော ကောင်းကျိုး ကောင်းရာများသည် ထိုပျက်စီးဆုံးရှုံးစေမည့် 'ရှစ်ရ်က်' တုဘက်မှုနှင့် နှိုင်းယှဉ်ပါလျှင် မည်သည့်နည်းနှင့်မျှ လက်ခံနိုင်မည်မဟုတ်ချေ။

ရှင်းလင်းတင်ပြလိုသည်မှာ...." ကျွန်ုပ်၏ ရည်ရွယ်ချက်သည် သခင်ကြီး နှင့် တကွ သခင်ကြီး နှင့် အယူအဆ ကိုက်ညီသော 'အာလင်မ်' ပညာရှင်များအား ကဲ့ရဲ့ ပြစ်တင်လိုသည်မဟုတ်ပေ။ အဘယ့်ကြောင့်ဟူမူ ပုဂ္ဂိုလ်ကြီးများ၏ ရည်ရွယ်ချက်ကား 'ရှရီအတ်' တရားတော်နှင့် ဆန့်ကျင်ရန် မဟုတ်ကြောင်း ကျွန်ုပ်ကောင်းစွာသိရှိပါသည်။

သို့သော်မက ကျွန်ုပ်၏ ရည်ရွယ်ချက်ကား - ထိုပုဂ္ဂိုလ်များ၏ 'အစ်ဂျ်တေဟာဒီ' ဝေဖန်စဉ်းစားချက်၏ မှားယွင်းမှုကိုသာ တင်ပြခြင်း ဖြစ်ပေသည်။ အလ္လာဟ်အသျှင်မြတ် 'မအာဖွ' ချမ်းသာ ခွင့်လွှတ်ပါစေသောဝ်၊ သို့ရာတွင် ဖျက်ဆီးမှုများ ထင်ရှားစွာ ပေါ်ပေါက်လာပြီးနောက် ယခုမည်သူမျှ ၎င်းတို့၏ တီထွင်ထားသောတရားသစ်ပေါ်တွင် လိုက်နာ ဆောင်ရွက်နိုင်ခွင့် အလျဉ်းမရှိတော့ချေ။

အံ့ထူးသဖြင့် အကြင် ပုဂ္ဂိုလ်များသည် မိမိကိုယ်ကို မိမိတို့ 'မွဂ်ျတဟာစ်ဒ်' တရားတော်ကိုဝေဖန်ဆုံးဖြတ်နိုင်သူများဟု အထင်ရှိကြ၏။ ၎င်းနောက် မိမိတို့'အစ်ဂျ်တေဟာဒ်' ဝေဖန်ချက် အင်အားဖြင့် 'ဂျမ်ဟူရေ့ ဖိုကဟာ' အိုလမာ ပညာရှင်ကြီးများ အားလုံးတို့ကိုလည်းအခြေအမြစ်မရှိဟုမှတ်ယူကြလေသည်။

ယခု ကျွန်ုပ်သည် မိမိတင်ပြထားသော အကြောင်းအရာနှင့်ပတ်သက်၍ 'ဖွေကဟ်' ရှင်ကြီးများ၏ အကြောင်းပြချက်များနှင့်လည်း ထောက်ခံ တင်ပြအပ်ပါသည်။

ဒွရ်ရေ့ မွခ်တာရ်ကျမ်းတွင် အဆို လာရှိသည်မှာ....

لَا يُخَصِّصُ الْنَّصَّ عِنْدَهُ

ၚင်းနောက် ရဒ္ဒုလ် မွခ်တာရ် ကျမ်းတွင် လာရှိသည်မှာ....

قَوْلُهٗ لَا يُرْفَعُ عَلَيْهِ بِنَاءٌ يَحْرُمُ لَوْ لِلزِّيْنَةِ وَيُكْرَهُ لَوْ لِلْاِحْكَامِ
بَعْدَ الدَّفْنِ وَفِيْهِ اَيْضًا اَمَّا الْبِنَاءُ عَلَيْهِ فَلَمْ اَرَ مَنِ اخْتَارَ
جَوَازَهٗ وَفِيْ شَرْحِ الْمُنْيَةِ الْمُخْتَارُ اَنَّهٗ لَا يُكْرَهُ التَّطْيِيْنُ
وَعَنْ اَبِيْ حَنِيْفَةَ يُكْرَهُ اَنْ يُّبْنٰى عَلَيْهِ بِنَاءٌ مِنْ بَيْتٍ
اَوْ قُبَّةٍ اَوْ نَحْوِهٖ ذٰلِكَ لِمَا رُوِيَ عَنْ جَابِرٍ رض نَهٰى رَسُوْلُ اللّٰهِ
صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ عَنْ تَجْصِيْصِ الْقُبُوْرِ وَاَنْ يُّكْتَبَ
عَلَيْهَا وَاَنْ يُّبْنٰى عَلَيْهَا رواه مسلم

ဤဖေါ်ပြပါ 'ရေဝါယတ်'အကြောင်းပြချက်များဖြင့် 'ကဗရ်' သင်္ချိုင်းများကို အခိုင်အမာ ပြုလုပ်ခြင်း မပိုင်ကြောင်း အတည်ဖြစ်လေသည်။

အဘယ့်ကြောင့်ဟူမူ ထိုသို့ အခိုင်အမာ ပြုလုပ်ခြင်းတွင် ပထမအချက် 'ကဗရ်' ပေါ်တွင် အဆောက်အအုံ ပြုလုပ်ခြင်းဖြစ်သည်။

ဒုတိယအချက်မှာ.... အင်္ဂတေတို့ ပြုလုပ်ခြင်း ၚင်းနှစ်မျိုးလုံးသည် မပိုင်ချေ။

အချို့သူတို့က ပြောကြသည်မှာ....

لَا يُكْرَهُ الْبِنَاءُ اِذَا كَانَ الْمَيِّتُ مِنَ الْمَشَائِخِ وَالْعُلَمَاءِ وَالسَّادَاتِ

အဓိပ္ပါယ်.... 'အကယ်၍ 'မိုင်ယစ်တ်' သေသူသည် ပီရ်သခင် သော်လည်းကောင်း၊ အာလင်မ် ပညာရှင်သော်လည်းကောင်း၊ စိုင်ယွစ်ဒ် အမျိုးအနွယ်သော်လည်းကောင်း ဖြစ်လျှင် အဆောက်အအုံ ပြုလုပ်ခြင်း၊ 'မတ်က်ရူးဟ်' မဖြစ်ဟူ၏။ ဤအဆိုသည် ထင်ရှားခိုင်မာ

သော သခမက အထောက်အထားများနှင့် ဆန့်ကျင်ခြင်း၊ ၎င်းနောက် အေမာမ် အဘူ ဟာနီဖွာဟ်သခင်၏ 'မသဟဗ်' နှင့် ဆန့်ကျင်သောကြောင့် လက်မခံချေ။ ဤအဆိုသည် လည်း 'ကဗရ်'အားလုံးပေါ်၌ အဆောက်အအုံ ပြုလုပ်ခြင်းဖြင့် ပျက်စီးဆုံးရှုံးမှုများရှိနေ ကြောင်းကို ဖေါ်ပြထားခြင်းဖြစ်လေရာ (မရှာယစ်ခ်) ပီရ်သခင်ကြီးများ စသည်တို့၏ ကဗရ်ပေါ်တွင် အဆောက်အအုံ ပြုလုပ်ခြင်း၌ကား ထိုထက်ပင်သာလွန်၍ ပျက်စီးဆုံးရှုံး မှုများ ရှိနေလေသည်။ အဘယ့်ကြောင့် ဟူမူ ထိုနေရာများ၌ ခမ်းနား တင့်တယ်စွာ ပြုလုပ်ခြင်း (အစ္စရာဖ်)အပိုသုံးဖြုန်းခြင်းတို့အပြင် 'ရှစ်ရ်က်'တံခါးကို ဖွင့်ထားခြင်းလည်း ဖြစ်၏။

သို့ရှိလေရာ ထိုပုဂ္ဂိုလ်များ၏ 'ကဗရ်' ပေါ်တွင် အဆောက်အအုံ ပြုလုပ်ခြင်းသည် သာ၍ပင် မပိုင်ကြောင်း ထင်ရှားပေသည်။

အချို့သူများက အဆိုရှိကြသည်မှာ...

اَلْيَوْمَ اِعْتَادُوا التَّسْنِيْمَ بِاللَّبِنِ صِيَانَةً لِلْقَبْرِ عَنِ النَّبْشِ
وَرَاَوْا ذٰلِكَ حَسَنًا فَهُوَ عِنْدَ اللّٰهِ حَسَنٌ وَقَالَ صَلَّى اللّٰهُ عَلَيْهِ
وَسَلَّمَ مَارَاٰهُ الْمُسْلِمُوْنَ حَسَنًا فَهُوَ عِنْدَ اللّٰهِ حَسَنٌ

အဓိပ္ပါယ် - ယခုအခါ ထိုသူများသည် ('ကဗရ်'များတွင်) အုတ်များဖြင့် အခိုင် အမာ ပြုလုပ်ကြ၏။ ထိုသို့ပြုလုပ်ကြခြင်းသည် 'ကဗရ်'ကို တူးဖေါ်ခြင်း ဘေးအန္တရာယ်မှ ကင်းဝေးစေရန်ဖြစ်၍ ထိုအလုပ်ကို ထိုသူများက ကောင်းသောအလုပ်ဟုမြင်ကြလေသည်။ ၎င်းနောက် တမန်တော်မြတ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်ကြားတော်မူခဲ့သည်မှာ .... အကြင် အလုပ်ကို မွတ်စလင်မ်များက အကောင်းဟု ထင်မြင်ယူဆလျှင် ထိုအလုပ်သည် အလ္လာဟ်အသျှင်မြတ် ထံတော်၌လည်း အကောင်းပင်ဖြစ်သည်ဟူ၏။

ဤအဆိုအရလည်း တရားတော်က လက်မခံချေ။ အဘယ့်ကြောင့် ဟူမူ (အထက်ပါ ဟဒီးသ်တော်တွင်) မွတ်စလင်မ် ဆိုသည်မှာ- အားလုံးသော မွတ်စလင်မ် လူထုကို မဆိုလို။ မွတ်စလင်မ်များ၏ ထင်မြင် ယူဆချက်သည်လည်း အများ လူထုကို မဆိုလိုပေ၊ သာမက မွတ်စလင်မ်များ၏ ထင်မြင် ယူဆချက်၏ သဘောမှာ ထိုအလုပ်ကို ခေါ်သည်။ အကြင် အလုပ်သည် 'ရှရီအတ်' တရားတော်ရှင်၏ ရည်ရွယ်ချက်နှင့် မဆန့်ကျင် စေရ။

၎င်းနောက် မွတ်စလင်မ်များ ဟူသော အလိုမှာ 'အစ်ဂျ်မာအ်'၏ အဆင့်၌ ရှိသူများကိုခေါ်သည်။ အလိုသဘောမှာ အကြင်အလုပ်တစ်ခုသည် 'ရှရီအတ်'တရားတော်ရှင်တမန်တော်မြတ် ( ဆွ ) ၏ လိုလားချက် နှင့် ဆန့်ကျင်ဘက် မဖြစ်ဘဲ 'အစ်ဂျ်မာအ်' အဆင့်၌ ရှိနေကြသော ပညာရှင်ကြီးများသည် ထိုအဆိုပေါ်၌ အညီအညွတ်ပြုလုပ်လိုက်သော် ထိုအလုပ်သည် အလ္လာဟ် အသျှင်မြတ် ထံတော်၌ ကောင်းမြတ်သော အလုပ်ဖြစ်၏။

အချို့ မွတ်စလင်မ် တို့က ကောင်းမြတ်သည့် အလုပ် ဟု မှတ်ယူခြင်းဖြင့် ၎င်းအလုပ်သည် အလ္လာဟ်အသျှင်မြတ် ထံတော်၌ ကောင်းမြတ်သောအလုပ် မဖြစ်နိုင်ချေ။ သို့မဟုတ်ပါက 'ဗိဒအတ်'ဟူသော အလုပ်ပင် ရှိနိုင်တော့မည် မဟုတ်တော့ချေ။

သို့ရှိလေရာ ဤအဆိုအရ 'ကဗရ်'များအပေါ်တွင် အဆောက်အအုံ အခိုင်အမာပြုလုပ်ပိုင်ခြင်းအတွက် ဤဖေါ်ပြပါ သာဓကသည် မမှန်ကန်ချေ။

အဘယ့်ကြောင့်ဆိုသော် ထိုအကြောင်းပြချက်သည် (ရှာရစ်အ်)တရားတော်ရှင်၏ မိန့်ကြားချက် လိုလားချက်တို့နှင့် ထင်ရှားစွာ ဆန့်ကျင်နေသောကြောင့်တည်း။

ယင်းကိစ္စနှင့် ပတ်သက်၍ ကောင်းမြတ်သော လမ်းစဉ်ဖြစ်သည်ဟု ထင်မြင်ယူဆနေကြသော ပုဂ္ဂိုလ်များမှာ အာလင်မ် အချို့မျှသာဖြစ်၍ ၎င်းတို့၏အဆိုကို အသိဉာဏ်ပညာ ကြွယ်ဝလှသော 'အိုလမာ' ပညာရှင်ထုကြီးက တစ်ဖက်မှ ဆန့်ကျင်လျက် ရှိနေလေသည်။

(မိုင်ယစ်တ်) အလောင်းများကို ထိန်းသိမ်းစောင့်ရှောက်ရန်အတွက် အကြောင်းခံ ဖေါ်ပြချက် သည်လည်း အပိုင်ပြုသော အာလင်မ်များ လက်ထက်မှ ပေါ်ပေါက်လာသည့် ပြဿနာ မဟုတ်ချေ။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ လက်ထက်တော် ဆွဟာဗဟ် (ရသွေ့)သခင်ကြီးများ၏ လက်ထက်တော်၊ (တာဗေ့အီန်)မွဂျ်တဟေ့ဒီးန်များ၏ လက်ထက်တော်ကလည်း ရှိခဲ့ပြီးဖြစ်လေသည်။

သို့ပင်ရှိလင့်ကစား ဖေါ်ပြပါအကြောင်းခံကို ယင်းကိစ္စတွင် ထည့်သွင်းစဉ်းစားခြင်း ပြုတော်မမူခဲ့ကြသည့် အပြင် ကဗရ်ပေါ်၌ အဆောက်အအုံ ပြုလုပ်ခြင်း၊ အုတ်အင်္ဂတေ နှင့် အခိုင်အမာ ပြုလုပ်ခြင်းများကို အခွင့်မပေးခဲ့ကြပေ၊ ဤသို့သော အဖြစ်မျိုးတွင် မည်သည့်အာလင်မ်တစ်ဦးတစ်ယောက်ကိုမျှ ဤအကြောင်းခံတစ်ခုကို အထောက်အထားပြု၍ ထင်တိုင်းမြင်ရာ ပိုင်သည်ဟူသော 'ဖွာတ်ဝါ'ကို ပေးနိုင်ပါအံ့နည်း။

အထူးသဖြင့် ယခု အချိန်အခါတွင် 'ရှစ်ရ်က်' အလုပ်ကို ပြုလုပ် နေကြပါလျက် ဇင်းနောက် ဆောက်လုပ် သူ၏ 'နီယတ်' ရည်ရွယ်ချက်သည် 'ကဗရ်'၏ တူးဖေါ်ခြင်း အန္တရာယ်မှ ထိန်းသိမ်းကာကွယ်ရန် ဟူသော ဆန္ဒမရှိကြောင်း တွေ့မြင်သိရှိနေရပါလျက် အဘယ်သို့လျှင် အပိုင်ပြုနိုင်ပါအံ့နည်း။

အချုပ်မှာ .... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်တော် အရ လည်းကောင်း၊ 'ဟန္နဖွီမယ်ဟဗ်'၏ ပညတ်အရလည်းကောင်း ကဗရ်များကို အခိုင်အမာ ပြုလုပ်ခြင်း မပိုင်၊ တားမြစ်သည်။ ဤပညတ်တော် နှင့် ကွဲလွဲဆန့်ကျင်၍ တင်ပြသော သူများ၏ အဆိုသည် မည်သည့်ခိုင်မာသော အာလင်မ်၏ အဆိုမျှမဟုတ်။
(ဝလ္လာဟို၊အအ်လမို့)

**ရှင်းလင်းချက် ၄။** စလာမ်၏ နေရာတွင် 'ဗန်ဒဂီ'စသည့် စကားများကို သုံးစွဲခြင်းသည် ဟိန္ဒူ နှင့် အခြား ဘာသာများ၏ ဓလေ့ထုံးစံ ဖြစ်ခြင်းကြောင့် တားမြစ်၏။

ဇင်းနောက် (နေကျရီယာ) တို့၏ ယဉ်ကျေးမှုလည်း ဖြစ်သည်။ 'စွန္နတ်'တော်ကို စွန့်လွှတ်ရာရောက်သည်၊ သို့အတွက်ကြောင့် 'ဗိဒအတ်' ဖြစ်လေသည်။

**ရှင်းလင်းချက် ၅။** သီချင်း၏အလိုမှာ- လက်ာကဗျာဟူဟူသမျှကို ခြုံ၍ မဆိုလို၊ သာမက အများထုံးစံ ဖြစ်နေသော တေး သီချင်းများကိုဆိုလိုသည်။ ဥပမာ....'ရှာဒီ'မင်္ဂလာပွဲများ၌ ကချေသည်တို့၏တေးသီချင်း များ၊ သို့မဟုတ်'အိုရွတ်စ်'ပွဲများ၌အမျိုးသမီးများဖတ်ရွတ်လေ့ရှိကြသော'ကောင်ဝါလီ' တေးသီချင်းများ စသည်တို့ဖြစ်ကြ၏။

'ဟရာမ်'ဖြစ်ခြင်းအကြောင်းမှာ 'ရှအဲရ်'ကဗျာ-လက်ာ-စာတို့နှင့် အသံကောင်းစွာ ဖတ်ရွတ်ခြင်းအပေါ်တွင် မဟုတ်ချေ။

သို့သာမက အခြား, အခြားသော ပျက်စီးမှု များကြောင့် ထိုအရာကို ပိတ်ပင် တားမြစ်ခြင်း ဖြစ်လေသည်။

ကျမ်းပြုသခင်ကြီးက ဤအကြောင်းနှင့်ပတ်သက်၍ (အစ်စွ်လာဟွ်ရ်ရို့စူမ်)ကျမ်း တွင် အနည်းငယ် အကျယ်ဖွင့်၍ ဖေါ်ပြထားလေသည်။ ထိုကျမ်းတွင် ရှုပါကုန်၊ ယခု မည်သည့် ဒွိဟ သံသယမျှ မကျန်တော့ချေ။

**ရှင်းလင်းချက် ၆။** ဤအလိုမှ လုပ်ပိုင်သော စီးပွားရေး အလုပ်ကို ဆိုလိုသည်။ ပိုင်သည်ဖြစ်စေ၊ မပိုင်သည်ဖြစ်စေ အားလုံးကို ခြုံ၍ဆိုလိုခြင်းမဟုတ်၊ ဤ'မတ်စ်အလဟ်'၏ ရည်ရွယ်ချက်မှာ အချို့သော အမျိုးကြီး အနွယ်ကြီးများ၏ ပျက်စီးမှုကို ပြုပြင်ရန်ဖြစ်သည်။

၎င်းတို့သည် အငတ်အပြတ်နေရခြင်း၊ ဟိန္ဒူများ၏ဖိနပ်များကို ပွတ်တိုက်ပေးခြင်းတို့ကို နှစ်သိမ့်ကျေနပ်လျက် စက်ချုပ်လုပ်ငန်း၊ ပန်းဘဲလုပ်ငန်း စသည့်လုပ်ပိုင်သည့်အလုပ်များကို စက်ဆုပ်ကြသည်။ ၎င်းနောက် ဤအလုပ်များကိုလုပ်ကိုင်ရခြင်းတွင် မိမိတို့အား သေးသိမ်သည်ဟု မှတ်ယူကြသည်။

သို့ရှိလေရာ ယခု အခါရှိ ပညာမဲ့တို့က မလုပ်ပိုင်သော အလုပ်များကို အသေးအသိမ်ထင်ခြင်းကိုသာ တားမြစ်ခြင်းဖြစ်သည်ဟု စောဒက ဝင်ခြင်းသည် လုံးဝ အကျိုးမရှိသော စောဒကဝင်မှုသာ ဖြစ်လေသည်။

**ရှင်းလင်းချက် ၇။** ဤနေရာ၌ ထိုပျက်စီးမှုများကို ပြုပြင်ရန် ရည်ရွယ်သည်။ အကြဝ်သူတို့သည် ကျွမ်းကျင်နားလည်သော မွတ်စလင်မ်ဆေးဆရာများကို မမေးမြန်းဘဲနှင့် ဤရောဂါအတွက် အခြားဆေးရှိမရှိ မစုံစမ်းဘဲနှင့် ဤသို့သော ပစ္စည်းများကို စားသုံးလေ့ ဝါဒရှိကြလေသည်။

၎င်းနောက် ရောဂါတစ်ခုနှင့်ပတ်သက်၍ ကျွမ်းကျင်သောမွတ်စလင်မ်ဆေးဆရာက ဤရောဂါအတွက် ကျားနို့ အစရှိသော'ဟာရာမ်'ပစ္စည်းများမှ အပ အခြားဆေး မရှိဟု ဆိုသောအခါ ဤပစ္စည်းမျိုးကို စားသုံးပိုင်ခွင့် ရှိ၊မရှိဟူသော ပြဿနာရှိပေသည်။ ဤပြဿနာကားတစ်မျိုးပင်ဖြစ်၍ ဘဟာဝ်ရှိတီဇေဝရ်သည် ၎င်းပြဿနာကိုဖြေပြရန်မလိုပေ၊ အဘယ့်ကြောင့်ဟူမူ ဤပြဿနာမျိုးကား ကြုံကြိုက်ခြင်းမရှိခဲ့ပေ၊ အကယ်၍ ရှိသော်ငြားလည်း အလွန် ရှားပါးလေသည်။

သို့အတွက် ဓလေ့ထုံးစံဖြစ်သော အလုပ်ကိုသာ ပိတ်ပင်တားဆီးရန် အရေးကြီးလေသည်။ ထိုဓလေ့ထုံးစံကား အခြားမဟုတ်၊ တတ်ကျွမ်း နားလည်သော မွတ်စလင်မ်ဆေးဆရာများကို စုံစမ်း မေးမြန်းခြင်း မပြုဘဲ အသား - နို့ စသည် တို့ကို တိုက်ကျွေးလေ့ ရှိကြသည်။

အကယ်၍ ဤ ကိစ္စမျိုးသည် အများလူထုက လက်ခံလျှင်လည်း အထူးဖြေပြရန် မလိုပေ။ အဘယ့်ကြောင့်ဟူမူ ဤပြဿနာသည် ကွဲလွဲချက်ရှိထားသော ပြဿနာတစ်ရပ်ဖြစ်၏။ ထင်ရှားသော'မသ်ဟဗ်'မှာ 'ဟာရာမ်' ဖြစ်၏။ အချို့သူများက ခွင့်ပြု၍ ဤအဆို အပေါ်၌ (ဖွာတ်ဝါ) ချမှတ်သည်ဟု ဆိုကြသည်။

သို့ရှိလေရာ 'ဘဟစ်ရှိတီဇေဝရ်'တွင် အရင်းခံ 'မသ်ဟဗ်'ကို ယူ၍ (မို့တအခ်ခေ့ရီးန်) များ၏ အဆိုကို လက်မခံသော် အဘယ် အပြစ် ရှိပါအံ့နည်း၊ အထူးသဖြင့် ဤအဖြစ်မျိုးတွင် ထင်ရှားသော (မသ်ဟဗ်) ကို လက်ခံခြင်းဖြင့် (အဲဟ်တေ့ယားတွင်) ရှိလေသည်၊ ၎င်းနောက်ဟဒီးသ်တော်များနှင့်လည်း ကိုက်ညီလေသည်။

ယခုခေတ် ပညာနည်းသူများက ကျမ်းပြုမောင်လာနာသခင်ကြီး၏ လွယ်ကူသော လမ်းစဉ်ဖြင့် (အဲဟ်တေ့ယားတွင်) စောင့်ထိန်းအပ်သည့် သဘောတရားကို စွန့်လွှတ်ကြစေရန် အလို့ငှာ အမျိုးမျိုး ဆင်ခြေ ပေးကြသည်။ ထင်ရှားသော ဟဒီးသ်တော်များ ရှိပါလျက် 'အိုလမာ' ပညာရှင်ကြီး များအား ဆန့်ကျင်မှုကို အပိုင် ပြုထားကြလေသည်။

အချုပ်စကားမှာ.... ဤသို့ရှိ၏။ 'ဟရာမ်'ပစ္စည်းနှင့်ဆေးဝါးကုသခြင်းတွင် ကွဲလွဲမှု ရှိ၏။ ဘဟစ်ရှိတီဇေဝရ်သည် ထိုအကြောင်းကိုဖေါ်ပြရန်မဟုတ်၊သာမက အညီအညွတ် 'ဟရာမ်' ဖြစ်ကြောင်း တားမြစ်ချက်ကိုသာ ဖေါ်ပြလိုပေသည်။

ကြုံကြိုက်သည့် အနေနှင့် အကွဲအလွဲရှိသော အရာများနှင့် ကုသမှု အကြောင်းကို ဖေါ်ပြလိုက်သည့်တိုင်အောင် ဆင်ခြေဝင်၍ စောဒကဝင်ရန် မလိုချေ။ အဘယ့်ကြောင့်ဟူမူ....

၁။ အချက်မှာ— အရင်းခံ'မသ်ဟဗ်'သည် 'ဟရာမ်'ဖြစ်ခြင်းပေါ်၌ ရှိ၏။

၂။ အချက်မှာ— ဤ လမ်းစဉ်သည် 'အဲဟ်တေယားတွင်' ထိန်းသိမ်း လုံလောက်မှု၏။

၃။ အချက်မှာ— ထင်ရှားသော 'ဟဒီးသ်'တော်များ နှင့် ကိုက်ညီ၏။



## အချို့ ကြီးလေးသော မကောင်းမှု ဒုစရိုက်များ ထိုအမှုများကို ပြုလုပ်သော သူများ အပေါ်၌ ပြင်းထန်သော အပြစ်များ ရောက်ရှိလေသည်

အလ္လာဟ်အသျှင်မြတ်အား တုဖက်ယှဉ်ပြိုင်မှုပြုခြင်း၊ အကြောင်းမဲ့ မတရားသဖြင့် သူတစ်ဦး၏ အသက်ကို သတ်ဖြတ်ခြင်း၊ သားသမီးမရှိသော အမျိုးသမီးများက သားသမီးရှိသော မိန်းမများ၏ ကလေးများကို ပဆောဂ အတတ်ဖြင့် သေစေအောင် ပြုလုပ်၍ မိမိအား သားသမီးရလာအောင်ပြုလုပ်ခြင်း၊ ဤအရာသည် သတ်ဖြတ်မှုတွင် အပါအဝင်ဖြစ်၏။

မိဘကိုနှိပ်စက်ခြင်း၊ ကာမေသုမိစ္ဆာစာရကံ ကျူးလွန်ခြင်း၊ အဘမဲ့ ကလေးများ၏ ပစ္စည်းကို စားသုံးခြင်း၊ ဥပမာ....များစွာသော မိန်းမများသည်လင်ယောကျ်ား၏ အားလုံးသော ပိုင်ဆိုင်သမျှ ပစ္စည်း ဥစ္စာ ဝတ္ထု များကို အပိုင်စီး၍ ကလေးငယ် ကလေးများ၏ ဝေစုကို သုံးဖြုန်း ပစ်တတ်ကြသည်။

သမီးမိန်းကလေးများအား အမွေဝေစုမပေးခြင်း၊ မိန်းမတဦးတစ်ယောက်အား အနည်းငယ်မျှ မသင်္ကာရုံဖြင့် (ဇနာ) ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သည်ဟု စွပ်စွဲခြင်း၊ သူတစ်ဦးအား ညှဉ်းပန်းနှိပ်စက်ခြင်း၊ သူတစ်ဦးအား သူ၏ကွယ်ရာတွင်မကောင်းပြောခြင်း၊ အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်'မဟာကရုဏာတော်ကို မက်ကင်းခြင်း၊ကတိကဝတ်ပြုထား၍ မတည်ခြင်း၊ အပ်နှံသောပစ္စည်းကို အလွဲသုံးစားပြုလုပ်ခြင်း၊ သို့မဟုတ် ထိန်ချန်ခြင်း၊ အလ္လာဟ်အသျှင်မြတ်က 'ဖွရ်သွ' မလုပ် မနေရ တာဝန်ဟု သတ်မှတ်ထားခဲ့သော (နမာဇ်,ရိုဇဟ်,ဇကာတ်,ဟဂ်ျ) စသည်များကို စွန့်လွှတ်ခြင်း၊ ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ပြီး မေ့ပစ်ခြင်း။

မုသားစကားပြောခြင်း၊ အထူးသဖြင့်မုသားကျိန်ဆိုခြင်း၊ အလ္လာဟ်အသျှင်မြတ်က လွဲ၍ အခြား အရာများကို ကျိန်ဆိုခြင်း၊ သို့မဟုတ် ဤသို့ ကျိန်ဆိုခြင်း၊ သေမည့်အချိန်၌ 'ကလေမဟ်'မရဘဲရှိရစေရဲ့၊ အီမာန်မပါဘဲသေရစေရဲ့၊ အလ္လာဟ်အသျှင်မြတ်မှ တပါး အခြားအရာများကို (စဂ်ျဒဟ်) ဦးချခြင်း။

အကြောင်းမဲ့ နမာဇ်ကိုအချိန်နှင့် မဖတ်ခြင်း၊ မွတ်စလင်မ်တစ်ဦးတစ်ယောက်အား (ကာဖွင်ရ်)ဟုဖြစ်စေ၊ (ဗေအီမာန်) အီမာန်မရှိသူဟုဖြစ်စေ၊ အသျှင်မြတ် အပြစ်ခံရမည့်သူဟုဖြစ်စေ၊ အသျှင်မြတ်၏ အကျိန်ဆဲ ခံရမည့်သူဟုဖြစ်စေ၊ အသျှင်မြတ်၏ ရန်သူဟုဖြစ်စေ၊ ခေါ်ခြင်း၊ ပြောဆိုခြင်း တစ်ဦးတစ်ယောက်၏ ညည်းညူတိုင်တန်းခြင်းကို

နားထောင်ခြင်း၊ ခိုးဝှက်ခြင်း၊ အတိုးစားခြင်း၊ ကောက်ပဲသီးနှံများဈေးတက်သည်ကို ဝမ်းသာခြင်း၊ ဝယ်ပြီးမှ ဈေးနှိမ်၍ အတင်း အဓမ္မ တန်ဖိုး လျှော့ပေါ့ပေးခြင်း၊ သူစိမ်းယောကျ်ား၏ အနီးအပါးတွင် တစ်ကိုယ်တည်း ထိုင်ခြင်း၊ ဖဲ, ကက်, ကစားခြင်း၊အချို့သောမိန်းမကြီးများ နှင့် သူငယ်မများသည် ကျားထိုးခြင်း, ကြွေအံ ကစားခြင်းစသောအခြားသောကစားနည်းများကို ကစားကြ၏။

ဤသို့ ကစားခြင်းသည်လည်း ဖဲကစားခြင်း၌ ပါဝင်ပေသည်၊ ကာဖွင်ရ်များပြုလုပ်ကြသော ထုံးစံ ဓလေ့ ဝါဒများကို လိုလားနှစ်ခြိုက်ခြင်း၊ အစား အစာကို မကောင်းပြောခြင်း၊ ပွဲလမ်းသဘင်ကြည့်ခြင်း၊ အတီးအမှုတ်များကို နားထောင်ခြင်း၊ စွမ်းနိုင်ပါလျက် မဆုံးမခြင်း၊ တစ်စုံ တစ်ယောက်သောသူအားကျီစယ် ပြောင်လှောင်၍ မရှိမသေ အရှက်တကွဲပြုလုပ်ခြင်း၊ တစ်စုံတစ်ယောက်သောသူအား အပြစ်ချို့ယွင်းချက်များရှာခြင်း၊

မစ်ရှ်ကာတ်ကျမ်း အတွဲ-၁ စာမျက်နှာ-၁၇။
မစ်ရှ်ကာတ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၃၄၊ ၄၁၅၊ ၂၉၆။
တန်ရီးဗ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၄၆။
တဖွ်စီးရ်ခါဇင်န်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၉။



## မကောင်းမှု အကုသိုလ်များကြောင့် အချို့သော လောကီဆိုင်ရာ ဆုံးရှုံးမှုများ အကြောင်း

ပညာတုံးခြင်း၊ ပညာလက်မဲ့ဖြစ်ခြင်း၊ 'ရိဇ်ဇ်'စားနပ်ရိပ်ကွာ ခေါင်းပါးခြင်း၊ အသျှင်မြတ်ကို သတိမရခြင်း၊ လူတို့ နှင့် ပေါင်းသင်းမှု ကင်းကွာခြင်း၊ အထူးသဖြင့် လူကောင်း,သူကောင်းများနှင့် အလုပ်ဆက်ဆံမှု မပြောင့်ဖြူးခြင်း၊ များစွာသောအလုပ်များတွင် အခက်အခဲ အမျိုးအမျိုး တွေ့ကြုံရခြင်း၊ စိတ်ရှုပ်ထွေးခြင်း၊ စိတ်အားနည်းခြင်း၊ တစ်ရံတစ်ခါကိုယ်အားပါ ဆုတ်ယုတ်ခြင်း၊ ကုသိုလ်ကောင်းမှု အေဗာဒတ် မလုပ်ဖြစ်ခြင်း အသက်တိုခြင်း၊ (ဝါ) ဂိုနာဟ်များစွာပြုခြင်း၊ တောင်ဗဟ်ပြုနိုင်သော စွမ်းအားမရှိခြင်း၊ ရက်အနည်းငယ်အတွင်း အကုသိုလ်မှု၏ မကောင်းခြင်းစိတ်မှ ထွက်သွားခြင်း၊ အသျှင်မြတ်၏ထံတော်၌ သေးသိမ်မှုဖြစ်ခြင်း၊ အခြားသော 'မခ်လူးက်' များကို ထိုသူကြောင့် ဆုံးရှုံးမှုဖြစ်ခြင်း၊ ဤဂိုနာဟ်မှုကြောင့် 'လအ်နတ်' ပြုခံရခြင်း၊ ညဏ်တုံးခြင်း၊ တမန်တော်မြတ်၏ ကျိန်ဆဲမှုခံရခြင်း၊ကောင်းကင်တမန်များ၏ ဆုတောင်းမှုမှ လက်မဲ့ဖြစ်ခြင်း၊

ကောက်ပဲသီးနှံ အထွက်နည်းခြင်း၊ အရှက် အကြောက် မခံချင်စိတ်များ ဆိတ်သုဉ်းခြင်း၊ အသျှင်မြတ်အား လေးစားမှု ထိုသူ့စိတ်မှ ထွက်ခွာသွားခြင်း၊ စည်းစိမ် ချမ်းသာမှုများ ရုပ်သိမ်းခံရခြင်း၊ ဥပဒ်အန္တရာယ်များစုရုံးရောက်ရှိလာခြင်း၊ ထိုသူ့အပေါ်၌ရှိုင်တွာန်ကို ခန့်အပ်လိုက်ခြင်း၊ စိတ်သောကများခြင်း၊ သေသောအခါ ပါးစပ်မှ (ကလေမဟ်) မထွက်နိုင် မဆိုနိုင်ဘဲရှိခြင်း၊ အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်'ကရုဏာတော်မှ မက်ကင်းခြင်း၊ ထို့အတွက်ကြောင့် 'တောဝ်ဗဟ်' မရှိဘဲ သေသွားခြင်း။

## ကုသိုလ် ကောင်းမှု အာဗာဒတ် ခံ့ဝပ်မှု ပြုခြင်းကြောင့် အချို့သော လောကီ၏ အကျိုး ကျေးဇူးများ အကြောင်း

ရိဇ်ရိက္ခာတိုးပွားလာခြင်း၊ အမျိုးမျိုးသော 'ဘရ်ကတ်' တိုးတက် ပေါများလာခြင်း၊ ဒုက္ခ နှင့် ပူပင်သောက ကင်းဝေးခြင်း၊ အလိုဆန္ဒ ပြည့်စုံရန် လွယ်ကူခြင်း၊ သက်မွေး ကောင်းခြင်း၊ မိုးလေဝသ ကောင်းခြင်း၊ ဘေးဥပဒ် အမျိုးမျိုး မှ လွတ်မြောက်ခြင်း၊ အသျှင်မြတ်၏ ကရုဏာနှင့် ကူညီ စောင်မမှု ရရှိခြင်း၊ 'ဖွရစ်ရှိတဟ်'ကောင်းကင်တမန်များအား ထိုသူ၏စိတ် ခိုင်မြဲမှုပြုပေးရန် အမိန့်တော်ရှိခြင်း၊ မှန်ကန်သော ဂုဏ်ကျက်သရေ ရရှိခြင်း၊ ရာထူး အဆင့်အတန်း တိုးတက်ခြင်း၊ ခပ်သိမ်းသောသူတို့၏စိတ်၌ ထိုသူအား ချစ်ခင်ခြင်း၊ ထိုသူ့ အတွက် ကုရ်အာန်သည် ရောဂါ ချမ်းသာရမှု ဖြစ်စေခြင်း၊ ဥစ္စာ ပစ္စည်း ဆုံးရှုံးခံရသော် သူ့ထက်ကောင်းသော ဥစ္စာပစ္စည်းကို အစားရခြင်း။

တစ်နေ့ထက်တစ်နေ့ စည်းစိမ်တိုးတက်စေခြင်း၊ ပစ္စည်းတိုးတက်ခြင်း၊ စိတ်၌အေးချမ်း သာယာ၍ တည်ငြိမ်မှုရှိခြင်း၊ လာမည့်သားစဉ်မြေးဆက်တိုင်အောင် အကျိုးဖြစ်စေခြင်း၊ သက်တမ်းတစ်လျှောက် အိပ်မက်၌ဖြစ်စေ၊ အခြားနည်းနှင့်ဖြစ်စေ၊ ကောင်းသတင်းများ ရရှိခြင်း၊ သေမည့် အချိန်ထွင် 'ဖွရစ်ရှိတဟ်' ကောင်းကင်တမန်များ၏ ဝမ်းမြောက်ဖွယ် သတင်းကောင်းကို ကြားနာရခြင်း၊ ကောင်းချီးပေး ခံရခြင်း၊ အသက်ရှည်ခြင်း၊ (ဝါ) 'အမလ်'များခြင်း၊ ဆင်းရဲ မွဲတေခြင်း နှင့် ငတ်ပြတ်မှုမှ ကင်းဝေးခြင်း၊ ဝတ္ထု ပစ္စည်း နည်းနည်းနှင့် များစွာသော 'ဘရ်ကတ်' တိုးပွားမှုဖြစ်ခြင်း၊ အသျှင်မြတ်၏ အမျက်တော် ရှမှု မရှိခြင်း။

## 'ဝိသွူ' ရေသန့်စင်ခြင်း အကြောင်း

'ဝိသွူ'ပြုသောသူသည် 'ဝိသွူ'ပြုမည့် အချိန်တွင် 'ကစ်ဗ်လဟ်' ဘက်သို့ မျက်နှာ မူ၍၊ ရေစက်မစင်ရန် မြင့်သောနေရာတစ်ခုတွင် ထိုင်လျက် ပြုရမည်။

ဝိုသ္ဒူကို စတင်ပြုလုပ်သောအခါ ဗစ်မစ်လ္လာဟ်ဖတ်ရမည်။ အဦးဆုံး လက်ကောက်ဝတ်အထိ လက်နှစ်ဖက်ကို တစ်ကြိမ်ဆေးရမည်။ ထို့နောက် ပါးလုပ် သုံးကြိမ် ကျင်းရမည်။ ထို့နောက် တံပူစားရမည်၊ အကယ်၍ တံပူမရှိလျှင် အဝတ်ထူထူဖြင့် ဖြစ်စေ၊ သို့မဟုတ် လက်ညှိုးဖြင့်ဖြစ်စေ သွားကိုတိုက်ရမည်။ အားလုံးသော အညစ်အကြေးများ သန့်စင်သွားစေရမည်။

အကယ်၍ 'ရိုဇဟ်'ရှိသူ မဟုတ်ခဲ့သော် အာခလောက်၍ ပါးစပ်တွင်း တစ်ခုလုံး ရေရောက်စေရမည်။ ရိုဇဟ်ဉပုသ်ရှိလျှင် အာခလောက်ခြင်းမပြုသင့်၊ ရေအာခေါင်တွင်းသို့ ဝင်သွားတတ်သည်။

ထို့နောက် နှာခေါင်းတွင်းသို့ ရေသွင်း၍ သုံးကြိမ်ဆေးရမည်။ လက်ဝဲလက်ဖြင့် နှာညှစ်ရမည် ၊သို့ရာတွင် ဉပုသ် ရှိခဲ့သော် နှာနုရိုးထက် ပို၍ ရေမရှူလင့်၊ ထိုနောက် မျက်နှာတပြင်လုံး သုံးကြိမ် ဆေးရမည်။ နဖူးဆံစမှ မေးအောက်အထိ၊ တစ်ဖက်နားနုမှ တစ်ဖက်နားနုအထိ ၊အားလုံးသော နေရာတွင် ရေ ရောက်စေရမည်။ မျက်ခုံး နှစ်ဖက်အောက်တွင်လည်း ရေရောက်စေရမည်၊ ခြောက်နေသောနေရာ ဟူ၍ မကျန်စေရ။

ထို့နောက် ညာဘက်လက်မောင်းကို တတောင်ဆစ်ပါ အပါ အဝင် သုံးကြိမ်ဆေးရမည်။ ထို့နောက်ဘယ် ဘက်လက်မောင်းကို တတောင်ဆစ်ပါ အပါအဝင်သုံးကြိမ်ဆေးရမည်။ တစ်ဖက်လက်မှ လက်ချောင်းကလေးများသည် အခြားတစ်ဖက်သော လက်မှ လက်ချောင်းကလေးများတွင် သွင်း၍ ပွတ်သပ်ဆေးကြောရမည်၊ လက်တွင် ဝတ်ဆင်ထားသော လက်စွပ်, လက်ကောက်, လက်ပတ်ကြိုး အစရှိသည်များကို အခြောက်မကျန်စေရန် လှည့်ပတ်ပေးရမည်။

ထို့နောက် ဦးခေါင်းတစ်ခုလုံးကို (မတ်စ်ဟ်) သုတ်သပ်ခြင်း တစ်ကြိမ်ပြုရမည်။ ထို့နောက် နားနှစ်ဖက်ကို (မတ်စ်ဟ်) သုတ်သပ်ခြင်းပြုရမည်။ နားတွင်းသို့ လက်ညှိုးကို သွင်း၍လည်းကောင်း၊ နား အပြင်သို့ လက်မဖြင့်လည်းကောင်း (မတ်စ်ဟ်) ပြုရမည်။ ထို့နောက် လက်ဖမိုးဖြင့်လည်ဂုတ်ကို(မတ်စ်ဟ်)ပြုရမည်။ သို့ရာတွင်လည်ပင်းကို(မတ်စ်ဟ်) မပြုလုပ်ရ၊ ဤနေရာကို ပြုလုပ်ခြင်း မကောင်းဟုတားမြစ်၏။

နားတွင် (မတ်စ်ဟ်) ပြုရန်အတွက် ရေအသစ်တဖန် ယူရန်မလို၊ ဦးခေါင်းတွင် (မတ်စ်ဟ်) ပြုရာမှ လက်တွင် ကြွင်းကျန်သော ရေဖြင့် လုံလောက်သည်။ ညာဘက်ခြေထောက်ကို ခြေမျက်စိကိုပါ သုံးကြိမ် ဆေးကြောရမည်။ ထို့နောက် ဘယ်ဘက် ခြေထောက်ကို ခြေမျက်စိကိုပါ သုံးကြိမ် ဆေးကြောရမည်၊ ဘယ်ဘက်လက်၏ လက်သန်းဖြင့် ခြေချောင်းကလေးများအကြားတွင် 'ခေလာလ်' ပွတ်သပ်ရမည်။ ခြေထောက်တွင်

ပွတ်သပ်သည့်အခါ ညာဘက်ခြေသန်းမှ စတင်၍ ဘယ်ဘက် ခြေသန်းတွင် အပြီးသတ်ရမည်။ ဤကား ဝိုသ္ဂူပြုနည်း ဖြစ်၏။

သို့ရာတွင် ထိုသို့ပြုလုပ်ရာ၌အချို့သောအချက်များမှာဤသို့ရှိလေသည်။ အကယ်၍ ထို့အနက်က တစ်ခုတလေ ကြွင်းနေရစ်လျှင် သို့မဟုတ် လျော့နည်းနေသော် ဝိုသ္ဂူ မမြောက်ချေ။ ပထမ ဝိုသ္ဂူမရှိသကဲ့သို့ ယခုလည်း ဝိုသ္ဂူမဲ့ပင်ဖြစ်နေအံ့။ ယင်းသို့သော အချက်များကို 'ဖွရ်သွ' ဟု ခေါ်လေသည်။

အချို့သောအချက်များမှာ- ဤသို့ရှိလေသည်။ ၎င်းတို့ကို လွတ်သွားသော်လည်း ဝိုသ္ဂူ အထမြောက်၏။ သို့ရာတွင် ၎င်းအချက်များကိုပြုလုပ်လျှင်'သဝါဗ်'ကုသိုလ် ရ၏။ ၎င်းပြင် တရားတော်၌ ၎င်းအချက်များကိုပြုလုပ်ရန် လေးနက်စွာ တိုက်တွန်း၏။ တစ်စုံတစ်ဦးသောသူသည် အကယ်၍ အကြိမ်များစွာစွန့်လွှတ်လျှင် အပြစ်ဖြစ်၏။ ဤသို့သော အချက်များကို 'စွန္နတ်' ဟု ခေါ်လေသည်။

အချို့သောအချက်များ ဤသို့ရှိလေသည်။ ပြုလုပ်လျှင် ကုသိုလ်ရ၍၊ မပြုလုပ်လျှင် ဘာမျှအပြစ်မဖြစ်ချေ။ တရားတော်၌ ၎င်းအချက်များကို ပြုလုပ်ရန် လေးနက်စွာ တိုက်တွန်းချက်မရှိချေ။ ဤသို့သောအချက်များကို'မွတ်စ်တဟဗ်'ဟုခေါ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ- ၂၁၊၂၂၊၂၃။

၁၅။ မဘ်စ်အလဟ်ပြဿနာ။ ဝိုသ္ဂူ၌ 'ဖွရ်သွ' လေးခုသာလျှင် ရှိလေသည်။ (၁) မျက်နှာတပြင်လုံးတစ်ကြိမ်ဆေးကြောခြင်း၊ (၂) လက်နှစ်ဖက်ကို တတောင်ဆစ်ပါ တစ်ကြိမ် ဆေးကြောခြင်း၊ (၃) ဦးခေါင်း၏ လေးပုံတစ်ပုံ တစ်ကြိမ် 'မတ်စ်ဟ်'သုတ်သပ်ခြင်း၊ (၄) ခြေနှစ်ဖက်ကို ခြေမျက်စိပါတစ်ကြိမ်ဆေးကြောခြင်း။ သို့ရှိရာ 'ဖွရ်သွ' မှာ ဤမျှခန့်သာဖြစ်လေသည်။ ထိုလေးခုအနက် တစ်ခုခုပျက်ကွက်ခဲ့သော် သို့မဟုတ် တနေရာ၌ ဆံပင်တစ်ပင်ခန့် ရေမရောက်ဘဲ ခြောက်သွေ့ကျန်နေရစ်သော် ဝိုသ္ဂူမပိုင်ချေ။

၁၆။ မတ်စ်အလဟ်ပြဿနာ။ (၁) လက် နှစ်ဖက်ကို လက်ကောက်ဝတ်တိုင် ဆေးခြင်း၊ (၂) ဗစ်မစ်လ္လာဟ်ဆိုခြင်း၊ (၃) ပါးလုပ်ကျင်းခြင်း၊ (၄) နှာခေါင်းတွင်း ရေသွင်းခြင်း၊ (၅) တံပူစားခြင်း၊ (၆) ခေါင်းတစ်ခုလုံး 'မတ်စ်ဟ်'ပြုခြင်း၊ (၇)အင်္ဂါ အစိတ်အပိုင်းတိုင်း သုံးကြိမ်စီ ဆေးခြင်း၊ (၈) နားနှစ်ဖက်ကို 'မတ်စ်ဟ်'သုတ်သပ်ခြင်း၊ (၉) လက်ချောင်း ခြေချောင်းကလေးများ ကြားကို ပွတ်သပ်၍ ရေ ရောက်စေခြင်း၊ ဤအချက်ပေါင်းသည် 'စွန္နတ်' ဖြစ်လေသည်။ ၎င်းမှအပ ကြွင်းသမျှ အချက်များမှာ အားလုံး 'မွတ်စ်တဟဗ်' ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း စာမျက်နှာ- ၂၁၊၂၂။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ဆေးကြောရန် 'ဖွရ်သွ' ဖြစ်သော ကိုယ်အင်္ဂါ အစိတ်အပိုင်းလေးခုကို ဆေးပြီးဖြစ်လျှင် ဝိုသွူမြောက်၏။ ဝိုသွူ၏ ရည်ရွယ်ချက်ရှိသည် ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ မြောက်၏။ ဥပမာတစ်စုံတစ်ယောက်သောသူသည်ရေချိုးချိန်၌ တစ်ကိုယ်လုံးကိုရေလောင်းချိုးလိုက်၏၊ ဝိုသွူကိုမပြု။ သို့မဟုတ် ရေကန်ထဲ၌ လိမ့်ကျ၏။ သို့မဟုတ် မိုးရွာသောနေရာတွင် ရပ်နေ၏။ ဝိုသွူပြုအပ်သော အဆစ်အပိုင်းများ ရေ ဆေးပြီးဖြစ်သွားသော် ဝိုသွူမြောက်သွား၏။ သို့ရာတွင် ဝိုသွူပြုလုပ်သော အကျိုးကိုမူ ရလိမ့်မည်မဟုတ်။

ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၆။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ် အပေါ်တင်ပြခဲ့သည့်အတိုင်းဝိုသွူပြုလုပ် ခြင်းသည်'စွန္နတ်'တော်ဖြစ်လေသည်။ အကယ်၍တစ်ဦးတစ်ယောက်သောသူသည် ပြောင်း ပြန် ဝိုသွူပြုခဲ့သော် ပထမခြေကိုဆေး၍ထို့နောက်ခေါင်းကို'မတ်စ်ဟ်'ပြုမည်။ထို့နောက် လက်နှစ်ဖက်ကို ဆေးကြော ပြီးလျှင် မျက်နှာကို ဆေးခဲ့သော်၊ သို့မဟုတ် အခြား နည်းဖြင့် ကပြောင်းကပြန် ဝိုသွူ ပြုခဲ့သော် ဝိုသွူတော့ ဖြစ်မြောက်ပါ၏။ သို့ရာတွင် 'စွန္နတ်' နည်းလမ်း နှင့် ညီညွတ်သော ဝိုသွူ မဖြစ်မြောက်၍ အပြစ် ဖြစ်မည်ကို စိုးရိမ် ရလေသည်။

ဟေဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ- ၈။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ထိုနည်းတူပင် အကယ်၍ ဘယ်ဘက်လက်ကိုဖြစ်စေ ဘယ်ဘက် ခြေထောက်ကိုဖြစ်စေ၊ ပထမ ဆေးကြောခဲ့သော် ထိုအခါ၌လည်း ဝိုသွူဖြစ် မြောက်သွား၏။ သို့ရာတွင် 'မွတ်စ်တဟာဗ်'နည်းနှင့် ဆန့်ကျင်၏။

ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၈။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အင်္ဂါ အစိတ်အပိုင်း တစ်ခုကို ဆေးကြောရာ၌ အခြားအဆစ်အပိုင်းတစ်ကိုဆေးကြောခြင်း၌ ဤမျှခန့် မကြာစေရ၊ ပထမအဆစ်အပိုင်း၌ရှိ ရေများ ခြောက်သွေ့ သွားသည့်တိုင် သာမက မခြောက်မီ အလျင် ဆက်ခါ ဆက်ခါ အခြားအဆစ်အပိုင်းကို ဆေးကြောရမည်။ အကယ်၍ ပထမအဆစ်အပိုင်း ခြောက်သွား ပြီးမှ ဒုတိယအဆစ်အပိုင်းကိုဆေးသော် ဝိုသွူတော့ဖြစ်ပါ၏။ သို့ရာတွင် ဤအချက်သည် 'စွန္နတ်'တော် နှင့် ဆန့်ကျင် ကွဲလွဲ၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၇၂။

၂၁။ မတ်စ်အလဟ်ပြဿနာ။ အင်္ဂါအစိတ်အပိုင်းကိုဆေးသောအခါ လက်နှင့် ပွတ်သပ်ပေးခြင်းလည်း 'စွန္နက်' ဖြစ်၏။ သို့မှသာ အခြောက်မကျန်ဘဲ နေရာတိုင်းတွင် ရေရောက်မည်။

ရှာမီကျမ်း အတွဲ ၁၊ စာမျက်နှာ ၁၃၈။

၂၂။ မတ်စ်အလဟ်ပြဿနာ။ အချိန်မရောက်မီအစောပိုင်း ဝိုဇူ၊ နမာဇ် တို့နှင့် ပတ်သက်သောအရာများကို အသင့် ပြင်ဆင် ထားခြင်းသည် ကောင်း၏ 'မွတ်စ်တဟဗ်' ဖြစ်လေသည်။ ရှာမီကျမ်းအတွဲ ၁၊ စာမျက်နှာ- ၁၃၀။

၂၃။ မတ်စ်အလဟ်ပြဿနာ။ စွမ်းဆောင်နိုင်မှု ရှိနေသမျှကာလပတ်လုံး ကိုယ်တိုင် မိမိလက်ဖြင့် ဝိုဇူ ပြုရမည်။ တခြားသူအား ရေလောင်းမခိုင်းရ၊ ဝိုဇူ ပြုရာ၌ လောကီစကား တစ်စုံတစ်ရာ မပြောရသာမက အဆစ်အပိုင်းကို ဆေးကြောသောအခါ ၌(ဗစ်မစ်လ္လာဟ်)နှင့်(ကလေမဟ်)ကို ဖတ်ရမည်။ ရေကိုလည်း အဘယ်မျှ ပေါများစေကာမူ မြစ်ကမ်းပါးတွင်ဖြစ်စေ၊ လိုသည်ထက်ပိုမိုမသုံးအပ်ချေ။ ရေကိုလိုသည်ထက်လည်း နည်း၍မသုံးလင့်၊ ဆေးကြောရာ၌ မနှံ့စပ်ဖြစ်မည်။ မည်သည့် အင်္ဂါအဆစ်အပိုင်းကိုမျှ သုံးကြိမ်ထက်ပို၍ မဆေးနှင့်။ မျက်နှာကိုဆေးသောအခါ၌ ရေစက်များကို မျက်နှာသို့ တအားမပက်နှင့်၊ ရေကိုမှုတ်၍လည်း ရေမွှားရေစက်များမလွင့်စေနှင့်၊ မိမိ၏ပါးစပ်နှင့် မျက်စိကို တအား ပိတ်မထားလင့်၊ ဤအချက် အားလုံးသည် (မတ်ကရူးဟ်) ဖြစ်၍ တားမြစ်၏။ အကယ်၍ မျက်စိ နှင့် ပါးစပ်ကို တအားပိတ်ထား၍ မျက်တောင် နှင့် နှုတ်ခမ်းကို ရေမရောက်ဘဲ ခြောက်သွေ့နေသော် သို့မဟုတ် မျက်စိ၏ ဒေါင့်တွင် ရေမရောက်သော် ဝိုဇူ မပိုင်ချေ။

ရှာမီကျမ်း စာမျက်နှာ- ၂၃။
ဗွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၄။

**ရှင်းလင်းချက်။** စွမ်းဆောင်နိုင်မှု ရှိနေသမျှ ကာလပတ်လုံး ကိုယ်တိုင် မိမိလက်ဖြင့် ဝိုဇူပြုရမည်။ ဤမတ်စ်အလဟ်ပြဿနာ၏ 'ဒလီလ်' သာဓက ဤသို့ရှိ၏။

ဗွရ်ရေ့မွခ်တာရ်ကျမ်းတွင် လာရှိသည်မှာ....

يُكْرَهُ اَنْ يَسْتَعِيْنَ فِيْ وُضُوْئِهٖ بِغَيْرِهٖ اِلَّا عِنْدَ الْعَجْزِ لِيَكُوْنَ اَعْظَمَ لِثَوَابِهٖ وَاَخْلَصَ لِعِبَادَتِهٖ

ဖေါ်ပြပါ သာဓကသည် အကူအညီယူမှု အားလုံးကို ခြုံ၍ ဆိုထားလေသည်။ ဆေးကြော လုပ်ကိုင်ခြင်းနှင့် ရေလောင်းခြင်းပါ ၂-မျိုးစလုံး အပါအဝင်ဖြစ်၏။ ထို့ကြောင့် 'မတ်က်းရူးဟ်' ဖြစ်ခြင်း၌လည်း ၂-မျိုးစလုံးအပါအဝင်ဖြစ်လေသည်။ သို့ရှိလေရာ ရေလောင်းခြင်း၌ အကူအညီယူခြင်းလည်း 'မတ်က်ရူးဟ်' ဖြစ်ရမည်။

အလ္လာမဟ် ရှာမီ သခင်ကြီးက ဒွရ်ရေ့ မွခ်တာရ် ကျမ်းရှင်ကြီးသည် လုပ်ကိုင်ဆေးကြောခြင်း၌ အကူအညီယူခြင်း အလိုကို ကောက်ယူဟန်တူသည် ဟူသော အဆိုမှာ မမှန်ကန်ချေ။ ရေလောင်းမှုလည်း ပါဝင်သည်၊ ၎င်းအကြောင်းသည် အထက်ပါ 'ဒလီလ်' သာဓက၌ အထင်အရှား ပါရှိပြီးဖြစ်၏။

၂၄။ မတ်စ်အလဟ် ပြဿနာ။ လက်စွပ်ကွင်း-လက်ကောက်-လက်ပတ်ကြိုး-လည်ဆွဲ စသည်တို့ကို ဂွင်းချောင်နေသော်လည်း ၎င်းအောက်၌ ရေရောက်နိုင်သော်လည်း လှုပ်ပတ်ပေးခြင်း 'မွတ်စ်တဟာဗ်' ဖြစ်လေသည်။

အကယ်၍ ကျပ်နေသဖြင့် လှည့်ပတ် မပေးလျှင် ရေမရောက်နိုင်ဟု ထင်ရသော် ထိုဂွင်းကို လှည့်ပတ်ပေး၍ ကောင်းစွာ ရေရောက်စေရန် လိုအပ်၍ (ဝါဂျစ်ဗ်) ဖြစ်လေသည်။

နားခေါင်းတွင် ဝတ်ဆင်သော ရွှေနားသီး-ငွေနားသီးကိုလည်း ဤအမိန့်အတိုင်း ဖြစ်သည်။ အကယ်၍ အပေါက် ကျယ်လျှင် ထိုအချိန်၌ လှုပ်ပေးခြင်း 'မွတ်စ်တဟာဗ်' ဖြစ်၏။ အပေါက် ကျဉ်း၍ လှည့်ပတ်မပေးလျှင် ရေ မရောက်နိုင်သော် မျက်နှာ ဆေးသော အချိန်၌ ဂွင်းကိုလှည့်ပတ်ပေး၍လည်းကောင်း၊ လှုပ်ပေး၍လည်းကောင်း အတွင်းသို့ ရေရောက်စေခြင်းသည် 'ဝါဂျစ်ဗ်' ဖြစ်လေသည်။

ကဗီရီကျမ်း စာမျက်နှာ- ၃၃။

၂၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးသောသူ၏လက်သည်း၌ဂျုံမှုန့် ကပ်၍ ခြောက်သွား သဖြင့် ထိုအောက်သို့ ရေမရောက်ခဲ့သော် ဝိုသွူ မမြောက်ချေ။ သတိရသောအခါတွင် ၎င်းဂျုံမှုန့်ကို မြင်သော အခါတွင် ၎င်းဂျုံမှုန့်ကို ခြစ်ပစ်၍ ရေလောင်း ဆေးရမည်။ အကယ်၍ ရေမလောင်းရသေးမီ တစ်ကြိမ်ကြိမ်သော နမာဇ်ကို ဖတ်ပြီးခဲ့သော် ထိုနမာဇ်ကို အသစ်ပြန်ဖတ်ရမည်။

ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၄၆။

၂၆။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး၏ နဖူး၌ အလှအပကပ်ထားသော ရွှေကြယ်-ငွေကြယ်-ရွှေပြား-ရောင်ပြားများရှိခဲ့သော် အပေါ်မှ ရေလောင်း၍ ၎င်းအရာများ မကွာခဲ့သော် ဝိုသွူ မမြောက်ချေ။ နဖူးတွင် ရှိသော ကော်စေးများကို အားလုံး တိုက်ပွတ်ပစ်၍ မျက်နှာကို ဆေးကြောရမည်။

၂၇။ မတ်စ်အလဟ်ပြဿနာ။ ဝိုသ္ဆူပြုပြီးသော အချိန်တွင် (အင်နာ၊ အန်ဇလ်နာစူရဟ်)ကို ဖတ်ပြီးနောက် ဤဒိုအာကိုဖတ်ရမည်။

اَللّٰهُمَّ اجْعَلْنِيْ مِنَ التَّوَّابِيْنَ وَاجْعَلْنِيْ مِنَ الْمُتَطَهِّرِيْنَ وَاجْعَلْنِيْ مِنْ عِبَادِكَ الصّٰلِحِيْنَ وَاجْعَلْنِيْ مِنَ الَّذِيْنَ لَاخَوْفٌ عَلَيْهِمْ وَلَاهُمْ يَحْزَنُوْنَ

အဓိပ္ပါယ်ကား။ အို....အသျှင်မြတ် ကျွန်တော်မျိုး ကျွန်တော်မျိုးမအား တောင်ဗဟ် ဝန်ချသူများအနက်မှလည်းကောင်း၊ အပြစ်မှသန့်ရှင်းသူများအနက်မှလည်းကောင်း၊ ပြုပေးတော်မူပါ။ ထို့အပြင် သူတော်ကောင်းဖြစ်သော ကျေးကျွန်များ၌ ပါဝင်သူဖြစ်ပါရစေ၊ ထို့ပြင် နှစ်ဋ္ဌာနဌ်ကြောက်ရွံ့ခြင်း၊ ပူပင်စိုးရိမ်ခြင်းမရှိသောပုဂ္ဂိုလ်များအတွင်း၌ ပါဝင်သူဖြစ်ပါရစေသော်ဝ်။

ကဗီရိကျမ်း စာမျက်နှာ- ၃၅။

၂၈။ မတ်စ်အလဟ်ပြဿနာ။ ။ဝိုသ္ဆူပြုပြီးသောအခါ ကောင်းမြတ်သည်မှာ နမာဇ် နှစ်ရကအတ် ဖတ်ရမည်၊ ထိုနမာဇ်ကိုဝိုသ္ဆူ၏ နောက်တွင် ဖတ်ရခြင်းကြောင့် ( တဟိယတွလ် ဝိုသ္ဆူ ) ဟူ၍ ခေါ်လေသည်။ ဟဒီးသ်တော် မိန့်ခွန်းများ၌ ၎င်း၏ အကျိုး အာနိသင်များစွာ လာရှိလေသည်။

ကဗီရိကျမ်း စာမျက်နှာ -၃၆။

**ရှင်းလင်းချက်။** ။ ဤ မတ်စ်အလဟ်တွင် မတ်က်ရူးဟ်ချိန် မဟုတ်စေရ၊ ဟူသော စည်းကမ်းချက်သည် အမှန်မုချပါရှိလေသည်၊ သို့ရာတွင် အခြားသော စည်းကမ်းချက်များကို ဤနေရာတွင် ထည့်သွင်း ဖေါ်ပြခြင်း မပြုဘဲ မိမိဘိုနေရာတွင် သီးခြား ဖေါ်ပြထားဘိသကဲ့သို့ ဤ စည်းကမ်းချက် ကိုလည်း ဤပြဿနာတွင် ထည့်သွင်းဖေါ်ပြခြင်း မပြုခဲ့ပေ။

ယင်းဖေါ်ပြပါ အကြောင်းအရာသည် ( တဟိယတွလ် ဝိုသ္ဆူ ) နှင့် ပတ်သက်၍ မိန့်ကြားထားသော ဟဒီးသ်တော် နှင့် ကိုက်ညီလေသည်၊ ထိုဟဒီးသ်တော်ကား ဤသို့ လာရှိ၏။

مَا مِنْ اَحَدٍ يَتَوَضَّأُ وَيُصَلِّيْ رَكْعَتَيْنِ يُقْبِلُ بِقَلْبِهٖ وَبِوَجْهِهٖ اِلَّا
وَجَبَتْ لَهُ الْجَنَّةُ

ဤဟဒီးသ်တော်တွင် မတ်က်ရူးဟ်ချိန်ကို ဖေါ်ပြထားခြင်းမရှိ၊ သို့သော်လည်း အခြားနေရာတွင်ပါရှိသည့်အတွက် မတ်က်ရူးဟ် အချိန်နှင့် လွတ်စေရမည်။

၂၉။ မတ်စ်အလဲဟ်ပြဿနာ။ ။အကယ်၍အချိန်တစ်ချိန်၌ ဝုဇူ ပြုပြီးနောက် အခြားအချိန်တစ်ခုရောက်လာ၏။ ယခုဝုဇူမှာမပျက်သေးသော် ထိုဝုဇူဖြင့်ပင် နမာဇ် ဖတ်ပိုင်၏၊ အကယ်၍ ဝုဇူအသစ်ထပ်ပြုသော် များစွာအကျိုးရရှိမည်။

ကဗီရီကျမ်း စာမျက်နှာ ၃၆။

၃၀။ မတ်စ်အလဲဟ်ပြဿနာ။ ။ဝုဇူကိုတစ်ကြိမ်ပြု၍ မပျက်သေးမီ အတွင်း ထို ဝုဇူဖြင့် တစ်စုံတစ်ခုသော အဗာဒတ်ကို မျှမပြုရသေးသော် ထပ်မံ၍ ဝုဇူ ပြုခြင်း မတ်က်ရူးဟ်ဖြစ်၍ တားမြစ်၏။

ရေချိုးစဉ်တွင် ဝုဇူပြုခဲ့သော် ထိုဝုဇူဖြင့် နမာဇ်ဖတ်ရမည်၊ ထိုဝုဇူမပျက်ဘဲ ဒုတိယ ဝုဇူမပြုရ၊ အကယ်၍ နမာဇ် နှစ် ရကအတ်ခန့် ထိုဝုဇူဖြင့် ဖတ်ပြီး ခဲ့သော် ဒုတိယအကြိမ် ထပ်ပြုခြင်း၌ ဘာမျှအပြစ်မရှိသည့်အပြင်ကုသိုလ်ရသည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ ၃၀။

၃၁။ မတ်စ်အလဟ်ပြဿနာ။ ။ခြေကွဲ၍လက်ပတ်၍ ဖယောင်း ဘယ်စလင်အဆီ စသည်ကိုဖြစ်စေ၊ အခြားသောဆေးကိုဖြစ်စေ သုတ်လူးထားပါက ၎င်းဆေးကို ထုတ်ပစ် လိုက်သော် အန္တရာယ်ဖြစ်မည်ဆိုလျှင် မထုတ်ဘဲအပေါ်မှပင် ရေလောင်းပေးသော်ဝုဇူ ပိုင်၏။

စွဂီရီကျမ်း စာမျက်နှာ ၁၆။

၃၂။ မတ်စ်အလဟ်ပြဿနာ။ ။ဝုဇူပြုသောအချိန်၌ ဖနောင့်တွင်ရေမရောက် သော်လည်းကောင်း၊ အခြားနေရာတွင် ရေမရောက်သော် လည်းကောင်း၊ ဝုဇူအပြည့် အစုံပြုပြီးမှ မည်သည့်နေရာတွင် ခြောက်သွေ့လျက် ရေမရောက်ကြောင်း သိရသော် လက်ဖြင့်သုတ်သပ်ရုံဖြင့် မလုံလောက်ပါ၊ ရေဖြင့်ထပ်လောင်းပေးရမည်။

၃၃။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ လက်နှင့် ခြေစသည်တို့တွင် အနာ အဖူးအလုံးသော်လည်းကောင်း၊ အခြားသောရောဂါရှိ၍ ၎င်းအပေါ်တွင် ရေလောင်း ခဲ့သော် ဒုက္ခဖြစ်မည်ရှိသော် ရေမလောင်းနှင့်၊ ဝုဇူပြုစဉ်တွင် ရေစိုသောလက်ဖြင့် သုတ် သပ်ပေးရမည်၊ ၎င်းကို 'မတ်စ်ဟ်'ဟု ခေါ်သည်၊ အကယ်၍ ဤမျှခန့် သုတ်သပ်ခြင်းပင် ဒုက္ခဖြစ်ခဲ့သော် လက်ဖြင့်မသုတ်သပ်ဘဲ ထိုနေရာကိုကွက်ချန်ခဲ့ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း စာမျက်နှာ ၅၀။

၃၄။မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အနာကို (ပတ်တီး) အဝတ်စီး ပတ်ထား၍၊ အဝတ်ကို ဖြေ၍ (မတ်စ်ဟ်) လုပ်သော် အန္တရာယ် ဖြစ်မည်ဆိုက သို့မဟုတ် အဝတ်ကိုဖြည်ခြင်း စည်းနှောင်ခြင်း၌ ခက်ခဲဒုက္ခဖြစ်မည်ဆိုက အဝတ်စည်းထားသော အပေါ်မှ (မတ်စ်ဟ်) ပွတ်ခြင်းပိုင်၏။ အကယ်၍ ဆိုခဲ့သည့်အတိုင်းမဟုတ်ခဲ့သော် အပိုင်း အဝတ်ကိုခွါ၍ အနာပေါ်တွင်(မတ်စ်ဟ်)ပွတ်ရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ၁၊ စာမျက်နှာ- ၁၀၁။

၃၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍အဝတ်စည်းထားသောပတ်တီးတပြင်လုံးအောက်၌ အနာမရှိသော် အဝတ်ကိုဖြေ၍ အနာကိုချန်ပြီးမှ အခြားသောနေရာများကို ရေဖြင့်ဆေးကြောနိုင်က ဆေးကြောရမည်။ အကယ်၍ အဝတ်ကို မခွါနိုင်မူ စည်းထားသော အဝတ်တစ်ခုလုံးအပေါ်မှာ(မတ်စ်ဟ်)ပွတ်ရမည်။ အနာရှိသော နေရာနှင့် မရှိသော နေရာပါ (မတ်စ်ဟ်) ပွတ်ရမည်။

၃၆။ မတ်စ်အလဟ်ပြဿနာ။ အရိုး ကျိုးသွားသောအခါ ဝါးခြမ်းကလေးများဖြင့်ကြပ်စည်းရလေသည်။ ၎င်းအတွက်လည်း ဤအမိန့်ပင်ဖြစ်လေသည်။ ကြပ်စည်းကို မဖြေနိုင်မီအတွင်းကြပ်စည်းအပေါ်မှပင်လက်ဖြင့်ရေကိုသုတ်သပ်ရမည်၊ သွေးဖေါက်ထုတ်သော အနာကိုပတ်တီးစည်းထားလျှင်လည်း ဤအမိန့်အတိုင်းပင်ဖြစ်လေသည်။ အကယ်၍ အနာပေါ်တွင်(မတ်စ်ဟ်)မပွတ်နိုင်ခဲ့သော်ပတ်တီးဖြည်၍ ကျန်အဝတ်ပေါ်၌ပင်(မတ်စ်ဟ်) ပွတ်ရမည်။ ဖြည်ဖေးသူ-စည်းပေးသူမရှိခဲ့သော် ပတ်တီးအပေါ်မှပင် (မတ်စ်ဟ်)ပွတ်ရမည်။

၃၇။ မတ်စ်အလဟ်ပြဿနာ။ ပတ်တီးစည်းခြင်း၊ ကြပ်စည်းခြင်း စသည်၌ အကောင်းဆုံးမှာ- ပတ်တီးစည်းထားသော ကြပ်စည်းထားသော တပြင်လုံး အပေါ်တွင် (မတ်စ်ဟ်)ပွတ်ခြင်းဖြစ်သည်။ တပြင်လုံးမပွတ်နိုင်သော် တဝက်ထက်ပို၍ ပွတ်လျှင်လည်းပိုင်၏။ အကယ်၍ တဝက် သို့မဟုတ် တဝက်ထက်နည်း၍ ပွတ်ခဲ့သော် မပိုင်။

၃၈။မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ပတ်တီးနှင့်ကြပ်စည်းသောအရာများ ပြေကျ၍ အနာမှာ မပျောက်သေးသော် ထပ်မံစည်းနှောင်ရမည်။ ပထမ ပွတ်ထားသော (မတ်စ်ဟ်)မှာ ကြွင်းကျန်၏။ ထပ်မံ ပွတ်ရန် မလိုချေ။ အကယ်၍ အနာပျောက်သွား၍ ထပ်မံ စည်းနှောင်ရန် မလိုခဲ့သော် (မတ်စ်ဟ်) ပွတ်ထားခြင်းပျက်သွား၏။ ယခု ဤမျှခန့် နေရာတွင် ရေဖြင့်ဆေးကြော၍ နမာဇ်ဖတ်ရမည်။ ဝိုဿူ စ,ဆုံးထပ်မံပွတ်ရန်မလိုတော့ချေ။

ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၁၁၅။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း စာမျက်နှာ- ၃၄။

# ဝိုဿူကို ပျက်စေတတ်သော အရာများ အကြောင်း

၁။ မတ်အလဟ် ပြဿနာ။ ကျင်ကြီးကျင်ငယ် နှင့် လေလည်ခြင်းသည် ဝိုဿူ ပျက်၏။ သို့သော် ရှေ့လမ်းမှလေလည်သော် မပျက်၊ တစ်ရံတစ်ခါ ရောဂါသည်များ

ဤသို့ဖြစ်တတ်၏။ အကယ်၍ ရှေ့လမ်းမှဖြစ်စေ၊ နောက်လမ်းမှဖြစ်စေ တစ်စုံတစ်ခုသော ပိုးကောင်၊ သို့မဟုတ် သန်ကောင်၊ ကျွတ်ကောင်၊ ကျောက်စရစ်ခဲ စသည် ထွက်လာမှု ဝိုသွူပျက်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၄၁။
ကဗီရီကျမ်း စာမျက်နှာ - ၁၂၃။

**ရှင်းလင်းချက်။** ရှေ့ဒွါယမှ လေလည်သော် ဝိုသွူ မပျက်။

ဤအမိန့်သည် မိန်းမအားလုံး နှင့် သက်ဆိုင်သည် (မစ်ဖွါသွာတ်) မြင်းသလိုက် ရောဂါရှိသူများနှင့် မသက်ဆိုင်၊ ၎င်းရောဂါသည်နှင့်ပတ်သက်၍ ဤနေရာတွင် ဖေါ်ပြခြင်းမပြုလိုက်ပါ၊ အဘယ့်ကြောင့်ဟူမူ ကြုံကြိုက်မှု နည်းပါးသောကြောင့်တည်း။

၂။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၌အကယ်၍ အနာရှိ၍ လည်းကောင်း၊ အတွင်းမှ ပိုးကောင်များ ထွက်လာသော် လည်းကောင်း၊ သို့မဟုတ် နားတွင်းမှ ထွက်လာသော်လည်းကောင်း၊ သို့မဟုတ် အနာမှ အသားပဲ့ကျလျှင် လည်းကောင်း၊ သွေးမထွက်သော် ဝိုသွူ မပျက်ချေ။

ကဗီရီကျမ်း စာမျက်နှာ- ၁၂၃။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၂၅။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သော သူသည် သွေးထုတ်၍လည်းကောင်း၊ နှာခေါင်းသွေးယို၍လည်းကောင်း၊ ထိခိုက်မိ၍လည်းကောင်း သွေးထွက်လာသော် သို့မဟုတ် အနာစိမ်းများ သွေးစုနာများမှလည်းကောင်း၊ သို့မဟုတ် တစ်ကိုယ်လုံး၌ တစ်နေရာရာမှသွေးထွက်ခဲ့သော် သို့မဟုတ် ပြည်ထွက်ခဲ့သော်ဝိုသွူပျက်သွားတော့၏။ သို့သော် အနာဝတွင်သာရှိ၍ အပြင်သို့ထွက်မလာမှု ဝိုသွူမပျက်ချေ။

အကယ်၍ တစ်ဦးတစ်ယောက်၌ အပ်စူး၍သွေးထွက်လာ၏။ သို့သော် စီးမကျသော် ဝိုသွူမပျက်ချေ၊ အနည်းငယ်မျှခန့်ပင် စီးကျသော် ပျက်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၄၃။
ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၁၂၀။

၄။ မတ်စ်အလဟ်ပြဿနာ။ နှာညှစ်ရာတွင် သွေးခဲပါသော် ဝိုသွူ မပျက်။ သွေးသည် ကြဲ၍ စီးတွေမှသာ ဝိုသွူပျက်သည်။ မိမိ၏ နှာခေါင်းတွင် လက်ဖြင့် နှိုက်၍ ထုတ်လိုက်သောအခါ သွေး၏အကွက်မြင်ရ၏။ သို့ရာတွင် ထိုသွေးများ လက်တွင်ကပ်ရုံ မျှသာရှိ၍ စီးတွေခြင်းမရှိသော် ဝိုသွူ မပျက်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၃၄။
ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၅၂။

၅။ မတ်စ်အလဟ်ပြဿနာ။ လူတစ်ဦး၏ မျက်စိတွင်း၌ အဖုအလုံးရှိ၍ ပေါက်သွားသော် သို့မဟုတ် ကိုယ်တိုင်က ဖေါက်ပစ်လိုက်၍ ၎င်းမှ အရည်များ စီးကျလာ၍

မျက်လုံးတွင် ပြန့်သွား၏။ သို့ရာတွင် မျက်လုံးအိမ် အပြင်သို့ မထွက်လျှင် ထိုသူ၏ ဝိုသ္ဂူ မပျက်ချေ။ မျက်လုံးအိမ်အပြင်သို့ရေထွက်လာသော် ဝိုသ္ဂူပျက်၏။ ဤနည်းပင်အကယ်၍ နား၏အတွင်း အလုံးအဖူးထွက်၍ ပေါက်သွားသော် 'ဂွတ်စ်လ်' ပြုရာတွင် ထိုနေရာတိုင် ရေရောက်ရန် 'ဖွရ်သ္ဂ' မဟုတ်သော နားအခေါင်းအတွင်းနေရာ၌ဖြစ်ခဲ့သော် သွေးနှင့်ပြည် ထွက်သော်လည်း ဝိုသ္ဂူမပျက်ချေ။ သို့သော် ရေရောက်ခြင်း 'ဖွရ်သ္ဂ'ဖြစ်သော နေရာတွင် သွေးရောက်သော် ဝိုသ္ဂူ ပျက်သွား၏။ (ဒွရ်ရေ မွခ်တာရ်ကျမ်း)

ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၁၅၈။

၆။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် မိမိ၏ အနာဖူး မီးလောင်ဖူးအပေါ်တွင်ရှိသော အရည်ကို ကုတ်မိရာမှ ၎င်း၏ အောက်မှ သွေးနှင့်ပြည် မြင်ရ၏၊ သို့ရာတွင် ထိုသွေးနှင့်ပြည်သည် မိမိနေရာ၌တည်၍ အခြားဘက်သို့ စီးဆင်းခြင်း မရှိလျှင် ဝိုသ္ဂူ မပျက်၊ စီးဆင်းလျှင် ဝိုသ္ဂူ ပျက်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၄၃။
ဂွန်ယဟ်ကျမ်း စာမျက်နှာ-၁၂၈။

၇။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၏ အဖူးတွင် တွင်း နက်စွာ အနာဖြစ်နေ၏။ ၎င်းအနာမှ သွေးပြည်များသည် အနာတွင်း၌သာရှိနေ၍ အပြင် သို့ကိုယ်ပေါ်အထိ ထွက်မလာလျှင် ထိုအချိန်တိုင် ဝိုသ္ဂူ မပျက်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၄၃။
ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၁၂၈။

၈။ မတ်စ်အလဟ် ပြဿနာ။ သွေးစုနာ ဝက်ခြံစသည်မှအလိုလိုသွေးမထွက်ဘဲ ညှစ်ထုတ်သဖြင့် ထွက်လာခဲ့သော် သွေးသည် စီးဆင်းလာလျှင် ထိုအခါ၌ ဝိုသ္ဂူပျက်၏။

ရှရ်ဟွတ်တန်ဝီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ- ၂၅။

၉။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၏ အနာမှ နည်းနည်း ချင်းသွေးထွက်၏။ထိုသူကအနာပေါ်သို့မြေကြီးမှုန့်ထည့်၍သော်လည်းကောင်း၊ သို့မဟုတ် အဝတ်ဖြင့်သုတ်ပစ်၏၊ ထို့နောက် နည်းနည်းထွက်လာသဖြင့် သုတ်ပစ်ပြန်၏။ ဤနည်း အကြိမ်များစွာပြုလုပ်၍ သွေးစီးဆင်းမကျဘဲရှိ၏။ ထိုအခါ စိတ်၌ စဉ်းစားရမည်မှာ.... အကယ်၍အဝတ်ဖြင့်သုတ်မပစ်လျှင် စီးဆင်းလာမည်ဟုသိရသော် ဝိုသ္ဂူပျက်၏။ အကယ်၍ မသုတ်ဘဲ မစီးဆင်းဘဲရှိခဲ့သော် ဝိုသ္ဂူ မပျက်ချေ။

ကဗီရီကျမ်း စာမျက်နှာ- ၁၁၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် တံတွေးထွေး ရာ၌ သွေးပါလာသော်၊ အကယ်၍ တံတွေး၌သွေးအလွန်နည်းပါး၍ တံတွေးအရောင်သည် ဖြူသော် သို့မဟုတ် အဝါရောင်သန်းသော် ဝိုသ္ဂူမပျက်ချေ။ အကယ်၍သွေးက ပိုများ မည်၊ သို့မဟုတ် ထက်ဝက်စီပါရှိမည်၊ ၎င်းနောက်အနီရောင်သန်းမည်ဆိုပါကဝိုသ္ဂူပျက်၏။

ကဗီရီကျမ်း စာမျက်နှာ- ၁၂၀။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်စုံတစ်ခုသောပစ္စည်းကို သွားဖြင့်ကိုက်ဖြတ်၏။ ထိုပစ္စည်းပေါ်တွင်သွေးကွက်ထင်၏၊ သို့မဟုတ် သွားကြားထိုးရာ သွားကြားထိုးတံတွင် သွေး၏အနီရောင်မြင်ရ၏။ သို့ရာတွင် တံတွေး၌ လုံး၀ သွေးရောင်မတွေ့သော် ဝိုသွူ မပျက်ချေ။ ကာဗီရီကျမ်း စာမျက်နှာ- ၁၃။

၁၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် အနာ၌ မြှော့တွယ်စေ၍ သွေးကိုစုတ်စေ၏။ မြှော့၌သွေး ဤမျှခန့်ဝ၍သွား၏။ အကယ်၍အလယ်မှဖြတ်လိုက်လျှင် သွေးများစီးဆင်းလာသော်ဝိုသွူပျက်သွား၏။ ထိုမျှခန့်မဟုတ်ဘဲ အနည်းငယ်သာစုတ်မူ ဝိုသွူ မပျက်။ ၎င်းပြင် အကယ်၍ ခြင်သို့မဟုတ်ယင်ကောင် သို့မဟုတ်ကြမ်းပိုးများကသွေးစုတ်လျှင်ဝိုသွူမပျက်ချေ။ (ကာဗီရီကျမ်း။)

၁၃။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၏ နား၌ နားကိုက်၍ နားတွင်းမှအရည်ထွက်လာသော် ဤအရည်သည် အကယ်၍ အနာအဆာ-အဖူး-အလုံးရှိကြောင်းမသိရှိစကာမူ မသန့်ဖြစ်လေသည်။ ထိုနားတွင်းမှ အရည်များထွက်ခြင်းကြောင့် ဝိုသွူပျက်သွား၏။ မည်သည့်အခါ နားတွင်းမှ ထွက်လာသောအရည်သည် 'ဂွတ်စ်လ်' ပြုသောအခါ၌ ဆေးကြောရန် ဖွရ်သွ် ဖြစ်သောနေရာများသို့ ရောက်ရှိသော်လည်းကောင်း ထိုနည်း၎င်းပင် အကယ်၍ ချက်တွင်းမှ အရည်ထွက်၍ နာကျင်မှုလည်းရှိမူ ထိုအရည်ဖြင့်လည်းဝိုသွူပျက်၏။ ဤသို့ပင် အကယ်၍ မျက်စိနာသော်၊ မျက်စိကြိမ်းသော် မျက်ရည်ယိုစီးကျခြင်းဖြင့် ဝိုသွူပျက်၏။ မျက်စိမနာဘဲ မျက်စိမကြိမ်းဘဲ မျက်ရည်ကျဆင်းခြင်းမှာ ဝိုသွူ မပျက်ချေ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၂၇။

၁၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရင်ဘတ်(သားမြတ်)မှအရည်ထွက်၍ နာကျင်ခြင်းလည်းရှိမူ ၎င်းသည်လည်း မသန့်ဖြစ်လေသည်။ ဝိုသွူပျက်၏။ မနာကျင်ခဲ့သော် မသန့်မဟုတ်ချေ၊ ဝိုသွူလည်းမပျက်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း စာမျက်နှာ- ၂၇။

၁၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အော့အံသဖြင့် အစာ နှင့် ရည်၊ သို့မဟုတ် အစာရည် ပါရှိပြီး ပါးစပ်ပြည့်မျှအံသော် ဝိုသွူပျက်၏။ ပါးစပ်ပြည့်မအံသော် ဝိုသွူမပျက်ချေ။ ပါးစပ်ပြည့်ဟူသောအလိုမှာ ပါးစပ်တွင်း၌ခဲယဉ်းစွာချုပ်တည်းမထားနိုင်တော့ဘဲ ဘွင်းကနဲထိုးအံခြင်းကိုဆိုလိုသည်။ အကယ်၍အံရာ၌ ချွဲသလိပ်မျှသာပါသော် နည်းသည်ဖြစ်စေ၊ ပါးစပ်ပြည့်မျှအံသည်ဖြစ်စေ ဝိုသွူမပျက်ချေ။ အားလုံး တမိန့်ထည်းပင်ဖြစ်သည်။ အံရာ၌သွေးပါလျှင် အကယ်၍အရည်ကြဲ၍စီးတွေ့ခဲ့သော် နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ ပါးစပ်ပြည့်သည်ဖြစ်စေ၊ မပြည့်သည်ဖြစ်စေ၊ ဝိုသွူပျက်၏။ အကယ်၍ သွေးသည် ခဲနေ၍ အတုံးအခဲများပါ၍ ပါးစပ်ပြည့်မျှအံသော် ဝိုသွူပျက်၏။ အကယ်၍ အနည်းငယ်မျှ ဖြစ်သော် ဝိုသွူမပျက်။

ဂွန်ယဟ်ကျမ်း စာမျက်နှာ- ၄၃။
ကာဗီရီကျမ်း စာမျက်နှာ- ၁၂၇-၂၁၀။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နည်းနည်းခြင်းဖြင့် အကြိမ်များစွာ အံ၏။ သို့ရာတွင် အားလုံးပေါင်းလိုက်လျှင် တစ်ကြိမ်အံမှုမှာ နှုတ်ပြည့်မျှအံသောအခန့် ဖြစ်မူငင်း၊ အကယ်၍ တစ်ကြိမ်တည်းအံခြင်း၌ ညီမျှစွာ ကျန်နေ၍ နည်းနည်းခြင်းအံနေမှု ဝိုသွူပျက်၏။ အကယ်၍ တစ်ချိန်တည်းအောင့်အံခြင်း၌မတူညီဘဲ ပထမအောင့်အံခြင်းပျောက်သွား၍ နေကောင်းသွားပြီး တဖန်ထပ်၍ အောင့်အံခြင်းဖြစ်လာကာ အနည်းငယ်အံထွက်လာ၏။ ထို့နောက် အံချင်စိတ်ပျောက်သွား၍ တတိယအကြိမ် အစပြုကာ အံလာလျှင် ဝိုသွူ မပျက်ချေ။

ဂွန်ယတွလ်မွတ်စ်တမ်လီကျမ်း စာမျက်နှာ- ၁၂၈။

၁၇။ မတ်စ်အလဟ်ပြဿနာ။ လျောင်းလဲယင်း မျက်စိမှိတ်၍ အိပ်သွား၏။ သို့မဟုတ် တစ်စုံတစ်ခုကိုမှီယင်း ထိုင်လျက် ငိုက်မည်းအိပ်ပျော်သွား၏။ ဤမျှမေ့လျော့သွား၏။ အကယ်၍ အမှီသာမရှိလျှင် လဲကျသွားမည်ဖြစ်သော် ဝိုသွူပျက်၏။ အကယ်၍ နမာဇ်တွင်း၌ထိုင်လျက်သို့မဟုတ်ရပ်လျက်အိပ်ပျော်သွားသော်ဝိုသွူမပျက်ချေ။ အကယ်၍ 'စစ်ဂျဒဟ်'၌ အိပ်ပျော်သွားလျှင် ဝိုသွူပျက်၏။ စစ်ဂျဒဟ်တွင်အိပ်ခြင်းသည် မိန်းမများ အဖို့ ပျက်၏။ ယောကျ်ားများအဖို့ မပျက်၊ အကယ်၍ ယောကျ်ားသည် မိန်းမကဲ့သို့ လက်မောင်းပါထိ၍ အိပ်ခဲ့သော် ဝိုသွူ ပျက်၏။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း စာမျက်နှာ- ၁၀။

**ရှင်းလင်းချက်။** အလိုသဘောကား ဤသို့တည်း။ အကြင်သူသည်၊ မိန်းမများအား 'စစ်ဂျဒဟ်'ပြုရန် အမိန့်ပညတ်ရှိထားသည့်အတိုင်း မိန်းမများ စစ်ဂျဒဟ်ပြုသကဲ့သို့ပြု၏။ ၎င်းနောက် ထိုစစ်ဂျဒဟ်တွင်း၌ပင် အိပ်ပျော်သွားသော် ဝိုသွူ ပျက်သွားလိမ့်မည်။

အကယ်၍ ထိုသူသည် ယောကျ်ားများကဲ့သို့ စစ်ဂျဒဟ်ပြုယင်း အိပ်ပျော်သွား၏။ သို့မဟုတ် နမာဇ်အပြင်၌ အိပ်ပျော်သွားသော် ဝိုသွူ ပျက်သည်၊ မပျက်သည် ဟူသော ပြဿနာကျန်ရှိနေသေးသည်။ ထိုပြဿနာနှင့်ပတ်သက်၍ ဘဟာစ်ရှိတီဇေဝရ်တွင် ဖော်ပြခဲ့ခြင်း မဟုတ်ချေ။

ဘဟာစ်ရှိတီ ဇေဝရ်၏ 'မတ်စ်အလဟ်' သဘောကို သိနားလည်ပြီးနောက် ယခု ၎င်းပြဿနာ၏ (ဒလီလ်) သာဓကကို နားဆင်ကုန်လော့။

'အွမ်ဒတွရ်ရေ့ အာယဟ်' ကျမ်း၌ လာရှိသည်မှာ....

لَيْسَ عَلَىٰ مَنْ نَامَ سَاجِدًا وُضُوْءٌ حَتّٰى يَضْطَجِعَ

အသိဉာဏ်ပညာနှင့် ပြည့်စုံသောပုဂ္ဂိုလ်တစ်ဦးသည် လွယ်ကူစွာဖြင့်သိရှိနိုင်သည်မှာ နမာဇ်တွင် 'စစ်ဂျဲဒဟ်'အဖြစ်၌ အိပ်စက်ခြင်းဖြင့် ဝိုသွူ မပျက်ခြင်းသည် 'အဧဗာဒတ်'၏ အမိန့် အရ မဟုတ်ချေ။ သာမက အဆစ်အလက်၏ ပျော့ပျောင်းသွားခြင်း အကြောင်း ကြောင့်ဖြစ်လေသည်။ သို့ရှိရာ အကြင်အဖြစ်၌ အဆစ်အလက် ပျော့ပျောင်းခြင်းဖြစ်စေ လျှင် ထိုအဖြစ်သည် ဝိုသွူ ပျက်စေသည်ဟု အမိန့် ပေးရလိမ့်မည်။ အကြင်အဖြစ်သည် အဆစ်အလက်များကိုပျော့ပျောင်းခြင်းမဖြစ်စေလျှင် ထိုအဖြစ်သည် ဝိုသွူပျက်စေသည်ဟု အမိန့်မပေးနိုင်ချေ။

ဤအဆိုတွင်'စစ်ဂျဲဒဟ်'အဖြစ်ကိုလည်း အထူးပြု၍ ထည့်သွင်းဖေါ်ပြချက်မရှိပေ။ နမာဇ်တွင်း၌ 'စွန္နတ်'တော် နည်းလမ်းကိုလည်း ဖေါ်ပြခြင်းမရှိပေ။

မည်သည့်အခါ ဤအမိန့်ကို သိရှိပြီးသော် ယခုမှတ်သားရမည်မှာ မိန်းမများ၏ 'စစ်ဂျဲဒဟ်'သည် 'စွန္နတ်'တော်နှင့် အညီ ပြုလုပ်နေသည့်အခါမျိုး၌ အိပ်ပျော်သွားလျှင် အဆစ်အလက်တို့သည် ပျော့ပျောင်းသွားစေသည်၊ ဤအတွက်ကြောင့် အကယ်၍ မိန်းမ များသည်'စစ်ဂျဲဒဟ်'ပြုနေစဉ်အိပ်ပျော်သွားလျှင်ဝိုသွူပျက်သွားပေလိမ့်မည်။ ဘဟာစ်ရှိတီ ဇေဝရ်တွင် ရေးသားဘိ သကဲ့သို့ ဟူ၏၊ ၎င်းနောက် ယောကျ်ားများ'စွန္နတ်'တော်နည်း လမ်းအတိုင်း'စစ်ဂျဲဒဟ်'ပြုနေစဉ် အိပ်ပျော်သွားသော် 'စွန္နတ်'တော်နည်းလမ်း ကျန်ရှိနေ သေးသမျှကာလပတ်လုံး အဆစ်အလက်များ ပျော့ပျောင်းခြင်းမရှိသေးချေ။ ထို့ကြောင့် အကယ်၍ ယောကျ်ားများ'စစ်ဂျဲဒဟ်'တွင် အိပ်ပျော်ခြင်းဖြင့် ဝိုသွူပျက်မည်မဟုတ်ချေ။

သို့ရာတွင် မိန်းမများသည် ယောကျ်ားများကဲ့သို့'စစ်ဂျဲဒဟ်'ပြု၍ ယောကျ်ားသည် မိန်းမများကဲ့သို့ပြုလျှင် ၎င်းတို့၏အမိန့်သည် ပြောင်းပြန်ဖြစ်သွားလိမ့်မည်။

သို့ရှိလေရာ အကြင် သူသည် ဤအခြေခံ သဘောတရားကို နားလည်သွားလျှင် ထိုသူသည် အမှန်အတိုင်း အမိန့်ပေးခြင်းဖြစ်သည်။

အကြင်သူသည် ဤအခြေခံ သဘောတရားကို နားမလည်လျှင် ထိုသူသည် မိမိ ဉာဏ်မှီသမျှ အမိန့်ပေးခံခြင်း ဖြစ်လေသည်။

၁၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နမာဇ် အပြင်တွင် ထိုင်ယင်း အိပ် ပျော်သွား၏။ မိမိတင်ပါးကို ဖနောင့်ဖြင့်ဖိကာထိုင်၏၊ တံတိုင်းနှင့်တိုင်ကို မမှီဘဲရှိခဲ့သော် ဝိုသွူမပျက်ချေ။

ကဗီရီကျမ်း စာမျက်နှာ- ၈။

၁၉။ မတ်စ်အလဟ် ပြဿနာ။ ထိုင်နေစဉ် ငိုက်မည်းလာ၍ လဲကျ သွား၏။ အကယ်၍ လဲလဲချင်းမျက်စိဖွင့်လျှင်ဝိုသွူမပျက်၊ လဲကျပြီးအတော်ကြာမှ မျက်စိဖွင့်သော် ဝိုသွူပျက်သွား၏။ ၎င်းပြင် ထိုင်လျက် တောင်ယိမ်း မြောက်ယိမ်း အိပ်ငိုက်ပြီး လဲကျ မသွားလျှင်လည်း ဝိုသွူ မပျက်ပေ။

ရှာမီကျမ်းအတွဲ ၁၊ စာမျက်နှာ- ၁၂၈၊၁၄၈။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သတိလစ်မေ့သွားသော်လည်းကောင်း စိတ်နောက်၍ ဉာဏ်ပျောက်သွားသော်လည်းကောင်း ဝုဇူပျက်၏။ သတိလစ်ခြင်း နှင့် စိတ်နောက်ခြင်းမှာ ခဏခေတ္တမျှပင်ဖြစ်စေပျက်၏။ ဤနည်းပင် ဆေးရွက်ကြီး(တမ်မာကူ) စသည် မူးဝေတတ်သော ပစ္စည်းကို စားသုံးမိ၍ ကောင်းစွာ လမ်းမလျှောက်နိုင်လောက် အောင် ခြေလှမ်းမမှန်ဘဲ တောင်တစ်လှမ်း မြောက်တစ်လှမ်း လှမ်းပြီး မူးဝေခဲ့လျှင် ဝုဇူ ပျက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ - ၂၇၊၁၄၈။

၂၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နမာဇ်အတွင်း၌ ကျယ်လောင်စွာ ရယ်မောမိ၍ ကိုယ်တိုင်လည်း အသံကို ကြားရလျက် အနီးအပါးအနား ရှိသူများလည်း အားလုံးကြားရသော် ဝုဇူပျက်၏။ ၎င်းပြင်နမာဇ်လည်းပျက်၏။ အကယ်၍ မိမိကိုယ်တိုင် ကြားရသည်၊ သို့သော် အနီးအနားရှိသူများအားလုံး မကြားနိုင်၊ သို့သော် အလွန်နီးကပ် နေသောသူက ကြားရသော် နမာဇ်ပျက်၏၊ ဝုဇူမပျက်ချေ။

အကယ်၍ ရယ်မောရာ၌ သွားမျှသာပေါ်၍ အသံလုံးဝမထွက်သော် ဝုဇူလည်း မပျက်၊ နမာဇ်လည်း မပျက်ချေ။

အပျိုဘော်မဝင်သေးသော မိန်းကလေးသည် နမာဇ်အတွင်း၌ ဟားတိုက် ရယ် မောသော်လည်းကောင်း၊ သို့မဟုတ် (စစ်ဂျဒဟ်တေလာဝပ်တ်) ပြုရာ၌ မိန်းမကြီးသည် ရယ်မောသော် ဝုဇူမပျက်ပေ၊ သို့သော် ရယ်မောသောအဖြစ်နှင့်ချသော(စစ်ဂျဒဟ်တေ လာဝပ်တ်)နှင့် နမာဇ်ပျက်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၄၇။

၂၂။ မတ်စ်အလဟ်ပြဿနာ။ မိန်းမအား ယောကျ်ားက လက်နှင့် ထိကိုင် သဖြင့် လည်းကောင်း၊ စိတ်၌ တွေးတောမိ၍လည်းကောင်း အကယ်၍ ရှေ့ဘက် လမ်းမှ ရည်ထွက်လာသော် ဝုဇူပျက်၏။ ထိုရည်အား စိတ်ထကြွသော အချိန်၌ ထွက်သည်ကို (မသီ)ဟု ခေါ်လေသည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၆။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၃၉။

၂၃။ မတ်စ်အလဟ်ပြဿနာ။ မကျန်းမာသောကြောင့် ရှေ့လမ်းဘက်မှ နှာ ရည်ကဲ့သို့သော စေးကပ်သည့်အရည် ထွက်ခဲ့သော် ထိုအရည်သည် 'အဲဟ်တေ့ယားတွ' သဘောဖြင့် မသန့်ဟု ယူဆရမည်၊ ထိုသို့ထွက်လျှင် ဝုဇူပျက်၏။

ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၃၉။

၂၄။ မတ်စ်အလဟ်ပြဿနာ။ ကျင်ငယ်ရေနှင့် (မသိ) ရေစက်သည် အပေါက်တွင်းမှ အပြင်သို့ ထွက်လာ၏။ သို့ရာတွင် ဖုံးအုပ်နေသော အရေပါး၏ အတွင်း၌သာရှိသော်လည်း ဝိုသွူပျက်၏၊ အပြင်သို့ရောက်လာမှ ပျက်သည်မဟုတ်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၃၉။

၂၅။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ား၏အင်္ဂါဇာတ်နှင့်မိန်းမ၏အင်္ဂါဇာတ်ကြားတွင် တစ်စုံတစ်ခုသော အဝတ် စသည်မရှိဘဲ ထိစပ်သော်ဝိုသွူပျက်၏။ ဤနည်းပင်မိန်းမချင်း မိမိတို့ အင်္ဂါဇာတ်ချင်းထိစပ်သော် ဝိုသွူပျက်၏။ ယင်းသို့ မိန်းမချင်းပြုလုပ်ခြင်းသည် အလွန်ကြီးလေးသောအပြစ်ဖြစ်ခဲ့လသည်။ နှစ်မျိုးစလုံး တစ်စုံတစ်ရာထွက်သည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ အမိန့်တစ်မျိုးထည်း ဖြစ်လေသည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၅၁။

၂၆။ မတ်စ်အလဟ်ပြဿနာ။ ဝိုသွူပြုပြီးနောက် ခြေသည်းလက်သည်းထိုးခြင်းအနာပေါ်မှ ခြောက်နေသော အနာဖေးကို ခွါပစ်ခြင်းသည် ဝိုသွူ၌ ဘာမျှဆုံးရှုံးမှုမရှိချေ၊ ပြန်ပြုရန်လည်းမလို၊ ထိုနေရာတွင် ထပ်ဆေးကြောရန်လည်း မလိုပေ။

ဒွရ်ဓရ္ မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၉။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၅၀။

၂၇။ မတ်စ်အလဟ်ပြဿနာ။ ဝိုသွူပြုပြီးနောက် တစ်ဦးတစ်ယောက်သောသူ၏အရှက်ကို ကြည့်မိ၏။ သို့မဟုတ် မိမိအရှက်ပေါ်သွား၏၊ သို့မဟုတ် အဝတ်မဲ့ရေချိုး၏၊ အဝတ်မဲ့ပင် ဝိုသွူပြုခဲ့သော် သူ၏ဝိုသွူသည် ပိုင်၏။ ထပ်မံ၍ ဝိုသွူပြုရန် မလိုချေ။ သို့သော် အကြောင်းမဲ့ အခက်အခဲမတွေ့ဘဲ တစ်ဦး၏အရှက်ကို တစ်ဦးကြည့်ခြင်း၊ ပြသခြင်းသည် အပြစ်ဖြစ်၏၊ မကြည့်သင့် မကြည့်အပ်ပေ။

ကဗီရီကျမ်း စာမျက်နှာ- ၄၁-၄၉။

၂၈။ မတ်စ်အလဟ်ပြဿနာ။ အကြင်ဝတ္ထုပစ္စည်းသည် ထွက်လာလျှင်ဝိုသွူကို ပျက်စေ၏၊ ထိုပစ္စည်းသည်မသန့်ဖြစ်လေသည်၊ အကြင်ဝတ္ထုပစ္စည်းဖြင့် ဝိုသွူမပျက်လျှင် ထိုအရာသည် မသန့်မဟုတ်ချေ။

အကယ်၍ သွေးအနည်းငယ် ထွက်လာသော်လည်း အနာဝ၏အပြင်သို့ ယိုစီးခြင်း မရှိ၊ သို့မဟုတ်အနည်းငယ်အံ၏၊ သို့သော် နှုတ်ခံတွင်းပြည့်မဟုတ် ၎င်းအံဖတ်၌ ထမင်းနှင့်ရေ၊ အဝါရ သို့မဟုတ် ခဲနေသောသွေးစသည်ပါရှိသော် ဤအရာသည်မသန့်မဟုတ်ချေ။ အကယ်၍ အဝတ် အထည် နှင့် ကိုယ်ခန္ဓာတွင်း လူးထိသော်လည်း ဆေးကြောခြင်း 'ဝါဂျစ်ဗ်' မဟုတ်ချေ။

အကယ်၍ နှုတ်ခံတွင်းပြည့်မျှအံလျှင် ၎င်းအနာမှသွေးစီးယိုကျခြင်းတို့သည် မသန့်ဖြစ်လေသည်၊ ၎င်းတို့ကို ဆေးကြောပစ်ရန် 'ဝါဂျစ်ဗ်' ဖြစ်လေသည်။

အကယ်၍ ဤမျှခန့်အံပြီးနောက် ရေခွက်နှင့်ရေကရားကို ပါးစပ်နှင့်ထိ၍ ရေကို နှုတ်ကျင်းရန်ယူသော် ထိုခွက်သည် မသန့်ဖြစ်သွားမည်ဖြစ်၍ ရေကို လက်ခုပ်ဖြင့်ယူရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၂၆၊၁၄၅။

**ရှင်းလင်းချက်။** မူရင်းအမိန့်ကား ဤသို့ရှိ၏။ ထိုအရာကို ဆေးကြောရန် 'ဝါဂျစ်ဗ်'ဖြစ်သည်။ အကယ်၍ လက်ချောင်း စသည် တို့တွင် အနည်းငယ်မျှသွေးလူးထိသော် ၎င်းလက်နှင့်ရေကိုနှိုက်လိုမူ ထိုလက်ကို ဆေးရန် အရေးကြီးသည်၊ မဆေးကြောဘဲနှိုက်ပါက ရေသည် မသန့်ဖြစ်သွားလိမ့်မည်။ နမာဇ်နှင့် ပတ်သက်၍ ပြောရမည်ဆိုလျှင် အခက်အခဲကိုဖြေရှင်းသည့်သဘောဖြင့် (ဒရဟမ်) ဒင်္ဂါး တစ်ပြားခန့် သို့မဟုတ် ၎င်းထက်လျော့နည်းပါက ဆေးကြောရန် 'ဝါဂျစ်ဗ်' တာဝန်ကျ သွားလေလည်း။ ဘဟာစ်ရှိတီဇေဝရ် ဒုတိယတွဲ အစ မတ်စ်အလဟ် နံပါတ်-၂-တွင် အကျယ် ဖေါ်ပြထားလေသည်။

၂၉။ မတ်စ်အလဟ်ပြဿနာ။ နို့စို့ရွယ် ကလေးသည် နို့ အံချသော် ဤအမိန့်အတိုင်းဖြစ်လေသည်။ နှုတ်ခံတွင်းပြည့်မျှမဟုတ်သော်မသန့်မဖြစ်ချေ၊ နှုတ်ခံတွင်း ပြည့်မျှဖြစ်လျှင် မသန့်ဖြစ်၏၊ ၎င်းကို မဆေးကြောဘဲနမာဇ်ဖတ်လျှင် နမာဇ်မပိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၂၅-၂၆၊၁၄၂။

၃၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဝိုဇူပြုထားခြင်းကိုတော့ သတိရ ၏၊ထို့နောက်ဝိုဇူပျက်ခြင်း၊ မပျက်ခြင်းကို ကောင်းစွာသတိမရှိလျှင်ဝိုဇူကျန်သေး၏၊ ထိုဝိုဇူဖြင့် နမာဇ် ဝတ်ပြုနိုင်၏၊ သို့ရာတွင် ထပ်မံ၍ ဝိုဇူ အသစ် ပြုခြင်းက ပိုမို ကောင်း၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၂၇-၁၅၆။

၃၁။ မတ်စ်အလဟ်ပြဿနာ။ အကြွင်သူသည် ဝိုဇူပြုရာ၌ မည်သည့် အဆစ် အပိုင်းကို ဆေးပြီးလော့၊ မဆေးရသေး သလော့၊ ဒွိဟရှိသော် ထို အဆစ်အပိုင်းကို ထပ်မံ ဆေးသင့်သည်။ အကယ်၍ ဝိုဇူပြုပြီးနောက်မှ ဒွိဟ ဖြစ်လျှင် ဘာမျှ ဒွိဟမရှိ သင့်၊ ဝိုဇူမြောက်၏။ အကယ်၍ မည်သည့်နေရာကျန်နေသည်ဟု အသေအချာသိသော် ထိုနေရာကို ဆေးကြောရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ- ၂၇-၁၅၅။

၃၂။ မတ်စ်အလဟ်ပြဿနာ။ ဝိုဇူ မရှိဘဲ ကုရ်အာန်ကျမ်းမြတ်ကို ထိကိုင်ခြင်း မပိုင်၊ ကိုယ်၌ ဝတ်ဆင် ခြုံလွှမ်းထားသော အဝတ် မဟုတ်ဘဲ အခြားသော အဝတ် ဖြင့် ကိုင်တွယ်လျှင်ပိုင်၏။ ဝတ်ခြုံထားသော ပုဝါစ-ခေါင်စ-အင်္ကျီစဖြင့် ကိုင်တွယ်ခြင်း မပိုင်ချေ။ ကိုယ်၌ မဝတ်ဆင်ဘဲ ချွတ်ထားသောအင်္ကျီ စသည်ဖြင့် ကိုင်လျှင် ပိုင်၏။

ဝိုသွူမရှိဘဲနှုတ်ဖြင့် ကုရ်အာန်ဖတ်ခြင်းပိုင်၏။ အကယ်၍ ကုရ်အာန်ကျမ်းတော်ကို ဖွင့်ထား၍ ကြည့်ပြီးဖတ်ခြင်းသည် လက်ဖြင့် မထိကိုင်သော် ပိုင်၏။

ဤနည်းပင် ဝိုသွူမရှိဘဲ ကုရ်အာန် စာလုံးများ ရေးထားသော (တအ်ဝီးဇ်) လက်ဖွဲ့နှင့် ဒိုအာ ရေးထားသော ပန်းကန်ပြားကို ကိုင်တွယ်ခြင်း မပိုင်။ (ကောင်းစွာ မှတ်သားပါလေ။) ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၃၃။

# ချို့တဲ့သူများ အတွက် ခွင့်လွှတ်သော ပညတ်ချက်များ

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် နှာခေါင်းသွေးယိုရာ ဘယ်နည်းနှင့်မျှမရပ်ခဲ့သော်သို့မဟုတ်အနာမှသွေး-ပြည်ယိုစီးကျရာ ဘယ်အချိန်မှမရပ်သော်သို့မဟုတ် စီးကျသော ရောဂါဖြစ်၍ အချိန်တိုင်း တစ်စက်တစ်စက်ကျနေ၍ သန့်ရှင်းမှုဖြင့် နမာဇ် မဖတ်နိုင်သော် ထိုသို့သောသူများကို (မအ်သူရ်) အကြောင်းခံရှိသူ ချို့တဲ့သူများဟု ခေါ်လေသည်။

၎င်းတို့ အဖို့ အမိန့်မှာ နမာဇ်ချိန်တိုင်းတွင် ဝိုသွူ ပြုရမည်။ အချိန် ရှိသေးသည် အတွင်း ထိုသူ၏ ဝိုသွူသည် ကြွင်းကျန်လျက် ရှိအံ့။ သို့သော် မိမိ ဖြစ်ပေါ်နေသော ဝေဒနာမှအပ ဝိုသွူပျက်စေတတ်သော အခြားကိုစ္စ ဖြစ်ပေါ်လျှင် ဝိုသွူ ပျက်သွားအံ့။ တဖန် ပြန်၍ ပြုရမည်။ ဥပမာ.... လူတစ်ဦးသည် နှာခေါင်းသွေး ယိုလာရာ ဘယ်နည်းနှင့်မျှ မရပ်တန့်ဘဲရှိ၏။ သူသည် 'ဇွုဟ်ရ်'အချိန်တွင် ဝိုသွူပြုလိုက်၏။ 'ဇွုဟ်ရ်' ချိန် ရှိနေသမျှ အတွင်း နှာခေါင်းသွေး ယိုသောကြောင့် သူ့မှာ ဝိုသွူ မပျက်ချေ။ သို့သော် ကျင်ကြီးကျင်ငယ် သွား၍သော်လည်းကောင်း အပ်စူး၍ သွေးထွက်လာသော်လည်းကောင်း ဝိုသွူပျက်သွား၏။ ထပ်၍တဖန် ဝိုသွူ ပြုရမည်။ 'ဇွုဟ်ရ်'ချိန် ကုန်လွန်သွား၍ အခြားနမာဇ်ချိန်သို့ ရောက်လာသော် ယခု ဒုတိယအချိန်၌ ဒုတိယဝိုသွူ ပြုရမည်။ ဤနည်း နမာဇ်ချိန်တိုင်း၌ဝိုသွူပြုရလေသည်။ ထိုဝိုသွူဖြင့် ဖွရ်သွ် ဖြစ်စေ၊ နဖ်လ်ဖြစ်စေ မည်သည့်နမာဇ်မဆို ဖတ်နိုင်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၃။
ရှရ်ဟ္ဝဟ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၁၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ထိုချို့တဲ့သူသည် 'ဖွဂ်ျရ်'ချိန်တွင် ဝိုသွူ ပြုထားသော် နေထွက်ပြီးလာပြီးနောက် ထိုဝိုသွူဖြင့် နမာဇ်မဖတ်နိုင်၊ ဒုတိယအကြိမ်ဝိုသွူထပ်ပြုရမည် ဖြစ်လေသည်။

၎င်းပြင် နေ ထွက် ပြီး မှ ဝိုသွူပြုရာ ထိုဝိုသွူဖြင့် 'ဇွုဟ်ရ်' နမာဇ်ကို ဖတ်ခြင်း ပိုင်လေသည်။ ဇွုဟ်ရ်ချိန်၌ ဝိုသွူအသစ် ထပ်မံပြုရန်မလိုချေ။ 'အတ်စွ်ရ်'ချိန်သို့ရောက်

လာသော် ထိုအခါ၌ ဝိုသ္ဍူအသစ် ထပ်မံ ပြုလုပ်ရလိမ့်မည်။ အကယ်၍အခြားအကြောင်း တစ်ခုခုကြောင့် ပျက်ခဲ့သော် ဤအရာမှာ အခြားအကြောင်းကြောင့်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၅၃။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၆၇။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၌ အနာပေါက်၍ အမြဲပင် သွေးပြည်ယိုစီးနေ၏၊ ထိုသူကဝိုသ္ဍူပြု၏။ ထို့နောက် အခြားအနာ ပေါ်လာပြန်၍ ယိုစီးပြန်သော် ဝိုသ္ဍူပျက်၏။ ထပ်မံပြုရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၅၃။
ရှရ်ဟွတ်တနဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၂၁၆။

၄။ မတ်စ်အလဟ်ပြဿနာ။ လူတစ်ဦးသည်(မအ်သူရ်)ချို့တဲ့ မစွမ်းသူအဖြစ် ထိုအခါမှ ဖြစ်နိုင်သည်။ ဤအမိန့်ကို ထိုအခါမှ ပေးခြင်းခံရမည်မှာ အနာမှသွေးသည် အချိန်မလပ် ယိုစီးလျှက် မနားဘဲရှိနေမည်၊ ထိုအချိန်၏ နမာဇ်ကို သန့်ရှင်းမှုဖြင့်ဖတ်နိုင်ရန် အချိန်ကလေးမျှ မရသောအခါမျိုး၌ ဖြစ်လေသည်။

အကယ်၍ သန့်ရှင်းမှုဖြင့် နမာဇ်ဖတ်ရန် အချိန်မျှခန့်ရခဲ့သော် ထိုသူကို(မအ်သူရ်) ဟူ၍ မခေါ်ချေ၊ အထက်ပါအမိန့်သည် ထိုသူအပေါ်၌ မသက်ရောက်ပေ။

အချိန်တစ်ခုလုံးတွင် သန့်ရှင်းမှုဖြင့် နမာဇ်ကိုဖတ်ရန် လုံးဝမရှိခဲ့သော် ဤသူသည် (မအ်သူရ်)ဖြစ်သွား၏။ ယခု ထိုသူ၏အဖို့ နမာဇ်ချိန်တိုင်းအတွက် ဝိုသ္ဍူအသစ် ထပ်မံ ပြုရန် အမိန့်သက်ရောက်လေသည်။ ထို့နောက် ဒုတိယအချိန်ရောက်လာသော် တစ်ချိန်လုံး အစဉ်မပြတ် သွေးစီးကျရန် သတ်မှတ်ချက်မရှိချေ၊သာမက နမာဇ် တစ်ချိန်လုံးအတွင်း၌ သွေးတစ်ကြိမ်တည်းသာ ထွက်လာလျှင် ကျန်တစ်ချိန်လုံး ရပ်စဲနေလျှင်လည်း (မအ်သူရ်) အဖြစ်၌တည်ရှိ၏။ အကယ်၍ ၎င်း၏နောက် အချိန်ပိုင်းတစ်ခုလုံးမှာ လုံးဝ သွေးထွက် မလာဘဲရှိမူ ယခု(မအ်သူရ်)မဟုတ်တော့ချေ။ သူ့အဖို့ အမိန့်မှာ သွေးမည်မျှအကြိမ်ထွက်သည်ဖြစ်စေ ဝိုသ္ဍူပျက်၏၊ ကောင်းစွာမှတ်သားပါလေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ ၁၊ စာမျက်စာ-၄၁။
အာလမ်ဂီရီကျမ်း အတွဲ ၁၊ စာမျက်နှာ- ၄၁။

၅။ မတ်စ်အလဟ်ပြဿနာ။ ဇွဟ်ရ်ချိန်ပိုင်းရောက်လာ၍ ထိုအချိန်တွင် အနာစသည်မှ သွေးယိုစီးခြင်း စတင်လာမူ နောက်ဆုံးအချိန်ထိ စောင့်ဆိုင်းပါလေ၊ အကယ်၍ ထွက်ခြင်း ရပ်သွားလျှင်ရပ်၊ မရပ်ခဲ့သော် ဝိုသ္ဍူပြု၍ နမာဇ်ဖတ်ရမည်။

နောက်ဆုံးအချိန်ဆိုသည်မှာ....ဝိုသ္ဍူပြု၍ ဖွရ်သွ် နမာဇ် ဖတ်နိုင်စေရမည်။

ထို့နောက် အတ်စွ်ရ်ချိန်တစ်ခုလုံး၌ ဤနည်း ယိုစီးလျှက် ရှိသဖြင့် နမာဇ်ဖတ် ချိန်မရခဲ့သော် ယခုအတ်စွ်ရ်ချိန် ကျော်လွန်သွားပြီးနောက် (မအ်သူရ်) အဖြစ် အမိန့် သက်ရောက်လေသည်။

အတ်စွ ိရ်ချိန်တွင်(မတ်က်ရှူးဟ်မဖြစ်မှီအချိန်ထိသာစောင့်ဆိုင်းခွင့်ရှိသည်၊ မတ်က်ရှူးဟ်ချိန် မရောက်မီ သွေးမရပ်ပါက ဝိုသွူပြု၍ နမာဇ်ဖတ်ရမည်။)

အကယ်၍ အတ်စွ ိရ်ချိန် အတွင်း၌ သွေးတိတ်သွားမူ ထိုသူသည် (မအ်သူရ်) မဟုတ်ချေ၊ ထိုအချိန်အတွင်း၌ ဖတ်ခဲ့သောနမာဇ်များသည် မပိုင်သဖြင့် တဖန် ထပ်မံ၍ ဖတ်ရမည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၁၃၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၃၁၄၊

၆။ မတ်စ်အလဟ်ပြဿနာ။ ဤသို့သော (မအ်သူရ်)က ကျင်ကြီး, ကျင်ငယ် ကြောင့် ဝိုသွူပြု၏။ ထိုဝိုသွူပြုနေသောအချိန်၌ သွေးကတိတ်နေ၏၊ ဝိုသွူပြုပြီးမှ သွေးက ထွက်လာပြန်သည်။ ထိုသွေးထွက်ခြင်းကြောင့် ဝိုသွူပျက်သွားပြန်၏။

သို့သော် အကြင် ဝိုသွူသည် နှာခေါင်းသွေး ယိုခြင်း၊ စသည်အတွက်ကြောင့် ပြုလုပ်ခဲ့ရာ နှာခေါင်းသွေးယိုခြင်းဖြင့် မပျက်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဤသွေး စသည် တို့သည် အဝတ် အထည်၌ လူးထိခဲ့သော် ကြည့်ရမည်မှာ အကယ်၍ နမာဇ်ကို အပြီးမသတ်မီပင် ထပ်မံ၍ လူးထိမည်ဖြစ်သော် ၎င်းကိုဆေးကြောခြင်း၊ 'ဝါဂျစ်ဗ်' မဟုတ်၊ အကယ်၍ ဤမျှခန့် လူးထိခြင်း မမြန်ဘဲ နမာဇ်ကို သန့်ရှင်းစွာဖတ်နိုင်လိမ့်မည်ဟု ယူဆသော် ဆေးကြောပစ် လိုက်ခြင်း 'ဝါဂျစ်ဗ်'ဖြစ်၏။ အကယ်၍ ငွေဒင်္ဂါး တစ်ကျပ်ပြားခန့်ထက်ပို၍ လူးထိလျှင် မဆေးကြောဘဲ နမာဇ် မပိုင်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၁၅။

## ဂွတ်စ်လ် ရေချိုးခြင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရေချိုးသော အမျိုးသမီးသည် ပထမဦးဆုံး လက်ကောက်ဝတ်အထိဆေးရမည်။ ထို့နောက် ကျင်ငယ်သွားသောနေရာကို ဆေးရမည်၊ လက်နှင့် ကျင်ငယ်သွားသော နေရာကို မသန့်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ဘယ်အခါ မဆို ထိုနှစ်ခုကို ပထမဆုံး ဆေးကြောရမည်။

ထို့နောက် ကိုယ်ခန္ဓာ၌ မသန့်လူးထိသော နေရာများကို သန့်စင်အောင် ဆေး ရမည်၊ ထို့နောက် ဝိုသွူပြုရမည်။

အကယ်၍ တစ်စုံတစ်ခုသော ခုံ- ခုတင်- ကျောက်ပြားပေါ်တွင် ဂွတ်စ်လ်ပြုလုပ်ခဲ့ သော် ဝိုသွူပြုသော အချိန်၌ ခြေထောက်ကိုလည်း ဆေးကြောရမည်။

အကယ် ၍ခြေထောက်ကို ရေနစ်နေမည့် နေရာဖြစ်ခဲ့သော် 'ဂွတ်စ်လ်' ပြု၍ ပြီးမှသာ ခြေနှစ်ဘက်ကို ဆေးရမည်ဖြစ်၍ ဝိုသွူကို အားလုံး ပြုရမည်။ သို့သော် ခြေနှစ်ဘက်ကို မဆေးလင့်၊ ချန်ထားရမည်။

ဝိုသွူပြုပြီးနောက် မိမိဦးခေါင်းထက်တွင် ရေသုံးကြိမ်လောင်းရမည်၊ ထို့နောက် ညာဘက်ပခုံးပေါ်သို့ ရေသုံးကြိမ်၊ ထို့နောက် ဝဲဘက်ပခုံးပေါ်သို့ ရေသုံးကြိမ် လောင်းရမည်။ ဤနည်းဖြင့် တကိုယ်လုံး ရေကောင်းစွာ စီးကျစေရမည်။

ထို့နောက် ထိုနေရာမှရွှေ့ပြောင်း၍ သန့်သောနေရာတွင်လာရမည်၊ ထို့နောက် ခြေနှစ်ဘက်ကို ဆေးရမည်၊ အကယ်၍ ဝိုသွူ၏ အပြီးတွင် ခြေဆေးခဲ့ပြီးဖြစ်လျှင် ယခု ထပ်မံဆေးရန် မလိုတော့ချေ။ (ဂွတ်စ်လ်ပြုရာတွင် သန့်ရှင်းမှုအတွက်ဟူ၍ နိယတ်ပြုရမည်၊ နိယတ်မပြုခဲ့သော် ကုသိုလ်သဝါဗ်မရ၊ ဂွတ်စ်လ်တော့ပိုင်၏။)

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၁၆၁။

၂။ မတ်စ်အလဟ် ပြဿနာ။ ပထမ ခန္ဓာကိုယ် တစ်ခုလုံးအား ကောင်းမွန်စွာ လက်နှင့် ပွတ်သပ်ပြီး ရေလောင်းချိုးရမည်။ သို့မှသာ အချို့နေရာတွင် ခြောက်သွေ့ ကျန်မနေရစ်ဘဲ နေရာအနှံ့ ရေရောက်မည်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၁၈။

၃။ မတ်စ်အလဟ် ပြဿနာ။ ကျွန်ုပ် ယခု အကြောင်းပြုခဲ့သော ရေချိုးနည်းသည် 'စွန္နတ်တော်နှင့်အညီဖြစ်လေသည်။' ထိုအနက်အချို့မှာ ဖွရ်သွ် ဖြစ်၍ ၎င်းအချက်များ မပါဝင်လျှင် ဂွတ်စ်လ် မပိုင်ချေ၊ လူသည် မသန့်ဘဲရှိမည်။

အချို့သောအချက်များမှာ 'စွန္နတ်' ဖြစ်လေသည်။ ၎င်းတို့ကိုပြုလုပ်လျှင် ကုသိုလ်ရ၏။ မပြုလုပ်လျှင်လည်း ဂွတ်စ်လ်တော့ မြောက်သွား၏။ ဂွတ်စ်လ်မှာ ဖွရ်သွ် သုံးခုသာ ရှိသည်။

(၁) ပါးစပ်တွင်း၌နှံ့စပ်စွာနေရာအနှံ့ အပြားရေရောက်အောင် ပလုပ်ကျင်းခြင်း၊ (၂) နှာခေါင်း၏အတွင်းရှိ နှာနုတိုင်အောင် ရေသွင်းရှုခြင်း၊ (၃)တစ်ကိုယ်လုံး စွတ်စိုအောင် ရေရောက်စေခြင်း။ ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၃၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ဂွတ်စ်လ်ပြုသောအခါ (ဝတ်လစ်စလစ်အဖြစ်၌) ကစ်ဗ်လဟ် ဘက်သို့ မျက်နှာမပြုရ၊ ရေကို အလွန်အမင်း မလောင်းရ၊ ဂွတ်စ်လ်ကို ကောင်းစွာမနှံ့စပ်အောင် နည်းနည်းလည်းမလောင်းရ၊ ရေကို မည်သူမျှ မမြင်နိုင်သော နေရာတွင်ချိုးရမည်၊ ရေချိုးသောအခါ စကားမပြောရ၊ ရေချိုးပြီးနောက် မိမိကိုယ်ကို ရေသုတ်ဘက်ဖြင့်သုတ်၍ ကိုယ်ခန္ဓာကို လျှင်မြန်စွာ အဝတ်ဖြင့်ဖုံးအုပ်ရမည်၊ အဘယ် မျှတိုင် ဟူမူ အကယ်၍ ဝိုသွူပြုသောအချိန်က ခြေနှစ်ဘက် မဆေးခဲ့ရသေးလျှင် ရေချိုးသောနေရာမှ တစ်နေရာသို့ ပြောင်း၍ ပထမ မိမိကိုယ်ကို အဝတ်ဖုံးအုပ်၍ ထို့နောက်မှ ခြေနှစ်ဘက်ကိုဆေးရမည်။ မွန်ယဟ်ကျမ်း စာမျက်နှာ- ၁၈၊ ၁၉။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်ထည်းသာရှိသော နေရာဖြစ်၍ ထိုနေရာ၌ မည်သူမျှ ကြည့်မြင်နိုင်သူမရှိခဲ့သော်တိုင်းလုံးချွတ်၍ ရေချိုးခြင်းလည်း ပိုင်၏။ ရပ်ချိုးလိုကချိုး၍၊ ထိုင်ချိုးလိုက ချိုးနိုင်သည်။ ရေချိုးခန်းသည် အမိုးရှိသည် ဖြစ်စေ၊ မရှိသည်ဖြစ်စေ ချိုးနိုင်သည်။

သို့ရာတွင် ထိုင်၍ချိုးခြင်းသည် သာ၍ပို၍ကောင်း၏၊ အဘယ့်ကြောင့်ဟူမူ ထိုသို့ ချိုးခြင်း၌ လုံခြုံမှု ပို၍ရှိ၏။

ၹင်းပြင် ချက်မှစ၍ ဒူးအောက်အထိ အခြားသော မိန်းမများ၏ရှေ့တွင် ကိုယ်ခန္ဓာကို ဖွင့်လှစ်ခြင်း အပြစ်ဖြစ်၏။

များစွာသော မိန်းမများသည် အခြားသော မိန်းမများ၏ရှေ့တွင် လုံးဝ အဝတ်မပါဘဲ ရေချိုးတတ်ကြ၏၊ ဤအလုပ်မှာ အလွန်ဆိုးသွမ်းသော အလုပ်ဖြစ်၍ အရှက် ဣန္ဒြေ ကင်းမဲ့ခြင်း ဖြစ်လေသည်။

(အရေးကြီးသော အချိန်အခါမျိုးတွင် အမျိုးတူချင်း အရှက်ကို ကြည့်နိုင်သည်၊ သို့မဟုတ်က မပိုင်။)

ရှာမီကျမ်း အတွဲ-၁၊၊ စာမျက်နှာ-၁၆၀။
မရာကင်လ်ဖလာဟ်ကျမ်း စာမျက်နှာ-၅၇။

၆။ မတ်စ်အလဟ်ပြဿနာ။ မည်သည့် အခါ တစ်ကိုယ်လုံးပေါ်သို့ ရေကျရောက်၍ နှုတ်ကျင်းခြင်း ရေရှူခြင်းပြုလျှင် ဂွတ်စ်လ် အထမြောက်သွား၏၊ ဂွတ်စ်လ်ပြုရန် ရည်ရွယ်ချက်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ဂွတ်စ်လ် မြောက်၏။

အကယ်၍ မိုးရွာသောအချိန်တွင် အေးမြရန်သဘောဖြင့် ရပ်လျက်နေ၏၊ သို့မဟုတ် ချောင်း၊ ကန်၊ စသည်တို့တွင်လိမ့်ကျသွား၍ တစ်ကိုယ်လုံး စွတ်စိုသွား၏။ နှုတ်ကျင်းခြင်း ရေရှူခြင်းလည်း ပြုလုပ်လိုက်မူ ဂွတ်စ်လ် အထမြောက်သွားလေသည်။

ဤနည်း ဂွတ်စ်လ်ပြုသောအချိန်၌ ကလေမဟ်ဖတ်ခြင်း သို့မဟုတ် ဖတ်ပြီး ရေကို မှုတ်ခြင်းသည်လည်း မလိုအပ်ပေ။ ကလေမဟ်ဖတ်လိုကဖတ် မဖတ်လိုကနေ၊ အခါမရွေး လူသည် သန့်ရှင်းသွားပေမည်၊ သာမက ရေချိုးသော အချိန်တွင် ကလေမဟ်ကို ဖြစ်စေ အခြားသော ဒိုအာကိုဖြစ်စေ မဖတ်ရွတ်လျှင် ပို၍ကောင်း၏။ ထိုအချိန်၌ ဘာမျှ ဖတ်ရွတ်ခြင်းမပြုရ၊ ဤသို့သောအချိန်တွင် ကလေမဟ်ဖတ်ခြင်း၊ သို့မဟုတ် ဖတ်၍ ရေကို မန်းမှုတ်ခြင်း အာထူးသဖြင့် ဤသို့သောအခါမျိုးတွင် သဝါဗ် ကုသိုလ်ဟု မှတ်ယူခြင်းသည် 'ဗိဒအာတ်'ဖြစ်သည်။

မွန်ယတွလ်မိုစွာလ်လီကျမ်း စာမျက်နှာ-၁၅။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ကိုယ်လုံး၌ ဆံတစ်ပင်ခန့်မျှပင် တနေရာရာ၌ ခြောက်သွေ့ကြွင်းကျန်နေရစ်လျှင် ဂွတ်စ်လ် မမြောက်ချေ။ ဤနည်းပင် ဂွတ်စ်လ်ပြုရာ၌ နှုတ်ကျင်းရန် မေ့သွားသော်လည်းကောင်း၊ နှာခေါင်း၌ ရေရှူရန် မေ့သွားသော်လည်းကောင်း ဂွတ်စ်လ် မမြောက်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၄၊၁၈။

၈။ မတ်စ်အလဟ်ပြဿနာ။ ရေချိုးပြီး နောက်မှ ရေမရောက်ဘဲ ခြောက်သွေ့ကျန်နေရစ်သော နေရာကို သတိရလျှင် တဖန်ပြန်၍ ရေချိုးခြင်း ဝါဂျစ်ဗ် မဟုတ်ချေ၊ သာမက ခြောက်သွေ့ကျန်ရစ်သော နေရာကို ရေလောင်း ဆေးကြောရမည်၊ သို့သော် လက်နှင့် ပွတ်ရုံသပ်ရုံဖြင့် မလုံလောက်ပေ၊ ရေအနည်းငယ် ထိုနေရာသို့လောင်းပေးရမည်။ ပါးလုပ်ကျင်းရန် မေ့ကျန်ရစ်သော် ယခုကျင်းပါလေ၊ နှာခေါင်း၌ ရေမရှူခဲ့ရသော် ယခုရှူပါလေ၊ မလုပ်ရသေးဘဲ ကျန်သမျှ ယခုလုပ်ပါလေ၊ ထပ်မံပြီး ဂွတ်စ်လ် အသစ် ပြုရန်မလိုအပ်တော့ပေ။ မွန်ယဟ်ကျမ်း စာမျက်နှာ-၁၄၊၁၈။

၉။ မတ်စ်အလဟ်ပြဿနာ။ ရောဂါတစ်စုံတစ်ခုကြောင့် ခေါင်းပေါ်တွင်ရေ လောင်းလျှင်ဆုံးရှုံးနစ်နာမည်ဖြစ်လျှင် ခေါင်းကိုမလောင်းဘဲ တစ်ကိုယ်လုံးစွတ်စိုအောင် ချိုးရမည်၊ ဂွတ်စ်လ်ပိုင်၏၊ သို့ရာတွင် ရောဂါပျောက်ကင်းသွားလျှင် ခေါင်းဆေးပစ် ရမည်၊ တဖန်ပြန်၍ ရေချိုးရန် မလိုအပ်ပေ၊

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၉။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ကျင်ငယ်ထွက်သော နေရာ၏ ရှေ့ပိုင်း အရေ ပြားအတွင်း ရေသွင်းခြင်းသည် ဂွတ်စ်လ် ပြုရာ၌ (မိန်းမတို့မှာ) ဖွရ်သွ် ဖြစ်လေသည်။ အကယ်၍ ရေမရောက်လျှင် ဂွတ်စ်လ် မမြောက်ချေ။

ယောကျ်ားများမှာလည်း 'ခတ္တနာ' မပြုရသေးသော် ဤအမိန့်အတိုင်းပင် ဖြစ် သည်၊ လိင်၏အရေပြားကို ဖွင့်ရန် မခဲယဉ်းလျှင် ဖွင့်၍ ရေဆေးခြင်း ဖွရ်သွ်ဖြစ်သည်၊ အကယ်၍ ဖွင့်ရန် ခဲယဉ်းမူ ဖွရ်သွ် မဟုတ်ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၇။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အကြင်မိန်းမ၏ ဆံပင်သည် ကျစ် မထားလျှင် ဆံပင် အားလုံးအား ရေစွတ်စိုခြင်း၊ ဆံမြစ် အားလုံးသို့ ရေရောက်စေခြင်း ဖွရ်သွ်ဖြစ်၏။

ခြောက်သွေ့သော ဆံတစ်ပင်ခန့်မျှကျန်နေရစ်သော် ဆံတစ်ပင်၏ အမြစ်တွင် ရေ မရောက်ဘဲ ကျန်နေသော် ဂွတ်စ်လ် မမြောက်ချေ။ အကယ်၍ ဆံပင်ကို ကျစ်ထားလျှင် ဆံပင်များကို ရေစွတ်စိုခြင်းမှခွင့်လွှတ်၏။ (မှတ်ချက်။ ဤအမိန့်သည် မိန်းမများအတွက် သာ ဖြစ်လေသည်။ အကယ်၍ ယောကျ်ားများတွင် ဆံပင် ရှည်သော် ၎င်းဆံပင် ကျစ် ထားသော် ခွင့်မပြုချေ။ ဖြည့်၍ အားလုံးသောဆံပင်ကို ရေစွတ်စိုစေခြင်း ဖွရ်သွ်ဖြစ် လေသည်။)

ဆံပင်မြစ်ရင်းတွင် ရေရောက်စေခြင်းမှာ 'ဖွရ်သ္' ဖြစ်လေသည်။ ဆံပင်အမြစ် တစ်ခုမှ ခြောက်သွေ့ခြင်းမရှိစေရ၊ အကယ်၍ ဆံကျစ်ကို မဖြည်ဘဲ ဆံပင်မြစ်ရင်း၌ ရေ မရောက်နိုင်သော် ဖြည်၍ ဆံပင်များကို ရေစွတ်စိုစေရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၂။

၁၂။ မတ်စ်အလဟ် ပြဿနာ။ နှာသီး-နားသံသီး-နားကွင်း-နားတောင်း-နားကပ်-လက်စွပ် စသည်တို့ကို ကောင်းစွာလှည့်ပတ်ပေးရမည်။ ရေသည် အပေါက်အတွင်းသို့ ရောက်စေရမည်၊ နားကွင်းများ ဝတ်ဆင်မထားသော်လည်း နားပေါက် အတွင်းသို့ ရေရောက်ရှိရန် ရည်ရွယ်ပြီး သွင်းပေးရမည်၊ ရေမရောက်သဖြင့် ဂွတ်စ်လ် အထမမြောက် ခြင်း မဖြစ်စေသင့်၊ အကယ်၍ လက်စွပ်နှင့်နားကွင်း စသည်များသည် ကျယ်၍ မလှည့်သော်လည်း ရေရောက်နိုင်မည် ဆိုက လှည့်မပေးခြင်း ဝါဂျစ်ဗ် မဟုတ်၊ သို့သော်လည်း လှည့်ပေးခြင်းသည် ယခုလည်း'မွတ်စ်တဟာဗ်'ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၆။

ရှာမီကျမ်း အတွဲ၁၊ စာမျက်နှာ-၁၆၀။

၁၃။ မတ်စ်အလဟ် ပြဿနာ။ လက်သည်းတွင်း၌ ဂျုံမှုန့်ကပ်၍ ခြောက်သွေ့ နေခဲ့သော် ၎င်း၏ အောက်သို့ ရေ မရောက်သဖြင့် ဂွတ်စ်လ် မမြောက်ချေ၊ သတိရသော အချိန်တွင် ဂျုံမှုန့်ကပ်နေသည်ကို မြင်လျှင် ၎င်းကိုခွါပစ်၍ ရေလောင်းရမည်၊ ရေမဆေး ရမီအလျင် တစ်စုံတစ်ခုသောနမာဇ်ကို ဖတ်မိပါက၊ ထိုနမာဇ်ကို ပြန်လည်ဖတ်ရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၃၊၁၇။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ခြေ၊လက် ကွဲအက်၍ ၎င်းအတွင်းသို့ ဖယောင်း အဆီ ဖြစ်စေ၊ အခြား ဖယောင်းချက် စသည်ဖြစ်စေ သုတ်လူးထားသော် ၎င်းအပေါ်မှ ရေလောင်းခြင်း ပိုင်၏။ မွန်ယဟ်ကျမ်း စာမျက်နှာ-၁၃၊၁၇။

၁၅ ။မတ်စ်အလဟ် ပြဿနာ။ နားတွင်း နှင့် ချက်တွင်းသို့လည်း ဂရုတစ်စိုက် ရေရောက်ရှိစေရန် အရေးကြီးသည်၊ ရေမရောက်သော် ဂွတ်စ်လ် မမြောက်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၇။

၁၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရေချိုးစဉ် နှုတ်မကျင်းမိ၊ သို့သော် ရေကို ပါးစပ်ပြည့်မျှ ငုံ၍ သောက်လိုက်ရာ၊ ပါးစပ်တွင်း ရေအနှံ့ ရောက်လျှင်လည်း ဂွတ်စ်လ် မြောက်၏။ အဘယ့်ကြောင့်ဟူမူ လိုရင်းချက်မှာ ပါးစပ်အတွင်း နှံ့စွာ ရေ ရောက်ရန်ဖြစ်လေသည်။ နှုတ်ကျင်းသည်ဖြစ်စေ၊ မကျင်းသည်ဖြစ်စေ အကြောင်းမဟုတ်၊ အကယ်၍ ဤနည်းပင် ရေသောက်၍ ပါးစပ်တွင်း နှံ့စပ်စွာ ရေမရောက်သော် ယင်းသို့ သောက်ရုံဖြင့်မလုံလောက်ချေ၊ထပ်မံပလုပ်ကျင်းရမည်ဖြစ်သည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၇။

၁၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဆံပင်များ၌သော်လည်းကောင်း၊ ခြေလက်များ၌သော်လည်းကောင်း ဆီလိမ်းထားသဖြင့် ကိုယ်ပေါ်တွင် ရေကောင်းစွာ မတင်ဘဲ ကျကျခြင်းလျောဆင်းသွားသော် ဘာမျှကိစ္စမရှိချေ၊ မည်သည့်အခါ တစ်ကိုယ်လုံးနှင့် တစ်ခေါင်းလုံးအပေါ်တွင် ရေလောင်းချိုးပြီးဖြစ်၍ ဂွတ်စ်လ် အထမြောက်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။

၁၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သွားကြား၌ ကွမ်းသီးစိပ် စသည်များ ညှပ်နေလျှင် ၎င်းကို သွားကြားထိုးတန်ဖြင့် ကော်ထုတ်ပစ်လိုက်ရမည်၊ အကယ်၍ ထိုအရာရှိခြင်းကြောင့် သွားများ၏အကြားတွင် ရေမရောက်ခဲ့သော် ဂွတ်စ်လ် မမြောက်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၁၃၊၁၇။

၁၉။ မတ်စ်အလဟ်ပြဿနာ။ နှဖူးပေါ်တွင် ရွှေပြား-ရောင်ပြားများ ကော်စေးဖြင့် ကပ်ထား၏။ သို့မဟုတ် ဆံပင်များတွင် ကော့စမစ်တစ် စသည် ကပ်ထားရာ ၎င်းကို ကောင်းစွာ ရေမနူးလျှင် ကော့စမစ်တစ်ကိုသုတ်သင်ပစ်ရမည်၊ ထို့နောက် ဆေးကြောပစ်ရမည်၊ အကယ်၍ ကော့စမစ်တစ်၏ အောက်ပိုင်းတွင် ရေမရောက်ဘဲ အပေါ်ရန်သာ ရေသည် စီးကျသွားသော် ဂွတ်စ်လ် မမြောက်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၃။

၂၀။ မတ်စ်အလဟ်ပြဿနာ။ သွားတိုက်ဆေးသည် ခဲနေ၍ သွား၌ကပ်နေမူ ၎င်းအား ခွါပစ်၍ ပလုပ်ကျင်းရမည်။ သို့မဟုတ် ဂွတ်စ်လ် မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၃။

၂၁။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူတွင် မျက်စိ နာ၍ မျက်စိတွင်းမှ မျက်ချေးများစွာထွက်ပြီး ခြောက်နေရာ ၎င်းကို ခွါမပစ်လျှင် မျက်စိ၏ ထောင့်တွင်းသို့ ရေမရောက်ဘဲနေမည်ဖြစ်လျှင် ယင်းမျက်ချေးများကိုခွါပစ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ ၎င်းကိုခွါမပစ်လျှင် ဝိုဇူမပိုင်၊ ဂွတ်စ်လ်လည်း မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၅၉၊၇၃။

# ဂွတ်စ်လ် ထိုက်သော အရာများ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အိပ်စက်နေစဉ်ဖြစ်စေ၊ နိုးကြားလျက်နေစဉ်ဖြစ်စေ ပျို့ရွယ်သူတို့အရှိန်ဖြင့် (မနီ) သုက်ရည်ထွက်လာသော် ဂွတ်စ်လ်ရေချိုးရန် ဝါဂျစ်ဗ် ထိုက်၏။

ယောကျ်ား၏လက်ဖြင့် ထိကိုင်၍ဖြစ်စေ၊ စဉ်းစားတွေးတောရုံဖြင့် ဖြစ်စေ အခြားနည်းဖြင့် ဖြစ်စေ သုက်ရည် ထွက်လာပါက ဘယ်အခါမဆို ဂွတ်စ်လ် ပြုရန် ဝါဂျစ်ဗ် ထိုက်၏။ မွန်ယဟ်ကျမ်းစာမျက်နှာ-၁၀၊၁၄။

၂။ မတ်စ်အလတ်ပြဿနာ။ အကယ်၍ မျက်စိ ဖွင့်ကြည့်လိုက်သော အခါ အဝတ်ပေါ်တွင်ဖြစ်စေ၊ ကိုယ်ပေါ်တွင်ဖြစ်စေ သုက်လုးထိနေသည်ကိုမြင်ရလျှင် ဂွတ်စ်လ် ပြုခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်။ အိပ်စက်စဉ် တစ်စုံတစ်ခုသော အိပ်မက် မြင်သည်ဖြစ်စေ မမြင်သည်ဖြစ်စေရေချိုးရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၀၊၁၄။

(သတိပေးချက်) ပျိုရွယ်ခြင်း၏ စိတ်ဓါတ်အရှိန် ပြင်းထန်ချိန်၌ ပထမအစ အရည် တစ်မျိုး ထွက်လာ၏။ ထိုအရည်ထွက်လာခြင်းဖြင့် စိတ်ဓါတ် ပို၍ထကြွလာသည်၊ လျော့ နည်းမသွားချေ။ ၎င်းအရည်ကို (မသီ)ဟု ခေါ်လေသည်။

၎င်းနောက် ကောင်းစွာ အရသာခံစား၍ စိတ်အာရုံ ပြည့်ဝခါ ထွက်ရှိလာသော အရည်ကို (မနီ) သုက်ရေဟု ခေါ်လေသည်။

၎င်းအရာနှစ်ခုကို ခွဲခြား သိရန်မှာ (မနီ) သုက်ရေ ထွက်ပြီးနောက် စိတ်အာရုံ ပြည့်ဝခါ တင်းတိမ် ငြိမ်သက်၍ အရှိန်ပြေသွားလေသည်။ (မသီ) အရည်ကြည် ထွက် သောအခါ အရှိန်သေမသွားဘဲ အရှိန် ပြင်းထန်လာလေသည်၊ ထို့ပြင် (မသီ) သည် အရည်ကြဲ၍၊ (မနီ)သုက်ရည်မျာသည် အရည်ပျစ်လေသည်။ (မသီ)ထွက်ရုံဖြင့်ဂွတ်စ်လ် ဝါဂျစ်ဗ်မထိုက်ချေ၊ ဝိုဒ္ဒူသာပျက်လေသည်။

၃။ မတ်စ်အလတ်ပြဿနာ။ မည်သည့်အခါ ယောကျ်ား၏လိင်အင်္ဂါ ကွမ်းသီး လုံးသည် မိန်းမ၏အင်္ဂါဇာတ်အတွင်းတွင် ဝင်သွားသော် (ဝါ) မြုပ်သွားသော် ဂွတ်စ်လ် ရေချိုးရန်ဝါဂျစ်ဗ်ထိုက်လေသည်။ (မနီ) ထွက်သည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ ဟူ၏။

၄။ မတ်စ်အလတ်ပြဿနာ။ ယောကျ်ား၏ ကွမ်းသီးလုံးသည်ကျင်ငယ်လမ်းတွင် ဝင်သွားသော် ဘာမျှမထွက်သော်လည်း ဂွတ်စ်လ် ရေချိုးခြင်း ဝါဂျစ်ဗ်ထိုက်၏။ ကျင် ကြီးလမ်းမှ ဝင်သွားလျှင်လည်း ဂွတ်စ်လ် ရေချိုးခြင်း ဝါဂျစ်ဗ်ဖြစ်၏။ သို့ရာတွင် ကျင် ကြီးလမ်းမှ သွားလာခြင်း၊ သွားလာစေခြင်းသည် ကြီးသောအပြစ် ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၀၊၁၄။

၅။ မတ်စ်အလတ်ပြဿနာ။ အကြင်သွေးသည် အမျိုးသမီးတို့၌ အင်္ဂါဇာတ် အတွင်းမှ လစဉ် ထွက်ရှိခြင်းကို (ဟိုက်သွ်) ရာသီသွေးဟုခေါ်သည်။ မည်သည့်အခါ ဤရာသီလာခြင်း ရပ်စဲသွားလျှင် ဂွတ်စ်လ် ရေချိုးခြင်းလည်း ဝါဂျစ်ဗ်ဖြစ်၏။

အကြင်သွေးသည် သားဖွားပြီးနောက် ထွက်ရှိ၏။ ၎င်းကို(နေဖွားစ်)ဟု ခေါ်၏။ ၎င်းသွေး ရပ်စဲသွားသောအခါ ဂွတ်စ်လ် ရေချိုးခြင်းသည်လည်း ဝါဂျစ်ဗ် ဖြစ်သွား၏။

အတိုချုပ်မှာ လေးခုသောအရာတွင် ဂွတ်စ်လ် ရေချိုးရန် ဝါဂျစ်ဗ် ထိုက်လေသည်။ (၁) အရှိန်ပြင်းစွာ သုက်ရေထွက်ခြင်း၊ (၂) ယောကျ်ား၏လိင်အင်္ဂါကွမ်းသီးလုံးမိန်းမ၏ အင်္ဂါဇာတ် အတွင်းသို့ ဝင်ခြင်း၊ (၃) ရာသီ ရပ်ခြင်း၊ (၄) သားဖွားပြီး သွေးဆင်းမှု ရပ်စဲသွားခြင်း။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၅၊၁၉။

၆။ မတ်စ်အလဟ် ပြဿနာ။ အရွယ် မရောက်သေးသော ယော်ရွယ်သူ ဘူငယ်မအား အကယ်၍ တစ်ဦးတစ်ယောက်သော ယောကျ်ားက ကာမ စပ်ယှက်သော် ၎င်းသူငယ်မအား ဂွတ်စ်လ် ရေချိုးခြင်း ဝါဂျစ်ဗ်မဟုတ် သို့ရာတွင် အလေ့အထ ဖြစ်သွားရန် ဂွတ်စ်လ် ပြုစေရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၁၆၇။

၇။ မတ်စ်အလဟ် ပြဿနာ။ အိပ်ပျော်စဉ် ယောကျ်ား၏ အနီးတွင် နေထိုင်ရသည် ဟူ၍လည်းကောင်း၊ ကာမ စပ်ယှက်ရသည် ဟူ၍လည်းကောင်း အိပ်မက်မက်၏။ အရသာလည်းတွေ့၏၊ သို့ရာတွင် မျက်စိဖွင့်လိုက်သောအခါ(မနီ)မထွက်ဘဲရှိသည်ကို တွေ့ရလျှင် ထိုသူမအပေါ်၌ဂွတ်စ်လ်ရေချိုးရန်ဝါဂျစ်ဗ်မဟုတ်၊ အကယ်၍(မနီ)သုက်ရည်ထွက်ခဲ့သော် ဂွတ်စ်လ် ရေချိုးခြင်း ဝါဂျစ်ဗ်ထိုက်၏။

အကယ်၍ အဝတ်ပေါ်၌ဖြစ်စေ၊ ကိုယ်ပေါ်၌ဖြစ်စေ စိုထိုင်းထိုင်း ဖြစ်နေသည်ကို တွေ့ရ၏၊ သို့သော် ဤအရာသည်(မဇီ)ဖြစ်သည်။ (မနီ)မဟုတ်ဟု ထင်မှတ်ရသော်လည်း ဂွတ်စ်လ်ရေချိုးရန် ဝါဂျစ်ဗ်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၊၁၅။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ (မနီ) အနည်းငယ်ထွက်၍ ဂွတ်စ်လ်ပြုလိုက်၏၊ ထို့နောက် ရေချိုးပြီးမှ (မနီ)ထပ်မံထွက်လာလျှင် တဖန်ထပ်မံ၍ ရေချိုးခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။ အကယ်၍ ရေချိုးပြီးနောက် မိန်းမ၏ အင်္ဂါဇာတ် အတွင်းမှ ယောကျ်ား၏ (မနီ)ထွက်လာသော် ဂွတ်စ်လ်ပြီးမြောက်၍ ထပ်မံရေချိုးခြင်း ဝါဂျစ်ဗ်မဟုတ်၊ (မအိပ်မီ ကျင်ငယ်မစွန့်မီ ခြေလှမ်းလေးဆယ် ပို၍ မသွားမီ (မနီ) ထွက်လာခြင်းကိုဆိုလိုသည်)

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၆၅။

**ရှင်းလင်းချက်။** ဤနေရာ၌ ဤအကြောင်း အရာကို နားလည်ထားရန် ထိုက်သည်။ အကယ်၍ (မနီ) သုက်ရည်သည် (ရှဟ်ဝါတ်)ရာဂစိတ်ဖြင့် ခံပေါက်လျှက် မိမိတည်ရာဌာနမှ ခွဲခွာ၍လာမည်၊ ၎င်းအနက် အချို့မှာ အပြင်သို့ ထွက်လာ၍ အချို့မှာ အတွင်း၌ ကျန်ရှိနေမည်၊ ၎င်း ကျန်ရှိ

နေသော(မနီ)သည် ရေချိုးပြီး နောက်မှထွက်လာသော် ချင်းချက်မရှိ ထိုသူ့အပေါ်၌ ဒုတိယ ဂွတ်စ်လ် ဝါဂျစ်ဗ်ဖြစ်၏။

၎င်းနောက် အကယ်၍ ရေချိုးပြီးနောက် တဏှာရာဂစိတ်နှင့် ခုံပေါက်ခြင်း မရှိဘဲ (မနီ)သုက်ရေ အသစ်ထွက်လာသော် ထိုသူ့အပေါ်၌ ချင်းချက်မရှိ ဒုတိယ ဂွတ်စ်လ် မထိုက်။

နောက်ထပ် ဂွတ်စ်လ်ထိုက်ရန် မူရင်းပညတ် ဤသို့လာ၏၊ သို့ရာတွင် ၎င်းကိုသိရှိရန် မလွယ်ကူပေ၊ အဘယ်ကြောင့်ဟူမူ ရေချိုးပြီးနောက် ရာဂစိတ် မရှိဘဲ ထွက်လာသော (မနီ)သည် အသစ် နှင့် အဟောင်း ခွဲခြား သိရန် လိုသောကြောင့်တည်း။ သို့အတွက်ကြောင့် 'ဖွေကဟ်'ရှင်ကြီးများက နိမိတ်လက္ခဏာကို အထောက်အထား ပြုကြလေသည်။ မိန့်ဆိုကြသည်မှာ.... အကြင် (မနီ) သည် လှည့်ပတ် လမ်းလျှောက်၍ ဖြစ်စေ၊ အိပ်၍ ဖြစ်စေ၊ ကျင်ငယ်စွန့်ပြီးနောက်ဖြစ်စေ စိတ်၌ ယုံကြည် စိတ်ချရလောက်အောင် ပြုလုပ်ပြီးမှ တဖန် ထွက်လာသော် ၎င်း (မနီ) သည် အသစ်ဖြစ်၏။ အကြောင်းကို ဆိုသော် ထို(မနီ)သည် ရာဂကင်းစွာ ထွက်ပေါ်လာခြင်းကြောင့် နောက်ထပ် ဂွတ်စ်လ် လုပ်ရန် ဝါဂျစ်ဗ်မဟုတ်။

အကြင်(မနီ)သည် ယုံကြည်စိတ်ချရလောက်အောင် လှည့်လည် လမ်းလျှောက်ခြင်း စသည်ပြုလုပ်ပြီး နောက်မှထွက်လာသော် ၎င်းသည်(မနီ)အဟောင်းဖြစ်၏။ အကြောင်းကိုဆိုသော် ထို(မနီ)သည် မိမိ တည်ရာ ဌာနမှ ရာဂစိတ်နှင့် ခုံပေါက် ခွဲခွာလာခဲ့သော (မနီ)ဖြစ်၍ ယခုမှ အပြင်သို့ထွက်လာခဲ့ခြင်းဖြစ်လေသည်။ သို့အတွက်ကြောင့် ၎င်း(မနီ) ထွက်လာခြင်းဖြင့် နောက်ထပ် ဂွတ်စ်လ် ထိုက်လေသည်။

ဤအခြေခံ သဘောကို အကျယ်တဝင့် သိရှိပြီးသော် နားလည်ထားရမည်မှာ ဘဟစ်ရှိတီဇေဝရ်တွင် ဖော်ပြခဲ့သော သရုပ်သည် မိမိ တည်ရာဌာနမှ တဏှာစိတ်နှင့် ခုံပေါက်၍ ရွေ့ ပြောင်း လာ ပြီး နောက် အချို့ ထွက်လာပြီးလျှင် ကျ န်အချို့မှာ အကြောင်းတစ်ခုခုကြောင့် ဂွတ်စ်လ် ရေချိုးပြီးမှ ထွက်လာသည့်အတွက် နောက်ထပ်ရေ ချိုးရန် အမိန့်ပေးခဲ့ခြင်း ဖြစ်သည်။

သို့ရှိလေရာ အထက်ပါ ရှင်းလင်းချက်ဖြင့် ဤအမိန့်သည် မှန်ကန်ကြောင်း သိရ လေသည်၊ သို့ရာတွင် ဂွတ်စ်လ်ရေချိုးပြီးနောက် ထွက်လာသော (မနီ) သည် အလျှင်က ကျန်နေသော (မနီ) ဟောင်း ဖြစ်သည်၊ သို့မဟုတ် အသစ် ဖြစ်သည်ကို ခွဲခြား သိရန် ခဲယဉ်းလေသည်။

သို့အတွက်ကြောင့် ဘဟစ်ရှိတီ ဇေဝရ်၌ပင် (ဟာရှိယဟ်) ထုတ်၍ ရှင်းပြထား သည်မှာ .... ဤအမိန့်သည် မအိပ်မီလည်းကောင်း၊ ကျင်ငယ် မစွန့်မီလည်းကောင်း၊ ခြေ အလှမ်း လေးဆယ် ၎င်းထက်ပို၍ လမ်းမလျှောက်မီလည်းကောင်း (မနီ) ထွက်လာသော အခါအတွက် ဖြစ်သည်ဟူ၍ ရှင်းပြထားသည်။

၉။ မတ်စ်အလဟ် ပြဿနာ။ မကျန်းမာသောကြောင့် ဖြစ်စေ၊ သို့မဟုတ် အခြားသော အကြောင်းကြောင့် ဖြစ်စေ (မနီ)သည် အလိုလို ထွက်လာ၍၊ အကယ်၍ အရှိန်ပြင်းခြင်း၊ လိုလားခြင်း လုံးဝ မရှိခဲ့သော် ဂွတ်စ်လ်ရေချိုးရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ သို့သော် ဝိုဇွူပျက်၏။

ကဗီဒီကျမ်း စာမျက်နှာ-၃၉။
ဂွန်ယဟ်ကျမ်း စာမျက်နှာ-၄၉။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ဇနီးခင်ပွန်းနှစ်ဦးတို့သည် ခုတင်တစ်ခုပေါ်တွင် အိပ်စက်နေကြ၏။ နိုး၍ ထကြသောအခါ၊ စောင်တွင် (မနီ)ကွက် ရှိနေသည်ကိုမြင်ရ၏၊ အိပ်နေစဉ် အိပ်မက် မြင်-မမြင် လင်ကလည်းသတိမရ၊ မယားကလည်း သတိမရခဲ့သော် နှစ်ဦးစလုံး ရေချိုးရမည်။ ဤသို့ ချိုးခြင်း၌ (အဲဟ်တေ ့ယားတွ ်) လုံးလောက်မှု ရှိ၏လသည်။

ဤနေရာတွင် (အဲဟ်တေ ့ယားတွ ်) တရားတော်ကို စောင့်ထိန်းသည့် သဘောဖြင့် ရေချိုးရန် ဝါဂျစ်ဗ် ဖြစ်သည်။ (အဲဟ်တေ ့ယားတွ ်) ဟူသော စာလုံးကို သုံးခြင်းအားဖြင့် ဝါဂျစ်ဗ် မဟုတ်တန်ရာဟူ၍ သံသယမရှိသင့်၊ ကျမ်းဂန်များတွင် ဝါဂျစ်ဗ်ဟု ရေးသားထားသည်။ အဘယ့်ကြောင့် ဟူမူ မည်သူ၏ (မနီ) သက်ရည် ဖြစ်ကြောင်း မသိသောကြောင့်တည်း။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ဘာသာခြား တစ်ဦးတစ်ယောက် အစ္စလာမ် သာသနာတွင်းသို့ရောက်လျှင် ၎င်းကို ဂွတ်စ်လ် ရေချိုးစေခြင်း မုတ်စ်တဟာဗ်ဖြစ်သည်။

အစ္စလာမ် သာသနာတော်သို့ ဝင်သောအခါ ဂွတ်စ်လ်ရေချိုးခြင်း မုတ်စ်တဟာဗ်ဖြစ်သည်။ အကယ်၍ ဂွတ်စ်လ်ထိုက်သောအချက် ဥပမာ—ဂျနာဗတ်၊ ဟိုက်သွ ်၊ နေဖွားစ်မှ သန့်ရှင်းရန်၊ ၎င်း အစ္စလာမ် သာသနာတော်သို့ မဝင်မီ ဂွတ်စ်လ် မပြုခဲ့၊ ၎င်း ပြုခဲ့သော်လည်း 'ရှရီအတ်' ဥပဒေအရ မဟုတ်သော် ၎င်းအပေါ် ဂွတ်စ်လ်ပြုရန် ဝါဂျစ်ဗ် ဖြစ်သည်။ မွန်ယဟ်ကျမ်း စာမျက်နှာ-၁၅၊၁၇။

**ရှင်းလင်းချက်။** အစိပ္ပါယ်ကား....အစ္စလာမ်သာသနာတော်သို့ ဝင်ရောက်ခြင်း သက်သက်အတွက် ရေချိုးခြင်း မုတ်စ်တဟာဗ်ဖြစ်သည်။ သို့ရာတွင် အကယ်၍ အကြင်သူတစ်ယောက်သည် ဂွတ်စ်လ် ဝါဂျစ်ဗ်ဖြစ်စေသော အကြောင်းတစ်ခုရှိနေပါလျှင် ဥပမာ— ဂျနာဗတ်သို့မဟုတ် ဟိုက်သွ ်၊ နေဖွားစ်မှသန့်ရှင်းခြင်း စသည်တို့၏ အမိန့်ပညတ်ကို ဤနေရာတွင် ဖော်ပြခြင်း မဟုတ်ပေ၊ သို့သာမက ဘာဟစ်ရှိတီဇေဝရ်၏ ဖြည့်စွက်ချက် ဖြစ်သော ဘာဟစ်ရှိတီဂေါင်ဟာရ်တွင် ဖော်ပြ ထားပါသည်။

ခါတမေ့အို့လမာဖွရန်ဂီမဟဲလ် ( မော်လာနာအဗ်ဒွလ်ဟိုင် ) သခင်ကြီးက (စေအာယဟ်ကျမ်း ပထမတွဲ စာမျက်နှာ-၃၂၉)တွင် ဤမတ်စ်အလဟ်ကို ဤဘဟာစ်ရှိတီ ဇေဝရ်ကျမ်းတွင် ဖေါ်ပြထားသည့်အတိုင်း ရေးသားထားလေသည်၊ (ထိုသခင်ကြီးက) ယင်းအကြောင်းကို ဂွတ်စ်လ်လုပ်ခြင်း မွတ်စ်တဟာဗ်ဖြစ်သည့် အမျိုးများတွင် ထည့်သွင်း ဖေါ်ပြထား၏။

مِنْهُ غَسَلُ الْكَافِرِ إِذَا أَسْلَمَ بِذٰلِكَ أَمَرَ النَّبِيُّ صَلَّى اللّٰهُ عَلَيْهِ
وَسَلَّمَ مَنْ جَاءَ يُرِيْدُ الْإِسْلَامَ كَذَا فِي التَّجْنِيْسِ

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။မည်သည့်အခါတစ်စုံတစ်ယောက်သောသူသည် သေဆုံးသူအား ရေချိုးပေးလျှင် ရေချိုးပေးပြီးနောက် မိမိကိုယ်တိုင် ဂွတ်စ်လ် ရေချိုး ခြင်း မွတ်စ်တဟာဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၂။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၆။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ ရေချိုးရန် ဝါဂျစ်ဗ် ထိုက်နေသောသူသည် ရေမချိုးမီအလျှင် စားခြင်းသောက်ခြင်းပြုလိုမူ ပထမမိမိ၏လက်နှင့်ပါးစပ်ကိုဆေးရမည်၊ ပါးလုပ်ကျင်းရမည်၊ ထို့နောက်မှ စားသောက်ရမည်၊ အကယ်၍ လက်နှင့် ပါးစပ်ကို မဆေးကြောဘဲ စားသော်လည်း မည်သည့်အပြစ်မှမဖြစ်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၇၊ ၂၁။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။ရေချိုးရန် ထိုက်နေသောသူသည် ကုရ်အာန် ကျမ်းမြတ်ကို ကိုင်တွယ်ခြင်း၊ ဖတ်ရွတ်ခြင်း၊ ဗလီတွင်းသို့ သွားခြင်းမထိုက်၊ အလ္လာဟ် အသျှင်မြတ်၏ နာမတော်ကို တ,သခြင်း၊ ကလေမဟ် ဖတ်ရွတ်ခြင်း နှင့် ဒရူးဒ်ရှရီးဖ် ဖတ်ရွတ်ခြင်းတို့မှာ ပိုင်၏။

(၄င်းပြင် ဤကဲ့သို့သော မတ်စ်အလဟ် ပြဿနာများကို အင်ရှာအလ္လာဟ် ဟိုက်သွ်အခန်းတွင် ကျွန်ုပ်ကောင်းစွာဖေါ်ပြမည်၊ ထိုအခန်းတွင် ကြည့်ရှုကြပါကုန်။)

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၆၊ ၁၇၊ ၂၀၊ ၂၄။

၁၅။ မတ်စ်အလလ်ပြဿနာ။ ။တဖွဲ့စီရိကျမ်းစာများကို ရေမချိုးဘဲ ဝိုသ္ဗူ မပြုဘဲကိုင်တွယ်ခြင်း မတ်က်ရူးဟ်ဖြစ်၏၊ အဝိပွါယ်ပြန် ကုရ်အာန်ကိုကိုင်တွယ်ခြင်းသည် လုံးဝ ဟရာမ်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၇။



# ဂွတ်စ်လ် ဝိုသ္ဗူပြုရန် ထိုက်သောရေနှင့် မထိုက်သောရေ အကြောင်း။

၁။ မတ်စ်အလလ် ပြဿနာ။ ။ မိုးပေါ်မှ ရွာသွန်းသောမိုးရေ၊ ချောင်းရေ၊ ကန်ရေ၊ စိမ့်စမ်းရေ၊ တွင်းရေ၊ မြစ်ရေများဖြင့် ဝိုသ္ဗူပြုခြင်း ဂွတ်စ်လ်ပြုခြင်း ပိုင်၏၊ ရေချိုဖြစ်စေ၊ ရေငံဖြစ်စေပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄။

၂။ မတ်စ်အလလ် ပြဿနာ။ ။တစ်စုံတစ်ခုသောအပင်သစ်သီးသစ်ရွက်မှ ညှစ်ယူရရှိသော အရည်ဖြင့် ဝိုသ္ဗူပြုခြင်း မပိုင်ချေ၊ ဤနည်းပင် ဖရဲသီးမှထွက်သော အရည် ကြံရည်စသည်တို့ဖြင့် ဝိုသ္ဗူပြုခြင်း ဂွတ်စ်လ်ပြုခြင်းမပိုင်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၂။

၃။ မတ်စ်အလလ် ပြဿနာ။ ။အကြင်ရေ၌ အခြားသောဝတ္ထုပစ္စည်း ရောနှော သွား၏၊ သို့မဟုတ် ရေတွင်တစ်စုံတစ်ခုသော ပစ္စည်းကို ချက်ပြုတ်၏၊ ဤသို့သောအခါ တွင် အခေါ်အဝေါ် ပြောင်းသွား၍ ၎င်းကို ရေဟူ၍မခေါ်တော့ချေသာမကတခြား တနာမည်ဖြင့် ခေါ်ကြ၏။

ထိုအရည်များဖြင့် ဝိုသ္ဗူနှင့် ဂွတ်စ်လ်ပြုခြင်းမပိုင်၊ ဥပမာ- ဖျော်ရည်၊ ရှရဗတ် ရည်၊ သကြားရည်၊ ဟင်းချိုရည်၊ ရှာလကာ၊ နှင်းရည် စသည်တို့ဖြင့် ဝိုသ္ဗူပြုခြင်း မပိုင်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၁။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅။

၄။ မတ်စ်အလလ် ပြဿနာ။ ။အကြင်ရေ၌ သန့်သောပစ္စည်း တစ်စုံတစ်ခုကျ သွား၏ ရေ၏ အနံ့၊ အရသာ၊ အရောင်တွင် အနည်းငယ်ကွဲပြားလာ၏၊ သို့သော်ထိုပစ္စည်း သည် ရေ၌ပြုတ်သောပစ္စည်းမဟုတ်မူရေ၏ကြဲမှု၌ဘာမျှကွဲပြားမှုမရှိသော် ဥပမာစီးတွေနေ

သောရေ၌ သဲမှုန့်များအနည်းငယ်ရောနေ၏။ သို့မဟုတ် ရေတွင်ကု ကုမ်ကျသွား၏။ ၎င်း၏ ဖြော့တော့သော အရောင်ပေါ်လာ၏။ သို့မဟုတ် ဆပ်ပြာခဲကျသွား၏။ သို့မဟုတ် ဤနည်းပင် အခြားသောအရာဝတ္ထုများ ကျသွားလျှင်၊ ထိုဆိုခဲ့သမျှသော အကြောင်းများတွင် ဝိုသ္ဗုနှင့်ဂွတ်စ်လ် ပြုပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၂။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တစ်စုံတစ်ခုသောပစ္စည်းကို ရေတွင် ထည့်၍ပြုတ်၏။ ထို့ကြောင့် ရေတွင်အရောင်နှင့် အရသာစသည်တွင် ပြောင်းလွဲခဲ့သော် ထိုရေဖြင့် ဝိုသ္ဗုမပြုပိုင်။

သို့သော် ဤသို့သောပစ္စည်းကိုပြုတ်၏။ ၎င်းအားဖြင့် အညစ်အကြေးများ သန့်ရှင်းသွား၍ ၎င်းကိုပြုတ်ခြင်းအားဖြင့် ရေသည် ပြစ်မလာသော် ထိုရေဖြင့် ဝိုသ္ဗုပြုပိုင်၏။ ဥပမာ... လူသေကို ရေချိုးရန် ဇီးရွက်များကိုပြုတ်၏။ ထိုရေ၌ ဘာမျှအပြစ်မရှိ။ သို့သော်လည်း ဤမျှခန့် များပြားစွာ ထည့်သဖြင့် ရေသည် ပြစ်ခဲ့နေသော် ထိုရေဖြင့် ဝိုသ္ဗုနှင့်ဂွတ်စ်လ် မပြုပိုင်။ မွန်ယဟ်ကျမ်း စာမျက်နှာ-၃၂။

၆။ မတ်စ်အလဟ် ပြဿနာ။ ။အဝတ်ဆိုးရန် အတွက် ကုကုမ်ကို ရေစိမ်၏။ သို့မဟုတ် စက္ကူဖြင့်ထုတ်ထားသော (မဲနယ်)စသည်အထုတ်ကိုရေစိမ်၏။ ထိုရေဖြင့်ဝိုသ္ဗု မပိုင်ချေ။ မွန်ယဟ်ကျမ်း စာမျက်နှာ-၃၅၊ ၃၆။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ရေ၌နို့ရော၍ နို့ရောင်သည်ရေတွင် လျှမ်းသော် ထိုရေဖြင့်ဝိုသ္ဗုပြုခြင်းမပိုင်။ နို့ကနည်းပါး၍ အရောင်မပေါ်သော် ဝိုသ္ဗု ပိုင်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၂။

၈။ မတ်စ်အလဟ် ပြဿနာ။ ။တောတွင်း၌မည်သည့်နေရာမှဖြစ်စေ၊ ရေအနည်းငယ်ရရှိသော်၊ ၎င်းကိုမသန့်ဟု မယုံကြည်သေးသမျှ ထိုရေဖြင့် ဝိုသ္ဗုပြုရမည်။ မသန့်ဟု ထင်ရုံမျှဖြင့် ဝိုသ္ဗုမလုပ်ဘဲ မနေသင့်၊ အကယ်၍ ထိုရေကိုရရှိပါလျှက် တယမ်မွမ်ပြုလုပ်ခဲ့သော် တယမ်မွမ်လည်းမမြောက်။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၉၊ ၃၃။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ရေတွင်းစသည်၌ သစ်ရွက်များကြွေကျ၍ရေတွင် နံစော်လာမည် အရောင်နှင့်အရသာလည်းပြောင်းသွားမှု အရေကြဲနေသမျှ ကာလပတ်လုံး ဝိုသ္ဗုပြုနိုင်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၂။

ဒွရ်ရေ့မွခ်တာရ်ကျမ်း စာမျက်နှာ-၃၅။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်ရေ၌ မသန့် ကျသွားလျှင် နည်းသည် ဖြစ်စေ၊ များသည်ဖြစ်စေ၊ ထိုရေဖြင့် ဂွတ်စ်လ်နှင့် ဝိုသ္ဗုပြုခြင်းမပိုင်။ စီးတွေနေသော

ရေဖြစ်မူ ထိုမသန့်၏ အနံ့ ,အရောင်,အရသာ၌ ခြားနားမှု မရှိဖြစ်မူ ထိုမသန့်ကျသည့် အတွက် မသန့်သောရေမဖြစ်ချေ။ အကယ်၍ မသန့်ကျသဖြင့် အနံ့ ,အရောင်,အရသာ ပြောင်းလဲမှု စီးတွေသောရေလည်း မသန့်ဖြစ်သွားအံ့၊ ၎င်းရေဖြင့် ဝိုသ္ဇူမပိုင်၊ အကြင် ရေသည် မြက်ပင်-မြက်မျှင်-သစ်ရွက် စသည်များကို တိုက်ယူမြောပါသွားစေလျှင် ဖြေး ဖြေးပင် ယူဆောင်သွားစေကာမူ ထိုရေသည် စီးတွေသောရေဖြစ်လေသည်။

ဟေဒယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၊ ၂၀။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။ကြီးသောကန် ထိုကန်သည်၊ အလျား ဆယ် တောင်ရှည်၍၊ အနံ- ဆယ်တောင်ရှည်ပြီးလျှင် အနက်မှာ အကယ်၍ ရေကိုလက်ခုပ်ဖြင့် ယူလျှင် မြေပေါ်မလာပါက ဤကန်လည်း စီးတွေသောရေကဲ့သို့ ဖြစ်လေသည်။ ဤသို့ သောကန်ကို (ဒဟ်....ဒရ်ဒဟ်) ဆယ်တောင်ဝယ်လည်ကန်ဟု ခေါ်လေသည်။

အကယ်၍ ထိုကန်၌ ဤသို့သော မသန့်ကျသွား၏။ ကျပြီးနောက် မမြင်ရဘဲရှိ၏၊ ဥပမာ- ကျင်ငယ်,သွေး,အရက် စသည်ဖြစ်သော် ထိုကန်ရေဖြင့် လေးမျက်နှာမှဝိုသ္ဇူပြုခြင်း ပိုင်၏။ အကယ်၍ ဤသို့မသန့်သည့်ပစ္စည်းကျသွားရာမြင်ရသော် ဥပမာ- ခွေးသေကျသော် ထိုနေရာတွင် ဝိုသ္ဇူမပြုဘဲ အခြားဘက်တွင် ကြိုက်နှစ်သက်ရာ နေရာ၌ ဝိုသ္ဇူပြုနိုင် လေသည်။

သို့ရာတွင် ဤမျှကြီးသောကန်၌ အနံ့ ,အရောင်,အရသာ ပြောင်းသွားလောက် အောင် မသန့်ကျပါမူ မသန့်ဖြစ်လေတော့သည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၁။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ အလျား-အတောင်နှစ်ဆယ် အနံ ငါးတောင် သို့မဟုတ် အလျား- နှစ်ဆယ့်ငါးတောင် အနံ- လေးတောင်ခန့်ရှိသော ကန်ကိုလည်း (ဒဟ်ဒရ်ဒဟ်) ဆယ်တောင်ပတ်လည်ကန်အတိုင်း မှတ်ယူရမည်။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆။

ရှရ်ဟွတ်တနဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။ခေါင်မိုးပေါ်၌ နဂျာစတ် မသန့်သောပစ္စည်း ကျရောက်နေ၏ မိုးရွာလာ၍ ရေသရောက်မှ ရေကျလာ၏။ အကယ်၍ ခေါင်မိုးသည် တဝက်ဖြစ်စေ၊ တဝက်ထက်ပို၍ဖြစ်စေ မသန့်သော် ထိုရေသည် မသန့်ဖြစ်လေသည်။

အကယ်၍ ခေါင်မိုးသည် တဝက်ထက်နည်း၍မသန့်မူထိုရေသည်သန့်၏။ အကယ်၍ နဂျာစတ် မသန့်သောပစ္စည်းသည် ရေသရောက်၏အနီးအပါးတွင်ရှိ၍ ကျသမျှမိုးရေသည် ၎င်းအားတိုက်ပြီးမှ စီးဆင်းလာသော် ထိုရေသည် မသန့်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၉၊ ၃၀၊ ၃၄။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေသည် ဖြည်းဖြည်းစီးလျှင် အလွန်မြန်စွာဖြင့် ဝိုသ္ဒူမပြုလင့်၊ အဘယ့်ကြောင့်ဟူမူ ဆေးပြီးရေသည် ကျသွားရာ ထိုရေပင်ပြန်ပါမလာရန် ဖြစ်လေသည်။

မွှန်ယဟ်ကျမ်း စာမျက်နှာ-၃၀၊၃၂။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ဆယ်တောင် ပတ်လည် ကန်၌ ဆေးကြောပြီး ရေစက်များကျသော်လည်း ထိုကျသောနေရာမှ ရေကို ယူခြင်းလည်း ပိုင်၏။

မွှန်ယဟ်ကျမ်း စာမျက်နှာ-၃၁။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကာဖွင်ရ် တစ်ဦး တစ်ယောက်က ဖြစ်စေ၊ ကလေးသူငယ်ကဖြစ်စေ မိမိလက်ကို ရေထဲသို့နှိုက်လျှင် ရေသည် မသန့်မဖြစ်ပေ။ သို့သော် ၎င်းတို့၏လက်၌ မသန့်လူးထိလျက်ရှိကြောင်း မုချသိရသော် ရေသည် မသန့်ဖြစ်သွားမည်။ သို့ရှိရာ ကလေးသူငယ်များကိုစိတ်မချရချေ၊ ထိုကြောင့် အခြားမှရေရနိုင်လျှင် ၎င်းတို့ လက်နှိုက်ထားသောရေဖြင့် ဝိုသ္ဒူမပြုခြင်း ပိုမိုကောင်း၏။

မွှန်ယဟ်ကျမ်း စာမျက်နှာ-၃၅။

၁၇။ မတ်စ်အလဟ်ပြဿနာ။ အကြင် ရေ၌ ကျိသို့သော သက်ရှိ သတ္တဝါ အကောင်များ ကျသေ၏၊ ၎င်းသတ္တဝါ၌ စီးတွေသောသွေးမရှိခဲ့သော် သို့မဟုတ် အပြင်တွင် သေ၍ ရေထဲသို့ကျလာမူ ရေသည် မသန့်မဖြစ်ချေ။ ဥပမာ— ခြင်ကောင်-ယင်ကောင် ပထုတ်ပနီ - လိပ်ပြာ - ပျားကောင် - ကင်းမြီးကောက် သို့မဟုတ် ထိုကဲ့သို့သော အခြား အကောင်များဖြစ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀။

ရှရ်ဟ္မလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။

၁၈။ မတ်စ်အလဟ်ပြဿနာ။ အကြင်သတ္တဝါသည် ရေ၌ပေါက်ဖွား၍ ရေ၌ပင် အမြဲအစဉ်နေထိုင်၏။ ယင်းသို့သောသတ္တဝါ သေသဖြင့် ရေသည် မကောင်းမဖြစ်ချေ၊ သန့်လျက်ပင်ရှိအံ့။ ဥပမာ.... ငါး-ဖား-လိပ်-ဂဏန်းကောင်-ပုဇွန်လုံး စသည်တို့ ဖြစ်လေသည်။ အကယ်၍ ရေမှ တပါး အခြား ပစ္စည်းတွင်း၌ သေပါမူ ဥပမာ.... ရှာလကာ သကြားရည်-နို့ရည် စသည်တို့တွင် ဖြစ်မူ ထိုအရာလည်း မသန့်မဖြစ်ချေ၊ ကုန်းဖားနှင့် ရေဖားမှာ နှစ်မျိုးစလုံး အမိန့် တစ်ခုတည်းပင် ဖြစ်လေသည်။ အဓိပ္ပါယ်မှာ.... ၎င်းတို့ သေလျှင်လည်း ကုန်းဖား သေသည် ဖြစ်စေ၊ ရေဖား သေသည် ဖြစ်စေ ရေသည် မသန့်မဖြစ်ချေ။ သို့ရာတွင် ကုန်းဖား တို့တွင် သွေးထွက်သော ဖားပြုတ် စသည်တို့ သေလျှင် ရေ စသည်တို့၌ မသန့်ဖြစ်သွားမည်။

ရေဖားကိုသိမှတ်ရန်မှာ သူ၏လက်နှင့်ခြေချောင်းကလေးများ၏ကြားတွင် အရေပြားပါရှိလေသည်။ ကုန်းဖား၏ ခြေချောင်း လက်ချောင်းများမှာ အရေပြား ဆက်တွဲလျက်မရှိ၊ သီးခြားသီးခြား ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၃၅။
ရှရ်ဟွတ်တန်ဓီးရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၀၉။

၁၉။ မတ်စ်အလဟ် ပြဿနာ။ အကြင် သတ္တဝါသည် ရေတွင် ကျက်စား၏။ သို့သော် သူ၏ပေါက်ဖွားရာဌာနမှာ ကုန်းဖြစ်၏၊ ထိုသတ္တဝါ ရေ၌ ကျသေသော် ရေသည် မကောင်းတော့ချေ။ မသန့် ဖြစ်သွားလေသည်။ ဥပမာ.... ဝမ်းဘဲ - ရေကြက် ဤနည်းပင် အခြားမှသေ၍ ရေ၌ကျသော် မသန့်ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၅။

၂၀။ မတ်စ်အလဟ် ပြဿနာ။ ဖား-လိပ် စသည် အကယ်၍ ရေ၌သေ၍ လုံးဝ ပုတ်ပွ၍ အပိုင်းအစဖြစ်ပြီး ရေ၌ ရောသွားသော်လည်း ရေသန့်၏။ သို့သော် ထိုရေကို သောက်ခြင်း၊ ထမင်းဟင်းချက်ပြုတ်ခြင်း မပိုင်ချေ။ သို့သော် ဝိုသွူ သို့မဟုတ် ဂွတ်စ်လ်ကို ထိုရေဖြင့် ပြုနိုင်၏။

ရှရ်ဟွတ်တန်ဓီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၉။

၂၁၊ မတ်စ်အလဟ် ပြဿနာ။ နေဖြင့် ကျက်နေသောရေဖြင့် အဖြူကွက် ခရူ သင်း ရောဂါဖြစ်တတ်၍ ထိုရေဖြင့် ဝိုသွူ-ဂွတ်စ်လ် မပြုသင့်ပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၆။

၂၂။ မတ်စ်အလဟ် ပြဿနာ။ တိရစ္ဆာန်အသေကောင်၏သားရေကို နေပူတွင် အခြောက်လှမ်းထား၏။ သို့မဟုတ် ဆေးတစ်စုံတစ်ခုသော သားရေနယ် စသည်ထည့်၍ ကောင်းစွာ ပြုလုပ်ထားသည်။ အရည်များခမ်းခြောက်၍ ထားသောအခါ မပျက်စီးဘဲ နေလျှင်, သန့်ရှင်းသွားလေသည်။ ၎င်းတို့အပေါ်တွင် နမာဇ်ဖတ်ခြင်း ပိုင်၏။ ရေအိတ် စသည် ပြုလုပ်၍ ရေသယ်ခြင်း၊ ရေထားခြင်းလည်း ပိုင်၏။

သို့ရာတွင် ဝက်၏သားရေမှာမသန့်ချေ၊ အခြားသောသားရေများသည် သန့်လေသည်။ သို့ရာတွင် လူ၏အရေဖြင့်တစ်စုံတစ်ရာ အသုံးပြုခြင်း၊ အသုံးချခြင်းသည် ကြီးလေးသောအပြစ်ဖြစ်လေသည်။　　ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄။

၂၃။ မတ်စ်အလဟ် ပြဿနာ။ ခွေး-မျောက်-ကြောင်-ကျား စသော သတ္တဝါများ၏အရေကိုပြုပြင်လျှင် သန့်သွား၏။ (ဗစ်မစ်လ္လာဟ်) ဆို၍ သတ်ဖြတ်ခြင်းဖြင့်လည်း အရေသည် သန့်သွား၏၊ ပြုပြင်ထားသည် ဖြစ်စေ၊ မပြုပြင်ဘဲ သုံးသည်ဖြစ်စေ သန့်၏၊ သို့ရာတွင် 'သဗ်ဟ်' လုပ်ပြီး သတ်ဖြတ်သည့် အတွက် ၎င်းတို့၏ အသားသည် သန့်ရှင်းသွားသည်မဟုတ်၊ ၎င်းအသားကို စားခြင်း မပိုင်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄။

၂၄။ မတ်စ်အလဟ်ပြဿနာ။ (ဝက်မှတပါး)အသေကောင်၏ အမွေး ဦးချို အရိုး-အစွယ်-သွား အားလုံးတို့သည် သန့်၏။ ရေတွင်ကျသော် မသန့်မဖြစ်၊ သို့ရာတွင် အရိုးနှင့်သွားစသည်တွင် ထိုတိရစ္ဆာန်၏အရွတ်-အဆီပြားစသည် စေးထိုင်းသောအရာများ ကပ်နေလျှင် ထိုအရာသည် မသန့်ဖြစ်၍ ရေလည်းမသန့်ဖြစ်သွားမည်။

ဟေဒါယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၂၄။

၂၅။ မတ်စ်အလဟ်ပြဿနာ။ လူ၏ အရိုးနှင့် ဆံပင်သည်လည်းသန့်၏၊ သို့ရာတွင် ထိုပစ္စည်းများကိုသုံးစွဲခြင်း၊ အသုံးချခြင်းမပိုင်ချေသာမက ထိုပစ္စည်းများကို တစ်နေနေရာ၌ မြှုပ်နှံလိုက်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄။

# ရေတွင်း၏အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရေတွင်း၏ အတွင်းသို့ တစ်စုံတစ်ခုသော မသန့်သည့် ပစ္စည်းကျသွားမှု ရေတွင်းသည် မသန့်ဖြစ်သွားလေသည်။ ရေကိုငင်ပစ်မှ သန့်ရှင်းသွားလေသည်။ မသန့်သောပစ္စည်း အနည်းငယ်ပင်ကျသည်ဖြစ်စေ၊ များစွာ ကျသည်ဖြစ်စေ ရေအားလုံး ခပ်ပစ်ရမည်။ ရေအားလုံးငင်ပစ်လိုက်လျှင် သန့်သွားမည်။ ရေတွင်း၏ အတွင်းရှိ ဘောင်နှင့် အုတ်နံရံများကို ဆေးကြောပစ်ရန်မလိုပေ။ ၎င်းတို့သည် အလိုအလျောက် သန့်သွားသည်။ ဤနည်းပင် ကြိုးနှင့် ရေပုံးတို့လည်း ရေငင်ရာ၌ သုံးသဖြင့် ရေတွင်း သန့်သွားသည်နှင့် ၎င်းတို့လည်း သန့်သွားလေသည်။ ထို့နှစ်ခုကိုလည်း ဆေးကြောရန် မလိုတော့ပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၇။
ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၄။

**အကျိုးကျေးဇူး** ရေအားလုံး ထုတ်ပစ်ရမည် ဟူသော သဘောမှာ.... ရေကုန်ခမ်း သွားအောင် ထုတ်ရမည်ဟု ဆိုလိုသည်။

ရေပုံး၏ တဝက်စာမျှပင် ခပ်မရတော့မှ ရပ်ရမည်။

၂။ မတ်စ်အလဟ်ပြဿနာ။ ရေတွင်းထဲသို့ စာကလေးချေး နှင့် ခိုချေးများ ကျသွားသော် မသန့်မဖြစ်ပေ၊ ကြက်ချေးနှင့်ဘဲချေးကျက မသန့်ဖြစ်လေသည်။ ရေအားလုံး ငင်ထုတ်ပစ်ခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၅၃၊၅၇။

၃။ မတ်စ်အလဟ်ပြဿနာ။ ခွေး- ကြောင်- နွား- ဆိတ်များ ကျင်ငယ် စွန့်ချသော် သို့မဟုတ် အခြားသော မသန့်သည့်ပစ္စည်းကျလျှင် ရေအားလုံးငင်ထုတ်ပစ်ရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၊၅၃။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ လူ့သို့မဟုတ် ခွေး၊ သို့မဟုတ် ဆိတ်၊ သို့မဟုတ် ၎င်းတို့နှင့် တူညီသော အခြားတိရစ္ဆာန်များ လိမ့်ကျ၍ သေဆုံးသွားမှု ရေတွင်းထည်းမှ ရေအားလုံးငင်ထုတ်ပစ်ရမည်။ အပြင်အပတွင်သေ၍ တဖန်ရေတွင်းထည်းသို့ လိမ့်ကျသွားမှု ထိုအခါ၌လည်း ဤအမိန့်ပင်ဖြစ်လေသည်၊ ရေအားလုံးငင်ထုတ်ပစ်ရမည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၄၇။
ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ သက်ရှိသတ္တဝါ တစ်ကောင်ကောင် ရေတွင်းထည်းသို့ လိမ့်ကျသေဆုံးပြီး ဖူးရောင်ပုတ်ပွနေသော် ထိုအခါတွင်လည်း ရေရှိသမျှ ငင်ထုတ်ပစ်ရမည်၊ သတ္တဝါမှာ ငယ်ငယ်ကြီးကြီး အတူတူဖြစ်လေသည်။ ကြွက်ဖြစ်စေ၊ စာကလေးဖြစ်စေ၊ ရေတွင်းထည်း၌ ကျသေ၍ ပုတ်ပွနေသော် တစ်စတစ်စဖြစ်နေသော် ရေရှိသမျှ ခပ်ထုတ်ပစ်ရမည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၄၇။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကြွက်၊ သို့မဟုတ် စာကလေး၊ သို့မဟုတ် သူနှင့် အလားတူအကောင်များ ကျ၍ သေသွား၏။ သို့သော် ပုတ်ခြင်း၊ ပွခြင်း မရှိသေးသော် ရေအပုံးနှစ်ဆယ် ငင်ထုတ်ပစ်ရန် ဝါဂျစ်ဗ်ဖြစ်လေသည်။ ရေအပုံးသုံးဆယ်ဆိုလျှင် သာပို ကောင်းလေသည်။ သို့သော် ကြွက်ကို အလျှင်ဆယ်ယူပါ။ ထို့နောက်မှ ရေကို ငင်ပစ်ပါ။ ကြွက်ကို မဆယ်ဘဲ ခပ်ပစ်နေပါက မည်မျှပင် ခပ်နေသော်လည်း တဟားဝင် မဟုတ်ချေ၊ ကြွက်ကို ဆယ်ပြီး ထိုမျှခန့် ပြန်ငင်ပစ်ရချေမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၆။

၇။ မတ်စ်အလဟ် ပြဿနာ။ အိမ်မြှောင်အကြီးစား၊ ၎င်းတို့သည် စီးတွေသော သွေးရှိလေသည်။ သူ၏အမိန့်သည်လည်း ဤသို့ပင်ရှိလေသည်၊ အကယ်၍ ရေတွင်းတွင် ကျသေ၍၊ ပုတ်ခြင်း-ပွခြင်းမရှိသေးသော် ရေအပုံးပေါင်းနှစ်ဆယ်ငင်ထုတ်ပစ်ရမည်။ အပုံးပေါင်းသုံးဆယ်ငင်မှု ပိုမိုကောင်း၏၊ အကြင်သတ္တဝါ၌ စီးတွေသောသွေးမရှိလျှင် ၎င်းတို့ ရေတွင်း၌ ကျသေခြင်းဖြင့် ရေမသန့်မဖြစ်ချေ။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ခို့သို့မဟုတ် ကြက်၊ သို့မဟုတ် ကြောင် သို့မဟုတ် ၎င်းတို့ကဲ့သို့သော အခြား အကောင်များလိမ့်ကျ၍ သေသွားသော် ပေါ်ရောင်ခြင်းမရှိသေးက ရေအပုံးလေးဆယ်ငင်ထုတ်ပစ်ခြင်းဝါဂျစ်ဗ်ဖြစ်၏၊ ရေအပုံးခြောက်ဆယ် ငင်မှု ပိုမိုကောင်းသည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၇။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇။

၉။ မတ်စ်အလယ် ပြဿနာ။ ။အကြပ်ရေတွင်း၌ တပ်ဆင်ထားသောရေပုံးဖြင့် ထိုရေတွင်းမှရေကို စာရင်းပါအတိုင်း ငင်ထုတ်ပစ်ရမည်၊ အကယ်၍ ပုံးကြီးကြီးဖြင့်ငင် ထုတ်လျှင် ရေဝင်များမည်ဆိုက တပ်ဆင်ထားသောပုံးနှင့် တိုက်ကြည့်ရမည်၊ အကယ်၍ ထိုပုံးကြီး၌ ၂-ပုံးခန့်ဆန့်လျှင် အတွက်ကျ မှတ်သားရမည်၊ ၄-ပုံးဆန့်လျှင်လည်း ၄-ပုံး ခန့် မှတ်သားရမည်၊ အချုပ်မှာ ဆန့်သည့်ခန့် ပုံးအရေအတွက်ဖြင့် ငင်ပစ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၄၇။

၁၀။ မတ်စ်အလယ် ပြဿနာ။ ။ အကယ်၍ ရေတွင်း၌ဤမျှခန့် ရေကြောင်း သန်နေ၍၊ ရေအားလုံးကိုခပ်ထုတ်မပစ်နိုင်အောင်ထွက်၍လာသော် ပထမ မခပ်မီရှိသော ရေအမှတ်အသားကို ချင့်ချိန်ခန့်မှန်းပြီး ထိုမျှခန့်ငင်ထုတ်ပစ်ရမည်။

**အကျိုးကျေးဇူး။** ။ရေကိုခန့်မှန်းရန်နည်းအမျိုးမျိုးရှိလေသည်၊ တစ်ခုမှာ ဥပမာ- ရေငါးတောင်ခန့်နက်မူ မရပ်မနားရေအပုံး တစ်ရာခန့် ခပ်ပစ်၍ မည်မျှခန့် ရေလျော့နည်း သွားသနည်းဟု ကြည့်ရမည်၊ အကယ်၍ တစ်တောင်ခန့်မျှ ရေကျသွားသော် ထိုတွက်နည်းဖြင့် ပုံးတစ်ရာတွင် တစ်တောင်ကျက ပုံးငါးရာခပ်ပစ်လျှင် ငါးတောင်ကျမည်ဟုမှတ်ရမည်။

ဒုတိယနည်းမှာ ရေကိုခန့်မှန်းသိတတ်သော အီမာန်ရှိသူ မွတ်စလင်မ် နှစ်ဦးအား ခန့်မှန်းခိုင်းရမည်၊ ထိုသူနှစ်ဦး ခန့်မှန်းသည့်အတိုင်း ငင်ထုတ်ပစ်ရမည်၊ အကြပ်နေရာ၌ ဤနှစ်နည်းစလုံး ခက်ခဲနေလျှင် ပုံးပေါင်း သုံးရာမျှ ငင်ထုတ်ပစ်ရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၅၅။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၇။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၀။

၁၁။ မတ်စ်အလယ် ပြဿနာ။ ။ရေတွင်းထဲမှ ကြွက်သေ၊ သို့မဟုတ် အခြား သော တိရစ္ဆာန်သေများရရှိ၍ ဘယ်နေ့ဘယ်အချိန်က ကျနေသည်ဟု မသိရသော်လည်း ကောင်း၊ ထိုအကောင်သည် ဖေါရောင်ခြင်းလည်း မရှိသေးသော်လည်းကောင်း ထိုရေ တွင်းမှရေဖြင့် ဝိုသွူပြုသောသူများသည် တနေ့နှင့်တညဉ့်၏ နမာဇ်များကို ပြန်ဖတ်ရမည်၊ ထိုတွင်းမှရေဖြင့်အဝတ်များကို လျှော်ဖွတ်ထားသူများသည် အဝတ်ကိုရေသန့်ဖြင့်ထပ်မံ လျှော်ရမည်။

အကယ်၍ ထိုအကောင်သည် ဖေါရောင် ပုတ်ပွနေသော် သုံးရက်နှင့် သုံးညဉ့် နမာဇ်များကို ပြန်ဖတ်ရမည်၊ အကြပ်သူတို့သည် ဤတွင်းရေမှ ဝိုသွူမပြုကြသော်ထိုသူ တို့မှာ ပြန်ဖတ်ရန်မလိုချေ။

ဤအကြောင်းမှာ လုံလောက်ရုံမျှသာဖြစ်လေသည်၊ အချို့သောအာလင်မ်များက ဤသို့ မိန့်ဆိုကြသည်မှာ ရေတွင်းကို မသန့်ရှင်းကြောင်း သိရသော အချိန်မှစ၍ မသန့်ဟု မှတ်ယူရမည်၊ ထိုအချိန်၏အလျှင်က ပြုလုပ်ခဲ့သော ဝိုသ္ဂူနှင့် နမာဇ်များမှာ အားလုံး ပိုင်လေသည်၊ အကြင်သူသည် ယင်းအဆိုပေါ်၌ လိုက်နာ ကျင့်သုံးလျှင်လည်း ပိုင်၏။

ရှရ်ဟ္ဂလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၇။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇။
မွန်ယဟ်ကျမ်း စာမျက်နှာ-၅၂၊ ၅၃။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။ရေချိုးရန်ထိုက်သောသူသည် ရေပုံးဆယ်ရန်အတွက် ရေတွင်းထဲသို့ဆင်း၏၊ သူ၏ကိုယ်နှင့်အဝတ်၌ မသန့်လူးထိခြင်းမရှိလျှင် ရေတွင်းသည် မသန့်မဖြစ်ချေ။

ဤနည်းပင် ကာဖွင်ရ်တစ်ဦးကဆင်း၍ သူ၏ကိုယ်နှင့် အဝတ်တွင် မသန့်မရှိသော် ရေတွင်းသည် သန့်၏၊ မသန့် လူးထိသူဖြစ်ပါက ရေတွင်းသည် မသန့်ဖြစ်သွားလေသည် ရေအားလုံး ငင်ထုတ်ပစ်ရမည်။

အကယ်၍ဒွ္ဂိဟာဖြစ်၍ အဝတ်သည် သန့်မသန့် မသိရသော် ထိုအခါ၌လည်း ရေတွင်းသည် သန့်သည်ဟုယူဆရမည်၊ သို့ရာတွင် စိတ်ချရန်အတွက် ရေပုံး ၂၀-ခန့်ဖြစ်စေ၊ ၃၀-ခန့်ဖြစ်စေ ငင်ထုတ်ပစ်လျှင် ထိုအခါ၌ မညီသို့မျှကိစ္စမရှိတော့ချေ။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၀။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၊ ၂၃။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ ရေတွင်းထဲသို့ ဆိတ်ဖြစ်စေ၊ ကြွက်ဖြစ်စေ ကျသွား၍ အရှင်ဆယ်ရမူ ရေသည်သန့်၏ မည်သည့်မှ ငင်ထုတ်ပစ်ရန်မလိုပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။ကြွက်ကိုကြောင်ကဖမ်း၍ သွားဖြင့်ကိုက်လိုက်သဖြင့် အနာတရဖြစ်သွားပြီးနောက် ကြောင်က လွှတ်လိုက်ရာ ယင်းသို့ သွေးထွက်သံယိုဖြင့် ရေတွင်းထဲသို့ ကြွက်သည် လိမ့်ကျ၏၊ ထိုအခါ တွင်းထဲမှ ရေအားလုံး ငင်ထုတ်ပစ်ရမည်။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။ကြွက်သည် (မသန့်သောရေမြောင်း) ရေပုတ်ကန်မှထွက်ပြေး၍ သူ၏ကိုယ်၌ မသန့်အနံ့ အပြားလူးထိလျက်ရှိ၏၊ ထို့နောက် ရေတွင်းထဲသို့ လိမ့်ကျသော် ကြွက်သည် တွင်းထဲမှ အရှင်ရသည်ဖြစ်စေ၊ အသေရသည် ဖြစ်စေ ရေအားလုံးကို ငင်ထုတ်ပစ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉။
ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ။ ကြွက်၏ အမြီးပြတ်၍ ရေတွင်းထဲသို့ ကျမှု ရေအားလုံးငင်ပစ်ရမည်၊ ထိုနည်းပင် စီးမွှေသောသွေးရှိသည့် အိမ်မြှောင်သည် အမြီး ပြတ်၍ ထိုအမြီးပြတ်ကျသွားမှု ရေအားလုံး ငင်ထုတ်ပစ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၈။

ဖွတာ၀ါဟင်န်ဒီယဟ်ကျမ်း စာမျက်နှာ-၂၁၇။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်ပစ္စည်းကျသောကြောင့် ရေတွင်းသည် မသန့်ဖြစ်ရ၏၊ အကယ်၍ ထိုပစ္စည်းကို ကြိုးစားအားထုတ်လျက် ဆယ်ယူ၍ မရခဲ့သော် ထိုပစ္စည်းသည် ဘယ်သို့သောပစ္စည်းနည်းဟု ကြည့်ရမည်၊ အကယ်၍ ထိုပစ္စည်းသည် မိမိ မူလ၌သန့်ရှင်း၏၊ သို့သော် မသန့်လူးထိသဖြင့် မသန့်ဖြစ်သွားရသော် ဥပမာ... မသန့် သောအ၀တ်၊ မသန့်သောဘောလုံး၊ မသန့်သောဖိနပ်၊ ထိုသောအခါ၌ ၎င်းပစ္စည်းကို ဆယ်မရသော် ခွင့်လွှတ်၏၊ ထိုသို့ပင် ရေများကို ငင်ထုတ်ပစ်ရမည်။

အကယ်၍ ထိုပစ္စည်းသည် မိမိမူလ၌ပင် မသန့်သောပစ္စည်း ဖြစ်ပါမူ ဥပမာ..., သေနေသော တိရစ္ဆာန် ကြွက်, စသည်ဖြစ်ရာ ၎င်းအသေကောင်သည် ပုပ်ဆွေး၍ မြေ ဖြစ်သွားပြီဟု မယုံရသေးသမျှ ရေတွင်းသည်မသန့်ချေ၊ ယင်းသို့ယုံကြည်ခဲ့သော် ထိုအချိန် ၌ ရေရှိသမျှအားလုံးကို ငင်ထုတ်ပစ်က ရေတွင်းသန့်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂။

၁၈။ မတ်စ်အလဟ် ပြဿနာ။ ။ရေတွင်းထဲမှရေသည် မည်မျှပင် ငင်ထုတ်ရန် လိုအပ်ပါမူတစ်ကြိမ်တည်းဖြင့်ဖြစ်စေ၊ အနည်းငယ်စီအကြိမ်ကြိမ် ငင်ထုတ်လိုသည်ဖြစ်စေ မည်သို့ပင်ထုတ်စေကာမူ သန့်ရှင်းသွားလေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၁။



# တိရစ္ဆာန်များ၏ စားကြွင်း သောက်ကြွင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။လူ၏ စားကြွင်း သောက်ကြွင်းသည် သန့်၏၊ အကယ်၍ ဘာသာခြားသူဖြစ်စေ၊ သို့မဟုတ် ရာသီသွေးဆင်းနေသော မိန်းမဖြစ်စေ၊ သို့မဟုတ် မသန့်သောအခါ၌ဖြစ်စေ၊ သို့မဟုတ် သားဖွားပြီး ရာသီလာနေသူ မိန်းမဖြစ်စေ အဖြစ်တိုင်း၌ ၎င်းတို့၏သောက်ကြွင်းစားကြွင်းသည်သန့်၏၊ ထိုနည်းတူ ၎င်းတို့၏ချွေးသည် လည်းသန့်၏၊ သို့သော်ထိုသူတို့၏လက်၌သော်လည်းကောင်း၊ ပါးစပ်၌သော်လည်းကောင်း တစ်စုံတစ်ခုသော မသန့်လူးထိနေလျှင် ထိုသူတို့၏ စားကြွင်းသည် မသန့်ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ခွေး၏ စားကြွင်း သောက်ကြွင်းသည် မသန့်ဖြစ်လေသည်၊ အကယ်၍ အိုးခွက်တစ်စုံတစ်ခု၌ ခွေးနှိုက်သွားသော် သုံးကြိမ်သုံးခါဆေးကြောပစ်လိုက်လျှင်သန့်၏၊ မြေအိုး, မြေခွက်ဖြစ်စေ၊ ကြေးအိုး, ကြေးခွက် စသည်ဖြစ်စေဟူ၏၊ ဆေးကြောပစ်လိုက်လျှင် အားလုံးသန့်ရှင်းသွားလေသည်၊ သို့ရာတွင်ပိုမိုကောင်းမွန်သည်မှာ ခုနစ်ကြိမ်ခန့် ဆေးကြောပစ်ခြင်းဖြစ်သည်၊ ၎င်းပြင် တစ်ကြိမ်မျှ သဲဆပ်ပြာတို့ဖြင့်ကောင်းမွန်စွာ တိုက်ပွတ်ဆေးကြောပါက ကောင်းစွာသန့်ရှင်းသွားနိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၉။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ဝက်၏ စားကြွင်း သောက်ကြွင်း သည်လည်း မသန့်ဖြစ်၏၊ ထိုနည်းပင် ကျား, စံပုလွေ, မျောက်, ခွေးအ အစရှိသော ကုတ်ဖြတ်ကိုက်ခဲစားသောက်တတ်သော သားရဲတိရစ္ဆာန်ဟူသမျှ၏ သောက်ကြွင်းစားကြွင်းသည် မသန့်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၈။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ကြောင်၏ စားကြွင်း သောက်ကြွင်းသည် သန့်သော်လည်းမတ်ကရူးဟ်ဖြစ်လေသည်၊ သို့ရှိရာ အခြားရေရနိုင်ပါမူ ကြောင်၏ သောက်ကြွင်းရေဖြင့် ဝိုသွူမပြုနှင့်၊ အကယ်၍ အခြားသောရေ မရနိုင်က ၎င်းရေဖြင့် ဝိုသွူပြုရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၉။

၅။ မတ်စ်အလဟ် ပြဿနာ။ ။နို့ခွက်ဟင်းခွက်ထဲသို့ကြောင်ကပါးစပ်ဖြင့်နှိုက်သွားလျှင် အကယ်၍ စားနိုင် သောက်နိုင်သူဖြစ်က ၎င်းကိုမစားသုံးပါနှင့်၊ အကယ်၍ ဆင်းရဲနွမ်းပါးသူဖြစ်က စားသုံးနိုင်သည်၊ ယင်းသို့ စားသုံးခြင်းဖြင့် ဘာမျှအပြစ်မဖြစ်၊ ဤသို့သောသူအတွက် မတ်ကရူးဟ်လည်းမဖြစ်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၈။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၁။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ကြောင်ကကြွက်ကိုစား၍ချက်ချင်းပင်အိုးခွက်၌ပါးစပ်ဖြင့်နှိုက်လျှင် ထိုအိုးခွက်၌ရှိသော စားသောက်ဖွယ်များသည် မသန့်ဖြစ်သွားလေသည်၊ ကြောင်သည်မိမိပါးစပ်ကိုလျှာဖြင့်လျက်ပြီး အတော်ကြာမှ အိုးခွက်ကိုနှိုက်လျှင် မသန့်မဖြစ် မတ်ကရူးဟ်မျှသာဖြစ်သည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈၊ ၃၀။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၉။

၇။ မတ်စ်အလဟ်ပြဿနာ။ ခြံတွင်း၌မနေဘဲ နေရာတကာလှည့်လည်၍ မသန့်များကို စားသောက်သော ကြက်၏ စားကြွင်း သောက်ကြွင်းသည် 'မတ်က်ရူးဟ်'ဖြစ်လေသည်။ ခြံထဲတွင်နေသော ကြက်၏ စားကြွင်းသောက်ကြွင်းသည်သန့်၏၊ မတ်က်ရူးဟ် မဟုတ်။ ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ၁၊ စာမျက်နှာ-၄၀။
ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၀-၂၄။

၈။ မတ်စ်အလဟ်ပြဿနာ။ သားရဲ-ငှက်၊ (ဥပမာ) သိန်းငှက်၊ လင်းယုံငှက်စသောငှက်များ၏စားကြွင်းသောက်ကြွင်းသည်လည်းမတ်က်ရူးဟ်ဖြစ်လေသည်။သို့ရာတွင် မွေးမြူထားသောငှက်ဖြစ်၍ အသေကောင်ကို မစားသော် ၎င်းငှက်၏ နှုတ်သီး၌ တစ်စုံတစ်ခုသော မသန့်လူးထိသည်ဟု ဒွိဟမရှိသော် ၎င်းငှက်၏ စားကြွင်းသောက်ကြွင်းသည် သန့်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၈။

၉။ မတ်စ်အလဟ်ပြဿနာ။ (ဟလာလ်) စားသုံးအပ်သော တိရစ္ဆာန်များဖြစ်သည့် (ဥပမာ) ဒွန်ဘာ၊ ဆိတ်၊ သိုး၊ နွား၊ ကျွဲ၊ သမင် စသော သတ္တ၀ါများ နှင့် (ဟလာလ်)ဖြစ်သော ငှက်များ (ဥပမာ) သာလိကာ၊ ကြက်တူရွေး၊ ချိုး၊ စာကလေးစသော ငှက်များ၏ စားကြွင်းသောက်ကြွင်းသည်သန့်၏။ ထိုနည်းပင် မြင်း၏စားကြွင်းလည်း သန့်၏။ ဖွတာ၀ါဟင်ဒိယျာကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၂၂၉။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကြင် သတ္တ၀ါများသည် အိမ်၌ နေကြ၏။ (ဥပမာ)မြွေ၊ အိမ်မြှောင်၊ ကြွက်၊ ကင်းမြီးကောက် စသည်များ၏ စားကြွင်းသောက်ကြွင်းသည် မတ်က်ရူးဟ် ဖြစ်လေသည်။ ဟေဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၃၀။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၄၉။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မုန့်ကိုကြွက်ကိုက်ထားလျှင် ကောင်းသော နည်းမှာ ကိုက်ထားသော နေရာမှ အနည်းငယ် ဖဲ့ပစ်ပြီးနောက် စားသုံးရမည်။ ရှာမီကျမ်းအတွဲ ၁၊ စာမျက်နှာ-၃၁၃။

၁၂။ မတ်စ်အလဟ်ပြဿနာ မြည်းနှင့် လားတို့၏ သောက်ကြွင်းသည် သန့်သော်ငြားလည်း ၀ိုသွူပြုရန်မှု ဒွိဟရှိလေသည်။ အကယ်၍ တနေရာ၌ မြည်းနှင့် လားသောက်ကြွင်းရေသာ ရရှိ၍ အခြားသောရေမရနိုင်သော် ၀ိုသွူလည်းပြုရမည်။ တယမ်မွမ်လည်းပြုရမည်။ ၀ိုသွူပထမပြုသည်ဖြစ်စေ၊ တယမ်မွမ် ပထမပြုသည်ဖြစ်စေ နှစ်မျိုးစလုံး ကြိုက်ရာပြုခွင့်ရှိသည်။ ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၃၀။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၄၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကြင် သတ္တဝါများ၏ သောက်ကြွင်းသည် မသန့်ဖြစ်လျှင် ၎င်းတို့၏ချွေးသည်လည်း မသန့်ဖြစ်လေသည်၊ သန့်လျှင် ချွေးလည်း သန့်လေသည်၊ သောက်ကြွင်းမှာ မတ်က်ရူးဟ်ဖြစ်လျှင် ချွေးလည်း မတ်က်ရူးဟ်ဖြစ်လေသည်။ မြည်းနှင့် လားတို့၏ ချွေးသည် သန့်၏၊ ၎င်းတို့၏ချွေး ကိုယ်နှင့်အဝတ်တွင် လူးထိသော် ဆေးပစ်ရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ သို့သော် ဆေးပစ်ခြင်း ပိုမိုကောင်း၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ- ၂၃၄။

၁၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူသည် ကြောင်ကို မွေးထားရှိ အနားသို့ လာပြီး ထိုင်ကာ လက် စသည်ကို လျက်သော် လျက်သောနေရာ လျှာရည် လူးထိသော နေရာ တို့ကို ဆေးကြောပစ်ရမည်၊ မဆေးဘဲ ဤအတိုင်းနေက မကောင်းချေ၊ မတ်က်ရူးဟ်ဖြစ်သည်။ မွန်ယဟ်ကျမ်းစာမျက်နှာ-၆၇။

၁၅။ မတ်စ်အလဟ်ပြဿနာ။ သူစိမ်းယောကျ်ား၏ သောက်ကြွင်း စားကြွင်း သည်မိန်းမအတွက် မတ်က်ရူးဟ် ဖြစ်၏။ ဤသည်ကား သူ၏ စားကြွင်း သောက်ကြွင်း ဟု သိသော အခါ၌ ဖြစ်၏၊ အကယ်၍ မသိခဲ့သော် မတ်က်ရူးဟ် မဟုတ်၊ ဤနည်းပင် သူစိမ်း မိန်းမ၏ စားကြွင်း သောက်ကြွင်းလည်း ယောကျ်ားများ အဖို့ မတ်က်ရူးဟ် ဖြစ်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၂၉။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ၁၊ စာမျက်နှာ ၄၁။

# တယမ်မွမ်၏ အကြောင်း။

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူသည် တောထဲ၌ရှိနေမည်၊ မည်သည့်နေရာ၌ ရေရှိသည်ဟု လုံးဝမသိသော်လည်းကောင်း ထိုနေရာတွင် မေးမြန်းစုံစမ်းရန် လူတစ်ဦးတစ်ယောက်မျှ မရှိခဲ့သော် ယင်းသို့သော အချိန်၌ တယမ်မွမ် ပြုရမည်။

အကယ်၍ လူတွေ့သဖြင့် ၎င်းသူက 'ရှရ်အီ' မိုင်၁-မိုင်အတွင်း ရေရှိသောဌာနကို ညွှန်ပြ၍ ဟုတ်မှန်လိမ့်မည် ဟု အထင်များသော် သို့မဟုတ် လူကား မတွေ့၊ သို့ရာတွင် တစ်စုံတစ်ခုသော နိမိတ်လက္ခဏာဖြင့် ၁-မိုင်အတွင်း ရေမုချရလိမ့်မည်ဟု စိတ်ကထင်သော် မိမိနှင့် မိမိအဖေါ်များအတွက် ဒုက္ခအန္တရာယ်မရှိက ရေကိုကောင်းစွာရှာဖွေရန် အရေးကြီး၏။ (အကယ်၍ ဒုက္ခရောက်မည်ဖြစ်သော် ရှာဖွေရန် အရေးမကြီးပေ၊) ရေမရှာဘဲ တယမ်မွမ်ပြုခြင်းမပိုင်ချေ၊ အကယ်၍ ရှရ်အီ ၁-မိုင်အတွင်း ရေရရှိနိုင်သည်ဟု ကောင်းစွာ ယုံကြည်သော် (၎င်းကိုယ်တိုင်နှင့် အဖေါ်များ ဒုက္ခရောက်မည်ဖြစ်သော်လည်း) ရေကို ယူခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။

**အကျိုးကျေးဇူး။** ရှရ်အိမိုင်သည် အင်္ဂလိပ်မိုင်ထက် အနည်းငယ်ခန့် ပို၏။ အဓိပ္ပါယ်မှာ.... အင်္ဂလိပ်မိုင် ၁-မိုင် နှင့် ၈-ပုံ၁-ပုံသည် ရှရ်အီမိုင် ၁-မိုင်ဖြစ်လေသည်။ အင်္ဂလိပ်မိုင် ၁-မိုင်နှင့် ၁ဖါလုံ ၁၀-ဂိုက်ခန့် အဓဝေးသည် ရှရ်အီ ၁-မိုင်နှင့် ညီမျှလေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၉။

**ရှင်းလင်းချက်။** မည်သည့်နေရာ၌ရေရှိသည်ဟု လုံးဝမသိသော် ဤစကား၏ အလိုသဘောကား- ဤတောတွင်း၌ ရေရှိမရှိ မသိရခြင်း ရှိပြန်သော်လည်း ၁-မိုင်အတွင်း၌ရှိသည်၊ သို့မဟုတ် ၁-မိုင်ထက်ကျော်မည်ကို မသိရခြင်း အကယ်၍ ၁-မိုင်အတွင်းရှိသည်ကို သိရသော်လည်း မည်သည့်နေရာ၌ရှိသည်ကို မသိရခြင်း စသည်တို့ကို ဆိုလိုသည်။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေရှိသော နေရာကိုသိရ၏။ သို့ရာတွင် ၁-မိုင်ထက် ပိုဝေးသောနေရာတွင်ရှိကြောင်း သိရသော် ဤမျှခန့် ဝေးလံသော နေရာသို့ ရေသွားယူခြင်း ဝါဂျစ်ဗ် မဟုတ် ထိုအခါတွင် တယမ်မွမ် ပြုလုပ်ခြင်း ပိုင်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၉။
ဒွရ်ခရ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လူနေရပ်ရွာမှ ၁-မိုင်ခန့်ဝေးကွာသော နေရာဖြစ်၍ ၁-မိုင်အတွင်း မည်သည့်နေရာတွင်မျှ ရေမရခဲ့လျှင်လည်း တယမ်မွမ်ပြုခြင်း ပိုင်၏၊ ဧည့်သည် အာဂန္တု ဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်ဖြစ်စေ အနည်းငယ် ဝေးလံသော နေရာသို့သွားရန်အတွက် ထွက်လာသည်ဖြစ်စေဟူ၏။

မွန်ယဟ်ကျမ်း စာမျက်နှာ ၁၉၊ ၂၃။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လမ်းခရီး၌ ရေတွင်းတွေ့ရ၏၊ သို့သော် ရေကရား ရေပုံး ကြိုး အနားတွင်မရှိ၊ သို့အတွက် ရေကိုယူရန်ခက်သော် အခြားသူထံမှ တောင်းလျှင်လည်း ရမည်မဟုတ်လျှင် တယမ်မွမ်ပြုခြင်း ပိုင်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၉။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တနေရာ၌ရေရရှိရာအလွန်နည်းပါး၏၊ အကယ်၍ မျက်နှာ လက်နှစ်ဘက် ခြေနှစ်ဘက်ကို တစ်ကြိမ်စီ ဆေးနိုင်လျှင် တယမ်မွမ် ပြုခြင်း မပိုင်ချေသာမက မျက်နှာ၊ လက်၊ ခြေများကို တစ်ကြိမ်စီဆေးကြော၍ ခေါင်းကို မတ်စ်ဟ်ပြုရမည်။ ပါးလုပ်ကျင်းခြင်းစသော စွန္နတ်များကို လွှတ်လိုက်ရမည်။ အကယ်၍ ဤမျှခန့်လည်း မလုံလောက်မူ တယမ်မွမ်ပြုလုပ်ရမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၂၆၁။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရောဂါ ဝေဒနာကြောင့် ရေသည် ဆိုးရွား နစ်နာမှုကို ဖြစ်စေသော် အကယ်၍ ဝိုသူသော်လည်းကောင်း၊ ဂွတ်စ်လ်သော်

လည်းကောင်း ပြုခဲ့လျှင် ရောဂါတိုးလာမည်ဖြစ်သော် သို့မဟုတ် အချိန်ကြာမှပျောက်မည်ဖြစ်သော် ထိုအချိန်၌ တယမ်မွမ်ပြုခြင်း ပိုင်၏။

သို့သော် အကယ်၍ ရေအေးဖြင့်မသင့်ဘဲ ရေနွေးဖြင့်သင့်သော် ရေနွေးဖြင့်ရေချိုးခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်။ အကယ်၍ ရေနွေးမရနိုင်သော နေရာဖြစ်ပါမူ တယမ်မွမ်ပြုခြင်း ပိုင်၏။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၂။
ဟေဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၃၂။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေသည် နီးကပ်သော နေရာ၌ရှိ၏။ ၁-မိုင်ထက်လျော့၍ ဝေးသောနေရာ၌ ရနိုင်မည်ဆိုလျှင် တယမ်မွမ်ပြုခြင်း မပိုင်၊ ရေရှိရာသို့ သွားယူ၍ ဝိုသွူပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။ ယောကျ်ားများကို ရှက်၍ သို့မဟုတ် ပရ်ဒဟ်ကြောင့် ရေယူရန်မသွားဘဲ တယမ်မွမ်ပြုလုပ်ခြင်း မပိုင်ချေ။ ပရ်ဒဟ် ထားခြင်းသည် ဤသို့သော 'ရှရီအတ်'၏ အမိန့်ကို စွန့်လွှတ်ရန်ဖြစ်ခဲ့သော် မပိုင်၊ ဟာရာမ်ဖြစ်၏။ ခြုံထည် (ဗွရ်ကဟ်)ကို ခြုံ၍ သို့မဟုတ် တစ်ကိုယ်လုံး စောင်ဖြင့် ရစ်ပတ်၍ သွားခြင်း ဝါဂျစ်ဗ်ဖြစ်၏။ ယောကျ်ားများ၏ရှေ့မှောက်တွင် ထိုင်၍ ဝိုသွူမပြုပါလင့်၊ ၎င်းတို့၏ရှေ့တွင် မျက်နှာနှင့် လက်ကို မဖွင့်ရ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၇။
ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၄၀။

၈။ မတ်စ်အလဟ်ပြဿနာ ရေဖြင့် ဝိုသွူ မပြုနိုင်သေးသမျှ ကာလပတ်လုံး တယမ်မွမ်ကိုပင် ပြုလုပ်နေရမည်။ ရက်ပေါင်း မည်မျှခန့်ပင် ကြာစေကာမူ တစ်စုံတစ်ခု ဒွိဟာယနမရှိသင့်ပေ၊ ဝိုသွူ ၇ွတ်စ်လ်ပြုခြင်းဖြင့် မည်မျှခန့် သန့်ရှင်းမှု ရနိုင်သကဲ့သို့ ထိုမျှခန့်ပင် တယမ်မွမ်ဖြင့် သန့်ရှင်းမှု ရနိုင်လေသည်၊ တယမ်မွမ်ဖြင့် ကောင်းစွာ သန့်ရှင်းမှု မရရှိဟူ၍ မထင်မှတ်သင့်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၅၃။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄။

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေကို အဖိုးအခနှင့်ရောင်းသော် သူ၏ထံ၌ အဖိုးအခပေးရန်မရှိသော် တယမ်မွမ်ပြုလုပ်ခြင်းပိုင်၏။ အကယ်၍ အဖိုးအခပေးရန် ငွေရှိလျှင် လမ်းပန်း၌ လိုအပ်သော စားရိတ်ထက် ပိုနေမှု အဖိုးများသော်လည်း ပေး၀ယ်ခြင်း ဝါဂျစ်ဗ် ဖြစ်၏။ သို့သော်လည်း မည်သူမျှ မရောင်းသော ဈေးဖြင့် အဆမတန်ကြီးစွာဖြင့် ရောင်းသော် ထိုမျှခန့်ဈေးကို မည်သူမျှမပေးသော် ဝယ်ယူခြင်း ဝါဂျစ်ဗ် မဟုတ်ချေ၊ တယမ်မွမ်ပြုလုပ်ခြင်း ပိုင်၏။

အကယ်၍ လမ်းခရီးစရိတ် စသည် မလုံလောက်လျှင်လည်း ဝယ်ယူခြင်း ဝါဂျစ်ဗ် မဟုတ်ချေ၊ တယမ်မွမ်ပြုလုပ်ခြင်း ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၀၊ ၂၄။

၁၀။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ နေရာဌာန တစ်ခုတွင် အလွန် အေးချမ်း၍ ရေခဲလောက် အေး၏၊ ရေချိုးခဲ့သော် သေမည်၊ ဖျားမည်ကို စိုးရိမ်ရသော်လည်းကောင်း၊ ရေချိုးပြီးခြုံ၍ နွေးစေရန် စောင်,ဂွမ်းစောင် စသည် ဘာတစ်ခုမျှမရှိသော်လည်းကောင်း ဤသို့သော မတတ်သာသည့်အချိန်အခါမျိုးတွင် တယမ်မွမ် ပြုလုပ်ခြင်း ပိုင်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၂။
ရှရ်ဟွလ်ဘာဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၂။

၁၁။ မတ်စ်အလယ်ပြဿနာ။ လူတစ်ဦး၌ ကိုယ်ခန္ဓာတွင် တစ်ဝက်ထက် ပို၍ အနာများ ပေါက်နေသော် သို့မဟုတ် ကျောက်ကြီးရောဂါဖြစ်နေသော် ရေချိုးခြင်းသည် ဝါဂျစ်ဗ်မဟုတ် သာမက တယမ်မွမ်ပြုရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၁၉၊ ၂၂။

၁၂။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ကွင်းပြင်တစ်ခုတွင်တယမ်မွမ်ပြုလုပ်၍ နမာဇ်ဖတ်လိုက်ကြ၏။ ရေသည် ထိုနေရာနှင့် မလှမ်းမကမ်းတွင်ရှိ၏၊ သို့ရာတွင် ထိုရေရှိကြောင်း မသိသော် တယမ်မွမ်နှင့်နမာဇ်နှစ်မျိုးစလုံးပိုင်၏။ မည်သည့်အခါရေရှိကြောင်း သိရသော် ပြန်ဖတ်ရန် မထိုက်။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၃။

၁၃။ မတ်စ်အလယ် ပြဿနာ။ အကယ်၍လမ်းခရီး၌ တစ်ဦးသောသူ၏ ထံ၌ ရေရှိ၏။ မိမိစိတ်ကိုကြည့်ရမည်၊ အကယ်၍ ကျွန်ုပ်ရေကိုတောင်းလျှင် ရေရမည်ဟု စိတ်ကထင်သော် ရေမတောင်းဘဲ တယမ်မွမ်ပြုလုပ်ခြင်း မပိုင်ချေ။

အကယ်၍ စိတ်ထဲမှ ရေတောင်းလျှင် ထိုသူသည် ပေးမည် မဟုတ်ဟု ထင်သဖြင့် မတောင်းဘဲ တယမ်မွမ်ပြုလုပ်ခြင်း ပိုင်၏၊ သို့ရာတွင် နမာဇ်ဖတ်ပြီး နောက် ထိုသူ့ထံမှ ရေတောင်းရာ ထိုသူက ပေးခဲ့သော် နမာဇ်ကိုပြန်၍ အသစ်ဖတ်ရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၉၊ ၂၀။

၁၄။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ ဇမ်ဇမ်ရေသည် ဗူးတွင်အပြည့်ရှိနေမူ တယမ်မွမ်ပြုခြင်း မပိုင်ချေ။ ဇမ်ဇမ်ရေဗူးများကိုဖောက်၍ ထိုရေဖြင့် ရေချိုးခြင်း ဝိုသွူပြုခြင်းသည် ဝါဂျစ်ဗ်ဖြစ်လေသည်။ မွန်ယဟ်ကျမ်း စာမျက်နှာ- ၂၀၊ ၂၄။

၁၅။ မတ်စ်အလယ်ပြဿနာ။ လူတစ်ဦးထံ၌ ရေပါရှိ၏၊ သို့ရာတွင် လမ်းခရီးကကြမ်းတမ်း၍ မည်သည့် နေရာတွင်မျှ ရေ မရနိုင်ချေ။ ထို့အတွက်ကြောင့် လမ်းခရီး၌ ရေငတ်ပြီး ဒုက္ခရောက်ကာ သေကြေပျက်စီးမည်ကို စိုးရိမ်ကြောက်ရွံ့ရသော် ဝိုသွူမပြုဘဲ တယမ်မွမ်ပြုခြင်း ပိုင်၏။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၂၊ ၂၆။

၁၆။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ ရေချိုးလျှင်ဒုက္ခဖြစ်လိမ့်မည်၊ ဝိုသွူပြုသော် တစ်စုံတစ်ရာဖြစ်မည်၊ မဟုတ်က ဂွတ်စ်လ်ပြုမည့်အစား တယမ်မွမ် ပြုလုပ်ရမည်။

ထို့နောက် အကယ်၍ ဂွတ်စ်လ်၏ တယမ်မွမ် နောက် ဝိုသ္စူ ပျက်သွားခဲ့သော် ဝိုသ္စူ ပြုရမည်။ တယမ်မွမ် မပြုရ သာမက ဝိုသ္စူ၏နေရာ၌ ဝိုသ္စူပြုရမည်။ အကယ်၍ တယမ်မွမ်-ဂွတ်စ်လ်၏ အလျင်-ဝိုသ္စူပျက်စေတတ်သော အကြောင်းအရာတစ်ခုခု တွေ့ရှိ၏၊ ထို့နောက် ဂွတ်စ်လ်၏ တယမ်မွမ်ကို ပြုသော် ဤတယမ်မွမ်သည် ဂွတ်စ်လ် နှင့် ဝိုသ္စူ နှစ်မျိုးစလုံးအတွက် လုံလောက်လေသည်။

ဒွရ်ရေ့မုခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၅။
ရှရ်ဟ္ဂတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၂။

၁၇။ မတ်စ်အလဟ် ပြဿနာ။ တယမ်မွမ်ပြုလုပ်နည်းကား ဤသို့ရှိ၏။ လက်ဝါး နှစ်ဘက်ကို သန့်သော မြေပေါ်တွင် ရိုက်ရမည်၊ မျက်နှာတပြင်လုံးကို သုပ်သပ်ရမည်၊ ထို့နောက်လက်ဝါးနှစ်ဘက်ကို ဒုတိယတစ်ကြိမ်မြေပေါ်တွင်ရိုက်ရမည်၊ လက်နှစ်ဘက်ကို တတောင်ဆစ် အပါအဝင် သုတ်သပ်ရမည်၊ လက်ကောက်-လက်ပတ်ကြိုး စသည်များ၏ အတွင်းသို့ ကောင်းစွာသုတ်သပ်ရမည်။ အကယ်၍ သူ၏အထင်၌ လက်သည်း၌ ခန့်တနေရာ လစ်လပ်လျှင် တယမ်မွမ်မဖြစ်မြောက်ချေ။ လက်စွပ် စသည်ကို ချွတ်ထားရမည်၊ သို့မှသာ လစ်လပ် ကျန်ရစ်သော နေရာ ဟူ၍ မရှိဖြစ်မည်။ လက်ချောင်းကလေးများ စပ်ကြား တို့၌ ပွတ်သပ်ပေးရမည်၊ ဤအရာနှစ်ခုပြုလုပ်လိုက်သော် တယမ်မွမ် ပြီးမြောက်၏။

မွန်ယဟ်ကျမ်းစာမျက်နှာ-၁၇၊ ၁၈၊ ၂၂။

၁၈။ မတ်စ်အလဟ် ပြဿနာ။ မြေပေါ်တွင် လက် နှစ်ဘက်ကို ရိုက်ပုတ် ပြီး နောက် လက်နှစ်ဘက်ကို ခါချရမည်။ သို့မှသာ လက်များ နှင့် မျက်နှာ တို့တွင် ပြာလူး ဘုန်းကြီးကဲ့သို့ မဖြစ်စေရန် ရုပ်ဆင်းမပျက်မည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၄။
ရှရ်ဟ္ဂလ်ဘဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၂။

၁၉။ မတ်စ်အလဟ် ပြဿနာ။ မြေ၏အပြင် မြေ၏အမျိုးအစားတွင်ပါဝင်သော ပစ္စည်းများဖြင့်လည်း တယမ်မွမ်ပြုလုပ်ပိုင်၏။ (ဥပမာ) မြေ-သဲ-ကျောက်-အင်္ဂတေ-ထုံး-ဆေးဒန်း-စွရ်မာမှုန့်-မြေနီခဲ စသည် ဖြစ်လေသည်။

မြေ၏ အမျိုးအစား မဟုတ်သော အရာဖြင့် တယမ်မွမ် ပြုလုပ်ခြင်း မပိုင်ချေ။ (ဥပမာ) ရွှေ-ငွေ-ခဲ-ဂျုံ-သစ်သား-အဝတ်-သစ်စေ့ စသည်တို့ ဖြစ်လေသည်။ သို့သော် ယင်းပစ္စည်းများပေါ်တွင် တင်ရှိ ကပ်ရောက်နေသော ဖုံမှုန့်ဖြင့် ထိုအချိန်၌ သူတို့အပေါ် တွင် တယမ်မွမ်ပြုခြင်း ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၃၊ ၂၇။

၂၀။ မတ်စ်အလဟ် ပြဿနာ။ အကြင်ပစ္စည်းသည် မီး၌လောင်ကျွမ်းခြင်းမရှိ၊ အရည်ပျော်၍လည်းမသွားမူ ထိုပစ္စည်းသည် မြေ၏အမျိုးအစား၌ ပါဝင်၏၊ ၎င်းတို့ဖြင့်

တယမ်မွမ်ပြုလုပ်ပိုင်၏၊ အကြင်ဝင်ငွေ ပြစ္စည်းသည် မီး၌လောင်ကျွမ်း၍ ပြာကျမှု သို့မဟုတ် ပျော့အိ အရည်ပျော်သွားမှု ၎င်းတို့အပေါ်၌ တယမ်မွမ်ပြုခြင်း မပိုင်ချေ။ ထိုနည်းပင် ပြာပေါ်တွင် တယမ်မွမ်ပြုလုပ်ခြင်းလည်း မပိုင်ချေ။

(မှတ်ချက်။ ပြာသည် လောင်ကျွမ်း ပျော်ခြင်း မရှိသော်လည်း ထိုအပေါ်တွင် တယမ်မွမ် မပိုင်ပေ။ ထုံးသည် လောင်ကျွမ်းသောအရာ ဖြစ်သော်လည်း ထိုအပေါ် တယမ်မွမ် ပိုင်သည်၊ ဤနှစ်ချက်သည် တင်ပြပါ ဥပဒေ နှင့် မသက်ဆိုင်ပေ၊ ထုံးသည် ကျောက်တုံးဖြစ်စေ၊ ကျောက်စရစ်မှုဖြစ်စေ အတူတူဖြစ်သည်ကို သိထားကြရမည်။)

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၂။

၂၁။ မတ်စ်အလဟ် ပြဿနာ။ ကြေးအိုး၊ ကြေးခွက်၊ ခေါင်းအုံး၊ မှို့ရာ စသည်တို့ အပေါ်တွင် လည်းကောင်း၊ အဝတ်၊ အထည်တို့ အပေါ်၌တွင် လည်းကောင်း တယမ်မွမ် ပြုလုပ်ခြင်း မပိုင်၊ သို့သော် ၎င်းတို့အပေါ်၌ တင်နေသော မြူမှုန့်များမှာ လက်နှင့်ရိုက်လိုက်လျှင် ကောစ်းစွာပျံ့လွင့်ခြင်းရှိ၍ လက်ဖဝါးတွင် ကောင်းစွာ စွဲကပ်ခြင်း ရှိသော် တယမ်မွမ်ပြုပိုင်၏။

အကယ်၍ လက်ဖဝါးနှင့်ရိုက်သောအခါ အနည်းငယ်မျှသာ ဖုံထသော် တယမ်မွမ် မပြုပိုင်ချေ။ မြေအိုး-မြေခွက်ပေါ်တွင် တင်ရှိနေသော ဖုံမြှုပ်ရေပြည့်လျှံသည် ဖြစ်စေ၊ ရေမပြည့်လျှံသည်ဖြစ်စေ တယမ်မွမ်ပြုပိုင်၏။

အကယ်၍ မြေအိုး-မြေခွက် ပေါ်တွင် စဥ့်ရေသော် လည်းကောင်း၊ ဆေးသုတ် ထားပြီး မြူမှုန့်မရှိလျှင် တယမ်မွမ်မပိုင်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။

၂၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကျောက်တုံးပေါ်တွင် လုံးဝ ဖုံမရှိ သော်လည်း တယမ်မွမ်ပြုပိုင်၏၊ သာမက ရေဖြင့်ကောင်းစွာ ဆေးကြောထားခြင်း ဖြစ် သော်လည်းပိုင်၏။ လက်တွင် ဖုံမှုန့်ကပ်ရန် မလိုတော့ချေ။ ထိုနည်းပင် အုတ်ကျုတ်ပေါ် တွင်လည်း တယမ်မွမ်ပြုပိုင်၏။ ၎င်းအပေါ်တွင် ဖုံမှုန့်ကပ်နေသည်ဖြစ်စေ၊ မကပ်သည် ဖြစ်စေဟူ၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၃။

၂၃။ မတ်စ်အလဟ် ပြဿနာ။ ရွှံ့ဖြင့် တယမ်မွမ်ပြုပိုင်၏၊ သို့သော်လည်း မသင့် လျော်ပေ၊ အကယ်၍ ဤနေရာတွင် ရွှံ့မှတပါး အခြားသော ပစ္စည်းကို မရနိုင်သော် ဤနည်းပြုလုပ်ပါ၊ မိမိ၏အဝတ်အထည်တွင် ရွှံ့ကို သုတ်လူး၍ ၎င်းရွှံ့သည် ခြောက်သွေ့ သွားသောအခါ ၎င်းဖြင့်တယမ်မွမ်ပြုလော့၊ အကယ်၍ နမာဇ်ချိန် ဆိုက်ရောက်လာသော် ထိုအချိန်၌ ဘယ်နည်းဖြင့် ဖြစ်နိုင်သနည်း၊ ရွှံ့စိုဖြစ်စေ၊ ရွှံ့ခြောက်ဖြစ်စေ တယမ်မွမ်ကို ပြုလုပ်ရမည် နမာဇ်ကို ကသွာ မဖြစ်စေရ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၂၄၇။

၂၄။ မတ်စ်အလဟ် ပြဿနာ။ မြေပြင်တွင် ကျင်ငယ်စသည့် မသန့်တစ်စုံတစ်ခု ကျ၍ နေပူရှိန်ဖြင့်ခြောက်သွေ့သွားပြီးနံစော်သောအနံ့ တစ်စုံတစ်ရာမရှိလျှင် ထိုမြေသည် သန့်သွားလေပြီ၊ ထိုအပေါ်၌ နမာဇ်ဖတ်ပိုင်၏၊ သို့သော် ထိုမြေဖြင့် တယမ်မွမ်ပြုလုပ် ခြင်းမပိုင်ချေ။ (ဤမြေပြင်သည် ဤသို့ဖြစ်သည်ဟု သိလျှင်) အကယ်၍ မသန့်ဖြစ်ကြောင်း မသိခဲ့သော်သံသယမဖြစ်သင့်ပေ။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅၊ ၂၉။

၂၅။ မတ်စ်အလဟ် ပြဿနာ။ ဝိုသွူပြုလုပ်ရန် နေရာ၌ တယမ်မွမ်ပြုလုပ်ခြင်း ပိုင်သကဲ့သို့ ဤနည်းပင် ဂွတ်စ်လ်ပြုလုပ်ရန် နေရာတွင် အကျပ်အတည်း အခက်အခဲ ဖြစ်၍ မစွမ်းနိုင်သောအချိန်တွင် တယမ်မွမ်ပြုလုပ်ခြင်း ပိုင်၏။

ဤနည်းပင် အကြင်အမျိုးသမီးသည် ရာသီသွေးဆင်းခြင်း သားဖွားခြင်းမှ သန့်စင် ပြီးနောက် မစွမ်းနိုင်သောအချိန်တွင် ၎င်းတို့လည်း တယမ်မွမ်ပြုပိုင်၏။ ဝိုသွူနှင့်ဂွတ်စ်လ် အတွက် တယမ်မွမ်ပြုခြင်းသည် မည်သို့မျှ ခြားနားမှု မရှိချေ။ နှစ်မျိုးစလုံး နည်းလမ်း တစ်ခုတည်းပင် ဖြစ်လေသည်။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅၊ ၂၉။

၂၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူအား သင်ကြား ပြသရန်သဘောဖြင့် တယမ်မွမ် ပြုလုပ်ပြသ၏၊ သို့ရာတွင် စိတ်၌ မိမိအတွက် တယမ်မွမ်ပြုရန် 'နိယတ်' ရည်ရွယ်မှုမပြုဘဲ သက်သက် ထိုသူအား ပြသရုံသာ ရည်ရွယ်သော် ထိုသူ၏တယမ်မွမ်မမြောက်၊ အဘယ့်ကြောင့်ဟူမူတယမ်မွမ်ပြုခြင်း၌ ပိုင်ရန်မှာ ရည်ရွယ်မှု အဓိဋ္ဌာန်နိယတ်သည်လိုအပ်လေသည်။ အကြင်အခါတယမ်မွမ်ပြုရန်ရည်ရွယ်မှုမရှိဘဲတခြား သော သူအား သင်ကြားပြသပေးရန်ဆန္ဒမျှသာရှိမူ တယမ်မွမ်မဖြစ်မြောက်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၀၊ ၂၉။

ဖွတာဝါဟင်ဒိယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၆၀။

၂၇။ မတ်စ်အလဟ် ပြဿနာ။ တယမ်မွမ် ပြုလုပ်တော့မည့်အချိန်တွင် မိမိစိတ် တွင်းမှ ကျွန်တော်-ကျွန်မသည် သန့်ရှင်းရန်အတွက် တယမ်မွမ်ပြုလုပ်ပါသည်ဟု ရည်စူး ခြင်းပြုရမည်။ သို့မဟုတ် နမာဇ်ဖတ်ရန်အတွက် တယမ်မွမ်ပြုပါသည်ဟု ရည်စူးလိုက်လျှင် တယမ်မွမ်အောင်မြင်၏။ ကျွန်တော်-ကျွန်မသည်ဝိုသွူ၏တယမ်မွမ်ပြုလိုက်လျှင်တယမ်မွမ် အောင်မြင်၏၊ ကျွန်တော်-ကျွန်မသည် ဝိုသွူ၏ တယမ်မွမ် ပြုပါသည်ဟု လည်းကောင်း၊ သို့မဟုတ် ဂွတ်စ်လ်ဟုလည်းကောင်း ထည့်ရန် တစ်စုံတစ်ရာ မလိုအပ်ပေ၊ နမာဇ်ဖတ်ရန် သန့်ရှင်းရန် နိယတ်ထားလျှင် ပြီး၏။

အာလမ်ဂီရီကျမ်း အတွဲ၁၊ စာမျက်နှာ-၁၆။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၅၄။

၂၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ်ကို ကိုင် တွယ်ရန်အတွက် တယမ်မွမ်ပြုခဲ့သော် ထိုတယမ်မွမ်ဖြင့် နမာဇ်ဖတ်ခြင်း မပိုင်ချေ။

အကယ်၍ နမာဇ်တစ်ခုအတွက် တယမ်မွမ်ပြုလုပ်ရာ အခြားအချိန်၏နမာဇ်ကိုလည်း ထို တယမ်မွမ်ဖြင့် ဖတ်ခြင်းပိုင်၏၊ ကုရ်အာန်ကျမ်းမြတ်ကို ကိုင်တွယ်ခြင်းလည်း ထိုတယမ်မွမ် ဖြင့် ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅။

၂၉။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူသည် ရေချိုးရန် ထိုက်လာ၏၊ ဝိုသွုလည်းမရှိခဲ့သော် တယမ်မွမ် တစ်ကြိမ်တည်းပြုရုံဖြင့် ပိုင်၏။၊ သီးခြား သီးခြား နှစ်မျိုးစလုံးအတွက် တယမ်မွမ်ပြုရန်မလိုချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆။

၃၀။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူသည် တယမ်မွမ် ပြုလုပ်၍ နမာဇ်ဖတ်၏၊ ထို့နောက် ရေကိုရရှိ၏၊ အချိန်လည်းကျန်သေးပါမူ နမာဇ်ကို ပြန်လည်ဖတ်ရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ ထိုနမာဇ်သည် တယမ်မွမ်ဖြင့်ပင် ပိုင်ခဲ့လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅၊ ၂၉။

၃၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ရေသည်ရှရ်အီတစ်မိုင်ထက်မဝေးခဲ့မူ သို့ရာတွင် အချိန်မှာ ကျဉ်းကျပ်၍ ရေကိုသွားယူနေမူ အချိန်ကုန်ဆုံးသွားမည်ဖြစ်ခဲ့သော် လည်း တယမ်မွမ်ပြုခြင်းမပိုင်ချေ၊ ရေကိုသွားယူ၍ ကသွာဖတ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ၁၊ စာမျက်နှာ-၅၆။

၃၂။ မတ်စ်အလဟ် ပြဿနာ။ ၎ရေအသင့်ရရှိသောအချိန်တွင် ကုရ်အာန်ကျမ်း တော်ကို ကိုင်တွယ်ရန်အတွက် တယမ်မွမ်ပြုလုပ်ခြင်း မပိုင်ချေ။

မွန်ယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉။

၃၃။ မတ်စ်အလဟ် ပြဿနာ ။အကယ်၍ ရှေ့သို့ဆက်လက်သွားလျှင် ရေရရှိ နိုင်လိမ့်မည်ဟု မဏ်ထားလျှင် အချိန်ဦးတွင် နမာဇ်ကိုမဖတ်သေးဘဲ ရေကိုစောင့်ဆိုင်း ရမည်၊ သို့ရာတွင် မတ်က်ရှုးဟ် အချိန် ရောက်သွားလောက်အောင် မစောင့်ဆိုင်းရ။၊ အကယ်၍ ရေကိုမစောင့်ဆိုင်းဘဲ အချိန်ဦးတွင် နမာဇ်ကိုဖတ်လိုက်သော် ထိုအခါတွင်လည်း ပိုင်၏။

မွန်ယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂။ ၂၆။

၃၄။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ မိမိထံ၌ ရေပါလာ၏၊ သို့ရာတွင် မီးရထားပေါ်မှ ဆင်းလတ်သော် မီးရထား ထွက်သွားလိမ့်မည်ဟု စိုးရိမ်ရလျှင်

ထိုအခါမျိုး၌ တယမ်မှုမ် ပြုလုပ်ခြင်း ပိုင်၏။ သို့မဟုတ် ရေ၏ အနီးတွင် မြွေ စသော သားရဲတိရစ္ဆာန်များ ရှိ၍ ရေယူရန်မတတ်နိုင်သော် တယမ်မှုမ်ပြုလုပ်ခြင်း ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ- ၂၆၊၃၀။

၃၅။ မတ်စ်အလဟ် ပြဿနာ။ ကုန်စည်စလယ်များဖြင့် ရေဘူးကို ချည်နှောင်ထား၏၊ သို့ရာတွင် သတိ မရသဖြင့် တယမ်မှုမ် ပြု၍ နမာဇ် ဖတ်၏။ ထို့နောက်မှ ကုန်စည်အတွင်း၌ရေရှိသေးကြောင်းကိုသတိရလာလျှင် ယခုနမာဇ်ကိုပြန်ဖတ်ရန် ဝါဂျစ်ဗ် မဟုတ်တော့ချေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၅၆။

ဟေဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၃၈။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၃။

၃၆။ မတ်စ်အလဟ် ပြဿနာ။ ဝိုသွူကို ပျက်စေတတ်သော အရာ ဟူသမျှသည် တယမ်မှုမ်ကိုလည်းပျက်စေ၏၊ ရေရရှိသောအချိန်၌ တယမ်မှုမ်မှာ ပျက်သွားလေသည်။ ဤနည်းပင် တယမ်မှုမ်ပြုလုပ်၍ ရှေ့သို့ခရီးဆက်လက်သွား၏။ ရေသည် ရှရ်အီ-မိုင်ထက် နည်းသော နေရာတွင် ရှိနေလျှင်လည်း တယမ်မှုမ်ပျက်၏။

ရှာမီကျမ်းအတွဲ ၁၊ စာမျက်နှာ-၂၆၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅။

၃၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဝိုသွူ၏ တယမ်မှုမ်ဖြစ်ခဲ့မူ ဝိုသွူ ပြုလောက်အောင် ရေရရှိလျှင် တယမ်မှုမ်ပျက်၏။ အကယ်၍ ဂွတ်စ်လ်၏ တယမ်မှုမ်ဖြစ်မူ ဂွတ်စ်လ်ပြုလောက်အောင် ရေရှိလျှင် တယမ်မှုမ် ပျက်၏။ အကယ်၍ ရေက အနည်းငယ်မျှသာ ရရှိမူ တယမ်မှုမ် မပျက်ချေ။

(မှတ်ချက်)ဤနှစ်ချက်တွင် ဖွရ်သွ်တာဝန်ချနိုင်သည်ခန့်ရေရရှိခြင်းကိုဆိုလိုသည်၊ ..စွန္နတ်များ မပြုနိုင်စေကာမူ ကိစ္စမရှိ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၃။

၃၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍လမ်း၌ ရေရရှိ၏။ သို့ရာတွင် ထိုသူ၌ ရေရှိကြောင်း လုံးဝမသိလျှင် တယမ်မှုမ် မပျက်ချေ။ ဤနည်းအတိုင်း လမ်း၌ရေရရှိ၏ သိလည်းသိ၏၊ သို့ရာတွင် မီးရထားပေါ်မှမဆင်းနိုင်ပါမူ တယမ်မှုမ်မပျက်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၆၊၃၀။

၃၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရောဂါဝေဒနာကြောင့် တယမ်မှုမ်ပြု၏၊ ရောဂါပျောက်ကင်းလျှင် ဝိုသွူ နှင့် ဂွတ်စ်လ်ပြုခြင်းအားဖြင့် နစ်နာဆုံးရှုံးမှု မဖြစ်သော် တယမ်မှုမ်သည် ပျက်၏။ ယခု ဝိုသွူပြုခြင်းနှင့် ဂွတ်စ်လ်ပြုခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅။

၄၀။ မတ်စ်အလဟ် ပြဿနာ။ ရေမရသဖြင့် တယမ်မွမ်ပြုလုပ်၏။ ထို့နောက် ရေနှင့်မသင့်သောရောဂါဖြစ်လာ၏၊ ရောဂါဖြစ်ပြီးနောက် ရေရရှိခဲ့သော် ထိုတယမ်မွမ်သည်ကြွင်းကျန်ခြင်း မရှိတော့ချေ၊ အဘယ့်ကြောင့်ဟူမူ ရေမရသဖြင့် ပြုခဲ့ခြင်းကြောင့်ဖြစ်၏၊ ထို့ကြောင့် တဖန်ပြန်၍ တယမ်မွမ်ပြုရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ် အတွဲ-၁၊ စာမျက်နှာ-၂၄၂။

၄၁။ မတ်စ်အလဟ် ပြဿနာ။ ရေချိုးရန် ထိုက်လာသဖြင့် ဂွတ်စ်လ်ပြုလိုက်၏၊ သို့သော် ကိုယ်ခန္ဓာ အနည်းငယ် လစ်လပ်၍ ရေမရောက်ဘဲ ခြောက်သွေ့ကျန်နေ၏၊ ရေလည်း ကုန်သွားသော် ယခုမသန့်သေးပါ၊ ထို့ကြောင့် ထိုသူသည် တယမ်မွမ်ပြုလုပ်လိုက်ရမည်။ အကြင် နေရာ၌ ရေ ရရှိခဲ့သော် ခြောက်သွေ့နေသော နေရာကို ကွက်၍ ရေဖြင့်ဆေးကြောလိုက်ရမည်၊ ထပ်မံရေချိုးရန် မလိုတော့ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၆၊၃၀။

၄၂။ မတ်စ်အလဟ် ပြဿနာ။ ဤသို့သော အချိန်တွင် ရေရရှိ၏။ ထိုအချိန်၌ ဝိုသွူလည်း ပျက်သွားလျှင် ထိုခြောက်သွေ့နေသောနေရာတွင် ရေဖြင့် ပထမဆေးကြောပစ်လိုက်ရမည်၊ ထို့နောက် ဝိုသွူ၏ အတွက် တယမ်မွမ် ပြုရမည်၊ အကယ်၍ ရေသည် ဝိုသွူ ပြုလောက်သော်လည်း ဆေးကြောရန် မလောက်ဘဲ နည်းပါးမူ ဝိုသွူ ပြု၍ ထိုခြောက်သွေ့နေသော နေရာအတွက်ကိုမူ ဂွတ်စ်လ်၏ တယမ်မွမ် ပြုရမည်။ အကယ်၍ ထိုဂွတ်စ်လ်၏ တယမ်မွမ်ကို ပထမက ပြုထားခဲ့သော် ယခု ထပ်မံ၍ တယမ်မွမ် ပြုလုပ်ရန် မလိုတော့ချေ၊ ပထမ တယမ်မွမ်သည် ကြွင်းကျန်သေး၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၆၊၃၀။

၄၃။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက်သော သူ၏ ခန္ဓာကိုယ်နှင့် အဝတ်အစားတွင် မသန့်ဖြစ်လျှက် ရှိ၏။ ဝိုသွူ ပြုရန်လည်း လိုအပ်နေ၏၊ ရေကလည်း နည်းနည်းမျှသာရှိသော် ကိုယ်ခန္ဓာနှင့်အဝတ်ကို ဆေးကြောလိုက်ရမည်၊ ဝိုသွူ၏အစား တယမ်မွမ် ပြုလုပ်ရမည်။

မွန်ယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆။
ရှရ်ပွလ်ဘဒါယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၆၄။

# ခြေအိတ်များပေါ်တွင် မတ်စ်ဟ် ပြုရန် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ သားရေခြေအိတ်ကို ဝိုသွူပြုပြီးမှဝတ်ဆင်၍ ထို့နောက်မှ ဝိုသွူပျက်သွားသော် တဖန် ဝိုသွူထပ်ပြုသောအခါ ခြေအိတ်ပေါ်

တွင် မတ်စ်ဟ်ခေါ် ရေစိုသောလက်ဖြင့် သုတ်သပ်ခြင်းဖြင့်ပိုင်လေသည်၊ ၎င်းပြင်အကယ်၍ ခြေအိပ်ကိုချွတ်၍ ခြေထောက်ကိုဆေးကြောလျှင် သာ၍ကောင်း၏။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၀။

ရှရ်ဟ္ဝလ်ဘဒါယ်ဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၇။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ခြေအိတ်သည်သေးငယ်သဖြင့်ခြေမျက်စိကိုမအုပ်မိသော် ထိုခြေအိတ်ပေါ်၌ မတ်စ်ဟ်ပွတ်ခြင်းမပိုင်၊ ဤနည်းပင် ဝိုသ္ဝူမပြုသေးဘဲ ခြေအိတ်ကို ဝတ်ဆင်ထားလျှင် ၎င်းအပေါ်တွင် မတ်စ်ဟ်ပွတ်ခြင်း မပိုင်ချေ။ ခြေအိတ်ကို ချွတ်ပြီး ခြေနှစ်ဘက်ကို ဆေးကြောရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ၄၀။

ရှရ်ဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၉။

**မှတ်ချက်။** တစ်ဦးသောသူသည် အစက ဝိုသ္ဝူ မရှိခဲ့၊ ဝိုသ္ဝူ မပြုသေးဘဲ ခြေအိတ်ဝတ်ခဲ့သော် ထိုခြေအိတ်ပေါ်တွင် မတ်စ်ဟ် မပိုင်ချေ၊ အကယ်၍ ဝိုသ္ဝူပြည့်စုံစွာပြုပြီးမှ ဝတ်ခဲ့သော်ပိုင်၏၊ ၎င်းအကယ်၍ ခြေကိုရေဆေးပြီး ဝိုသ္ဝူမပြုသေးဘဲ ခြေအိတ်ဝတ်ခဲ့သော် ထိုအပေါ်မတ်စ်ဟ်မပိုင်ပေ၊ အကယ်၍ ခြေဆေးပြီး ဝတ်ခဲ့သည် ထို့နောက် ဝိုသ္ဝူကို ပြည့်စုံစွာ ပြုပြီးနောက် ဝိုသ္ဝူ ပျက်သွားခဲ့သော် မတ်စ်ဟ် ပိုင်သည်။ အကယ်၍ ခြေဆေးပြီး ခြေအိတ်ဝတ်ကာ ဝိုသ္ဝူ ဆက်၍ပြုသည်၊ သို့သော် ဝိုသ္ဝူမပြီးမြောက်မီအလျှင် ဝိုသ္ဝူပျက်သွားပါက ခြေအိတ်အပေါ် မတ်စ်ဟ် ပွတ်ခြင်း မပိုင်ပေ။

၃။ မတ်စ်အလဟ် ပြဿနာ။ ခရီးသည်အဖြစ်၌ သုံးရက် - သုံးည၌ တိုင်အောင် ခြေအိတ်ပေါ်တွင် မတ်စ်ဟ်ပွတ်ခြင်း ပိုင်၏၊ ခရီးသည်မဟုတ်ခဲ့သော် ထိုသူ၌ တစ်ရက်နှင့် တစ်ည၌ ၎င်းပြင် ဝိုသ္ဝူပျက်သောအချိန်မှ စ၍ တစ်ရက်နှင့်တစ်ည၌ သို့မဟုတ် သုံးရက် သုံးည၌ထိ ရေတွက်ရမည်။

ခြေအိတ်ဝတ်ဆင်ရသောအချိန်ကို မယူရ၊ ဥပမာ....လူတစ်ဦးသည် ဇုဟ်ရ်ချိန်တွင် ဝိုသ္ဝူပြု၍ ခြေအိတ်ကို ဝတ်ဆင်၏။ ထို့နောက် နေဝင်ချိန်တွင် ဝိုသ္ဝူ ပျက်သွားလျှင် လာမည့်နေ့နေဝင်ချိန်အထိ မတ်စ်ဟ်ပွတ်လုပ်ခြင်းသည် ပိုင်လေသည်။

ခရီးသည် အဖြစ်၌ တတိယနေ့ နေဝင်ချိန်အထိဖြစ်ရာ နေဝင်ပြီးလျှင် မတ်စ်ဟ် ပွတ်ခြင်း မပိုင်တော့ချေ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၀။

ရှရ်ဟ္ဝလ်ဘဒါယဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၅၇။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက်သော သူသည် ရေချိုးခြင်း ဝါဂျစ်ဗ်ထိုက်လာသော် ခြေအိတ်ကိုချွတ်၍ ရေချိုးရမည်။ ဂုတ်စ်လ်နှင့်အတူ ခြေအိတ်ကို မတ်စ်ဟ်ပွတ်ခြင်းသည် မပိုင်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

ရှရ်ဟ္ဝလ်ဘဒါယဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၉။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ခြေအိတ်၏ခြေဖမိုးပေါ်တွင် မတ်စ်ဟ်ပြုရမည်၊ ခြေဖဝါးဘက်တွင် မတ်စ်ဟ်မပြုရ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၈။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ခြေအိတ်ပေါ်တွင် မတ်စ်ဟ်ပြုနည်းကား ဤသို့ဖြစ်၏၊ လက်ချောင်းငယ်ကလေးများကို ရေစွတ်၍ ရှေ့ဘက်တွင်ထားရမည်၊ လက်ချောင်းများကို ခြေအိတ်အပေါ်ပိုင်း တပြင်လုံးအပေါ်တွင်ထားရမည်၊ လက်ဖဝါးကို ခြေအိတ်နှင့်ခွါထားရမည်၊ ထို့နောက် ၎င်းလက်ကို ခြေမျက်စိဘက်သို့ ဆွဲခဲ့ရမည်၊ အကယ်၍ လက်ချောင်းများနှင့်အတူ လက်ဖဝါးပါချ၍ တပါတည်း ဆွဲယူ သုတ်သပ်လျှင်လည်း ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၆၊ ၄၀။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တစ်ဦးတစ်ယောက်သော သူသည် ပြောင်းပြန်မတ်စ်ဟ်ပြုလျှင်(ဝါ)ခြေမျက်စိဘက်မှ ခြေဖျားဘက်သို့ပြန်ဆွဲလျှင်လည်းပိုင်၏၊ သို့ရာတွင် (မွတ်စ်တဟဗ်)နည်းနှင့် ဆန့်ကျင်၏၊ ဤနည်းပင် အကယ်၍ အလျားလိုက် မဆွဲဘဲ အနံလိုက်ဆွဲလျှင်လည်းပိုင်၏ သို့သော် (မွတ်စ်တဟဗ်) နည်းနှင့်ကွဲလွဲ၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၆၊ ၄၀။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ခြေဖဝါးဘက်ကဖြစ်စေ၊ သို့မဟုတ် ခြေဖနောင့်ဘက်ကဖြစ်စေ သို့မဟုတ် ခြေအိတ်၏ဘေးပတ်ဝန်းကျင်တွင် မတ်စ်ဟ်ပြုလုပ်မူ ဤမတ်စ်ဟ်သည် မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၄၀။

၉။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ လက်ချောင်းများကို လက်ထိပ်များဖြင့်သာ မတ်စ်ဟ်ပြုလုပ်၍ အလယ်ပိုင်းမှမထိဘဲ လက်ချောင်းများကိုထောင်၍ ဆွဲသော် ဤမတ်စ်ဟ်သည်မပိုင်ချေ၊ အကယ်၍ လက်ချောင်းများမှ ရေစက်များတပေါက်ပေါက် ကျလျက် ထိုရေစက်သည် စီး၍လက်သုံးချောင်းခန့် ခြေအိတ်ပေါ်တွင် ရောက်ရှိသွားလျှင် ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၆၊ ၄၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။မတ်စ်ဟ်ပြုရာ၌ မွတ်စ်တဟဗ်မှာ လက်ဖဝါးဘက်မှ ပြုခြင်းဖြစ်လေသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည် လက်ဖမိုးဘက်မှပြုလျှင် လည်းပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၇၊ ၄၀။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ တစ်ဦးတစ်ယောက်သောသူသည် ခြေအိတ်ပေါ်တွင်မတ်စ်ဟ်မပြုဘဲ မိုးရွာချိန်တွင် အပြင်သို့ထွက်၍သော်လည်းကောင်း၊ နှင်းစိုသောမျက်ခင်းပေါ်သို့ လျှောက်သွား၍သော်လည်းကောင်း ခြေအိတ်တွင်စိုသွားသော် မတ်စ်ဟ်ဖြစ်ခမြောက်သွား၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၆၊ ၄၀။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။လက်ချောင်းသုံးချောင်းနှင့်ဖြင့် ခြေစွပ် ခြေအိတ်ပေါ်တွင် မတ်စ်ဟ်သုတ်သပ်ခြင်း ဖွရ်သွ်ဖြစ်၏၊ ထို့ထက်နည်းသော်မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၆၊ ၄၀။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ဝိုသွူကို ပျက်စေတတ်သော အရာအပေါင်းသည် မတ်စ်ဟ်ကိုလည်းပျက်စေ၏၊ ခြေအိတ်,ခြေစွပ်ကို ချွတ်လိုက်လျှင်လည်း မတ်စ်ဟ်ပျက်၏၊ အကယ်၍ တစ်ဦးတစ်ယောက်သောသူ၌ ဝိုသွူကားမပျက်၊ သို့ရာတွင်ထိုသူသည် ခြေအိတ်ကို ချွတ်လိုက်လျှင် မတ်စ်ဟ်ပျက်၏၊ ယခုခြေနှစ်ဘက်စလုံး ဆေးကြောရမည်၊ ထပ်မံဝိုသွူပြုရန်မလိုချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၀။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ခြေစွပ်တစ်ဘက်ကိုချွတ်မိလျှင် အခြားတစ်ဘက်ကိုပါချွတ်၍ ခြေနှစ်ဘက်စလုံးကို ဆေးကြောခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။မတ်စ်ဟ်၏ အချိန်အပိုင်းအခြားကုန်ဆုံးသွားလျှင်လည်း မတ်စ်ဟ်ပျက်၏၊ အကယ်၍ ဝိုသွူ မပျက်သေးလျှင် ခြေကိုချွတ်၍ ခြေနှစ်ဘက်ကိုဆေးကြောရမည်၊ ဝိုသွူအစအဆုံးပြုရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ ဝိုသွူပျက်သွားခဲ့မူ ခြေအိတ်ကိုချွတ်၍ ဝိုသွူအစမှအဆုံးထိ ပြန်ပြုရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂၊ ၄၄။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၀။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ။ခြေအိတ်ပေါ်တွင် မတ်စ်ဟ်ပြုလုပ်ပြီးနောက် တနေရာတွင် ရေ၌ခြေကျသွား၍ ခြေအိတ်မှာကျယ်သဖြင့် ရေဝင်သွားပြီး ခြေတဝက်ဖြစ်စေ၊ ထို့ထက်ပို၍ဖြစ်စေ စွတ်စိုသွားမူ မတ်စ်ဟ်ပျက်၏၊ အခြားတဘက်က ခြေအိတ်ကိုပါချွတ်၍ ခြေနှစ်ဘက်ကို ကောင်းမွန်စွာ ဆေးကြောရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၉။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၁၇။ မတ်စ်အလတ် ပြဿနာ။ ။အကြင်ခြေအိတ်သည်စုတ်ပြတ်နေ၍လမ်းသွားရာ၌ ခြေချောင်းကလေး သုံးချောင်းခန့်ပေါ်နေမူ ထိုခြေအိတ်ပေါ်၌မတ်စ်ဟ်မပိုင်ချေ၊ ထို ထက်နည်း၍ပေါ်မူ မတ်စ်ဟ်ပိုင်၏၊ ခြေချောင်းများ အပေါ်တွင်စုတ်မူ စုတ်သောခြေချောင်းပင်အတာည်ဖြစ်သည်၊ ဥပမာ- ခြေမအနီးရှိ ခြေချောင်းနှစ်ချောင်းပေါ်တွင် စုတ်နေလျှင် ထိုစုတ်နေခြင်းသည် ခြေသန်းသုံးချောင်းခန့် ရှိမူလည်း မတ်စ်ဟ်ပိုင်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂။
ရှရ်ဟ္ဝလ်ဘိဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ၅၉။

**မှတ်ချက်။** ။ခြေချောင်းကလေးများ နေရာမှ မစုတ်ပြတဲ အခြား နေရာက စုတ်နေမှုဖြစ်သည်၊ သို့သော် ခြေချောင်းများနေရာမှ စုတ်ပြဲသော် ထိုခြေချောင်းကလေးများအပေါ်၌သာ မူတည်လေသည်၊ ဥပမာ.... ခြေမနှင့် ၎င်းနှင့်ကပ်နေသော ခြေချောင်းခန့်စုတ်ပြဲနေသော် ၎င်းတို့နှစ်ချောင်း ပေါင်းခြင်းဖြင့် ခြေချောင်းကလေး ၃-ချောင်းစာခန့်ဖြစ်သော်လည်း မတ်စ်ဟ်မပိုင် မဖြစ်ပေ။

၁၈။ မတ်စ်အလတ် ပြဿနာ။ ။အကယ်၍ ခြေအိတ်၏ ချုပ်ရိုး ပြေသွားရာ ထိုအတွင်းမှ ခြေအသားကိုမမြင်ရသော် မတ်စ်ဟ်ပြုခြင်းပိုင်၏။ အကယ်၍ ဤသို့ချုပ်ရိုးပြေ၍လမ်းသွားရာ၌ခြေချောင်းကလေးသုံးချောင်းခန့်မမြင်ရမူပိုင်၏၊ မြင်ရလျှင်မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၀။

၁၉။ မတ်စ်အလတ် ပြဿနာ။ ။အကယ်၍ ခြေအိတ် တဘက်၌ ခြေချောင်းနှစ်ချောင်းခန့်စုတ်ပြဲ၍ ခြေပေါ်နေ၏၊ အခြားသောတဘက်၌ ခြေချောင်းတချောင်းခန့် စုတ်နေလျှင် ဘာမျှကိစ္စမရှိချေ၊ မတ်စ်ဟ်ပြုပိုင်၏၊ အကယ်၍ ခြေအိတ်တဘက်ထည်း၌ နေရာများစွာတွင် ပေါက်ပြဲ၍ အားလုံးပေါင်းလျှင် ခြေချောင်းသုံးချောင်းခန့်ပေါ်မည်ဖြစ်လျှင်မတ်စ်ဟ်ပြုခြင်းမပိုင်ချေ၊ အကယ်၍ အားလုံးပေါင်းသော် ခြေချောင်းကလေးသုံးချောင်းခန့်ထက်နည်းမူ မတ်စ်ဟ်ပြုပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၄၁။

၂၀။ မတ်စ်အလတ် ပြဿနာ။ ။ တစ်ဦးတစ်ယောက်သောသူသည် ခြေအိတ်ပေါ်၌ မတ်စ်ဟ်ပြုခြင်းကိုစ၏၊ ယခုဓာနေ့နှင့်တညဉ့်မလွန်သေးမီ ခရီးသည်အဖြစ်သို့ရောက်လျှင်သုံးရက်သုံးညဉ့်တိုင် မတ်စ်ဟ်ပြုလုပ်ရမည်၊ အကယ်၍ခရီးမထွက်မီအချိန် တနေ့နှင့်တညဉ့်လွန်သွားလျှင် အချိန်အပိုင်းအခြား ကုန်ဆုံးပြီဖြစ်၍ ခြေကိုဆေးကြော၍ပြီးမှ ခြေအိတ်ကို ပြန်ဝတ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၄

၂၁။ မတ်စ်အလဟ် ပြဿနာ။ ။အာကယ်၏ ခရီးသည်အဖြစ်၌ မတ်စ်ဟ်ပြုခဲ့၍ တဖန် အိမ်ပြန်ရောက်လျင် တနေ့နှင့်တညဉ့်တိတိလွန်သော်ဒုယခုခြေအိတ်ကို ချွတ်ရမည်၊ ယခု ထိုသူ့အပေါ်၌ မတ်စ်ဟ်ပြုခြင်းမပိုင်ချေ၊ အာကယ်၏ ယခု တရက်နှင့်တညဉ့် မပြည့်သေးသော် တနေ့နှင့်တညဉ့် ပြည့်စေရမည်၊ ထိုထက်ပို၍ မတ်စ်ဟ်ပြုခြင်းမပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၃၇၊ ၄၀။

၂၂။ မတ်စ်အလဟ် ပြဿနာ။ ။အာကယ်၏ ခြေအိတ်ခံ၏အပေါ်တွင် ခြေအိတ်ထပ်၍ဝတ်ဆင်ရသော် ထိုအခါ၌လည်း ခြေအိတ်ပေါ်တွင် မတ်စ်ဟ်ပြုခြင်းပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၀၉။

၂၃။ မတ်စ်အလဟ် ပြဿနာ။ ။ခြေစွပ်တို့ပေါ်တွင် မတ်စ်ဟ်ပြုလုပ်ခြင်းမပိုင်ချေ၊ သို့သော်ထိုအပေါ်တွင်သားရေဖုံး၍သော်လည်းကောင်း၊ ကွပ်၍သော်လည်းကောင်း ပြုလုပ်ထားမှုသာမက ယောကျ်ားများ၏ ခြေနင်းကဲ့သို့ သားရေ တပ်ထားသော်လည်းကောင်း သို့မဟုတ် အလွန်မာမြင်း၍ အခြားပစ္စည်းဖြင့် ချည်နှောင်ခြင်းမပြုဘဲတည်နေ၍ ၎င်းကိုဝတ်ဆင်၍ သုံးလေးမိုင်လမ်းလျှောက်နိုင်သော် ထိုအဆိုအားလုံးအတွက် ခြေအိတ်တို့အပေါ်၌လည်း မတ်စ်ဟ်ပြုခြင်းပိုင်၏။

ကာဗီရီကျမ်း စာမျက်နှာ-၁၀၉။

ရှရ်ဟွတ်တန်ဇီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၅။

၂၄။ မတ်စ်အလဟ် ပြဿနာ။ ။ဖွဲ့ရ်ကာအဝတ်နှင့် လက်အိတ်များ၊ ခေါင်းပေါင်းများအပေါ်၌ မတ်စ်ဟ်မပိုင်ချေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း၊ အတွဲ-၁၊ စာမျက်နှာ-၆၁။

## ဤတွင်၍ကား ဘာဟစ်ရှိတီဇေဗရ်ကျမ်း ပထမတွဲ ပြီး၏။

မုဟမ္မဒ်မူစာ (မင္ဂလာဟောရီ)။



اَلْحَمْدُ لِلّٰهِ وَكَفٰى وَسَلَامٌ عَلٰى عِبَادِهِ الَّذِيْنَ اصْطَفٰى
اَمَّا بَعْدُ

# ဘဟစ်ရှ်တီ ဇျောင်ဟရ်ကျမ်း

## ပထမတွဲ

ဘဟစ်ရှ်တီ ဇေဝရ်ကျမ်းသည် ကမ္ဘာကျော် ကျမ်းတစ်စောင် ဖြစ်သည်ကိုကား မည်သူမျှ မငြင်းဆိုနိုင်ကြပေ၊ ကျမ်းတစ်စောင် လုံးတွင် လူသားများ သိရှိနားလည်သင့်သော 'မတ်စ်အလဟ်' ပြဿနာများချည့်မင် ဖြစ်ပေ၏၊ သို့သော်.... လူသား တို့သည် (ဂျန္နတ်) ဥယျာဉ်ဘုံနန်းကို မက်မောခုံမင်ကြစေကာ၊ (ဂျဟန္နမ်) ငရဲဘုံမှ ကြောက်ရွံ့ ထိတ်လန့်စေသော အချက်အလက်များ မပါဝင်ခဲ့ပေ။

ထို့ကြောင့် မောင်လာနာ မာဖွ ိဇ် ကာရီရှားဟ် အရှ်ရဖ် အလီဆာနဝီ (ရဟမတုလ္လာဟ်) သခင်ကြီးက ဘဟစ်ရှ်တီ ဇေဝရ် ကျမ်း အတွဲ တိုင်းတွင် နောက်ဆက်တွဲ အနေဖြင့် ဤမည်သော (ဘဟစ်ရှ်တီ ဇျောင်ဟရ်) ကျမ်းကို ရေးသားတော် မူခဲ့ခြင်း ဖြစ်ပေသည်။

# အင်လ်မ်၏ ထွတ်မြတ်ခြင်း အကြောင်း

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် သင်တို့အနက် အီမာန်စွဲယူ ယုံကြည်သူများ၏ဂုဏ်ကို မြင့်စေတော်မူ၏၊ ၎င်း အာလင်မ် ဓမ္မပညာ တတ်ကျွမ်းသူ များ၏ အဆင့်အတန်းကို ပို၍ မြင့်မားစေတော်မူလေ၏။

ကုရ်အာန်။

အီမာန် ယုံကြည်သက်ဝင်မှုကို ပြည့်ပြည့်စုံစုံရှိစေလျက် ကောင်းမြတ်သော အမလ် များကို ကျင့်ဆောက်တည်ကာ ရှရီအတ် တရားတော် အတိုင်း နေထိုင် သွားလာ သမူ ပြုသူများကို ဆိုလိုတော်မူခြင်းဖြစ်လေသည်၊ ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီးသ်တမန်တော် ဩဝါဒများ၌ 'အီမာန်'၏ ထွတ်မြတ်ကြောင်းများ လာရှိသည်မှာလည်း 'အီမာန်' ပြည့်စုံသူများကို ဆိုလိုရင်းပင် ဖြစ်လေ၏။

အင်လ်မ် ဓမ္မပညာ၏ ထွတ်မြတ်ခြင်း ကိုကား မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ကျမ်းမြတ် ကုရ်အာန်၌ပင် ချီးကျူးထားတော်မူပေသည်၊ 'အီမာန်' ပြည့်စုံစွာထားသော ပုဂ္ဂိုလ်များကို ဂုဏ်ပေးပြီးနောက် အင်လ်မ် ဓမ္မပညာကို ဆည်းပူး သင်ယူထားသော ပုဂ္ဂိုလ်များကို အဆင့်အတန်းမြင့်မားသူများအဖြစ် ဂုဏ်ပြု သမုတ် ထားတော်မူပေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အဆင့် အတန်း မြင့်မားသူဟု အဆိုခံရသောသူ၏ အဆင့်အတန်း မြင့်မားမှုကိုကား ခန့်မှန်းတွက်ဆရန် ခဲယဉ်းလှဘိ၏။

قُلْ هَلْ يَسْتَوِى الَّذِيْنَ يَعْلَمُوْنَ وَالَّذِيْنَ لَا يَعْلَمُوْنَ

အို... မုဟမ္မဒ် ဟောလော့၊ ပညာရှိသူနှင့် ပညာမဲ့သူသည် အတူတူ ဖြစ်နိုင်ဘိ သလော့။

ကုရ်အာန်။

ဆိုလိုတော်မူသည်မှာ... ပညာရှိသော ပုဂ္ဂိုလ်သည် ပညာမရှိသူထက် အဆင့် အတန်းမြင့်မားသူ ဖြစ်လေ၏။

# طَلَبُ الْعِلْمِ فَرِيْضَةٌ عَلَى كُلِّ مُسْلِمٍ

အင်လ်မ်ဓမ္မပညာကို ရှာဖွေဆည်းပူးခြင်းသည် မွတ်စလင်မ် ယောကျ်ားမိန်းမများ အပေါ်တွင် ဖွရ်သွ် မသင်မနေရဖြစ်လေသည်။

ဂျာမေ့ အ်စွဂီးရ်ကျမ်း။

ဖွရ်သွ် ဟု မိန့်မြွက်ထားသော အလုပ်တခုကို လွှတ်ခြင်းသည် ဂိုနာဟ်ကဗီရဟ် ကြီးလေးသော ပြစ်မှုတရပ်ဖြစ်၏၊ ဖွရ်သွ်ဟူ၍ သတ်မှတ်ထားသော အလုပ်တခုတွင် ထိုအလုပ်၏ ပြုမူဆောင်ရွက်ရန် နည်းအသွယ်သွယ်ကို မှတ်ယူ သိနားလည်ရန်မှာလည်း ဖွရ်သွ်ဖြစ်ချေ၏၊ မွတ်စ်တဟာဗ်၊ အလုပ်တခု၏ နည်းလမ်းအသွယ်သွယ်ကို ပြုမူဆောင် ရွက်ရန် သင်ယူမှတ်သား နားလည်ထားရန်မှာလည်း မွတ်စ်တဟာဗ်ပင်ဖြစ်၏။

သို့မို့ကြောင့် နမာဇ်ဝတ်ပြုခြင်းသည် (ဖွရ်သွ်) ဖြစ်လေရာ နမာဇ်၏ မတ်စ် အလဟ်များကို လုံးစေ့ပတ်စေ့ သိထားရန်မှာလည်း (ဖွရ်သွ်)ပင် ဖြစ်လေ၏၊ ဤနည်း နှင်နှင် 'ရိုဇဟ်' ဥပုသ်၏ မတ်စ်အလဟ်များကို သိထားရန်မှာ (ဖွရ်သွ်)ပင် ဖြစ်လေ၏၊ ရောင်းဝယ် ကုန်သွယ်ဖောက်ကားမှု ပြုသူသည် ရှရီအတ် တရားတော်၏ ပညတ်ချက် များကို သိထားရန်လည်း အရေးကြီးလှ၏၊ ဤသည်ကား လူတိုင်းအပေါ်တွင် မသင် မနေရ (ဖွရ်သွ်) ဖြစ်၏၊ တယောက်နှစ်ယောက်၏ တတ်သိမှုဖြင့် လုံလောက်သော ပညာလည်းရှိ၏။

ဥပမာ... မြို့ နှင့် ရွာကြီးများတွင် ကုရ်အာန် ဟဒီးသ် ဖွေကဟ် စသည်များကို တတ်ကျွမ်းကာ ဘာသာခြားများ၏ အဆိုကိုဖျက်နိုင်လျက် ဘာသာ သာသနာရေးဆိုင်ရာ မေးခွန်းများကို ဖြေဆိုနိုင်သော အာလင်မ် ဓမ္မပညာရှင်တဦး ရှိရန်မှာ အရေးကြီး၏၊ မြို့ရွာတိုင်းတွင် ဤသို့တတ်ကျွမ်းသော ပုဂ္ဂိုလ်တဦးနှစ်ဦးရှိပါက လူတိုင်းအပေါ် ဤမျှခန့် တတ်ကျွမ်းသည်အထိ ပညာသင်ကြားရန် ဖွရ်သွ် မဟုတ်တော့ပေ၊ သို့သော် မိမိမှာသင်လို ဖတ်လိုသော စိတ်ဆန္ဒရှိသဖြင့် သင်ယူလျှင် မွတ်စ်တဟာဗ်ပင် ဖြစ်သည်၊ ကုသိုလ်သဝါဗ် များစွာရမည် ဖြစ်လေသည်၊ ဤသည်တို့ကား ဓမ္မပညာ 'အင်လ်မ်' ၏ ဖွရ်သွ်ဖြစ်ခြင်း ပင်တည်း။

ရစူလွလ္လာဟ် (ဆုလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြွင်းသူအား မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် သန့်ား ကရုဏာ သက်တော်မူလျှင်

ငင်းသူအား ဓမ္မပညာ ပေးတော်မူသည်၊ ငါရစူလ်သည်ကား ဓမ္မပညာကို ဝေငှသူ ဖြစ်သည်၊ အလ္လာဟ်အသျှင်မြတ်သည် ပေးသနားတော်မူသော အသျှင်သခင် ဖြစ်တော်မူ၏။

ဘိုခါရီနှင့်မွတ်စလင်ကျမ်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... လူသားသည် သေလွန်ပြီးနောက် ၎င်းသူ၏ (အမလ်) ကောင်းမှု ကုသိုလ်များသည် ပြတ်တောက်၍ သွားလေသည်။ သို့သော် သုံးမျိုးသောကောင်းမှုကုသိုလ်ကား ပြတ်တောက်မှုမရှိ၊ ပကတိ တည်လျှက် ရှိဘိ၏။

၁။ ဆွဒကဟ်ဂျာရိယဟ် အဆောက်အအုံ ပစ္စည်း စသည်ကို ဗလီကျောင်းအား (ဝပ်က်ဖ်) လှူဒါန်းခြင်း၊ လူအများ အကျိုးခံစားကြစေရန် အတွက် ရေတွင်းတူးခြင်း ဗလီဝတ်ကျောင်းတော် ဆောက်တည်ခြင်း စသည်တို့ ဖြစ်ပေသည်။

၂။ လူတို့အားအကျိုးဖြစ်ထွန်းစေသော ဓမ္မပညာ၊ ဘာသာရေးပညာသင်ကြား ပြသခြင်း၊ ရေးသားထုတ်ဝေခြင်း။

၃။ သေလွန်သူ မိဘအား တောင်းဆု 'ဒိုအာ' ပြုပေးမည့် သားသမီး အဖြစ် ထားခဲ့ခြင်း။

မွတ်စလင်မ်ကျမ်း။

ပြုလေသမျှသော ကောင်းမှု ကုသိုလ်များသည် သေလွန်သော အခါ ရပ်တန့် သွားလေသည်။ သေသူမှာကား ကောင်းမှု ကုသိုလ် မပြုနိုင်တော့သဖြင့် အကျိုး (သဝါဗ်)တို့သည်ကား မရနိုင်တော့ပြီ ဖြစ်သည်။ သို့သော် ဖေါ်ပြပါ သုံးမျိုးသော ကုသိုလ်ကို လုပ်ခဲ့သော သူသည် သေပြီးနောက်လည်း အကျိုးသဝါဗ် ရနေမည် ဖြစ်လေသည်။ ဆွဒကဟ်ဂျာရိယဟ် ပြုခဲ့ခြင်းဖြင့် လူသားတို့သည် အမြဲတစေ အကျိုးခံစား နေကြရပေသည်။ ဘာသာရေး ပညာ သင်ကြား ပြသခြင်း၊ ရေးသား ထုတ်ဝေခြင်း ဖြင့်လည်း ပျောက်ပျက်မှုမရှိဘဲ လူတို့သည် ဆက်ခါဆက်ခါ အကျိုးခံစားသွားကြရသည် ဖြစ်လေသည်။ သားသမီးများကို ဘာသာရေး လေးစား လိုက်စားသူများအဖြစ် ရှိစေခြင်းဖြင့် သားသမီးသည် မိဘအတွက် ဆုမွန် (ဒိုအာ) ပြုကြရမည်ဖြစ်သည်၊ ထို့ကြောင့် ကောင်းသော သားသမီးကို ထားခဲ့ခြင်းဖြင့် သေပြီးနောက်လည်း အကျိုး (သဝါဗ်) သည် ရနေမည်ဖြစ်သည်၊ ဤသုံးမျိုးသော ကောင်းမှု ကုသိုလ်အနက် တစ်ခုခုပြုခဲ့သူသည် သေပြီးနောက်လည်း ကုသိုလ်ရနေမည်ပင် ဖြစ်ပေတော့၏။

ကသီးရ်ဗင်န်ကိုင်စ် (ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ဤပုဂ္ဂိုလ်ကား တာဗေအီ ဖြစ်၏၊ ရစူလွလ္လာဟ် (ဆွလ္လာဟု) ကိုယ်တော်၏ တပည့်တော် ဆွဟာဗီ တစ်ပါးပါးကို

မွတ်စလင်မ် အဖြစ်နှင့်တွေ့ကာ မွတ်စလင်မ်အဖြစ်နှင့်ပင် ကွယ်လွန်သော ပုဂ္ဂိုလ်ကိုသာလျှင် တာဗေအီဟုခေါ်ဆိုလေ၏၊ ကျွန်ုပ်သည် ဒမစ်ရှ်က်မြို့၏ ဗလီဝတ်ကျောင်းတော်၌ အဘူဒရ်ဒါအ်(ရသွေ့) (ဤပုဂ္ဂိုလ်ကား အဆင့်အတန်းမြင့်သောဆွဟာဗီတစ်ပါးဖြစ်၏၊ ၎င်းအား ဟကီမွလ်အွမ္မတ် ဘာသာ သာသနာရေး ပညာ လွန်စွာ သိနားလည်ဆုံးသူဟူ၍ ခေါ်ဝေါ်သမုတ်ကြ၏၊ သခင်၏ဇနီးသည်လည်း ဘာသာရေးပညာ တတ်ကျွမ်းသောပုဂ္ဂိုလ်မတစ်ပါးဖြစ်ပေသည်။ (တတ်ဇ်ကေ့ရတွလ်ဟွဖ်ဖွားဇ်-ပထမတွဲ) သခင်ထံ ခစားလျက်ရှိလေသည်။ ထိုအချိန်၌ပုဂ္ဂိုလ်တစ်ဦးသည် သခင့်ထံရောက်လာပြီး ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်မှ ဟဒီးဆ်တစ်ပုဒ်ဆင့်ပြန်ခဲ့သည်ကို ကြားသိရသဖြင့်ကျွန်တော် ကြားလိုသိလိုသောကြောင့် သခင့်ထံရောက်လာရခြင်းဖြစ်ပါသည်ဟု လျှောက်တင်လေ၏ မှန်၏၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် မိန့်တော်မူသည်ကို ကျွန်ုပ်ကြားခဲ့၏။

အကြင်သူသည် 'အင်လ်မ်'ပညာကို ဆည်းပူးသင်ယူရန် ခရီးထွက်လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ၎င်းသူအား 'ဂျန္နတ်' ဥယျာဉ်ဘုံနန်း၏ လမ်းသို့ပို့တော်မူ၏၊ ဧကန်မုချ ဖွရစ်ရှ်တဟ် ကောင်းကင်တမန်များသည် ၎င်းသူစိတ်ပျော်ရွှင်စေရန်အတွက် မိမိတို့၏ အတောင်ပံများကို ခင်းပေးကြသည်။

(ဓမ္မပညာ ရှာဖွေသူအား ကြည်ညိုခြင်း၊ ကြင်နာခြင်း၊ ဆန္ဒပြည့်ဝစေရန် ဆုမွန်ဒိုအာပြုကြခြင်းပင်ဖြစ်သည်၊ ဤသည်ကိုကြည့်ခြင်းဖြင့် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ် နှစ်သက် သဘောတူတော်မူကြောင်းမှာ ထင်ရှားလျက်ရှိလေသည်။ ကောင်းကင်တမန်များသည်ကား မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ သီးခြားသော ဗန္ဒဟ်များဖြစ်ကြလျက် အပြစ် ဂိုနာဟ်များမှ လွတ်ကင်း သန့်ရှင်းကြသော ပုဂ္ဂိုလ်များဖြစ်ကြသည်၊ ကောင်းကင်တမန်တော်များ၏ နှစ်သက်ခြင်းသည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူခြင်းပင်ဖြစ်လေ၏၊ မိတ်ဆွေ၏မိတ်ဆွေသည်ကား မိတ်ဆွေပင်ဖြစ်၏။)

အာလင်မ်ဓမ္မပညာရှင်အား မုချပင် မိုးကောင်းကင်၌ရှိသောသူများ မြေ၌ရှိသော သူများက ချမ်းသာဆု ပန်ပေးကြသည်။ (ဆိုလိုသည်မှာ.... ၎င်းသူ၏ အပြစ် ဂိုနာဟ် ကျူးလွန်မှုများကို ချမ်းသာ ပေးရန် တောင်းဆု ဒိုအာ ပြုပေးကြသည်။) ငါးများသည် ရေများအတွင်းမှ ၎င်းသူ့အတွက် ချမ်းသာဆုဒိုအာပြုကြလေ၏။

ကာဖွင်ရ် ၎င်းရှိုင်တွာန် မိစ္ဆာများသည် ချမ်းသာဆုဒိုအာပြုရာ၌ မပါဝင်ကြပေ၊ ဤစည်းစိပ်သည်ကား ၎င်းတို့နှင့်မထိုက်တန်၊ မိမိအား ကြွေးမွေး စောင့်

ရှောက်ရန် ဖန်ဆင်းတော်မူထသော အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးမသိ၊ ပုန်ကန်သော သူများသည် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ အချစ်တော် များအား မည်သို့ ကောင်းစွာ ဆက်ဆံမည်နည်း၊ ထို့ကြောင့်ပင် ဟဒီးသ်တော်မြတ်၌ ၎င်းတို့၏ အကြောင်းကို ချန်လှပ်ထားခဲ့သည်မှာ ထင်ရှားလှလေ၏။

အာလင်မ်ဓမ္မပညာရှင်များက မိန့်ကြသည်မှာ.... ငါးပင်မဟုတ်၊ ရှိရှိသမျှသော တိရစ္ဆာန်များကို ဆိုလိုရင်းဖြစ်သည်၊ ငါးကိုအကြောင်းပြုထားသည်မှာ ငါးသည် ရေထဲ၌နေသည်၊ ရေသည်လူသားများအတွက် အကျိုးဖြစ်ထွန်းဆုံးဖြစ်သည်၊ ဤနည်းနှင်နှင် အာလင်မ်ဓမ္မပညာရှင်များသည်လည်း လူသားများအတွက် အကျိုးဖြစ်ထွန်းဆုံးဖြစ်သည် ထို့ကြောင့် အာလင်မ်ဓမ္မပညာရှင်များအား ရေနှင့်နှိုင်းယှဉ်ထားခြင်းဖြစ်လေ၏။

အာလင်မ် ဓမ္မပညာရှင်သည် အေဗာဒတ် ကောင်းမှုကုသိုလ်ပွားများနေသူနှင့် လပြည့်နှင့်ကြယ်ပမာ ခြားနားကွာခြားလေသည်၊ အာလင်မ်သည် လပြည့်ပမာဖြစ်သည်၊ အေဗာဒတ် ပြုသောသူသည် ကြယ်ပမာဖြစ်သည်၊ လပြည့်သည် မိမိကိုယ်တိုင်လင်းဝင်း လျက်တလောကလုံးကိုပါ လင်းဝင်းစေသကဲ့သို့ အာလင်မ်ဓမ္မပညာရှင်သည် ကိုယ်တိုင် တတ်သိနားလည်ကာ လူသားတို့အား ဓမ္မရောင်ခြည် ဖြာစေလေသည်။

အေဗာဒတ်ကောင်းမှုကုသိုလ်ဆောက်တည်သူကား ကိုယ်တိုင်အကျိုးခံစားရလျက် အခြားသူများ အကျိုးခံစားခွင့်မရရှိပေ၊ ထို့ကြောင့် ကြယ်နှင့်ပမာပြုခြင်းဖြစ်လေသည်။ အေဗာဒတ် ပြုသူအားမြင်၍ လူတို့သည် ၎င်းပုဂ္ဂိုလ်ကဲ့သို့ ပြုမူခြင်စိတ် ပေါ်လာသည်၊ ကြယ်ဖြင့်လည်း လောကတွင် အလင်းရောင်ရှိသည်ဟု ဆိုလှာမူ ဖြေဆိုရန်မခဲယဉ်းပေ။

အေဗာဒတ်ကြယ်၏ အလင်းရောင်သည် အာလင်မ် လပြည့်အလင်းရောင်နှင့်လုံးဝ နှိုင်းယှဉ်၍မရပေ၊ လပြည့်ရှေ့တွင် ကြယ်သည် မရှိသကဲ့သို့ဖြစ်သည်၊ အာလင်မ် ဟူသည် ကား နမာဇ်, ရိုဇဟ် စသည့် ကျင့်ဝတ်များထက်ပို၍ လိုလေသေးမရှိ တတ်ကျွမ်းသူကို ခေါ်ဆိုလေ၏။

အေဗာဒတ်ပြုသူသည် ကျင့်ဝတ်ကို နားလည်ထားရမည်ဖြစ်သည်၊ ဆည်းပူးမှုများစွာပြုသူ ဖြစ်ရမည်၊ လုံးဝ အသိတရား မရှိသူသည် မည်ကဲ့သို့ အေဗာဒတ် ခုဝပ် ဆည်းကပ်မည်နည်း၊ ဆည်းကပ်သော်လည်း အချည်းနှီးပွင့် ဖြစ်ပေမည်၊ ထို့ကြောင့် အေဗာဒတ်ပြုသူသည် ကျင့်ဝတ်များကို သိထားရမည်ဖြစ်ပေသည်။

အာလင်မ် ဓမ္မပညာရှင်များသည်ကား နဗီတမန်တော်များ၏ အမွေစားအမွေခံများဖြစ်ကြသည်၊ နဗီတမန်တော်များသည် ရွှေ,ငွေ,ပစ္စည်းများကို အမွေအဖြစ်မထားခဲ့ကြ၊ သို့သော် အင်လ်မ်ဓမ္မပညာကို အမွေအဖြစ် ထားတော်မူခဲ့သည်၊ ထို့ကြောင့် အကြင်သူသည် အင်လ်မ်ဓမ္မပညာကိုသင်ယူလျှင် ၎င်းသူသည် ကြီးကျယ်သောစည်းစိမ်ကို အမွေရသူမည်ပေတော့၏။ အဟ်မဒ်၊ တင်ရ်မေသီ၊ အစ်ဗ်နို့မာဂျတ်၊ အဘူဒါဝူးဒ်၊ ဒါရိမီ၊ မစ်ရှ်ကာတ်ကျမ်းတော်များ။

အဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗာစ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ (ဤသခင်ကား အဆင့်အတန်းမြင့်မားသော ဆဟာဗီတစ်ပါးဖြစ်သည်၊) ရစူလ္လွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သခင်အား ကုရ်အာန်ကျမ်းတော်မြတ်၏ အသိပညာ ၎င်းဘာသာ သာသနာရေး အသိပညာ ပေးတော်မူပါဟူ၍ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ဒိုအာဆုမွန် တောင်းဆိုခဲ့သည်၊ တောင်းဆိုသော ဒိုအာကို အလ္လာဟ် အသျှင်မြတ်က လက်ခံတော်မူခဲ့သည်၊ ကြီးကျယ်သော အာလင်မ်တစ်ပါး ဖြစ်သွားလေ၏။ ထို့ကြောင့် သခင်ကို (တရ်ဂျုမာနွလ်ကုရ်အာန်)ဟု ခေါ်ဝေါ်ကြပေသည်၊ အင်သ်မ် ဓမ္မပညာကို ဆည်းပူးသင်ယူသူ၊ ပို့ချပြသသူ၊ ရေးသား, ထုတ်ဝေ, ဖြန့်ချိသူတို့သည် ခေတ္တခဏပင်ဖြစ်စေ၊ တစ်ညလုံးပင်ဖြစ်စေ အေဗာဒတ် ၁,၀ပ် ဆည်းကပ်သူထက် မြတ်လေ၏။

ဒါရိမီကျမ်း။

ဤသို့ ဘာသာရေးဓမ္မပညာ၏ ထွတ်မြတ်ထူးကဲမွန်မြတ်သည်များကို တင်ပြလိုက်ခြင်းသည် နဖ်လ် အေဗာဒတ်များကို ပြုမူဆောင်ရွက်ကြကာ ဘာသာရေး ဓမ္မပညာကို သင်ယူပို့ချ ထုတ်ဝေသောဘက်တွင် အားကြိုးမာန်တက် ဆောင်ရွက်ကြရန် သင့်လှပေသည်၊ အကြောင်းကိုဆိုသော် ဘာသာ သာသနာရေးပညာ သင်ယူပို့ချ ထုတ်ဝေခြင်းသည် အေဗာဒတ်ထက် မြတ်သောကြောင့် ဖြစ်လေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်သည်မှာ အင်လ်မ် ဘာသာရေး ပညာ မရှိသူသည် (ဝိုင်လ်) လွန်စွာဆိုးယုတ်ခြင်းပင်ဖြစ်၏။

(ဝိုင်လ်)သည် ဂျဟန္နမ်ငရဲဘုံတွင် မီးလျှံများပြည့်နက်နေသော တောတစ်ခုဖြစ်သည်၊ (ဝိုင်လ်)၏ အဓိပ္ပါယ်သည် လွန်စွာဆိုးယုတ်ခြင်းပင်ဖြစ်သေ၏။

ကန်ဇွလ်အမ္မာလ်ကျမ်း။

ရှိုင်ခ်စအ်ဒီ (ရဟမတွလ္လာဟ်) သခင်က ဖွာရစီဘာသာစကားဖြင့် ကဗျာစပ်ဆိုသည်မှာ....

ဂျာဟင်လ် အသိတရားကင်းမဲ့သူ၏ နိဂုံးသည် ဂျဟန္နမ်ငရဲဘုံပင်ဖြစ်သည်၊ အဆုံး၊ ကောင်းသော ဂျာဟင်လ်ကား လွန်စွာနည်းဘိ၏။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အလ္လာဟ်အသျှင်မြတ်၏ (ကဆမ်) မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် မိမိ၏အချစ်တော်များကို ဂျဟန္နမ် အပါယ်ငရဲဘုံသို့ ချတော်မူမည်မဟုတ်ပေ။

ဂျာမေ့ အ်စွဂီးရ်ကျမ်း။

အင်လ်မ် ဓမ္မပညာကို တတ်ကျွမ်းသူ ဖြစ်ကာ အမလ် အေဗာဒတ် ပြုမူဆောက်တည်သူများသာလျှင် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ အချစ်တော်များ ဖြစ်သည်မှာ ထင်ရှားလေ၏၊ ဂျာဟင်လ် အသိတရားကင်းမဲ့သူများသည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ နှစ်သက် သဘောတူတော်မူခြင်းကို ခံရမည်မဟုတ်ပေ၊ ထို့ကြောင့် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အသာဗ်အပြစ်ဒဏ်မှ လွတ်ကင်းစေရန်အတွက် ၎င်းအသျှင်မြတ်၏ သဘောတူနှစ်မြို့မှုကို ရယူရန် အမလ်ပြုသူ ၎င်း အင်လ်မ် ဓမ္မပညာရှင်ဖြစ်ရန် လွန်စွာလိုအပ်လှပေသည်။

ကဗျာဆရာတစ်ဦးက အာရ်ဗီဘာသာနှင့် စပ်ဆိုသည်မှာ....

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အချစ်တော်များသည် လောကဌ် ဒုက္ခရောက်ကြလျှင် ထိုဒုက္ခပင်လျှင် ၎င်းသူတို့၏(အသာဗ်)အပြစ်ဒဏ်ဖြစ်သည်၊ ဂိုနာဟ် ဒုစရိုက်များမှ လွတ်ကင်းပလပ်သမှု ဖြစ်သွားသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ ကဆမ် ထိုနောက် ၎င်းသူတို့သည် ဂျဟန္နမ် အပါယ်ငရဲကို ခံစားကြရတော့မည် မဟုတ်ပေ။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အချစ်တော်ဟူ၍ ဤသို့သော သတင်းကောင်း ရရှိသောသူသည်ကား ရှရီအတ်တရားတော်မြတ်ကို အမြဲထာဝစဉ် လေးစားယုံကြည် လိုက်နာဆောင်ရွက်လျှက် အလ္လာဟ်အသျှင်မြတ်က သဘောတူနှစ်မြို့သော စည်းမျဉ်းဘောင် အတွင်း၌ပင်နေသော ပုဂ္ဂိုလ်မှန်သာလျှင်ဖြစ်ပေသည်။ မတော်တဆ သတိမမူဘဲ မေ့မှား၍ ဂိုနာဟ်အကုသိုလ် ဒုစရိုက်တစ်ခုခု ကျူးလွန်မိသွားလျှင် ချက်ချင်းပင် အမှားဝန်ခံ တောင်းဗဟ်ပြု ချမ်းသာခွင့်လွှတ်တော်မူရန် တောင်းဆိုရမည် ဖြစ်လေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်သည်မှာ .... သင် လူသားတို့ကို အလ္လာဟ်အသျှင်မြတ်၏ အချစ်တော်များဖြစ်အောင် ပြုလေကုန်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် သင့်အား အချစ်တော်အဖြစ် ထားရှိတော်မူ

မည်ဖြစ်၏။ ကန်ဇူလ်အမ္မာလ်ကျမ်း။ လူသားတို့အား ဟောပြောဆုံးမ သွန်သင်ခြင်း၊ ရေးသားထုတ်ဝေခြင်း တို့ဖြင့် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ ကရုဏာတော်များ၊ စည်းစိမ်တော်များကို သိကြစေကာ အလ္လာဟ်အသျှင်မြတ် ဘက်တော်သို့ စိတ်ရောက်ကြလျက် ဖြစ်ရှိလာလျှင် အလ္လာဟ်အသျှင်မြတ်သည် သင့်အား ချစ်ခင်တော်မူမည်ဖြစ်ပေသည်၊ မရည်မတွက်နိုင်သော 'ရဟ်မတ်' မဟာကရုဏာတော်များကို သင်ရရှိမည်ဖြစ်လေသည်။

ဤသို့ ကောင်းရာညွှန်ကြားမှုသည် ကိုယ်တိုင် 'အမလ်' ကောင်းမှုကုသိုလ်ပွား၍ တရားတော်နှင့် အညီနေသော အာလင်မ်ဓမ္မပညာရှင်အပြင် အခြားသူများ မစွမ်းနိုင်ကြပေ၊ ဤသို့သော အာလင်မ်ဓမ္မပညာရှင်အဖို့ ဒွန္နယာ အာခေရတ် နှစ်ဋ္ဌာနတွင် အလ္လာဟ်အသျှင်မြတ်၏ ချစ်ခင်တော်မူခြင်းကို ရယူရသဖြင့် ဤထက်ကောင်းသော ဝမ်းမြောက်ဖွယ်ရာကား မရှိတော့ပြီ၊ (အို.... အသျှင် ကျွန်မတော်မျိုးကိုလည်း မိမိ၏ အချစ်တော်တစ်ဦးအဖြစ် ပြုတော်မူပါ အာမီန် သဘောတူတော်မူပါ။)

ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အာလင်မ် ဓမ္မပညာရှင်သည် မိမိပညာ အသိ ရှိသည့်အတိုင်း အမလ် ကောင်းမှုကုသိုလ် ဆောက်တည်ပွားများလျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ၎င်းသူမသိသောပညာကို သိစေတော်မူမည်ဖြစ်သည်။

ဟွလ်ယဘွလ်အောင်လေယာကျမ်း။

ဘာသာ သာသနာပညာ၏ နက်နဲသော သဘောတရားများကို သိရှိနားလည်ကာ ပညာတိုးပွားမည်ဟူ၍ ဆိုလိုရင်းဖြစ်ပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ....ကေန်မုချအာလင်မ်ဓမ္မပညာရှင်သည် မိမိအသိနှင့် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ သဘောတူနှစ်မြို့တော်မူခြင်းကို ပြုမူဆောင်ရွက်လျှင် အရာခပ်သိမ်းသည် ၎င်း အာလင်မ် ပညာရှင်အား ကြောက်ရွံ့ရိုကျိုးကြမည် ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... ဖွေကဟ်ကျမ်းရှင်အာလင်မ်များသည် ဝလီများမဟုတ်ခဲ့သော် အာခေရတ်၌ ဝလီကား မရှိပြီ ဖြစ်သည်၊ ဖွေကဟ်ကျမ်းရှင်သည် ဝလီအဖြစ်နှင့် ရှိနေမည်ဖြစ်လေ၏။

ဘိုခါရီကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ .... အာလင်မ် ဓမ္မပညာရှင်၏ မျက်နှာကိုကြည့်ရှုခြင်းပင်လျှင် အေဗာဒတ် ကုသိုလ်ရပေသည်။

ဒိုင်လမီကျမ်း။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ.... ငါရစူလ်၏စကားကို ကြားနာ၍ ဆင့်ပို့သော ယောကျ်ား မိန်းမ တို့ကို အလ္လာဟ်အသျှင်မြတ်သည် ဆန္ဒပြည့်ဝစေခြင်း၊ ပျော်ရွှင်မှုအတိနှင့် ထားတော်မူပါစေ၊ နားထောင်သူထက် ပြောဟောသောသူသည် ပိုမို၍ သိထားသူ ဖြစ်ပေသည်။

တင်ရ်မေသီနှင့် အစ်ဗ်နို့မာဂျဟ်ကျမ်း။

ဤဟဒီးသ်တော်မြတ်အရ ဘာသာ သာသနာရေးပညာ ဆင့်ပို့ခြင်း၏ ထွတ်မြတ်ခြင်းမှာ ထင်ရှားလျက်ရှိလေသည်၊ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ဘာသာရေးကို ဆင့်ပို့သင်ကြားရေးသားထုတ်ဝေသူများကိုဆုမွန်ဒိုအာပြုတော်မူခဲ့သည်၊ဟဒီးသ်တော်မြတ်ကို အာဂုံဆောင်ခြင်း၊ အခြားသူများကို ဆင့်ပို့သင်ပြ ပေးခြင်းတို့သည် ဖော်ပြပါ ဟဒီးတော်၌ ဒိုအာပြု ထားသည့်ပြင် မည်သည့်အကျိုး သက်ရောက်ခြင်းမရှိသော်လည်း လျစ်လျူရှုထားရန် မထိုက်ဟူ၍ အာလင်မ်များက မိန့်မြွက်တော်မူခဲ့ကြလေသည်၊ သို့တစေ ဤဒိုအာ ဆုမွန်၏ အပြင် အကျိုးသဝါဗ် မြောက်များစွာ ရရှိသည် ဖြစ်သော ဟဒီးသ်တော်များလည်း လာရှိပေသည်။

ထို့ကြောင့် လူတို့သည် အထက်ပါ ဒိုအာကို ဦးထိပ်ပန်ဆင်ကြကာ ဘာသာသာသနာရေးပညာကို သင်ယူဆည်းပူးခြင်းဖြင့် လောကီ လောကုတ္တရာ နှစ်ဌာနစလုံးတွင် ကောင်းမွန် မွန်မြတ်သောအဖြစ်ကို ရယူသင့်လှပေသည်။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... တစ်ဦးသောသူ၏ ကြိုးပမ်းမှုဖြင့် တစ်ဦးတစ်ယောက်သည်အစ္စလာမ်သာသနာတော်မြတ်ကို သက်ဝင်ယုံကြည်ကာ မွတ်စလင်မ်ဖြစ်သွားလျှင် ထိုသို့ ကြိုးပမ်းသူသည် ဧကန် ဂျန္နတ် ဥယျာဉ်ဘုံ နန်းသို့ ဝင်ရောက်ရမည်ဖြစ်ပေသည်။

တွာဗ်ရာနီကျမ်း။

ဤဟဒီးသ်တော်မြတ်သည် နိဂုံး ကောင်းစားမှုကို ညွှန်ပြခြင်း ဖြစ်ပေသည်၊ အဆုံးကောင်းသောသူသည်ကား ဂျန္နတ်သို့ ဧကန် ရောက်ရမည်ပင် ဖြစ်ပေသည်၊ တစ်ဦးတစ်ယောက်အား အစ္စလာမ်သာသနာတော်သို့ သွတ်သွင်းရန်မှာကား လွယ်ကူလှသည် မဟုတ်ပေ၊ အာလင်မ် ဓမ္မပညာရှင်သာလျှင် ကတ်စွမ်းနိုင်သည် ဖြစ်၏၊ ဂျာဟင်လ် အသိတရားကင်းမဲ့သူသည်ကား ကိုယ်တိုင်ပင် တတ်သိနားလည်မှု မရှိဖြစ်ရကား မည်သူ့ကိုမျှ လမ်းညွှန်သင်ပြပို့ချ ဆွဲယူနိုင်မည်မဟုတ်ပေ။

အာလင်မ် ဓမ္မပညာရှင်ဟု ဆိုရာ၌ ဤနေရာတွင် တာဗ်ကင်းခတ်အောင် တတ်ကျွမ်းသော ပုဂ္ဂိုလ်ကို ဆိုလိုရင်း မဟုတ်ပေ၊ ပညာတတ်ကျွမ်းသည်ခန့် ထွတ်မြတ်သူးကဲကြသည်ပင်ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူ တစ်ဦး တစ်ယောက်သည် ငါရစူလ်၏ ဩဝါဒ ဟဒီးသ်တော်လေးဆယ်ကို လူတို့အား ပို့ချတင်ပြ လျှင် ငါရစူလ်သည် 'ကေယာမတ်'ကမ္ဘာ့တရားခွင်နေ့၌ ၎င်းသူအတွက် သီးခြား၍ လွတ် ငြိမ်းချမ်းသာခွင့် တောင်းဆိုပေးတော်မူမည်။

ဂျာမေ့ အ်စ္စဂီးရ်ကျမ်း။

ဟဒီးသ်တော်မြတ် လေးဆယ်ကို လူတို့အား ပို့ချခြင်းဆိုရာ၌ သင်ပြပေးသည် ဖြစ်စေ၊ ရေးသား ထုတ်ဝေသည်ဖြစ်စေ၊ ဟောပြော သွန်သွင်သည်ဖြစ်စေ အတူတူပင် ဖြစ်ပေသည်၊ မည်သည့်နည်းနှင့်ဖြစ်စေ လူသားတို့ထံ ရောက်ရန်မှာ အဓိကအချက် ဖြစ် လေသည်၊ ထို့ကြောင့်ပင် အာလင်မ်ပညာရှင်များသည် ဟဒီးသ်တော် လေးဆယ်ကျမ်း များကို ထုတ်ဝေရေးသားခဲ့ကြ၏။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... မြင့်မြတ်တော် မူသော အလ္လာဟ်အသျှင်မြတ်သည် ဝဖြိုးသော 'အာလင်မ်' ဓမ္မပညာရှင်များကို နှစ်သက် တော် မမူပေ။

ဗိုင်ဟကီကျမ်း။

အာလင်မ်ဓမ္မပညာရှင်သည် 'အမလ်' ကောင်းမှုကုသိုလ် ပွားများဆောက်တည် သူဖြစ်လျှင် အစ္စလာမ် သာသနာတော်မြတ်၏ အကျိုးကို သယ်ပိုးခြင်းနှင့် မြင့်မြတ်တော် မူသော အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ကြည်ညို လေးစားနေခြင်းဖြင့် ဝဖြိုးသော သူမဖြစ်နိုင်ပေ၊ သို့မို့ကြောင့် ဝဖြိုးသူသည် လောကီ၏ သာယာပျော်ရွှင်မှုကို လိုက်စား သူ စွဲလမ်းခုံမင်သူဖြစ်က တရားဓမ္မကို မေ့လျော့ပေါ့ဆသူ ဖြစ်ကြောင်းမှာ ထင်ရှား ပေသည်၊ ဤသို့သော သူများသည်ကား အလ္လာဟ်အသျှင်မြတ်၏ နှစ်သက်ခုံမင်ခြင်းကို ခံရသည့်သူများ မဖြစ်နိုင်ကြပေ။

အချို့သော ပျော်ရွှင်မှု စည်းစိမ်ခံမှုနှင့် မေ့လျော့ပေါ့ဆ သူများသည် ဂိုနာဟ် အပြစ် ဖြစ်ပေသည်၊ အချို့သည် မတ်က်ရူးဟ် ဖြစ်သည်၊ မည်မျှခန့် စည်းစိမ်ခံစား၍ မေ့လျော့ပေါ့ဆမှုဖြစ်လျှင် ထိုသည်နှင့်အညီ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် ၏ မနှစ်သက်တော်မူခြင်းဖြစ်မည်၊ သို့သော်မူလပထမကဝနေလျှင် ၎င်းရောဂါကြောင့်ဝနေ ပါက ဤသို့ဝနေခြင်းသည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ မနှစ်သက် တော်မူခြင်းမဟုတ်ပေ၊ အာခေရတ်ကို မေ့လျော့၍ စည်းစိမ်၌ ရစ်မူးနေသူ၏ ဝဖြိုး ခြင်းကို နှစ်သက်တော်မမူခြင်း ဖြစ်လေ၏။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... မိမိတတ်သိနား လည်ထားသော ဓမ္မပညာကို အသုံးမပြုဘဲနေသော အာလင်မ် ဓမ္မပညာရှင်သည် ကေယာ မတ်ကမ္ဘာ့တရားခွင်နေ့၌ ပြင်းထန်သောအသာဗ် အပြစ် ဒဏ်ခတ်တော်မူခြင်းကို ခံရမည် ဖြစ်လေသည်။

ဂျာမေ့ အ်စ္စဂီးရ်ကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... ဂျဟန္နမ် အပါယ်ငရဲဘုံ၌ တောတစ်ခုရှိသည်၊ ထိုတောကပင်လျှင် တစ်နေ့အကြိမ်ပေါင်း လေးရာ ကင်းရန်ဆုပန်လေ၏၊ ထိုတော၌ 'ရေယာ' လူ့အလိုပစ္စည်းအလို လိုက်သော အာလင်မ်များ ကျရောက်ကြမည် ဖြစ်ပေသည်။

မစ်ရှ်ကာတ်ကျမ်း။

လူတို့မြင်စေရန် ကြွားဝါသောအဖြစ်နှင့် ဘာသာ သာသနာရေးကို လုပ်ကိုင်သူကို လူတို့က အာလင်မ် ဓမ္မပညာရှင်ဟု အခေါ်ခံလိုသောကြောင့် ဘာသာရေး ပညာကို သင်ယူသူ၊ ၎င်းပို့ချပြသသူ၊ လူတို့ကဂုဏ်ပေးခြင်း ငွေရလိုခြင်း သူမြတ်ဟုထင်ကြစေရန် အလို့ငှါ စိတ်ဆန္ဒထားသူများကို ဆိုလိုရင်းဖြစ်ပေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အပြင် အခြားသူများ မြင်စေ သိစေရန်အတွက် -အေဗာဒတ် ခ့ဝပ်ဆည်းကပ် ကုသိုလ်ပွားခြင်းသည် ကြီးလေးသော ဂိုနာဟ် အပြစ်ဖြစ်လေ၏။ တနည်းဆိုသော် ရှစ်ရ်ကဲ တမျိုးဖြစ်ပေသည်။

အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ်(ရဆွေ့)သခင် မိန့်သည်မှာ.... အာလင်မ်ဓမ္မပညာရှင်များသည် အင်လ်မ့်သာသနာပညာကို တိန်းသိမ်းကြလျှင် (ပညာ၏ဂုဏ်ကိုသိကြလျှင် ပညာသည် ထိုက်တန်သူ၏ထံမှာရှိလျှင်) ပညာသင်ယူရန် သင့်တော်သူ ခေါင်းဆောင် လမ်းပြဖြစ်ထိုက်သူသာလျှင် ပညာကိုသင်ပြပေးတော်မူသည်။

မွတ်စလင်မ်တို့ မသိမနေရဖြစ်သော ဖွရ်သွ်ဖြစ်နေသည့် အချက်အလက်များကိုကား အားလုံးကိုသင်ယူကြရန်ထိုက်ပေသည်၊ ရှေ့ဆောင်လမ်းပြဖြစ်သည်အထိ ပညာသင်ရန်ကိုကား ထိုက်သောသူကိုသာလျှင် ခွင့်ပြုထားလေသည်။

ယဟူဒ်နှင့် နစွာရာ တို့သည် ၎င်းတို့၏ ခေတ်၌ ပညာ တတ်မြောက်မှုကြောင့် ကြီးမားသော ရှေ့ဆောင်လမ်းပြများ ဖြစ်နိုင်ပေသည်၊ သို့သော် ၎င်းတို့သည် ပညာကို လောကီစည်းစိမ်ရရှိရန်အတွက် အလွဲသုံးစားပြုကြသဖြင့် သေးသိမ် ကျဆုံးသွားကြလေသည်။ (ပညာ၏ အဓိကရည်ရွယ်ချက်မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ သဘောတူနှစ်မြို့ခြင်းကိုရှာဖွေရယူရန်ပင်ဖြစ်ပေသည်။ (ပညာဖြင့် လောကီ၏စည်းစိမ်များကိုရှာဖွေလေရာ ပညာသည် သေးသိမ်ကျဆုံးသွားလေသည်၊ ပညာကျဆုံးသည်နှင့် ၎င်းလည်းသေးသိမ်သူဖြစ်သွားရလေသည်၊ အာလင်မ်ဓမ္မပညာရှင်သည်လောဘရမ္မက်မထားဘဲ ပညာ၏တာဝန်ကို ရွက်ဆောင်လျှင် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်သည်အလို အလျောက်၎င်းသူအားလူတို့ထံဘွင် ဂုဏ်သိက္ခာမြင့်မားစေတော်မူမည်ဖြစ်ပေသည်၊ ပညာဖြင့် လောကီစည်းစိမ်ရှာလျှင် ပညာ၏ တာဝန်ကို မထမ်းဆောင်ပါက ၎င်းသူအား

သေးသိမ်စေတော်မူမည် ဖြစ်လေသည်။ ဤသို့သောသူကား လောကီ-လောကုတ္တရာနှစ် ဌာနစလုံးတွင် နစ်နာဆုံးရှုံးသူအတိ ဖြစ်ရလေတော့သည်။) ကျွန်ုပ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်မြွက်သည်ကို ကြားခဲ့သည်မှာ .... အကြင်သူသည် မိမိ၏ အလိုဆန္ဒအားလုံးကို အာခေရတ်တွင် ကောင်းစားရန်အတွက် ထားရှိကာ အခြားသော ဆန္ဒများကို ရှရီအတ် တရားတော်မြတ်နှင့် အညီထားမှု လုံလောက်လေ၏။ လောကဥ္စ ထားသော ၎င်းသူ၏ဆန္ဒ ရောင်းဝယ်ဖေါက်ကားမှုကို မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ၎င်းသူနှင့်ထိုက်တန်သည်ခန့် ကျယ်ဝန်းရရှိစေမည် ဖြစ်လေသည်။ လောကအတွက် ဆန္ဒသက်သက်ထားသူများသည် မည်သည့်ဒုက္ခဆုံးရှုံးခြင်း၌ ကျရောက်စေကာမူ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် လုံးဝ ဂရုစိုက်တော်မူသည် မဟုတ်ပေ။ အစ်ဗ်နို့မာဂျဟ်ကျမ်း။

မိမိကိုယ်နှင့် သား,သမီးများကို အမိုက်မှောင်မှ ရှောင်ကြဉ် လွတ်ကင်းစေ၍ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အမိန့်ပညတ်တော်များကိုတသဝေမတိမ်း လိုက်နာကြကုန်။ (ဗန္ဒဟ်လူသားသည်) အလ္လာဟ်အသျှင်မြတ်ကို ချစ်ခင်၍ လိုက်နာ ဆောက်တည်လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ၎င်းသူအား ချစ်ခင်တော်မူကာ အစစအရာရာ ကူညီစောင်မ ကယ်တင်တော်မူမည်ပင် ဖြစ်လေသည်။ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် ချစ်ခင်ခြင်းခံရသူမှာ မည်သည့်အရာမှ မရ ရှိနိုင်စရာအကြောင်းမရှိပေ။ အသျှင်မြတ် ထံတော်တွင် မည်သည်မျှ လိုလေသေးမရှိပေ လိုသောစည်းစိမ် ချမ်းသာသုခကို ပေးနိုင်တော်မူသော အသျှင်သခင် ဖြစ်တော်မူလေ သည်။ ဤသို့ အဖိုးမဖြတ်နိုင်သော စည်းစိမ်သုခများကို ရလိုသောသူသည် အလ္လာဟ် အသျှင်မြတ်၏ မိန့်မြွက်ချက်များကို လိုက်နာဆောင်ရွက် နာယူသူသာလျှင် ရရှိမည် ဖြစ်လေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ထံတော်မှ စည်းစိမ်ဥစ္စာ ရလိုသော သူသည်၊ အသျှင်မြတ်၏ အမိန့်တော်များကို နာယူလိုက်နာသူမှ ရရှိနိုင်သည်ဟူ၍ဟဒီးသ် တော်မြတ်တွင် အတိအလင်း လာရှိထားပေသည်။

ယခုခေတ်အခါသမယ၌ အချို့သောသူတို့၏ ထင်မြင်ယူဆချက် သဘောဆန္ဒ သည် ဝမ်းနည်း ကြေကွဲဖွယ်ရာ ကောင်းနေလေသည်။ အင်လိမ် ဘာသာသာသနာရေး ပညာကို အပြစ်ပြောကြသည်၊ သင်ယူသူများကို သူတောင်းစားနှင့် နှိုင်းယှဉ်ကြသည်။ ဤသို့သော အနောက်တိုင်းဆန်သော ခေတ်လူများကား ကာဖွင်ရ်များ၏ နောက်လိုက် ဖြစ်ရခြင်းကိုပင် ဂုဏ်ရှိသည် တိုးတက်မှုရှိသည်ဟု ယူဆထင်မြင် နေကြပေသည်။ ဤသို့ သော အသိတရား ခေါင်းပါးသည့်သူများ ရှိနေခြင်းကြောင့် နေ့ညမပြတ် မြင့်မြတ်

တော်မူသော အလ္လာဟ်အသျှင်မြတ် ဘက်တော်မှ 'ဘလာ' ကပ်ဆိုး အမျိုးမျိုးများ ကျရောက်နေခြင်းဖြစ်လေသည်။ ကျောက်ပေါက်ခြင်း၊ ဝမ်းရောဂါဖြစ်ခြင်း၊ ပလိပ်ဖြစ်ခြင်း၊ မိုးခေါင်-ရေရှားခြင်း၊ ရေလွှမ်းမိုးခြင်း၊ လျှော်လှုပ်ခြင်း စသည့်ကပ်ဆိုးများသည် အဆက်မပြတ် ခံစားနေရခြင်းပင်ဖြစ်ပေသည်။ ဤသည်ကား လောကီ၌ ခံစားရသော ဒုက္ခများဖြစ်၍ နောင် 'အာခေရတ်' တွင် ကြီးစွာသော ဒုက္ခများကို ခံကြရဦးမည်ဖြစ်လေသည်။

ကိုယ်နှင့် ထိုက်တန်သည်ခန့် လောကီပညာကို မသင်ရ၊ လခစားမလုပ်ရ၊ ရောင်းဝယ်ဖေါက်ကားသမှု မပြုရဟူ၍ကား ကျွန်ုပ်မဆိုလိုပေ။ ဘာသာသာသနာမှ အသိတရားကင်းမဲ့ကာမနေဘဲ လေ့လာလိုက်စား၍ ကျင့်ဆောက်တည်ပြီးလျှင် မိမိယုံကြည်စွဲယူထားသော သာသနာကို မဖျက်ဆီးကြရန် ဆိုလိုရင်းပင်ဖြစ်သည်။

ရှရီအတ်တရားတော်မြတ်ကို လိုက်နာဆောက်တည်ရန်မှာ ဘာသာရေးအသိပညာ မရှိဘဲ လိုက်နာဆောက်တည် နိုင်စွမ်းမရှိပေ။ ဘာသာ သာသနာတော်ကို တသဝေမတိမ်း လိုက်နာကျင့်ဆောက်တည်သူများသည် လောက၌ ဂုဏ်သရေရှိသူများအဖြစ်နှင့် စားဝတ်နေရေး ချောင်လည်မှုရှိနေသည်မှာ သာဓကတရပ်ပင်ဖြစ်ပေသည်။ ဘာသာရေးကိုလိုက်စားသဖြင့် ငတ်မွတ်နေသူကား ရှားလှပေသည်။ ကျွန်ုပ်တို့သည် လောကီ၏ ကောင်းစားရေးကို ဂရုမပြုဘဲ နောင်'အာခေရတ်' ကောင်းစားရေးအတွက်ကိုသာလျှင် အားကြိုးမာန်တက် ဆောင်ရွက်ကြရမည်ပင်ဖြစ်လေ၏။

လောက၌ စိတ်ပျော်ပိုက်နေရန်မဟုတ်ပေ။ သံဝေဂတရားယူရန် နေရာဖြစ်သည်၊ ပျော်ရွှင်ရန်ပွဲမဟုတ်ပေဟု ကဗျာစပ်ဆိုထားလေသည်၊ မှန်၏ လောကသည် ခေတ္တခဏ တည်းခိုနေသော ဧည့်ဂေဟာတစ်ခုပင်ဖြစ်လေ၏။

မိမိနှင့်တကွ သားသမီးများကို ဘာသာ သာသနာရေးကို ပေါ့လျော့ ဖျက်ဆီးမည့် ခေတ်ပညာတည်းဟူသော အမှောင်ထုမှ လွတ်ကင်း ရှောင်ရှားကြကုန်လော့။ လူသားသည် ဘာသာရေးကို စွဲမြဲစွာ ကိုင်တွယ်ဖက်ထားလျှင် ၎င်းသုံ့သည် လောကကို သေးသိမ်သောအဖြစ်နှင့် မြင်တွေ့ကာ ရှောင်ရှားမည်ဖြစ်လေသည်။

အဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗားစ် (ရသွေ့) သခင် ဆင့်ပြန်ခဲ့သည်။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ... မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်အား တိုင်းပြည်နှင့်ပညာ ကြိုက်နှစ်သက်သည်ကိုယူရန် အခွင့်ပေးတော်သည်၊ သခင်သည် အင်လ်မ်ပညာကို ယူတော်

မူပေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က သခင်အား ဓမ္မပညာအင်လ်မ်ကို ပေးတော်မူပြီး တိုင်းပြည်ကို ချီးမြှောက်ပေးသနားတော်မူလေသည်။

စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်ရသော တိုင်းပြည်သည် ရာဇဝင်ပင် တွင်ခဲ့လေသည်။ ဤသို့ ကြီးကျယ်သော တိုင်းပြည်ကို (ကေယာမတ်) ကမ္ဘာပျက်သည့်အထိ မည်သူတစ်ဦးတစ်ယောက်မှ စိုးစံရမည်မဟုတ်ပေ။ ကမ္ဘာဦးကတည်းက မည်သည့်ပုဂ္ဂိုလ်မှ မရဖူးခဲ့သော တိုင်းပြည်မျိုးဖြစ်ပေသည်။

စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင်သည်တိုင်းပြည်စည်းစိမ်ကိုစွဲမက်ခုံမင်မှုမရှိသည်မှာ 'အင်လ်မ်' ဘာသာ သာသနာရေးပညာ၏ 'ဘရ်ကတ်' တန်ခိုးကြောင့်ဖြစ်လေသည်၊ ဓမ္မပညာကို လက်ခံယူတော်မူလျှက် တိုင်းပြည်စည်းစိမ်များကို စွန့်လွှတ်တော်မူခဲ့လေ၏။ ထို့ကြောင့်ပင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် သခင့်အားဓမ္မပညာကို ပေးသနားတော်မူလျှက် တိုင်းပြည်စည်းစိမ်ကို ပေးသနားတော်မူလေသည်။

စာလင်မ်ဗင်န်အဗင်လ်ဂျအ်ဒ်တာဗေအီ (ရဟာမတ္တုလ္လာဟ်) သခင်က မိန့်သည်မှာ.... ကျွန်ုပ်ကိုပိုင်သော ပုဂ္ဂိုလ်က သူကောင်းပြုလေရာ ကျွန်ုပ်သည် အသက်မွေးဝမ်းကြောင်းအတွက် စဉ်းစားရလေတော့သည်။ (ပထမက ဆရာသခင်၏အလုပ်ကို လုပ်ပေး၍ ဆရာသခင်ထံတွင် စားသောက်နေထိုင်ခဲ့ရသည်။ ယခု သူကောင်းပြုလိုက်ပြီ ဖြစ်သောကြောင့် ကိုယ့်ဝမ်းကိုယ်ရှာစားရပေတော့မည်။) ကျွန်ုပ်သည် အင်လ်မ်ဘာသာရေးပညာကို သင်ယူရန် ဆုံးဖြတ်လိုက်ပြီး ပညာကိုသင်ယူတော့သည်။ ၁-နှစ်ပင်မပြည့်မီ မဒီနာမြို့ဘော်ကို အုပ်ချုပ်သော ပုဂ္ဂိုလ်သည် ကျွန်ုပ်ထံလာရောက်သည်၊ ကျွန်ုပ်က ၎င်းကို အတွေ့မခံပေ၊ ကျွန်ုပ်သည် အကြောင်းတစ်ခုကြောင့် အတွေ့မခံခြင်းဖြစ်သည်။ သက်သက်တွေ့ချင်သော သူတစ်ယောက်ကို အတွေ့မခံပါက သာသနာတော်မြတ်နှင့် ဆန့်ကျင်သည်။ စာရိတ္တပျက်ပြားရာလည်းကျသည်။ ရက်ပိုင်း မကြာမီပင် ကျွန်ုပ်၏ အဆင့်အတန်းသည် မြင့်မားလာကာ တိုင်းပြည်ဒေသကိုအုပ်ချုပ်သော အကြီးအကဲပုဂ္ဂိုလ်များပင် ကျွန်ုပ်ကိုလာရောက်တွေ့ဆုံကြသည်ကို ဖေါ်ပြလိုခြင်း သက်သက်ပင် ဖြစ်သည်။ ကျွန်ုပ်သည် ၎င်းတို့နှင့် အကြောင်းမဲ့ တွေ့ဆုံခြင်းမပြုခဲ့ ငြင်းပယ်ခဲ့သည်သာဖြစ်သည်။

မှန်၏၊ သာသနာရေးပညာတတ်မြောက်သောသူ၏စိတ်တွင် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်ကို ကြောက်ရွံ့ခြင်းတစ်ခုပင် ရှိလေသည်။ အလ္လာဟ် အသျှင်မြတ်အား ကြောက်သောသူကို အရာခပ်သိမ်းသည်ပင် ကြောက်ရွံ့ကြသည်ပင် ဖြစ်လေသည်။ ဤသို့သော ပညာရှိပုဂ္ဂိုလ်များသည် လောဘထားလျှက် သေးသိမ်သူများ မဖြစ်ကြပေ၊ မည်သူ၏ထံ၌မှ လက်မဖြန့်ကြပေ။

စိုလိုင်မာန် (အုလိုင်ဟစ္စလာမ်) သခင် အကြောင်းနှင့် စာလင်မ်ဗင်န်ဂျာ်ဒ် (ရဟာမတုလ္လာဟ်) သခင်၏ အကြောင်းသည် (အဲဟ်ယာအုလ်အိုလူးမ်) ကျမ်းတွင် ပါရှိလေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ– အင်လ်မ်ဘာသာရေးပညာကို တနင်းလာနေ့၌စ၍ သင်ယူကြကုန် ထိုနေ့တွင် သင်ယူခြင်းဖြင့် ပညာရရန် လွယ်ကူမှုဖြစ်လေသည်။ ကန်ဇုလ်အမ္မာလ်ကျမ်း။

ကြာသပတေးနေ့ သင်ယူကုန်ဟူ၍လည်း ဟဒီးသ်တော် လာရှိပေသည်။ ပညာစတင်၍ တနင်းလာနေ့တွင်လည်းကောင်း၊ ကြာသပတေးနေ့တွင် လည်းကောင်း ဖတ်ရွတ်ခြင်းသည် သာ၍ကောင်းသည် မြတ်သည်ဟု ဆိုလိုရင်းဖြစ်ပေသည်၊ ထို့ပြင်အခြားသော ဘာသာရေးကိစ္စများကို ထိုနှစ်နေ့အနက် တစ်နေ့နေ့တွင် စတင် လုပ်ကိုင်ခြင်း သာ၍ ကောင်းလေ၏။

ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် တစ်ဦးတစ်ယောက်အား အာယတ်တော်တစ်ပုဒ်ပင် သင်ပြပေးလျှင် သင်ပြပေးသူသည် သင်ယူသူ၏ ပိုင်ဆိုင်သော ဆရာသခင်ဖြစ်လေသည်။ တွာဗ်ရာနီကျမ်း။

သင်ယူသူသည်ကျွန်ဖြစ်လျှက် သင်ပြသူသည် ပိုင်ဆိုင်သော ဆရာသခင်ဖြစ်လေ၏။ ဆရာသခင်အား ပူဇော်စောင့်ရှောက်ရမည့် ဝတ္တရားသည် များပြားလှသည်ဟု ဆိုလိုရင်းဖြစ်ပေသည်။ ဆရာသည်ကား အမှောင်ထုမှ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်အား သိစွမ်းသောအလင်းရောင်သို့ ပို့ပေးသူဖြစ်ပေသည်။ ထို့ကြောင့် ဆရာသခင်၏ ကျေးဇူးကား ကြီးမားလှဘိ၏။

ကျွန်ဟု သုံးနှုန်းခြင်းမှာ.... ဆရာက ရောင်းစားနိုင်သော ပိုင်ဆိုင်ခြင်းမျိုးကို ဆိုလိုသည်မဟုတ်ပေ။ ဆရာသခင်၏ ဂုဏ်ကျေးဇူးကြီးမားပုံကို ဖေါ်ပြခြင်းပင်ဖြစ်လေသည်။ ဆရာသခင်၏ ဂုဏ်အဆင့်အတန်းသည် မိဘ၏ အဆင့်အတန်းထက် လျော့နည်းသည်ကိုလည်း မှတ်ထားသင့်ကြပေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ တစ်ဦးတစ်ယောက်သည် အာလင်မ် ဓမ္မပညာရှင် တစ်ပါးအား မတ်စ်အလဟ် မေးရာတွင် အာလင်မ်သည် တရားတော်၏ အခွင့်မရှိဘဲ ဖုံးအုပ်ကာ အမှန်ကို ပြောပြခြင်း မပြုပါက 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ မီးပါးချုပ်ဖြင့် ပါးစပ်ကို ချိတ်ဆွဲခြင်းခံရမည်ဖြစ်လေသည်။ မစ်ရှ်ကာတ်ကျမ်း။

အရေးကြီးသည်များကိုပြောပြရမည်ပင်ဖြစ်လေသည်။ ဖွရ်ဒ် ဖြစ်စေ၊ မွတ်စ်တဟဗ် ဖြစ်စေ အကြောင်းမရှိဘဲ ပညာကိုတွန့်တိုခြင်းသည် အလျဉ်းမသင့်လျော် မှုမမှန်ပေ။

# ဝုဒ္ဒူ ၎င်းဂွတ်စ်လ်၏ ထွတ်မြတ်ခြင်းနှင့် ကုသိုလ် အကြောင်း

*ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... အကြင်သူသည် ဝုဒ္ဒူ ရေသန့်စင်သောအခါ 'ဗစ်မစ်လ္လာဟ်' ဖတ်ရမည်။ (ဗစ်မစ်လ္လာဟေ့၊ ဝလ်ဟာမ်ဒို့၊ လစ်လာဟေ့၊ ဖတ်ခြင်း ပို၍ကောင်းသည်။) အဆစ်အပိုင်း ဟူသမျှကို ဆေးကြောသော အခါ၌....

أَشْهَدُ أَنْ لَّآ إِلٰهَ إِلَّا اللهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهٗ وَرَسُوْلُهٗ

ကို ဖတ်ရမည်၊ ဝုဒ္ဒူရေသန့်စင်ပြီးနောက်....

اَللّٰهُمَّ اجْعَلْنِيْ مِنَ التَّوَّابِيْنَ وَاجْعَلْنِيْ مِنَ الْمُتَطَهِّرِيْنَ

ကိုဖတ်ရွတ်လျှင် သေပြီးနောက် ထိုသူ့အတွက် ကြိုက်နှစ်သက်ရာ တံခါးပေါက်မှ ဝင်ရန် 'ဂျန္နတ်' ဥယျာဉ်ဘုံနန်း၏ တံခါးရှစ်ခုစလုံးကို ဖွင့်ပေးတော်မူမည် ဖြစ်လေသည်။

အကယ်၍ ဝုဒ္ဒူရေ သန့်စင်ပြီးနောက် နဖ်လ် နမာဇ် နှစ်ရကအတ် ဖတ်လျှင် ဖတ်နေကျအတိုင်း 'အာယတ်' ပါဒတော်ကိုဖတ်၍ မည်သည့် 'အာယတ်' ဖတ်နေသည်ကို ယောင်ဝါးမဟုတ်ဘဲ အတိအကျသိကာ တစ်စိတ်တစ်လက် စိတ်ထားဖြူစင်စွာဖြင့် ဖတ်ရွတ်ပြီးနောက် နမာဇ်ကိုလည်း ထိုနည်းတူစွာ စိတ်ထားဖြူစင်စွာဖြင့် ဝတ်ပြုလျှင် ဝတ်ပြုပြီးနောက် ၎င်းသူသည် ဂိုနာဟ်အကုသိုလ်များမှ လွတ်ကင်းသန့်ရှင်းသွားသူဖြစ်လေသည်၊

မိခင်၏ ဝမ်းတွင်းမှ မွေးလာသော ကလေးပမာ သန့်ရှင်းသူဖြစ်လေ၏၊ အမလ် ကောင်းမှုစ၍ ပွားများကုန်ဟု အမိန့်ပေးခြင်းခံရမည် ဖြစ်လေသည်။

အဲဟ်ယာအူလ်စ်စိုနန်ကျမ်း။

အာလင်မ် ဓမ္မပညာရှင်ကြီးများက ဂိုနာဟ်စွဂီရဟ် ငယ်သော အကုသိုလ်များပင် ကျွတ်သည်ဟု မိန့်ကြလေသည်၊ မည်သို့ပင်ဖြစ်စေ ရစူလွှလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ မိန့်မြွက်ခြင်းကို ကြားရခြင်းပင်လျှင် ဝမ်းမြောက်ကြည်နူးဖွယ်ရာ ဖြစ်လေ၏။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ငါ့ရစူလ်အား ဒရူးဒ် မဗ္ဗတ္တာမပို့သောသူ၏ ဝိုသွူ ရေသန့်စင်ခြင်းသည် ပြည့်စုံခြင်း မရှိပေ၊ အခြား ဟဒီးသ် တော်မြတ်၌ ဝိုသွူ သန့်စင်ပြီးနောက် ဒရူးဒ် မဗ္ဗတ္တာပို့ရမည်ဟု လာ ရှိပေသည်။

အဲဟ်ယာအွတ်စ်စိုနန်ကျမ်း။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... "အကြင် မွတ်စလင်မ်တစ်ဦး တစ်ယောက်သည် ဝိုသွူရေသန့်စင်ရာ၌ မျက်နှာသစ်ဆေးလျှင် ကျသွားသော ရေစက်များနှင့်အတူ မျက်လုံးဖြင့်ပြုသော ဂိုနာဟ် အကုသိုလ်များသည် လွင့်စင်ပပျောက် သွားလေသည်၊ လက်နှစ်ဘက်ကို တံတောင်ဆစ်အထိ ဆေးရာ၌ လက်နှင့်ပြုသော အကုသိုလ်များသည် လွင့်စင် ပပျောက်သွားလေသည်၊ ခြေနှစ်ဘက်ကို ဆေးရာ၌ ခြေဖြင့် ကျူးလွန်ခဲ့သော အကုသိုလ်များသည် စီးကျသော ရေနှင့်အတူ လွင့်စင်ပပျောက် သွားလေ၏၊ အားလုံးသော ဂိုနာဟ် အကုသိုလ်များသည် ချွတ်ကယ်ခြင်း ခံရသည် ဖြစ်လေသည်။

မွတ်စလင်မ်ကျမ်း။

ဝိုသွူ ရေသန့်စင်ခြင်းဖြင့် ကျွတ်သွားသော ဂိုနာဟ် အကုသိုလ်များသည် ဂိုနာဟ် စွဂီရဟ် ငယ်သောအကုသိုလ်များ ဖြစ်လေသည်၊ မျက်လုံး၏ ဂိုနာဟ် အကုသိုလ်သည် မလျော်ကန်သော အရှုဖြင့် ကြည့်ခြင်းဖြစ်သည်၊ လက်၏ ဂိုနာဟ် အကုသိုလ်သည် ထိတွေ့ ကိုင်တွယ်ခြင်းဖြစ်သည်၊ ခြေ၏ ဂိုနာဟ် အကုသိုလ်သည် မလျော်ကန်သော နေရာသို့ သွားခြင်းဖြစ်လေသည်။

ဝိုသွူ ရေသန့်စင်ခြင်း၏ ထွက်မြတ်ခြင်းကား လွန်စွာကြီးမား အကျိုးသဝါဗ် များပြားသောကြောင့် ဂရုတစိုက် ဝိုသွူရေသန့်စင်ကြရန် သင့်လှပေသည်။

အနတ်စ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ (၎င်းသခင်ကား အဆင့်အတန်း မြင့်မားသော ပုဂ္ဂိုလ်တပါး ဖြစ်လေသည်၊ ၁၀-နှစ်တိုင်တိုင် ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ်ကြီး ဝတ်ငယ် ပြုခဲ့လေသည်။) ရစူလွှလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ....

အို....အနတ်စ် မသန့်အတွက် ဝွတ်စ်လ် ရေချိုးသန့်စင်ရာ၌ ကောင်းစွာပြုလျှင် သင်သည် ရေချိုးရာမှ ထွက်လာသောအခါ ဂိုနာဟ်များ မေ့မှားမှုများသည် သင့်အပေါ်၌ တင်ရှိနေတော့မည် မဟုတ်ပေ၊ (ဂိုနာဟ်စွဂီရဟ်များကိုပင် ဆိုလိုရင်း ဖြစ်သည်၊) ယာရစူလလ္လာဟ် (မည်သို့ ကောင်းစွာ ပြုရပါမည်နည်းဟု ကျွန်ုပ်က မေးလျှောက်ရာ ကိုယ်တော်က ဆံပင်၏ အမြစ်များကိုပါ ရေစွတ်စိုစေ၍ တကိုယ်လုံး သန့်ပြန့်အောင် ပြုကုန်ဟု မိန့်တော်မူလေ၏၊ တကိုယ်လုံး ပွတ်တိုက်ခြင်းသည် မွတ်စ်တဟာဗ် ဖြစ်၏၊ ပွတ်တိုက်ခြင်း မပြုပါက ကောင်းစွာသန့်ပြန့်မှု မဖြစ်နိုင်ပေ။)

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဆက်လက်၍ မိန့်တော်မူသည်မှာ အို....ချစ်သား (ချစ်ခင်သံဖြင့် သုံးနှုန်းခြင်းဖြစ်သည်) သင်တတ်စွမ်းနိုင်လျှင် အချိန်ဟူသရွေ့ ဝိုသွူနှင့်နေကုန် (အမြဲဝိုသွူနှင့် နေခြင်းသည် မွတ်စ်တဟာဗ် အကျိုးရ၏၊) ဝိုသွူရှိသောအဖြစ်နှင့် သေသူကား ရှဟီဒ်၏ အကျိုးသဝါဗ် ရပေသည်။

**ဤတွင်၍ကား ဘဟာစ်ရှိဇေဝါရ်ဟာရ်ကျမ်း ပထမတွဲပြီး၏။**

မုဟမ္မဒ်မူစာ(မဇ္ဇာဟေရီ)






# ဘဟာစ်ရှ်တီဇေဝရ်ကျမ်း။

## ဒုတိယတွဲ

### မသန့်ကို သန့်ရှင်းအောင် ပြုခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။(နဂျာစတ်) မသန့်ခြင်းသည် နှစ်မျိုးရှိ၏၊ တစ်မျိုးမှာ အလွန်ပြင်းထန်၍ အနည်းငယ်မျှ လူးထိရုံနှင့် ရေဖြင့် ဆေးကြောပစ်ရန် မိန့်ဆိုချက်ရှိ၏၊ ၎င်းကို (နဂျာစတေ ဃလီဇ္ဇဟ်) ကြီးလေးပြင်းထန်သော မသန့်ဟု ခေါ်လေသည်၊ ဒုတိယမျိုးမှာ မသန့်သော်လည်း အနည်းငယ်ပေါ့၍ ၎င်းကို (နဂျာစတ်ခဖွီဖွဟ်) ပေါ့ပါးသော မသန့်ဟု ခေါ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅၊ ၄၆။

**မှတ်ချက်။** ။ အာယတ်တော်နှင့် ဟဒီးသ်တော်တွင် အတည်ဖြစ်၍ အခြားအာယတ်တော်နှင့် ဟဒီးသ်တော်တွင် ဆန့်ကျင်မှုမရှိသော အချက်ကို (ဂျနာစတ်ဃလီဇ္ဇဟ်)ဟု ခေါ်သည်၊ နဂျာစတ်ဃလီဇ္ဇဟ် လူးထိသောအရာကို 'နဂျစ်ဃလီးဇ္ဇ' ဟု ခေါ်သည်၊ နဂျာစတ်ဃလီဇ္ဇဟ်ကဲ့သို့ မပြင်းထန်သော မသန့်သည် ခဖွီဖွဟ် ဖြစ်သည်၊ ၎င်းလူးထိသော အရာကို (နဂျစ်ခဖွီးဖ်) ဟု ခေါ်လေသည်။

၂။ မတ်စ်အလဟ်ပြဿနာ။ ။သွေး, လူ၏ ကျင်ကြီး၊ ကျင်ငယ်၊ သုက်၊ အရက် ခွေးချေး' ကြောင်ချေး, ခွေးသေး၊ ကြောင်သေး၊ ဝက်သား၊ ဝက်မွေး၊ ဝက်ရိုးစသော အရာများနှင့် ပတ်သက်သမျှ ပွစ္စည်းအပေါင်းသည်လည်းကောင်း၊ မြင်းချေး၊ မြည်းချေး လားချေး၊ နွားချေး၊ ကျွဲချေး၊ ဆိတ်ချေး၊ သိုးချေး အချုပ်မှာ တိရစ္ဆာန် အပေါင်း၏ချေးများသည်လည်းကောင်း၊ ကြက်ချေး၊ ရေကြက်ချေး၊ ဝမ်းဘဲချေးတို့ သည်လည်းကောင်း

မြည်း၊ လားနှင့် ဟရာမ်ဖြစ်သည့် သတ္တဝါအပေါင်းတို့၏သေးသည်လည်းကောင်း ဆိုခဲ့သော အရာအပေါင်းတို့သည် (နဂျာစတ်ဃလီဇ္ဇဟ်) ခေါ် ပြင်းထန် ကြီးလေးသော မသန့်မှုများဖြစ်ကြလေသည်။ ဘဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉။

၃။ မတ်စ်အလဟ် ပြဿနာ။ ။နို့စို့ကလေး၏ ကျင်ငယ်နှင့် ကျင်ကြီးသည်လည်း နဂျာစတေ့ဃလီဇ္ဇဟ်ဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊စာမျက်နှာ ၂၀။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၂။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ဟရာမ် မဖြစ်သော ငှက်များ၏ချေး၊ ဟလာလ်ဖြစ်သော တိရစ္ဆာန်များ၏သေး၊ ဥပမာ.... ကျွဲ၊ နွား၊ ဆိတ် စသော သတ္တဝါများ၏ သေးနှင့် မြင်း၏သေးမှာ (နဂျာစတေ့ခဖ္ဖီဖဟ်) ဖြစ်လေသည်။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၄။ ၂၂၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ကြက်၊ ဝမ်းဘဲ၊ ရေကြက် တို့၏ ချေးမှ တပါး ဟလာလ်ဖြစ်သော ငှက်သတ္တဝါများ၏ ချေးသည် သန့်၏၊ ဥပမာ.... ခို၊ စာကလေး၊ သာလိကာ စသည်တို့၏ ချေးဖြစ်လေသည်၊ လင်းနို့၏သေးနှင့် ချေး သည်လည်းသန့်၏။
မွန်ယဟ်ကျမ်း စာမျက်နှာ- ၅၃။ ၆၅။

၆။ မတ်စ်အလဟ် ပြဿနာ။ ။နဂျာစတေ့ဃလီဇ္ဇဟ်ဖြစ်သော မသန့်မှုများအနက်မှ အရေကျဲ၍ စီးတွေသောပစ္စည်းသည် အဝတ်၌ဖြစ်စေ ကိုယ်ခန္ဓာ၌ဖြစ်စေ လူးထိသော် အကယ်၍ ၎င်း၏ အကျယ်အဝန်းသည် ဒင်္ဂါးကျပ်ပြားဝိုင်းခန့်ဖြစ်စေ ၎င်းထက်နည်း၍ ဖြစ်စေ ရှိမူ ခွင့်လွှတ်၏၊ ၎င်းကိုရေမဆေးဘဲ နမာဇ်ဖတ်လျှင် နမာဇ်ဖြစ်မြောက်၏၊ သို့ရာတွင် မလျှော်ဖွတ်ဘဲ ဤအတိုင်းပင် နမာဇ်ဖတ်နေခြင်းသည် မကောင်းချေ -မတ်က်ရူးဟ်ဖြစ်၏။

အကယ်၍ ဒင်္ဂါးကျပ်ပြားဝိုင်းထက်ပိုမိုလျှင် ခွင့်မလွှတ်ချေ၊ ၎င်းကို ဆေးကြော မပစ်မခြင်း နမာဇ်မပိုင်ချေ၊ အကယ်၍ နဂျာစတေ့ဃလီဇ္ဇဟ် အနက်မှ ဖြစ်ချဲသော မသန့်လူးထိလျှင် ဥပမာ.... လူ၏ချေး၊ ကြက်ချေး အစရှိသည်တို့သည် အကယ်၍ အချိန်အားဖြင့် လေးမာရှာခွဲထိဖြစ်စေ ထိုထက်နည်း၍ဖြစ်စေ လူးထိမူ မဆေးမကြောဘဲ နမာဇ်ဖတ်ပိုင်၏၊ အကယ်၍ ထို့ထက်ပိုများ၍ လူးထိမူ မဆေးမကြောဘဲ နမာဇ်ဖတ်ခြင်း မပိုင်ချေ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၁။ ၃၂၅။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍(နဂျာစတေ့ခဖ္ဖီဖဟ်)သည် ကိုယ်ခန္ဓာ၌ သော်လည်းကောင်း၊ အဝတ်အထည်၌သော်လည်းကောင်း လူးထိလျှင်အဆစ်အပိုင်းတခု၏ ၄-ပုံ ၁-ပုံထက်နည်းလျှင် ခွင့်လွှတ်၏၊ ၄-ပုံ ၁-ပုံ အပြည့်ဖြစ်သော် သို့မဟုတ် ထို့ထက်ပိုခဲ့သော် ခွင့်မလွှတ်ချေ၊ အဓိပ္ပါယ်မှာ အကယ်၍ အင်္ကျီလက်၌ လူးထိရာ လက်၏ ၄-ပုံ ၁-ပုံ

ထက်နည်းသော် အကယ်၍ အင်္ဂါဂျိုင်းပိုး၌ လူးထိသော် ၄-ပုံ ၁-ပုံ ထက်နည်းသော် အကယ်၍ တဘက်၌လူးထိ၍ ထိုတဘက်၏ ၄-ပုံ ၁-ပုံထက် နည်းသော် ထိုအခါ၌ ခွင့်လွှတ်၏၊ ဤနည်းပင် အကယ်၍ နဂျာစတေ ခဖ္ဖီဖ္ဖှတ်သည် လက်၌လူးထိလျှင် လက်၏ ၄- ပုံ၁-ပုံ ထက်နည်းမှု ခွင့်လွှတ်၏၊ဤနည်းပင် အကယ်၍ ခြေထောက်၌လူးထိမှု ၄-ပုံ၁-ပုံ ထက် နည်းပါက ခွင့်လွှတ်၏၊ အချုပ်မှာ မည်သည့်အင်္ဂါ အဆစ်အပိုင်း၌ လူးထိသည် ဖြစ်စေ၊ ၎င်းအဆစ်အပိုင်း၏ ၄-ပုံ ၁-ပုံ ထက်လျော့နည်းစေရမည်၊ အကယ်၍ ၄-ပုံ၁-ပုံ ပြည့်သော် ခွင့်မလွှတ်ချေ၊ ၎င်းကိုဆေးကြောပစ်ရန် ဝါဂျစ်ဗ်ထိုက်၏၊ အဓိပ္ပါယ်မှာ.... ၎င်းအညစ်အကြေးကို ဆေးကြောမပစ်ဘဲ နမာဇ်ဖတ်ခြင်း မပိုင်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၃။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၂၅

၈။ မတ်စ်အလဟ် ပြဿနာ။ ။နဂျာစတေ ဂလီဇွှတ်ဖြစ်သော အညစ်အကြေးသည် အကြွင်ရေ၌ကျသော် ထိုရေသည်လည်း ပြင်းထန်သော အညစ်အကြေးရေ ဖြစ်သွားလေသည်၊ ထိုနည်း နဂျာစတေ ခဖ္ဖီဖ္ဖှတ်ဖြစ်သော အညစ်အကြေးသည် အကြွင်ရေ၌ကျသော် ထိုရေလည်း ပေါ့ပါးသော အညစ်အကြေးရေ ဖြစ်သွားလေသည်၊ နည်းသည် ဖြစ်စေ များသည်ဖြစ်စေ မသန့်ခြင်းမှာတူညီလေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၁။

၉။ မတ်စ်အလဟ် ပြဿနာ။ ။အဝတ်အထည်တွင် မသန့်သောဆီ လူးထိရာ ဒင်္ဂါးကျပ်ပြားခန့်ထက်နည်း၏၊ သို့ရာတွင် ၂-ရက် ၃-ရက်ကြာသော် ဆီသည်ပြန့်၍ အကွက်ကြီးလာသော် ဒင်္ဂါးရွယ်ထက် မကြီးသမျှ ခွင့်လွှတ်၏၊ ထိုအရွယ်ထက် ကြီးလာလျှင် ခွင့်မလွှတ်ချေ၊ ယခု ၎င်းကို ဆေးကြော ဖွတ်လျှော်ပစ်ခြင်း ဝါဂျစ်ဗ် ဖြစ်၏ မလျှော်မဖွတ်ဘဲ နမာဇ်မဖတ်နိုင်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၁၊ ၃၂၆။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ။ငါး၏သွေးသည် မသန့်မဟုတ်ချေ၊ အကယ်၍ လူးထိလျှင် ဘာမျှကိစ္စမရှိချေ၊ ထိုနည်းပင် ယင်သွေး၊ ခြင်သွေး၊ ကြမ်းပိုးသွေးများလည်း မသန့်မဟုတ်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၂။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ကျင်ငယ်ရေသည် အပ်ဖျားခန့် လွင့်စင်၍ လူးထိရာ မမြင်ရမူ ဘာမျှ ကိစ္စမရှိချေ၊ ဆေးကြောပစ်ရန် ဝါဂျစ်ဗ် မဟုတ်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၄။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၈။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ မြင်နိုင်သောမသန့်လူးထိလျှင် ဥပမာ ချေး၊ သွေး ဖြစ်မူ အညစ်အကြေး ကုန်စင်သည့်တိုင်အောင် ဆေးကြောပစ်ရမည်၊ အကွက်အပြောက် ကျန်မနေစေရ မည်သည့်အကြိမ်ခန့်မျှ ဆေးရသည်ဖြစ်စေ ဆေးကြောရမည်၊ အညစ်အကြေးကုန်စင်လျှင် အဝတ်သည် သန့်သွားအံ့၊ ကိုယ်ခန္ဓာ၌ လူးထိလျှင်လည်း ဤအမိန့်အတိုင်းဖြစ်၏၊ အကယ်၍ ပထမတစ်ကြိမ် ဖွတ်လျှော်ဆေးကြောရုံဖြင့် သန့်သော်ငြားလည်း နောက်ထပ်နှစ်ကြိမ် ထပ်မံဆေးကြော ဖွတ်လျှော်ခြင်းသည် ပိုမိုကောင်း၏၊ အကယ်၍ နှစ်ကြိမ်ဖြင့်သန့်လျှင် နောက်ထပ်တစ်ကြိမ် ထပ်မံဆေးကြောရမည်၊ အချုပ်မှာ သုံးကြိမ် သုံးခါပြည့်အောင် ဆေးကြော ဖွတ်လျှော်ခြင်းသည် အကောင်းဆုံး ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈၊ ၃၃၈။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။အကြိမ်များစွာ ဖွတ်လျှော်ခြင်း ပြုသော်လည်း အညစ်အကြေးသာ စင်ကြယ်သွားကာ အကွက်အပြောက် ကျန်သေးခြင်း အနံ့အသက် ကျန်သေးခြင်း ရှိနေသော်လည်း အဝတ်မှာ သန့်ရှင်းသွားလေပြီ၊ ဆပ်ပြာခဲ စသည်ဖြင့်တိုက်၍ အကွက်ပျောက်အောင် အနံ့ပျောက်အောင် လုပ်ရန် မလိုချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉၊ ၂၄၅။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ကျင်ငယ်ရေကဲ့သို့ တစ်စုံတစ်ခုသော မသန့်လူးထိရာ ၎င်းသည် မြင်နိုင်သော အစိုင်အခဲမဟုတ်လျှင် သုံးကြိမ် ဖွတ်လျှော်ရမည် အကြိမ်တိုင်းတွင် ညှစ်ပစ်ရမည် တတိယအကြိမ်တွင် အားကုန်ညှစ်ပစ်ရမည် သို့မှသာ သန့်ရှင်းသွားအံ့၊ အားကုန်မညှစ်လျှင် အဝတ်သည် သန့်ရှင်းသွားမည် မဟုတ်ချေ။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၈၇။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၀။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ အညစ်အကြေးသည် ညှစ်၍ ဖွတ်လျှော်မရသောပစ္စည်းတွင် လူးထိနေသော် ဥပမာ ထိုင်ခုံ၊ ဖျာ၊ ဘယက်တန်ဆာ၊ မြေခွက် ကြွေခွက်၊ ပုလင်း၊ ဖိနပ်၊ ခြေနင်းစသည်တို့သည် လူးထိသော် ၎င်းကို သန့်ရှင်းအောင် လုပ်နည်းမှာ တစ်ကြိမ်ဆေးကြော၍ ဆိုင်းထားရမည်၊ ရေစက်ကျခြင်း ရပ်သွားလျှင် တဖန်ထပ်၍ ဆေးကြောရမည် ဤနည်း သုံးကြိမ်သုံးခါဆေးလျှင် ၎င်းပစ္စည်းသည် သန့်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၁၊ ၃၄၂။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ။ရေကဲ့သို့အရေထွက်၍ သန့်သောပစ္စည်းများနှင့်လည်း မသန့်သောအရာကို ဆေးကြောခြင်း ပိုင်လေသည်၊ အကယ်၍ နှင်းရေဖြစ်စေ စရ်ကာရေဖြစ်စေ ပေါင်းချေးရေ တမျိုးမျိုးဖြစ်စေ ၎င်းတို့နှင့် ဆေးကြောဖွတ်လျှော်ခြင်းပြုလျှင် မသန့်သောပစ္စည်းသည် သန့်ရှင်းသွားအံ့၊ သို့ရာတွင် ထောပတ်၊ ဆီ၊ နို့

စသော အရည်မျိုးဖြင့် ဆေးကြော ဆေးကြော ပျောက်ဖွတ်ခြင်း မပိုင်ချေ၊ ချဲ့ကျိုသော ပစ္စည်းများ ဖြင့် ဆေးကြောသော်လည်း မသန့်ပင် ရှိနေမည်ဖြစ်သည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆၊ ၃၁၆။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ။ ကိုယ်ခန္ဓာ၌ သော်လည်းကောင်း အဝတ် အထည်၌ သော်လည်းကောင်း၊ သုက်ရည်လူးထိပြီး ခြောက်သွေ့သွားလျှင် ချေပွတ်ပစ် ၍ သော်လည်းကောင်း၊ ခြစ်ပစ်၍သော်လည်းကောင်း သန့်ရှင်းသွားလေသည်၊ မခြောက် သေးလျှင်မူ ဆေးကြောခြင်းဖြင့်သန့်၏၊ သို့ရာတွင် ကျင်ငယ်စွန့်ပြီးနောက် ရေမသုံးဘဲနေ ၏၊ ထိုအချိန်မျိုးတွင် သုက်ရည်ထွက်မူ ထိုသုက်ရည်ကို ချေပွတ်ပစ်ရုံဖြင့် မသန့်၍ ရေဖြင့် ဖွတ်လျှော်ဆေးကြောခြင်းပြုရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ။ ဖိနပ်နှင့် သားရေခြေအိတ်၌ အကယ်၍မြင်နိုင် သော မသန့်လူးထိ၍ ခြောက်သွေ့သွားမူ ဥပမာ.... ချေး၊ နွားချေး၊ သွေး၊ သုက်ရည်၊ စသည်တို့ဖြစ်ရာ မြေပေါ်တွင်ပွတ်ဘိုက်၍ မသန့်သည် ပြောင်စင်သွားလျှင် သန့်ရှင်းသွား ပေမည်၊ ဤနည်းပင် ခြစ်ပစ်လျှင်လည်း သန့်ရှင်းသွားလေသည်၊ အကယ်၍ခြောက်သွေ့ သော အရာမဟုတ်လျှင်လည်း မြေနှင့်ပွတ်တိုက်ပစ်ရာတွင် အညစ်အကြေး၏ အရိပ်နိမိတ် မျှ မကျန်အောင် တိုက်ပွတ်ပစ်လျှင်သန့်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၈။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ ကျင်ငယ်ကဲ့သို့ တစ်စုံတစ်ခုသော မသန့်သည် ဖိနပ်တွင် သော်လည်းကောင်း သားရေခြေအိပ်တွင် သော်လည်းကောင်း လူး ထိမူ အစိုင်အခဲ မဟုတ်သော မသန့်ဖြစ်လျှင် မဆေးကြောဘဲ မသန့်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆။

၂၀။ မတ်စ်အလဟ်ပြဿနာ။ ။အဝတ်၌ဖြစ်စေ ရေ၌ဖြစ်စေ ရေဖြင့် ဆေး ကြောဖွတ်လျှော်မှသာ သန့်၏၊ မသန့်သည် မြင်နိုင်သောအရာဖြစ်စေ မမြင်နိုင်သောအရာ ဖြစ်စေ အခြားနည်းဖြင့် သန့်ရှင်းခြင်း မဖြစ်နိုင်ချေ၊ ခြောက်နေသော သုက်သွေးသည် ကိုယ်၌ လူးထိနေလျှင် ပွတ်တိုက်ပစ်ခြင်းဖြင့် သန့်သွားလေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၈။

၂၁။ မတ်စ်အလဟ်ပြဿနာ။ ။ ကြည့်မှန်၊ မောင်းချ ဓါး၊ သားလှီးဓါး၊ ရွှေထည်၊ ငွေထည်ဖြင့်ပြုလုပ်သော လက်ဝတ်တန်ဆာ ပန်း၊ ကြေးနီ၊ သံ၊ ရွှေရည်စိမ်ထည် ဖန်ဖြင့်ပြုလုပ်သော ပစ္စည်းများ အကယ်၍ မသန့်လူးသိလျှင် ကောင်းစွာ ခြစ်ပစ်ခြင်းဖြင့် သော်လည်းကောင်း ပွတ်တိုက်ခြင်းဖြင့် သော်လည်းကောင်း သို့မဟုတ် မြေနှင့်ပွတ်တိုက် ခြင်းဖြင့် သော်လည်းကောင်း သန့်ရှင်းသွားလေသည်၊ သို့ရာတွင် ပန်းထွင်းထားသော ပစ္စည်းများဖြင့် ပါမူ ဆေးကြောခြင်းမပြုက မသန့်ချေ။

ရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆၊ ၃၁၉။

၂၂။ မတ်စ်အလဟ်ပြဿနာ။ မြေကြီးပေါ်တွင် မသန့်ကျနေ၍၊ ထို့နောက် ခြောက်သွေ့သွားကာ လုံးဝအရိပ်နိမိတ်မကျန်ဘဲ အကွက်အထဗီလည်း မရှိ၊ အနံ့အသက်လည်း မရှိလျှင် ယင်းသို့ ခြောက်သွေ့သွားခြင်းဖြင့် မြေသည် သန့်ရှင်းသွားလေသည်။ သို့ရာတွင် ဤသို့သောမြေဖြင့် တယမ်မွမ် ပြုခြင်း မပိုင်ချေ၊ သို့သော် ထိုအပေါ်တွင် နမာဇ်ဖတ်ခြင်း ပိုင်၏။

အကြင် အုတ်ခဲ သို့မဟုတ် ကျောက်ခဲသည် ထုံး သို့မဟုတ် အင်္ဂတေ နှင့် သရွတ်ကိုင်ထားသဖြင့် မြေ၌ ခိုင်မြဲနေ၍ တူးမယူဘဲ မြေမှ ခွါမရမူ ၎င်းပစ္စည်း အတွက်လည်း အထက်အဆိုအတိုင်း ဖြစ်လေသည်၊ ခြောက်သွေ့သွား၍ အညစ်အကြေး၏ အရိပ် နိမိတ် မကျန်ရစ်လျှင် သန့်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၀၇၊၃၁၆။

၂၃။ မတ်စ်အလဟ်ပြဿနာ။ မြေပေါ်တွင် သက်သက်ခင်းထားသော အုတ်ခဲများသည် ထုံးနှင့် အင်္ဂတေ မပါလျှင် မသန့်လူးထိသောအခါ၌ ခြောက်သွေ့သွားရုံဖြင့် မသန့်ပေ၊ ၎င်းကို ဆေးကြောပစ်ရမည် ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆၊၃၁၉။

၂၄။ မတ်စ်အလဟ်ပြဿနာ။ မြေ၌ ပေါက်ရောက်နေသော မြက်တွင် မသန့်လူးထိသော် ခြောက်သွေ့ပြီး မသန့်၏ အရိပ်နိမိတ် မရှိခဲ့သော် သန့်၏၊ အကယ်၍ ရိပ်ဖြတ်ပြီးမြက်တွင် လူးထိသော် ဆေးကြောမပစ်ဘဲ မသန့်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၆၅။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၂၅။ မတ်စ်အလဟ်ပြဿနာ။ မသန့်လူးထိသော မောင်းချခါး-သားလှီးခါး ဖြစ်စေ၊မြေအိုး-မြေခွက်ဖြစ်စေ၊ကြေးအိုးကြေးခွက်ဖြစ်စေ အကယ်၍ အလျှံတက်နေသော မီး၌ ထည့်၍ ဖုတ်လိုက်လျှင် သန့်ရှင်းသွား၏။

မွန်ယဟ်ကျမ်းစာမျက်နှာ-၆၅။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၀၅။

၂၆။ မတ်စ်အလဟ်ပြဿနာ။ လက်တွင် တစ်စုံတစ်ခုသော မသန့် လူးထိ၍ တစ်ဦးက လျှာဖြင့် သုံးကြိမ်လျက်ယူလျှင်လည်း သန့်သွား၏။ သို့ရာတွင် လျက်ခြင်းကို တားမြစ်၏၊ သို့မဟုတ် ရင်သားပေါ်တွင် ကလေးက နို့အံလိုက်ပြီး ကလေးက သုံးကြိမ် ပြန်စို့လျှင် သန့်သွား၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၆၂၊၀၄။

၂၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ပွသော မြေအိုး-မြေခွက် အသစ်တွင် မသန့်ကျသွားရာ အိုးခွက်က စုတ်ယူလိုက်လျှင် ၎င်းကိုဆေးကြောပစ်ရုံဖြင့် မသန့်ချေ။ ၎င်းအိုးခွက်၌ ရေအပြည့်ထည့်ရမည်၊ မသန့်၏ အရိပ်နိမိတ် ရေတွင်တွေ့ရလျှင် သွန်ပစ်၍ တဖန် ရေ ထပ်ထည့်ရမည်၊ ဤနည်းဖြင့် ထပ်ခါ ထပ်ခါ ပြုလုပ်ခြင်းဖြင့် အရိပ်နိမိတ် အနံ့အသက် - အရောင်အသွေး လုံး၀ ကင်းစင်သွားလျှင် သန့်သွား၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၅။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၃၅။

၂၈။ မတ်စ်အလဟ် ပြဿနာ။ အိုးဖုတ်သမားက မသန့်သော မြေဖြင့် အိုးကို လုပ်၏၊ ၎င်းအိုးကို မဖုတ်ရသေးမီ မသန့်ချေ၊ မီးတွင် ဖုတ်လိုက်သောအခါ ထိုအိုးသည် သန့်သွားလေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၂၊၃၄၅။

၂၉။ မတ်စ်အလဟ် ပြဿနာ။ ပျားရည်၊ သကြားရည်၊ ဆီ၊ ထောပတ် စသည် မသန့်ဖြစ်သွားမှု၊ မူလရှိသောအရည်၏ ၁-ဆဖြစ်စေ၊ ထို့ထက်ပို၍ဖြစ်စေ ရေထပ်လောင်းပြီး မီးတွင်ချက်ရမည်၊ ရေခမ်းသွားလျှင် တဖန်ရေထပ်ထည့်၍ ရေခမ်းအောင်ချက်ရမည်၊ ဤနည်း သုံးကြိမ်ပြုလုပ်လျှင် သန့်၏။

သို့မဟုတ် ဤသို့ပြုလုပ်ရမည်၊ ဆီဖြစ်စေ၊ ထောပတ်ဖြစ်စေ အချိန်ရှိသလောက် ညီမျှသောရေကို လောင်းထည့်၍ မွှေနှောက်ပေးရမည်၊ အပေါ်ယံတက်လာသော ဆီကို တစ်နည်းတစ်လမ်းဖြင့်ခပ်ယူရမည်၊ ဤနည်းဖြင့် ရေသုံးကြိမ်ရောမွှေပြီးခပ်ယူလျှင် သန့်၏။

အကယ်၍ ထောပတ်သည် ခဲနေမှု ရေထည့်ပြီးမီးပေါ်တွင်တင်ရမည်၊ အရည်ပျော်သွားလျှင် ၎င်းကို ခပ်ယူရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၂။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၃၉။

၃၀။ မတ်စ်အလဟ် ပြဿနာ။ မသန့်သောဆေးရောင်တွင် အ၀တ်တစ်ထည်ကို ဆိုးမိမှု ရေဖြင့် ကောင်းစွာဆေးကြောဖွတ်လျှော်ရမည်၊ ရေသည် ဖြူစင်သန့်ရှင်းလာလျှင် အ၀တ်မှ အရောင်ကျွတ်သည်ဖြစ်စေ၊ မကျွတ်သည်ဖြစ်စေ သန့်လေပြီ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၇၊၃၃၆။

၃၁။ မတ်စ်အလဟ် ပြဿနာ။ တိရစ္ဆာန်ချေး နွားချေးပုံ-နွားချေးကြပ် စသည် မသန့်သောပစ္စည်း၏ ပြာသည် သန့်၏၊ ၎င်း၏ အခိုးသည်လည်း သန့်၏၊ မုန့်ဖုတ်ရာ၌ ၎င်းကို လူးထိမှု ဘာမျှကိစ္စမရှိချေ။

ကာဗီရီကျမ်း စာမျက်နှာ-၁၁၉။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၆၊၄၁၀။

၃၂။ မတ်စ်အလက်ပြဿနာ။ အိပ်ရာခင်း၏ ထောင့်တဖက်၌ မသန့်ရှိ၏၊ ကြွင်းသော နေရာတို့တွင် အားလုံး သန့်လျှင် သန့်သော နေရာတွင် နမာဇ် ဖတ်လျှင် ပိုင်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၁၁၆။
ဟေဒါယာကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၂။

၃၃။ မတ်စ်အလက်ပြဿနာ။ နွားချေးဖြင့် လိမ်းကြံထားသော မြေသည် မသန့်သောမြေ ဖြစ်ခဲလသည်၊ ထိုအပေါ်တွင် သန့်သောပစ္စည်း အခင်းအကြင်းမပါဘဲ နမာဇ်ဖတ်ခြင်း မပိုင်ချေ။ မွန်ယာကျမ်း စာမျက်နှာ-၅၆။

၃၄။ မတ်စ်အလက်ပြဿနာ။ နွားချေးဖြင့် လိမ်းကြံထားသော မြေသည် ခြောက်သွေ့နေလျှင် ၎င်းအပေါ်တွင် စွတ်စိုသော အဝတ်ခင်းပြီး နမာဇ်ဖတ်လျှင်လည်း ပိုင်၏၊ သို့ရာတွင် ထိုမြေများလူးထိအောင် စွတ်စိုခြင်းမရှိစေရ။

မွန်ယာကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆။
ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၃၉။

၃၅။ မတ်စ်အလက်ပြဿနာ။ ခြေထောက်ကို ဆေးကြော၍ မသန့်သော မြေပေါ်တွင်သွားရာ မြေပေါ်တွင် ခြေရာထင်လျှင် ခြေသည် မသန့်မဖြစ်ချေ၊ အကယ်၍ ခြေထောက်မှရေဖြင့် မြေသည် စိုစွတ်၍ မသန့်သော မမြေနှင့် ရေသည် ခြေထောက်သို့ လူးထိလျှင် မသန့်ဖြစ်သွားလေသည်။

မွန်ယာကျမ်း စာမျက်နှာ-၅၆၊၆၃။

၃၆။ မတ်စ်အလက်ပြဿနာ။ မသန့်သော အိပ်ရာခင်းပေါ်တွင် အိပ်စက်ရာ ချွေးထွက်၍ အဝတ်များ စိုစွတ်သွားလျှင် အထက်ပါ အမိန့်အတိုင်းဖြစ်သည်၊ ထိုသူ၏ အဝတ်နှင့် ကိုယ်ခန္ဓာသည် မသန့်မဖြစ်ချေ၊ အကယ်၍ အိပ်ရာခင်းမှ မသန့်များသည် ချွေးဖြင့်စို၍ အဝတ်နှင့် ကိုယ်တွင်လူးထိလျှင် မသန့်ဖြစ်သွားအံ့။

မွန်ယာကျမ်း စာမျက်နှာ-၃၆၊၅၇။

၃၇။ မတ်စ်အလက်ပြဿနာ။ မသန့်သော ဒန်းရွက်ကို လက်သည်းခြေသည်း၌ အုံမိလျှင် သုံးကြိမ်သုံးခါ ရေဖြင့်ကောင်းစွာ ဆေးကြောပစ်ရမည်၊ ခြေ၊လက်သန့်ရှင်းသွားအံ့၊ အရောင်ပျောက်သည်တိုင်ပြုလုပ်ရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၃၉။

၃၈။ မတ်စ်အလက်ပြဿနာ။ မသန့်သော စွရ်မာ ဖြစ်စေ၊ ကာဂျလ်ဖြစ်ခဲ မျက်စိတွင် ထည့်မိလျှင် ၎င်းကို (အဝတ်ဖြင့်) သုတ်ပစ်ခြင်း၊ ရေဖြင့် ဆေးပစ်ခြင်း ဝါဂျစ်ဗ်မဟုတ်၊ အကယ်၍ ပြန်ပြီး မျက်စိအပြင်တွင် ထွက်လာမူ ဆေးကြောပစ်ခြင်း ဝါဂျစ်ဗ် ဖြစ်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၀၂၊၃၃၁။

၃၉။ မတ်စ်အလဟ်ပြဿနာ။ မသန့်သော ဆီ ဦးခေါင်းတွင် လိမ်းမိ၍၊ သို့မဟုတ် ကိုယ်တွင်လိမ်းမိ၍၊ စည်းကမ်းအတိုင်း သုံးကြိမ်ဆေးကြောပစ်လျှင် သန့်၍၊ ခေါင်းလျှော်ရေနှင့်ဖြစ်စေ၊ သို့မဟုတ် ဆပ်ပြာခဲဖြင့်တိုက်၍ ဆီကိုချွတ်ပစ်ရန် ဝါဂျစ်ဗ် မဟုတ်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၅၆၊၆၂။

၄၀။ မတ်စ်အလဟ်ပြဿနာ။ မုန့်ညက်ထဲသို့ ခွေးက နှုတ်သီးဖြင့် နိုက်သွား၍၊ သို့မဟုတ် မြောက်က နိုက်စား၍၊ အကယ်၍ မုန့်ညက်သည် နယ်ထားသောအရာဖြစ်လျှင် နှုတ်သီးဖြင့်နိုက်သောနေရာတွင် ကွက်၍ ယူပစ်လိုက်ရမည်။

ကြွင်းကျန်သောအရာကိုစားပိုင်၏၊ မုန့်ညက်သည် အမှုန့်အတိုင်းဖြစ်မူ နှုတ်သီးဖြင့် ထိ၍ လျှာရည်ကျသောနေရာပိုင်းမှ ယူပစ်လိုက်လျှင် ကြွင်းသောမုန့်ညက်သည် သန့်၏။

ကဗီရီကျမ်း စာမျက်နှာ-၁၉၁။

၄၁။ မတ်စ်အလဟ်ပြဿနာ။ ခွေး၏ လျှာရည်သည် မသန့် ဖြစ်လေသည်။ ခွေးသည် မိမိမူလအားဖြင့် မသန့် မဟုတ်ချေ၊ တစ်ဦးတစ်ယောက်သောသူ၏ အဝတ်၌ဖြစ်စေ၊ ကိုယ်၌ဖြစ်စေ ခွေးနှင့်ထိလျှင် မသန့်မဖြစ်ချေ၊ ခွေး၏ကိုယ်၌ ရေစိုနေသည် ဖြစ်စေ၊ ခြောက်သွေ့နေသည်ဖြစ်စေဟူ၏။ အကယ်၍ ခွေး၏ကိုယ်၌ တစ်စုံတစ်ခုသော မသန့်လူးထိနေခြင်းမှာ တခြားပြဿနာဖြစ်လေသည်။

ကဗီရီကျမ်း စာမျက်နှာ-၁၉၁။

၄၂။ မတ်စ်အလဟ်ပြဿနာ။ ဘောင်းဘီ သို့မဟုတ် ပုဆိုးတို့၌ စိုစွတ်နေသော အချိန်တွင် လေလည်မူ အဝတ်တွင် မသန့် မဖြစ်ပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၆၊၃၃၄။

၄၃။ မတ်စ်အလဟ်ပြဿနာ။ မသန့်သောရေ၌ အဝတ်ကျ၍ စိုစွတ်သွား၍၊ ၎င်းအဝတ်နှင့် သန့်သော အခြားအဝတ်တစ်ခုကိုရော၍ လိပ်ပတ်ပြီးထားလိုက်၍၊ မသန့်သော အဝတ်၏ အစိုဓါတ်သည် သန့်သောအဝတ်၌ ရောက်ရှိလာ၍၊ သို့ရာတွင် ၎င်းအဝတ်၌ မသန့်၏အရောင်နှင့်အနံ့မပေါ်ပေါက်ချေ။ အကယ်၍ ဤသန့်သောအဝတ်သည် ဤမျှစွတ်စိုနေ၍၊ ၎င်းအားညှစ်လိုက်လျှင် ရေတစ်စက်၏ ထက်ဝက်ခန့်ကျလောက်အောင်စိုလျှင် သို့မဟုတ် ညှစ်လိုက်သောအချိန်တွင် လက်၌စိုစွတ်သွားမူ ထိုသန့်သော အဝတ်သည်လည်း မသန့်ဖြစ်သွားလေတော့သည်။ အကယ်၍ ထိုမျှခန့် မစိုစွတ်ပါလျှင် သန့်လျက်ပင်ရှိ၏။

အကယ်၍ ကျင်ငယ် အစရှိသော မသန့်အစစ်နှင့် စိုစွတ်သည့် အဝတ်နှင့်အတူ သန့်သောအဝတ်ကို ရော၍လိပ်ထားမူ၊ သန့်သောအဝတ်တွင် အနည်းငယ်မျှခန့် စိုစွတ်မှု ကွက်ထင်မှု ရောက်ရှိလာလျှင် မသန့်ဖြစ်သွား၏။ မွန်ယဟ်ကျမ်း စာမျက်နှာ-၅၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉၅။

၄၄။မတ်စ်အလဟ် ပြဿနာ။ ။ပျဉ်ပြားတစ်ချပ်၌ တဘက်မှမသန့်ရှိ၍ တဘက်တွင် သန့်ရှင်းမှု အကယ်၍ အလယ်မှခွဲစိတ်၍ရနိုင်လျှင် ထိုအချပ်ကို တဘက်မျက်နှာကို လှန်၍ ၎င်းပေါ်၌ နမာဇ်ဖတ်ခြင်း ပိုင်၏၊ အကယ်၍ ထိုမျှခန့် မထူလျှင် မပိုင်ချေ။

ကဗီရီကျမ်း စာမျက်နှာ-၂၂၀။

၄၅။မတ်စ်အလဟ် ပြဿနာ။ ။ အဝတ်အထည်တစ်ခုသည် နှစ်ထပ်ရှိ၏ တစ်ထပ်၌ မသန့်လူးထိ၍ အခြားတစ်ထပ်တွင် သန့်ရှင်းလျက်ရှိမှု အကယ်၍ ထိုအဝတ်သည် တစ်ခုနှင့်တစ်ခု ဆက်၍ချုပ်ထားခြင်းမရှိမူ သန့်သောအထပ်ပေါ်တွင် နမာဇ်ဖတ်ခြင်း ပိုင်၏၊ အကယ်၍ ချုပ်ထားသော အဝတ်ဖြစ်ပါမူ သန့်သောအထပ်ပေါ်၌လည်း နမာဇ်ဖတ်ခြင်း မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၅၆၊ ၇၅။



# အစ်တင်န်ဂျာခေါ် ကိုယ်လက် သုတ်သင်ခြင်း

## အကြောင်း။

၁။ မတ်စ်အလဟ် ပြဿနာ။ ။အိပ်ရာမှထသောအချိန်တွင် လက်ကောက်ဝတ်အထိ လက်မဆေးရမီ လက်သည် သန့်သည်ဖြစ်စေ မသန့်သည်ဖြစ်စေ ရေထဲသို့ လက်မနှိုက်ရ။

အကယ်၍ ရေကိုခွက်ငယ်၌ ထည့်ထားသော် ဥပမာ....ရေကရား ရေအိုးကလေး ရေခွက်စသည်ဖြစ်မူ ၎င်းကိုလက်ဝဲဘက် လက်ဖြင့် မ,ယူ၍ လက်ယာလက်ကို လောင်းပြီး သုံးကြိမ်ဆေးရမည်၊ ထို့နောက် ခွက်ကို လက်ယာဘက်တွင်ယူ၍ လက်ဝဲဘက်လက်ကို သုံးကြိမ်ဆေးကြောရမည်။

အကယ်၍ ငယ်သောအိုးခွက်၌ ရေမရှိဘဲ အိုးကြီးစသည်ထဲ၌ ရေရှိသော် ခွက်ငယ်တစ်ခုခုဖြင့် ခပ်ယူရမည် သို့ရာတွင် လက်ချောင်းငယ်များသည် ရေ၌ မနစ်စေရ၊ အကယ်၍ ရေခွက်စသည် တစ်စုံတစ်ခုမရှိလျှင် လက်ဝဲလက်ချောင်းများကိုစိ၍ ရေကိုယူရမည်၊ တတ်နိုင်သလောက်ရေထဲ၌ လက်ချောင်းအနည်းငယ်မျှနှင့်နှိုက်ယူရမည်၊ ရေကိုယူပြီးလျှင် ပထမလက်ယာလက်ကို ဆေးကြောရမည်၊ ၎င်းလက် ဆေးပြီးနောက် လက်ယာလက်ကို လိုသလောက် နှိုက်နိုင်သည်၊ ရေကိုထပ်ယူ၍ လက်ဝဲလက်ကို ဆေးကြောရမည်၊ ဤသို့သော နည်းလမ်းသည် လက်၌ မသန့်မဖြစ်ဘဲ ရှိသောအချိန်တွင် လက်ဆေးနည်းဖြစ်သည်။

အကယ်၍ လက်သည်မသန့်လျှင် အိုးကြီးထည်းသို့ လက်ကိုမနှိုက်ရ၊ အခြားသော နည်းဖြင့် မသန့်မဖြစ်အောင် ရေကိုနှိုက်ယူရမည်၊ ဥပမာ သန့်သောအဝတ်စဖြင့် ချ၍ ရေကိုယူရမည်၊ အဝတ်မှ စီးဆင်းသောရေဖြင့် လက်ကိုဖြစ်သည့်နည်းနှင့် သန့်အောင် ပြုရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၊ ၁၁၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ရှေ့ဒွါယမှဖြစ်စေ၊ နောက်ဒွါယမှဖြစ်စေ၊ ထွက်သော မသန့်ကို (အစ်တင်န်ဂျာ) သန့်ရှင်းအောင် ဆေးကြော သုတ်သင်ခြင်းသည် (စွန္နတ်) တော်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၃၊ ၂၃၆။

၃။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ မသန့်သည် ဘေးပတ်ဝန်းကျင်သို့ မလူးမထိဘဲရှိသဖြင့် ရေဖြင့် ဆေးကြောခြင်းမပြုဘဲ သန့်သောမြေစိုင်ခဲ ကျောက်ခဲတို့ဖြင့် သုတ်သင်လိုက်ရာ မသန့်များ ပျောက်ကွယ်သွား၍ ကိုယ်ခန္ဓာ၌ စင်ကြယ်သွားလျှင် လည်း ပိုင်၏။

သို့ရာတွင် ဤနည်းသည် စိတ်တိုင်းကျ သန့်ရှင်းမှုနှင့် ဆန့်ကျင်ကွဲလွဲ၏၊ သို့သော် (ဤနည်းလမ်းသည်) ရေနည်းပါး၍ သော်လည်းကောင်း ရေမရှိသဖြင့် သော်လည်း ကောင်း ပြုရခြင်းသည် မတတ်သာ၍ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀။

၄။ မတ်စ်အလဟ် ပြဿနာ။ ။မြေစိုင်ခဲဖြင့်(အစ်တင်န်ဂျာ)ပြုခြင်း၌ ထူးခြား သော နည်းလမ်းမရှိချေ၊ မသန့်သည်ပြန့်နှံ့၍ ဘေးပတ်လည်သို့မလူးရန် သတိပြုကာ ကိုယ်ခန္ဓာကို ကောင်းစွာ သန့်ရှင်းစေရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။မြေစိုင်ခဲဖြင့် သုတ်သင်ပြီးနောက် ရေဖြင့်ဆေး ကြောခြင်းသည် စွန္နတ်တော်ဖြစ်လေသည်၊ သို့ရာတွင် မသန့်သည် လက်ဖဝါး၏ အနက် ခန့် အခ်ိပ္ပါယ်မှာ.... ငွေဒင်္ဂါး ကျပ်ပြားခန့်ထက် ပို၍ပြန့်နှံ့မူ ထိုအခါ၌ ရေဖြင့် ဆေး ကြောခြင်း ဝါဂျစ်ဖြစ်လေသည်၊ ရေဖြင့်မဆေးဘဲ နမာဇ်ဝတ်ပြုခြင်း မပိုင်ချေ၊ အကယ်၍ မသန့်သည် မပြန့်နှံ့မူ၊ မြေစိုင်ခဲနှင့် သန့်ရှင်းမှုပြု၍လည်း နမာဇ်ဖတ်ပိုင်၏၊ သို့ရာတွင် စွန္နတ်တော်နှင့် ဆန့်ကျင်ကွဲလွဲ၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၀။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ရေဖြင့် သုတ်သင်လျှင် ပထမ လက်နှစ်ဘက်ကို လက်ကောက်ဝတ်အထိ ဆေးကြော၍ အကွယ်ရှိသော နေရာတွင်သွား၍ ထိုင်ပြီးလျှင်

ကိုယ်ခန္ဓာ သန့်ရှင်းသွားပြီဟု စိတ်က ကျေနပ်သည့်တိုင်အောင် ဆေးကြောရမည်၊ ဒိုဟ ရှိတတ်သူ တစ်ဦးတစ်ယောက်သည် ရေကို အလွန်အမင်း ပက်လောင်း ဆေးကြောပြီး သော်လည်း စိတ်၌ မသန့်သေးဟုထင်လျှင် ၎င်းအဖို့မှာ....၃-ကြိမ်၊ သို့မဟုတ် ၊ ခုနစ်ကြိမ် ဆေးကြောရမည်၊ ထိုထက် မပိုစေရ။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄၉။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တစ်ကိုယ်တည်း သန့်စင်ရန် နေရာ မရခဲ့သော် သန့်စင်ရန်အတွက် တစ်ဦးတစ်ယောက်သောသူ၏ ရှေ့မှောက်၌ အဝတ်ကို ဖွင့်ခြင်း မပိုင်ပေ၊ ယောကျ်ားရှေ့မှာဖြစ်စေ မိန်းမရှေ့မှာဖြစ်စေ မဖွင့်ရ၊ ဤသို့သော အချိန်၌ အစ်တင်န်ဂျာမပြုဘဲ နမာဇ်ဖတ်ရမည်၊ အဘယ့်ကြောင့်ဟူမူ ကိုယ်ခန္ဓာကို ဖွင့်ခြင်း အရှက်ပေါ်ခြင်းလည်း ကြီးလေးသောအပြစ် ဖြစ်ခြင်းကြောင့်တည်း။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အရိုးနှင့် မသန့်သောအရာများ ဥပမာ မြင်း ချေးခြောက် တိရစ္ဆာန် ချေးခြောက်စသည်များ မီးသွေး ကျောက်စရစ်ခဲ ဖန်၊ မှန်၊ အုတ်ကျက် အစားအစာ စသောပစ္စည်းများ စက္ကူ စသည်တို့ဖြင့် အစ်တင်န်ဂျာပြုခြင်း လက်ယာလက်ဖြင့် သန့်ရှင်းမှုပြုခြင်းတို့သည် မကောင်းချေ တားမြစ်၏၊ (မတ်က်ရူးဟ်) ဖြစ်သည်။ သို့ရာတွင် ပြုလုပ်လျှင် ကိုယ်မှာကား သန့်သွား၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၈။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ရပ်လျက် ကျင်ငယ်စွန့်ခြင်းကို တားမြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၅။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ကျင်ကြီး ကျင်ငယ် သွားလာသောအခါ ကစ်ဗ်လဟ် အနောက်ဘက်သို့ မျက်နှာမူခြင်း ကျောပေးခြင်း မပြုအပ် တားမြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ကလေးသူငယ်များကို(ကစ်ဗ်လဟ်)သို့ လှည့် ထိုင်စေ၍ ကျင်ကြီး ကျင်ငယ် တယ်ခြင်းလည်း (မတ်က်ရူးဟ်) ဖြစ်၏၊ ၎င်း တားမြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၃။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။ရေသန့်စင်ပြီးနောက် ကြွင်းကျန်နေသောရေ ဖြင့် ဝုဇူပြုခြင်းပိုင်၏၊ ဝုဇူပြု၍ ကျန်သော ရေဖြင့်လည်း ရေကိုင်နိုင်၏၊ သို့ရာတွင် မသုံးခြင်း ကောင်း၏။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။အခင်းကြီး အခင်းလေး သွားလျှင် အိမ် သာတံခါး အပြင်ဘက်မှ ဗစ်မစ်လ္လာဟ်ဆို၍ ဤဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ اِنِّیْٓ اَعُوْذُبِكَ مِنَ الْخُبُثِ وَالْخَبَآئِثِ

(အ်လ္လာဟွမ်မ အင်နီ၊ အအူသို၊ ဗေ့က၊ မေနလ် ခိ္ဘိုသေ့၊ ဝလ်ခဗာအေ့သေ့)
အိုအသျှင်မြတ် ကေန် ကျွန်တော်မျိုး/မသည် မသန့်သော အညစ်အကြေး မကောင်းဆိုးဝါးများ၏ ဘေးအန္တရာယ်မှ လွတ်ကင်းရန် အသျှင်မြတ်ထံ ခိုလှုံဆည်းကပ် ပါ၏။ ခေါင်းပေါ်တွင် ဦးထုပ်အဝတ်မပါဘဲ ကျင်ကြီး ကျင်ငယ် မစွန့်ရ၊ အကယ်၍ လက်စွပ်စသည်တွင် (အလ္လာဟ်) (ရစူလ်)၏ နာမံတော် ဂုဏ်တော်များပါရှိလျှင် ၎င်းကို ချွတ်ထားခဲ့ရမည်။

ပထမ ဝဲဘက်ခြေထောက်ဖြင့်ဝင်ရမည်၊ အိမ်သာတွင်း၌ အလ္လာဟ်အသျှင်မြတ်၏ နာမံတော်ကို မတဆိုရ၊အကယ်၍ နှာချေမူ စိတ်တွင်း၌သာ (အလ်ဟမ်ဒို့လစ်လ္လာဟ်) ဆိုရမည်၊ နှုတ်လျှာဖြင့်မဆိုရ မည်သည့်စကားကိုမျှ ပြောဆိုခြင်း၊ ပြန်ကြားခြင်း၊ မပြုရ။

အိမ်သာမှထွက်လျှင် ညာဘက်ခြေထောက်ဖြင့် ပထမ စထွက်ရမည်၊ တံခါးအပြင် သို့ရောက်လျှင် ဤဒိုအာကို ဖတ်ရမည်။

غُفْرَانَكَ اَلْحَمْدُ لِلّٰهِ الَّذِيْ اَذْهَبَ عَنِّيْ الْاَذٰى وَعَافَانِيْ

(ဂွဖ်ရာနက၊ အလ်ဟမ်ဒို့၊ လစ်လ္လာဟင်လ်လသီ အဇ်ဟဗ၊ အနင်လ် အသာ ဝအာဖွာနီ) (ကိုယ်တော်၏ ချမ်းသာပေးခြင်းကို အလိုထားပါသည်၊) ချီးကျူးခြင်း အပေါင်းသည် အသျှင်မြတ်အဖို့ဖြစ်၏၊ ထိုအသျှင်သည် ကျွန်တော်မျိုး / မ ထံမှ အန္တရာယ်ကို ကင်းဝေးစေ၍ ကျန်းမာမှုကို ဖြစ်စေတော်မူသည်၊ ရေသုံးသပ်ပြီး ဝဲဘက် လက်ကို မြေပေါ်သို့ ပွတ်တိုက်၍ဖြစ်စေ မြေမှုန့်နှင့် ပွတ်တိုက်၍ဖြစ်စေ ရေဖြင့်ဆေး ကြောရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၇။

**မှတ်ချက်။** ။လူသားသည် မသန့်စွန့်ပြီးလေသောအခါ လိုအပ်သည်ခန့် မြေ စိုင်ခဲကို အသုံးပြုရမည်၊ ပထမ အခဲသည် ရှေ့မှနောက်သို့ ဆွဲရမည်၊ ဒုတိယ အခဲသည် နောက်မှရှေ့သို့ဆွဲရမည်၊ တတိယအခဲသည် ရှေ့မှနောက်သို့ဆွဲရမည်၊ ဤအချက်သည် နွေရာသီ၌သာပြုရမည်၊ အခြားရာသီတွင် ပထမအခဲကို နောက်မှရှေ့သို့ဆွဲရမည်၊ ဒုတိယအခဲ ကိုရှေ့မှနောက်သို့ ဆွဲရမည်၊ တတိယအခဲကို နောက်မှရှေ့သို့ဆွဲရမည်၊ ဤသန့်ရှင်းနည်း နှစ်မျိုးသည် အမျိုးသားများအတွက်ဖြစ်သည်၊ အမျိုးသမီးများသည် မည်သည့်ရာသီ၌ မဆို ဒုတိယအသုံးပြုနည်းကို သုံးကြရမည်၊ အမှန်မှာ....အစ်တင်န်ဂျာအတွက် သီးခြား သော နည်းလမ်းနှင့် မြေစိုင်ခဲ၏ အရည်အတွက်မှာ ကန့်သတ်မှုမရှိပေ။

# နမာဇ် ဝတ်ပြုခြင်း၏ အကြောင်း

နမာဇ်သည် နဗီရစူလ် (အလိုင်ဟေ့ မွတ်စလာမ်) သခင်တိုင်း၏ 'ရှရီအတ်'တွင် ပါရှိစမြဲဖြစ်သည်။ အာဒမ်(အလိုင်ဟစ္စလာမ်)သခင်မှစ၍ အားလုံးသောနဗီရစူလ်များ၏ အွမ္မတ်သားများအပေါ်တွင် 'ဖွရ်သွ်' ဖြစ်ခဲ့သည်၊ သို့သော် တစ်ပါးနှင့် တစ်ပါးတို့တွင် နည်းဥပဒေ သတ်မှတ်မှုသာ ကွဲပြားမှု ရှိခဲ့လေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ ထံတော်တွင် နမာဇ် ဝတ်ပြုခြင်းသည် အလွန်ကြီးကျယ်သော အဆင့်အတန်း ဖြစ်လေသည်။ မည်သည့် ခ,ဝပ်မှုမျှ အသျှင်မြတ်ထံတော်တွင် နမာဇ်ထက်ပိုမိုနှစ်ခြိုက်သောအရာမရှိချေ။ အလ္လာဟ်အသျှင်မြတ်က မိမိ၏'ဗန္ဒဟ်' ကျေးကျွန်များအပေါ်၌ နမာဇ်ဝတ်ပြုကြရန် တစ်နေ့လျှင် ငါးကြိမ် (ဖွရ်သွ်) သတ်မှတ်တော်မူထားလေသည်။ ထိုငါးကြိမ် ဖတ်ရွတ်ခြင်း၌ ကြီးသော (သဝါဗ်)ကုသိုလ်ရရှိလေသည်၊ ထိုငါးကြိမ်ကို မဖတ်ဘဲ စွန့်လွှတ်ထားလျှင် ကြီးမားသော အပြစ် အကုသိုလ် ဖြစ်လေသည်။

ဟဒီးသ် ဩဝါဒ မိန့်ခွန်းတော်တွင် လာရှိသည်မှာ ... အကြင်သူသည် ကောင်းမွန်စွာ ဝိုသွူ ပြု၍ အလွန်စိတ်ပါဝင်စားစွာဖြင့် စံနစ်တကျ နမာဇ်ကို ဖတ်ရွတ်ပါလျှင် အလ္လာဟ်အသျှင်မြတ်က (ကေယာမဟ်) ကမ္ဘာ့ တရား စီရင်တော်မူမည့် နေ့၌ ထိုသူ၏ သေးငယ်သော မကောင်းမှုအပေါင်းကို ခွင့်လွှတ်ချမ်းသာပေးတော်မူ၍ ဂျန္နတ် သုခဘုံကို ပေးသနားတော်မူအံ့။

ကိုယ်တော်မြတ် မိန့်တော်မူသည်မှာ.... နမာဇ်ဝတ်ပြုခြင်းသည် သာသနာ၏ တိုင် ဖြစ်၏၊ အကြင်သူ နမာဇ်ကို ကောင်းစွာဖတ်လျှင် ထိုသူသည် သာသနာတော်ကို တည်ဆောက်သူမည်၏၊ အကြင်သူသည် ထိုနမာဇ်ကိုစွန့်လွှတ်ပါမူ သာသနာတော်ကို ဖြိုဖျက်သူမည်၏။

ထို့ပြင် မိန့်တော်မူသည်မှာ.... ကေယာမတ် ကမ္ဘာ့တရားစီရင်တော်မူမည့် နေ့တွင် အားလုံးသောအရာတို့ထက် အဦးဆုံး နမာဇ်ကို စစ်မေးတော်မူအံ့၊ ထို့ပြင်တဝ နမာဇ်ကို အစဉ်ဖတ်သူတို့၏ မျက်နှာနှင့်ခြေလက် စသည်တို့သည် ကေယာမတ်နေ့၌ နေမင်းကဲ့သို့ လင်းဝင်း တောက်ပလျက်ရှိအံ့။ နမာဇ် မဖတ်သော သူတို့သည် ထိုစည်းစိမ်မှ လက်မဲ့ဖြစ်ကြအံ့။

ထို့ပြင် တမန်တော်မြတ်မိန့်တော်မူသည်မှာ.... နမာဇ်ကို စွဲမြဲသူတို့သည် ကေယာမတ်နေ့တွင် နဗီတမန်တော်များ၊ ရှဟီဒီ သာသနာ့အာဇာနည်များ၊ ဝလီ သူတော်စင်များနှင့် အတူတကွ နေကြရအံ့။ နမာဇ်ကို မဖတ်သောသူများသည် (ဖွင်ရ်အောင်န်)၊ (ဟာမာန်)၊ (ကာရူန်) စသော အရေးကြီးဆုံးသော ကာဖွင်ရ်များနှင့် အတူနေရအံ့။ ထို့အတွက်ကြောင့် နမာဇ်ကိုဖတ်ကြရန် အလွန် အရေးကြီးလေသည်၊ မဖတ်ဘဲနေကြလျှင် လောကီ လောကုတ္တရာ နှစ်ဌာနစလုံးတွင် အဆုံးရှုံးကြီး ဆုံးရှုံးရမည် ဖြစ်လေသည်။

ကို့ထက်ပို၍ အဘယ်ဆုံးရှုံးမှုရှိနိုင်အံ့နည်း၊ နမာဇ်မဖတ်သူတို့၏(ဟရှရ်)အဆုံးသည် ကာဖွင်ရ်များနှင့် အတူ ထ,ကြရလေသည်၊ နမာဇ်ကို မဖတ်သူတို့သည် ကာဖွင်ရ်တို့နှင့် တန်းတူ အထင်ခံရမည်။ (အသျှင်မြတ်ထံ ခိုလှုံ ဆည်းကပ်ပါ၏) နမာဇ် မဖတ်ခြင်းကား အဘယ်မျှ မကောင်းသောအရာဖြစ်သနည်း၊ မုချပင် ယင်းသူတို့အပေါ်၌ နမာဇ် ဝတ်ပြုရန် တာဝန်မရှိချေ၊ ၎င်းတို့မှာ ရူးသွတ်သူ အရွယ်မရောက်သေးသော ကလေးနှင့် ကလေးမပြင် ကြွင်းသမျှသော မွတ်စလင်မ် ယောကျ်ား မိန်းမတိုင်းအပေါ်တွင်(ဖွရ်သွ်) အမိကာ တာဝန် (ဝါ) မလုပ်မနေရ တာဝန်ဖြစ်လေသည်။

သို့ရာတွင် သားသမီးများအား ခုနစ်နှစ် အရွယ်သို့ ရောက်လျှင် မိဘတို့သည် နမာဇ်ဖတ်ရန် အမိန့်ပေးရမည်၊ ဆယ်နှစ်အရွယ် ရောက်သော် ရိုက်နှက်၍ အဖတ်ခိုင်းရမည်။

နမာဇ်ကိုစွန့်လွှတ်နိုင်ရန် မည်သည့်အခါ မည်သည့်အချိန်၌မျှ အခွင့်မရှိ၊ မည်သည့်နည်းဖြင့် တတ်နိုင်သရွေ့ နမာဇ်ကို မုချဆက်ဆက် ဖတ်ရမည်။

အကယ်၍ နမာဇ်ဖတ်ရန် မေ့လျော့သွားသဖြင့်၊ ၎င်း လုံးဝ သတိမရသဖြင့် ၎င်းအချိန်ကုန်လွန်သွားမှ မိမိနမာဇ်မဖတ်ရသေးကြောင်း သတိရလာသော်လည်းကောင်း သို့မဟုတ် မျက်စိ မဖွင့်နိုင်အောင် မိန်းမော အိပ်ပျော်သွားသော်လည်းကောင်း နမာဇ်သည် (ကဇွာ)ဖြစ်သွားလျှင် ဤသို့သောအခါမျိုး၌ အပြစ်မဖြစ်ချေ၊ သို့ရာတွင် သတိရလျှင် ရချင်း မျက်စိဖွင့်လျှင်ဖွင့်ချင်း ဝိုဇွူပြု၍ ချက်ချင်း(ကဇွာနမာဇ်ဖတ်ရန် ဖွရ်သွ်) ဖြစ်လေသည်၊ သို့သော် မတ်က်ရူးဟ်အချိန်ဖြစ်နေလျှင် ခေတ္တဆိုင်းငံ့၍ အချိန်ကျော်လွန်သွားစေရမည်၊ ဤနည်းပင် မူးမေ့သတိလစ်သွားသဖြင့် မဖတ်ရသေးသော နမာဇ်များ အတွက်လည်း အပြစ်မရှိချေ၊ သို့ရာတွင် သတိပြန်ရလာပြီးနောက် ချက်ချင်းပင်(ကဇွာ) ဖတ်ရမည် ဖြစ်လေသည်။

၁။ 'မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီးတစ်ယောက်သည်ကလေးမွေးဖွားလျက်ရှိရာ၊ သားငယ်သည် အပြင်သို့မထွက်သေးဘဲ တဝက်သာထွက်နေလျှင် ဤအချိန်မျိုး၌ပင် အကယ်၍ သတိမလစ်ဟင်းသျှင် နမာဇ်ဝတ်ပြုရန် ဖွရ်သွ်ဖြစ်လေသည်၊ ကဇွာပြုလုပ်ခြင်း မပိုင်ချေ။

အကယ်၍ နမာဇ်ဝတ်ပြုနေလျှင် ကလေး၏ အသက်ကို စိုးရိမ်ရသော် နမာဇ်ကို ကဇွာပြုခြင်း ပိုင်၏၊ ဤနည်းပင် ဝမ်းဆွဲလက်သည်တို့သည် အကယ်၍ နမာဇ် ဝတ်ပြုနေလျှင် ကလေး၌ ဒုက္ခဖြစ်မည်ဟု စိုးရိမ်ရသော် ဤသို့သော အချိန်မျိုး၌ ဝမ်းဆွဲမသည်လည်း နမာဇ်ကို ကဇွာ ပြုခြင်း ပိုင်၏၊ သို့ရာတွင် ယင်းသူတို့ အားလုံးသည် (ကဇွာ)ကို လျှင်မြန်စွာ ဖတ်ကြရမည် ဖြစ်လေသည်။

ဘဟ်ရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၁၈။

# အရွယ် ရောက်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မည်သည့်အခါ သူငယ်မတစ်ဦးသည် ရာသီသွေး စီးဆင်းလာလျှင်သော်လည်းကောင်း၊ ယခုဘိုင်အောင် ရာသီသွေးစီးဆင်းခြင်းငှာ မရှိ၊ သို့သော် သူမတွင် ပဋိသန္ဓေ စွဲကပ်သော်သည်းကောင်း၊ ပဋိသန္ဓေလည်း မရှိသေးဘဲ အိပ်မက်တွင်း၌ တစ်ဦးသောယောကျ်ားဖြင့် ပေါင်းသင်းရ၍ အရသာဖြင့် သုက်ရည်ထွက်လာသော်သည်းကောင်း ဤသုံးမျိုးသော နိမိတ်ဖြင့် ထိုသူငယ်မသည် 'ဘာလစ်ဂ်' အရွယ်ရောက်ခြင်းသို့ ရောက်လေသည်။

ထိုသူမ အပေါ်တွင် နမာဇ်ဖတ်ခြင်း၊ ရိုဇာဟ်ဥပုသ်ဆောက်တည်ခြင်း အစရှိသော 'ရှရီအတ်' တရားဥပဒေ၏ ပညတ်ချက် အပေါင်းသည် သက်ရောက် အတည် ဖြစ်လာလေသည်။

အကယ်၍ ထိုနိမိတ် လက္ခဏာ သုံးပါးအနက်မှ တစ်ခုခုမျှ မပေါ်ပေါက်သေးဘဲ သူမ၏ အသက်သည် တဆယ့်ငါးနှစ် ပြည့်မြောက်လျှင် ထိုအခါ၌လည်း 'ဘာလစ်ဂ်' အပျိုတော်ဝင်ပြီ ဟု မှတ်ယူရမည်၊ အရွယ် ရောက်သူတို့ အပေါ်၌ သက်ရောက်သော အမိန့်ပညတ်များကို ၎င်းသူမအပေါ်တွင်လည်း သက်ရောက်စေရမည်။

ကို-ဒုရီကျမ်း စာမျက်နှာ-၇၄။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၃။

၂။ မတ်စ်အလဟ် ပြဿနာ။ အပျိုတော်ဝင်ခြင်းသည် ရှရီအတ် တရားဥပဒေ၌ 'ဘာလစ်ဂ်' အရွယ်ရောက်သူဟု ခေါ်လေသည်၊ ၉-နှစ်ထက်ငယ်၍ မည်သည့် မိန်းမမျှ အပျိုတော် မဝင်နိုင်ချေ၊ ၉-နှစ် မပြည့်သေးသူ၌ အကယ်၍ သွေး လာသော်လည်း ၎င်းကို (ဟိုက်သွ်) ရာသီသွေးဟု မခေါ်ချေ၊ (အစ်တေဟာသွာဟ်) ရောဂါသွေးဟု ခေါ်လေသည်။ (အကျယ်နောက်အခန်း၌ပါမည်။)



# နမာဇ်၏ အချိန်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ညဥ့်၏နောက်ဆုံးပိုင်း၌ လင်းကာနီးတွင် နေထွက် အရပ်မှ ကောင်းကင်အလျား တစ်လျှောက်တွင် အနည်းငယ် အဖြူရောင် ပြလေသည်၊ ထို့နောက်ခေတ္တအကြာတွင် ကောင်းကင်၏အစွန်းပိုင်းတွင် အနံလိုက်အားဖြင့်အဖြူရောင် မြင်ရလေသည်၊ မကြာမီ အဖြူရောင်တိုးတက်လာ၍ ခေတ္တအကြာတွင် လုံးဝအလင်းရောင်

ပေါ်ထွက်လာလေသည်။ ထိုအနီလိုက်အားဖြင့် အဖြူရောင်ကို မြင်ရသည့်အချိန်က စ၍ (ဖွဂျ်ရ်နမာဇ်)၏ အချိန်သို့ရောက်လေသည်။ နေထွက်မည့်အချိန်တိုင် အချိန်ရှိနေလေသည်၊ နေ၏အစွန်း ထွက်ပြူလာလျှင် ဖွဂျ်ရ်နမာဇ်ချိန် ကုန်ဆုံးသွားလေတော့သည်။ သို့ရာတွင် အချိန်ဦးတွင် တင်ကူး၍ နမာဇ်ကိုဖတ်ခြင်း ပိုမိုကောင်းလေသည်၊ ဤအမိန့်သည် မိန်းမ များအတွက် ဖြစ်လေသည်။ ယောကျ်ားများ အတွက်မှာမူကား အလင်းရောင်ကို လု၍ ဖတ်ခြင်းက ပိုမိုကောင်းလေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၉။

၂။ မတ်စ်အလဟ် ပြဿနာ။ နေမွန်းလွဲသည့်အချိန်မှစ၍ ဇွုဟ်ရ်ချိန် အစဖြစ်လေ သည်၊ မွန်းတိမ်းသော နိမိတ်လက္ခဏာမှာ ရှည်လျားသော အရာဝတ္ထု၏ အရိပ်သည် အနောက်အရပ်မှ မြောက်အရပ်သို့ ထိပ်ဖျားယိမ်းလျက် အရိပ်သည် တည့်တည့်သို့ရောက် လာကာ အရှေ့အရပ်ဘက်သို့ စောင်းသွားလျှင် မွန်းတိမ်းပြီဟူ၍ မှတ်ယူရမည်။

ဂုင်းပြင် အရှေ့အရပ်သို့ မျက်နှာမူ ရပ်လျှင် လက်ဝဲလက်ကို မြောက်အရပ်ဟု ခေါ်လေသည်။

ထို့ထက် လွယ်ကူသောနည်းမှာ နေထွက်ပြူ၍ မြင့်လာသလောက် အရာဝတ္ထု များ၏ အရိပ်သည် လျော့နည်းလာရာ လျော့နည်းခြင်း ရပ်သွားသော အချိန်သည် နေမွန်းတည့်သောအချိန်ဖြစ်၏၊ ထို့နောက် အရိပ်ပြန်၍ရှည်ထွက်လာလျှင် မွန်းတိမ်းပြီဟု သိမှတ်ရမည်၊ ထိုအချိန်ကစ၍ (ဇွုဟ်ရ်)ချိန် စတင် ရောက်ရှိလေသည်။

မွန်းတည့်ချိန်၌ ကျရောက်နေသောအရိပ်ကိုလွတ်၍ အရာဝတ္ထုတစ်ခု၏ အရိပ်သည် နှစ်ပြန်မရှိသေးသမျှကာလပတ်လုံး ဇွုဟ်ရ်ချိန် တည်ရှိနေလေသည်၊ ဥပမာ တစ်တောင်ခန့် ရှိသော တုတ်၏အရိပ်သည် မွန်းတည့်မတ်ချိန်၌ လက်လေးလုံးခန့်ရှိခဲ့သော် နှစ်တောင်နှင့် လက်လေးလုံးခန့် အရိပ်မရှိသေးသမျှ ကာလပတ်လုံး ဇွုဟ်ရ်အချိန်သည် ရှိနေလေသည်။

နှစ်တောင်နှင့် လက်လေးလုံးခန့် အရိပ်ရောက်ရှိလာသော် (အတ်စွ်ရ်) အချိန်သို့ ရောက်လေသည်၊ (အတ်စွ်ရ်) ချိန်သည် နေလုံး ကွယ်ပျောက်သည့် အချိန်ထိ တည်ရှိ လေသည်။

သို့ရာတွင်နေ၏အရောင်သည် ပြောင်းသွား၍ ဝါသွားလျှင် ထိုအချိန်၌ အတ်စွ်ရ်၏ နမာဇ်ကို ဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်။

အကယ်၍ အကြောင်း တစ်စုံတစ်ခုကြောင့် ဤမျှခန့် ကြွံကြာသွားလျှင်လည်း ဖတ်လိုက်ရမည်၊ ကဇ္ဇာမဖြစ်စေနှင့်၊ သို့ရာတွင်နောင်တွင် မည်သည့်အခါမျှ ဤသို့ကြွံကြာ ဆိုင်းငံ့ခြင်း မပြုလေနှင့်၊ ထိုအတ်စွ်ရ်နမာဇ်မှတစ်ပါး မည်သည့်နမာဇ်မျှ ဤသို့သော

အချိန်တွင် ဖတ်ခြင်းမပိုင်၊ ကသွာ ဖြစ်စေ နဖ်လ် ဖြစ်စေ မည်သည့် နမာဇ်မျှ မဖတ်ရ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၂။
ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၅။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၇။

၃။ မတ်စ်အလဟ် ပြဿနာ။ ။နေလုံးပျောက်ကွယ်သွားလျှင်'မဂ်ရစ်ဗ်'ချိန်သို့ ရောက်၏၊ ထို့နောက် အနောက်အရပ် မိုးကောင်းကင် အစွန်းတွင် အနီရောင်ကျန်သေး လျှင် ထိုအချိန်အထိ မဂ်ရစ်ဗ်ချိန် တည်ရှိနေလေသည်။

သို့ရာတွင် မဂ်ရစ်ဗ် နမာဇ်၌ ကြယ်နက္ခတ်များ ထွန်းပေါ်လာသည့် တိုင်အောင် နှောင့်နှေး ကြံ့ကြာခြင်း မရှိစေရ ဤမျှခန့် ကြံ့ကြာခြင်းသည် မတ်က်ရူးဟ် ဖြစ် လေသည်။

ထိုနေရောင် ပျောက်ကွယ်သွားလျှင် (အေရှာအ်) ချိန်သို့ရောက်၏၊ (အေရှာအ်) ချိန်သည်ကား နံနက်ဖွဂျ်ရ် ချိန်အထိ တည်ရှိလေသည်။

သို့ရာတွင် ညဥ့်ဝက်ထက် လွန်ပြီးနောက်မှ အေရှာအ် နမာဇ် ဖတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်လေသည်၊ အကျိုးကုသိုလ် နည်းလေသည်၊ ထို့အတွက်ကြောင့် ဤမျှခန့် ဆိုင်းတွဲမဖတ်ရ၊ အကောင်းဆုံးမှာ ညဥ့် သုံးပုံ တစ်ပုံ မကျော်မီ အလျင်ဖတ်ရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၅၊ ၂၄၆။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၃၊ ၃၈၂။

၄။ မတ်စ်အလဟ် ပြဿနာ။ ။နွေရာသီဥတုတွင် ဇွဟ်ရ်နမာဇ်၌ မမြန်ရ၊ အပူရှိန် လျော့သွားမှ ဖတ်ရွတ်ခြင်း မွတ်စ်တဟာဗ် ဖြစ်လေသည်၊ ဆောင်းရာသီဥတု၌ အချိန်ဦး ဖတ်ခြင်းသည် မွတ်စ်တဟာဗ် ဖြစ်၏။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၇။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၉။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အတ်စွရ်နမာဇ်ကို အနည်းငယ် ဆိုင်းငံ့ဖတ် ခြင်းသည် ကောင်း၏၊ အချိန်ရောက်ပြီးနောက် အကယ်၍ နဖ်လ်များ ဖတ်လိုက ဖတ်နိုင် ရန်ဖြစ်သည်၊ အဘယ့်ကြောင့်ဟူမူ အတ်စွရ်၏ နောက်တွင် နဖ်လ် ဖတ်ခြင်း မပိုင်သော ကြောင့်ဖြစ်လေသည်၊ နွေဥတု၌ဖြစ်စေ ဆောင်းဥတု၌ဖြစ်စေ အမိန့်တစ်မျိုးတည်း ဖြစ် လေသည်။

သို့ရာတွင် နေရောင်ဝါပျော့လာ၍ အရောင်ပြောင်းသည့်တိုင်အောင် ဆိုင်းငံ့၍ မဖတ်ရ။

မဂ်ရစ်ဗ် နမာဇ်၌ အချိန်ရောက် ရောက်ခြင်း လျင်မြန်စွာဖြင့် ဖတ်ရမည်၊ နေဝင်လျှင် ဝင်ခြင်း ဖတ်ခြင်းသည် မွတ်စ်တဟာဗ် ဖြစ်လေသည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၇။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၁။

၆။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူသည် (တဟဂျ်ဂျုဒ်) နမာဇ်ကို ညဉ့်၏ နောက်ပိုင်းတွင် ထ၍ဖတ်လေ့ရှိလျှင် အကယ်၍ အသေအခြာ နိုးလိမ့်မည်ဟု ယုံကြည်စိတ်ချရလျှင် ထိုသူသည် ဝစ်တ်ရ် နမာဇ်ကို တဟဂျ်ဂျုဒ်၏ နောက်မှဖတ်ခြင်း ပိုမြတ်၏။ သို့ရာတွင် မျက်စိဖွင့်နိုင်လိမ့်မည်ဟု မယုံကြည်ရလျှင် အိပ်ပျော်သွား၍ မနိုးဘဲ ရှိလိမ့်မည်ဟု စိုးရိမ်ရလျှင် အေရှာအ်၏နောက် မအိပ်စက်မီ အလျှင်ကပင် ဝစ်တ်ရ်ကို ဖတ်လိုက်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၊ ၃၇၃။

၇။ မတ်စ်အလဟ် ပြဿနာ။ ။မိုးအုံ့သောနေ့တွင် ဖဂ်ျရ်၊ ဇုဟ်ရ်၊ မဂ်ရစ်ဗ်၏ နမာဇ်များကို အနည်းငယ် ဆိုင်းငံ့၍ဖတ်ခြင်း ကောင်း၏၊ ၎င်းပြင် အတ်စ်ရ် နမာဇ်၌မူ လျင်မြန်စွာဖတ်ခြင်း မွတ်စ်တဟာဗ် ဖြစ်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၄။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၉။

၈။ မတ်စ်အလဟ် ပြဿနာ။ ။နေထွက်နေချိန် နေဝင်နေချိန် မွန်းတည့်နေချိန် သုံးရပ်တို့တွင် မည်သည့်နမာဇ်ကိုမျှ မဖတ်ရ မပိုင်ချေ၊ သို့ရာတွင် ထိုနေ့၏ အတ်စ်ရ် နမာဇ်ကိုမူ မဖတ်ရသေးလျှင် နေဝင်ချိန်လည်း ဖတ်လိုက်ရမည်၊ ထိုအချိန်၌ သုံးရပ်၌(စစ်ဂျ်ဒဟ်တေလာဝတ်)ပြုခြင်းလည်း တားမြစ်၏၊ မတ်ကရူးဟ်ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၄။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၉။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ ဖ်ရ်နမာဇ်ဖတ်ပြီးနောက် နေထွက်၍အမြင့်သို့ မရောက်သေးသမျှ ကာလပတ်လုံး နဖိလ်နမာဇ်ဖတ်ခြင်းသည် မတ်ကရူးဟ် ဖြစ်လေသည် နေမထွက်မီ အလျှင် ကဿာ နမာဇ်ကို ဖတ်ခြင်းပိုင်၏၊ စစ်ဂျ်ဒဟ်တေလာဝတ် ပြုခြင်းလည်းပိုင်၏၊ နေထွက်ပြီးနောက် ရောင်ခြည်မလာမခြင်း ကဿာ ဖတ်ခြင်း မပိုင်ချေ၊ ဤနည်းပင် အတ်စ်ရ် နမာဇ် ဖတ်ပြီးနောက် နဖိလ် နမာဇ် ဖတ်ခြင်းလည်း မပိုင်ချေ၊ သို့သော် ကဿာနှင့် စစ်ဂျ်ဒဟ် အာယတ်အတွက် စစ်ဂျ်ဒဟ် ပြုခြင်းပိုင်၏၊ သို့ရာတွင် နေရောင်ဝါပျော့သွားမူ မပိုင်ချေ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၅၁။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ဖွဂျ်ရ် ချိန်၌ နေထွက်လာတော့မည်ဟု စိုးရိမ်လျှင် အဆောတလျင်ဖြင့် (ဖွရ်သွ်နမာဇ်) တစ်ခုတည်း ဖတ်လိုက်ရမည်၊ နေရောင်ခြည်လာလျှင် အခြားသော နမာဇ်များကို ကြိုက်ရာဖတ်နိုင်သည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၄။

ဗွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၈၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။လင်းအာရုံရောက်၍ ဖွဂျ်ရ် ချိန်တိုင်လျှင် စွန္နတ်နမာဇ် နှစ်ကရအတ်နှင့် ဖွရ်သွ် နှစ်ရကအတ်အပြင် အခြားသော နဖ်လ် နမာဇ်များကို မဖတ်ထိုက် အစိပ္ပါယ်မှာ မတ်က်ရူးဟ် ဖြစ်လေသည်၊ သို့သော်လည်း ကသွာ နမာဇ်ဖတ်ခြင်းနှင့် စစ်ဂျ်ဒဟ်အာယတ်၏ စစ်ဂျ်ဒဟ် ပြုခြင်းတို့သည် ပိုင်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၈၄။

ဗွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၃၈၉။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ဖွဂျ်ရ် နမာဇ်ကို ဖတ်နေစဉ် နေထွက်လာမူ နမာဇ်မပိုင်၊ နေရောင်ခြည် ရောက်လာပြီးနောက်မှ ကသွာ ဖတ်ရမည်။

အကယ်၍ အတ်စွ်ရ် နမာဇ် ဖတ်နေစဉ် နေဝင်သွားမူ နမာဇ် ပြီးမြောက်၏ ကသွာဖတ်ရန် မလိုချေ။ မွန်ယဟ်ကျမ်း စာမျက်နှာ-၇၉။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။အေရှာအ် နမာဇ် မဖတ်မီ အလျှင် အိပ်စက်ခြင်းသည်၊ မတ်က်ရူးဟ်ဖြစ်၏၊ နမာဇ် ဖတ်ပြီးမှ အိပ်ရမည်။

သို့ရာတွင် ရောဂါရှိ၍ သော်လည်းကောင်း ခရီးမှပြန်လာသဖြင့် မောပန်း၍ သော်လည်းကောင်း တစ်ဦးသောသူအား ကျွန်ုပ်ကို နမာဇ် ချိန်ရောက်လျှင် နှိုးပါဟု မှာကြား၍ ထိုသူက ကတိပြုလျှင် အိပ်နိုင်၏။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၁။

ဘဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၀။



# နမာဇ်၏ [ရှရ်တွ်] စည်းကမ်းချက်များ

၁။ မတ်စ်အလဟ် ပြဿနာ။ ။နမာဇ်ကိုဖတ်ရန် အစမပြုမီ များ စွာ သော အချက်များသည် အရေးကြီးလေသည်။

၄ အကယ်၍ ဝိုသွူမရှိလျှင် ဝိုသွူပြုရမည်၊ ရေချိုးရန်ထိုက်နေလျှင် ရေချိုးရမည်၊ ခန္ဓာကိုယ်၌ဖြစ်စေ အဝတ်အထည်၌ဖြစ်စေ မသန့်လူးထိနေလျှင် ၎င်းကို သန့်ရှင်းမှုပြုရမည်၊ နမာဇ် ဖတ်ရှုတ်မည့်နေရာလည်း သန့်ရှင်းမှုရှိစေရမည်။

(အမျိုးသမီးများအဖို့) မျက်နှာနှင့် လက်ဝါးနှစ်ဘက် ခြေဖဝါးနှစ်ဘက်အပြင် ခေါင်းမှခြေဘိုင် တစ်ကိုယ်လုံး ကောင်းစွာဖုံးအုပ် လုံခြုံစေရမည်၊ ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူရမည်၊ ဖတ်လိုသောနမာဇ်ကို ၎င်း၏ (နိယတ်) စိတ်၌ ရည်စူးခြင်းပြုရမည်။

အချိန်ရောက်ပြီးမှ နမာဇ် ကို ဖတ်ရွတ်ရမည်၊ ဤဆိုခဲ့သော အရာအပေါင်းသည် နမာဇ်(ရှရ်တွ°) စည်းကမ်းချက်များ ဖြစ်လေသည်၊ အကယ်၍ ထို့အနက် တစ်ခုမျှ ပျက်ကွက်လျှင် နမာဇ် မမြောက်ချေ။

နူရွလ်အီသွားဟ်ကျမ်း စာမျက်နှာ-၃၉။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆၊ ၇၉။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အလွန်ပါးလွှာသော အထည်ပိတ်ပါး သို့မဟုတ် ဇာထည်အပါး (နိုင်လွန် ဇာလွန်) စသော အလွန်ပါးသည့် ခြုံထည်တဘက်များကိုခြုံ၍ နမာဇ်ဖတ်ခြင်း မပိုင်ချေ။

မွန်ယဟ်ကျမ်း စာမျက်နှာ-၇၉။
ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၀။

၃။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ အမျိုးသမီးသည် နမာဇ် ဖတ်နေသောအချိန်တွင် ခြေသလုံး လေးပုံ တစ်ပုံခန့် သော်လည်းကောင်း ပေါင် လေးပုံ တစ်ပုံခန့် သော်လည်းကောင်း လက်မောင်း လေးပုံ တစ်ပုံခန့်သော်လည်းကောင်း(စွဗ်ဟာနလ္လာဟ်) သုံးကြိမ်ဆိုခန့်မျှကြာအောင် အဝတ်လစ်လပ်နေလျှင် နမာဇ်ပျက်၏၊ ပြန်၍ဖတ်ရမည် အကယ်၍ ထိုမျှခန့်မကြာတဲ့ အဝတ်လစ်လပ်သည်နှင့် တပြိုင်နက် လျှင်မြန်စွာဖုံးအုပ်လိုက်မူ နမာဇ် မပျက်ပေ။

ဤနည်းပင် ကိုယ်ခန္ဓာ၌ ဖုံးအုပ်ထားရန် အရေးကြီးသည့် နေရာများမှ ကိုယ်အင်္ဂါအဆစ်အပိုင်း၏ လေးပုံ တစ်ပုံ ပွင့်ပေါ်သွားလျှင် နမာဇ်ပျက်၏၊ ဥပမာ....နားရွက်တစ်ဘက်၏၊ လေးပုံတစ်ပုံ၊ ဦးခေါင်း၏ လေးပုံ တစ်ပုံ၊ ဆံပင်၏ လေးပုံ တစ်ပုံ၊ ဝမ်းဗိုက်၏ လေးပုံ တစ်ပုံ၊ ကျော၏ လေးပုံ တစ်ပုံ၊ လည်ကုတ်၏ လေးပုံ တစ်ပုံ၊ ရင်ဘတ်၏ လေး ပုံတစ်ပုံ၊ သားမြတ်၏ လေးပုံ တစ်ပုံ စသည် လစ်လပ်သွားမူ နမာဇ်မမြောက်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂၃။
ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၂။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အပျိုဘော် မဝင်သေးသော မိန်းကလေးသည် အကယ်၍ သူ၏ခြုံထားသော အဝတ်သည် လွင့်စင်လျှောကျသွား၍ ဦးခေါင်းပေါ်သွားသော် နမာဇ်မပျက်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂၃။။
ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ အဝတ်၌ဖြစ်စေ ခန္ဓာကိုယ်၌ဖြစ်စေ မသန့်အညစ်အကြေး လူးထိသွား၍ ရေမရနိုင်သည် အဖြစ်မှာမူထိုမသန့် လူးလျက်ပင် နမာဇ်ကို ဖတ်ရမည်။ နူရွလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၃
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅

၆။ မတ်စ်အလဟ် ပြဿနာ။ အဝတ်တစ်ထည်လုံး မသန့်သော်လည်းကောင်း၊ သို့မဟုတ် တစ်ထည်လုံး မသန့်ခြင်းမဟုတ်ဘဲ အနည်းငယ်မျှသာ သန့်ရှင်းမှု အဓိပ္ပါယ် လေးပုံတစ်ပုံခန့်ထက်နည်း၍ သန့်၏၊ ကြွင်းသောအပိုင်းက မသန့်မှု ဤသို့သော အချိန် မျိုး၌လည်း ထိုအဝတ်ကို ဝတ်ဆင်လျက်ပင် နမာဇ်ကို ဖတ်ရမည်၊ အဝတ်ကို ချွတ်၍ အဝတ်မပါဘဲလည်း ဖတ်နိုင်လေသည်၊ သို့ရာတွင် ကိုယ်တုံးလုံး ဖတ်သည်ထက် ထိုမသန့် သော အဝတ်ကိုဝတ်၍ ဖတ်ခြင်းက ပိုမိုကောင်း၏။

အကယ်၍ အဝတ်သည်လေးပုံတစ်ပုံထက်ပို၍သန့်ရှင်းခြင်းရှိမူ ကိုယ်တုံးလုံးဖတ်ခြင်း မပိုင်ချေ၊ ထိုမသန့်သောအဝတ်ကို ဝတ်ဆင်၍ဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂၇။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ လူတစ်ဦးတစ်ယောက်တွင် လုံးဝ ဝတ် ဆင်ရန် အဝတ်မရှိလျှင် ကိုယ်တုံးလုံးဖြင့်နမာဇ်ဖတ်ရမည်၊ သို့ရာတွင် မည်သူမျှ မမြင် နိုင်သောနေရာတွင် ဖတ်ရမည်၊ ထို့ပြင့်ရပ်လျက်မဖတ်ရ၊ ထိုင်၍ဖတ်ရမည်၊ ရိုကူအ်နှင့် စစ်ဂျဒဟ်ကို အရိပ်နိမိတ်အားဖြင့်ပြုရမည်၊ အကယ်၍ ရပ်လျက်ဖတ်ကာ ရိုကူအ်-စစ်ဂျဒဟ် ပြုလျှင်လည်း နမာဇ်ကားပိုင်၏၊ သို့ရာတွင် ထိုင်လျက်ဖတ်ခြင်းက ပိုမိုကောင်းလေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁ စာမျက်နှာ-၇၀၊၈၂။

၈။ မတ်စ်အလဟ် ပြဿနာ။ ခရီးသည် အဖြစ်၌ လူ၏ထံတွင် ရေအနည်းငယ်မျ ရှိ၏၊ အကယ်၍ မသန့် ဆေးကြောရလျှင် ဝိုသွူ ပြုရန် ရေကျန်တော့မည် မဟုတ်၊ ဝိုသွူ ပြုလျှင် မသန့်ကို ဆေးကြောရန် ရေကျန်တော့မည်မဟုတ်မူ ထိုရေဖြင့် မသန့်ကို ဆေးကြောကာ ဝိုသွူ၏အစား တယမ်မွမ်ပြုရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၃၉။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈။

၉။ မတ်စ်အလဟ် ပြဿနာ။ ဇွဟ်ရ်နမာဇ်ကို ဖတ်လိုက်၏၊ သို့ရာတွင် ဖတ်ပြီး နောက်မှ ဇွဟ်ရ်ချိန် ကျော်လွန်ပြီး အတ်စွ်ရ်ချိန်သို့ ရောက် နေကြောင်း သိရလျှင် ထပ်ဖန် (ကသွာ) ပြန်ဖတ်ခြင်း ဝါဂျစ်ဗ် မဟုတ်တော့ချေ၊ အဘယ့်ကြောင့်ဟူမူ ထို ဖတ်လိုက်သောနမာဇ်သည် (ကသွာ)အပါအဝင် ဖြစ်သွား၍ (ကသွာ)၌ ဖတ်လိုက်ပြီ ဟု ယူဆရမည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၂၀၅။
ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၉။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အချိန်မရောက်သေးမီ အလျှင်- နမာဇ်ကို ဖတ် လျှင်၊ နမာဇ်မမြောက်ချေ။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၄၀။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ နှုတ်လျှာမှ (နိယတ်) ကို ရွတ်ဆိုရန် အရေးမကြီးပေ၊ သာမက စိတ်တွင်းမှ ဤမျှခန့်ရည်စူးလိုက်ရမည်၊(ကျွန်တော်သည် ယနေ့၏ဇွုဟ်ရ်နမာဇ်ကို ဖတ်ပါ၏)၊ ဟူ၍ လည်းကောင်း အကယ်၍ စွန္နတ်ဖြစ်လျှင် (ဇွုဟ်ရ်၏စွန္နတ်) ဖတ်ပါ၏ ဟူ၍ လည်းကောင်း ဤမျှခန့်ရည်စူးရုံဖြင့် ပြီး၏၊ ထို့နောက် (အလ္လာဟို၊ အတ်က်ဗရ်)မြွက်ဆိုပြီးလျှင် လက်မြှောက်၍ လက်ပိုက်လိုက်လျှင် နမာဇ်အထမြောက်သည်၊ လူအများတွင် ကျော်ကြားနေသော ရှည်လျားသည့် နိယတ်များကို ဆိုနေရန် မလိုချေ။

ဘဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

ဒွ်ရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၇။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နှုတ်လျှာမှ နိယတ်ချည်လိုမူ ဤမျှခန့်ဆိုလျှင် လုံလောက်လေသည်၊ (ယနေ့၏ ဇွုဟ်ရ်-ဖွရ်သွ် နမာဇ်ကို ဖတ်ရွတ်ရန် ရည်စူးပါ၏) (အလ္လာဟို၊အတ်က်ဗရ်) သို့မဟုတ် ဇွုဟ်ရ်၏ စွန္နတ်ကို ဖတ်ရွတ်ရန် ရည်စူးပါ၏။ (အလ္လာဟို၊အတ်က်ဗရ်)

ဇွုဟ်ရ်နမာဇ် လေးရကအတ်ကို ကအ်ဗဟ်ဘက်သို့ မျက်နှာမူ၍ ဖတ်ပါ၏ဟု ဆိုရန် မလိုပေ၊ ကြိုက်လျှင်လည်းဆိုလေ၊ မကြိုက်လျှင်လည်းမဆိုနှင့်။

ဘဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၇၊ ၂၃၉။

ဒွ်ရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍စိတ်တွင်းကမူ ကျွန်တော်သည် ဇွုဟ်ရ်၏နမာဇ်ကိုဖတ်ပါ၏ဟုရည်စူး၍ နှုတ်ကမူ ဇွုဟ်ရ်၏နေရာဘွင် အတ်စ်ရ်ဟုထွက်သွားမူနမာဇ်အောင်မြင်သွား၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၃၁။

ဘဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၇၊ ၂၃၉။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မေ့လျော့ပြီး လေးရကအတ်၏နေရာတွင် ခြောက်ရကအတ် ဟူ၍ လည်းကောင်း၊ သုံးရကအတ် ဟူ၍ လည်းကောင်း နှုတ်မှထွက်သွားလျှင်လည်း နမာဇ်အောင်မြင်သွားလေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၃၁။

ဘဟ်ရ်ကျမ် အတွဲ-၁၊ စာမျက်နှာ-၂၈၂။

၁၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နမာဇ်အကြိမ်ပေါင်းများစွာကသွာဖြစ်ခဲ့၏၊ ကသွာဖတ်ရန် ရည်စူးခဲ့သော် အချိန်ကိုသတ်မှတ်၍ နိယတ်ရည်စူးခြင်းပြုရမည်၊ ဤသို့နိယတ်ပြုရမည်၊(ကျွန်တော်သည်ဖွုဂ်ျရ်၏ဖွရ်သွ်နမာဇ်ကိုဖတ်ပါ၏)အကယ်၍ ဇွုဟ်ရ်၏ ကသွာဖတ်ရန်ဖြစ်မူ ဇွုဟ်ရ်၏ ဖွရ်သွ်ကသွာကို ဖတ်ပါ၏ဟူ၏။

ဤနည်းပင် အကြင်အချိန်၏ ကသွာကို ဖတ်လိုလျှင် ထိုအချိန်ကို အထူးထည့်၍ နိယတ်ပြုရမည်၊ အကယ်၍(ကသွာနမာဇ်ကိုဖတ်ပါ၏)ဟု တစ်လုံးတည်းဖြင့် နိယတ်ပြု၍ အချိန်ကို အထူးထည့်၍မပြုသော် ကသွာနမာဇ် မပိုင်ချေ၊ တဖန်ပြန်၍ဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၃၁။

၁၆။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ ရက်ပေါင်းများစွာ၏ နမာဇ်များ ကသွာ ဖြစ်ခဲ့သော် နေ့နှင့်ရက်ကိုပါ သတ်မှတ် ဖေါ်ပြ၍ နိယတ်ပြုရမည်၊ ဥပမာ.... စနေ၊ တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ၄-ရက်၏နမာဇ်များ ပျက်ကွက်ခဲ့သော် ကျွန်တော်သည် ဖွဂျ်ရ်၏ နမာဇ်ကို ဖတ်ပါ၏ ဆိုရုံမျှဖြင့် မပိုင်ချေ၊ (စနေ နေ့၏ ဖွဂျ်ရ်၏ ကသွာ ဖတ်ပါ၏) ဟု နိယတ် ပြုရမည်၊ ထို့နောက် စနေနေ့၏ ဇွဟ်ရ် 'ကသွာ' ကို ဖတ်ပါ၏ ဟု ဤနည်း ဆိုရမည်၊ စနေနေ့၏ ကသွာကို နမာဇ် အားလုံး ဖတ်ပြီးလျှင် တနင်္ဂနွေ နေ့၏ ဖွဂျ်ရ် ကသွာကို ဖတ်ပါ၏ဟု ဆိုရမည်၊ ဤနည်းဖြင့် ကသွာ နမာဇ် အားလုံး ဖတ်ရမည်။

အကယ်၍ လပေါင်းများစွာ နှစ်ပေါင်းများစွာ၏ နမာဇ်များ ကသွာဖြစ်ခဲ့သော် လ နှင့် နှစ်၏ အမည်ကိုလည်း ထည့်ဆို နိယတ် ပြုရမည်၊ (မည်သည့်ခုနှစ် မည်သည့်လ မည်သည့်ရက်၏ ဖွဂျ်ရ်နမာဇ်၏ ကသွာဖတ်ပါ၏ဟု ဆိုရမည်၊) ဤကဲ့သို့ နိယတ်မပြုလျှင် ကသွာမပိုင်ချေ။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၄၃၅။

၁၇။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ အကြွင်းသူသည် နေ့၊ ရက်၊ လ၊ နှစ်ကို တစ်စုံတစ်ရာအမှတ်မရလျှင် ဤသို့နိယတ်ပြုရမည်၊ (ဖွဂျ်ရ်နမာဇ်များ ကျွန်တော်အပေါ်၌ တာဝန်ရှိနေသမျှအနက် ပထမဆုံး ဖွဂျ်ရ်၏ကသွာကို ဖတ်ပါ၏)ဟု ဆိုရမည်၊ သို့မဟုတ် ဇွဟ်ရ်နမာဇ်များ ကျွန်တော် အပေါ်၌ တာဝန်တင်ရှိသမျှအနက် ပထမဆုံး ဇွဟ်ရ်၏ ကသွာကို ဖတ်ပါ၏ဟု ဆိုရမည်။

ဤနည်းပင် နိယတ်ပြု၍ အစဉ်အလိုက် ကသွာများကို ဖတ်ရမည်၊ မိမိ စိတ်က ယခု ကသွာရှိရှိသမျှဖတ်၍ ကုန်ဆုံးလောက်ပြီဟု ဆုံးဖြတ်လျှင် ထိုအခါ၌ ကသွာ ဖတ်ခြင်း ရပ်ရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၁။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

၁၈။ မတ်စ်အလယ်ပြဿနာ။ စွန္နတ်၊ နဖ်လ်၊ တရာဝီးဟ် ၏ နမာဇ်များကို ဤမျှခန့် နိယတ်ပြုရုံဖြင့် လုံလောက်လေသည်၊ (ကျွန်တော်သည်နမာဇ်ဖတ်ပါ၏) စွန္နတ်ဖြစ်ကြောင်း၊ နဖ်လ်ဖြစ်ကြောင်း တစ်စုံတစ်ရာ မထည့်လျှင်လည်းပိုင်၏၊ သို့သော် (စွန္နတ် တရာဝီးဟ်)ဟု နိယတ်ပြုခြင်း၌ ကရုပြုရန် ထိုက်လေသည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၈။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

# ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူခြင်း အကြောင်း

၁။ မတ်စ်အလယ်ပြဿနာ။ အကြင် နေရာဌာနတစ်ခုသို့ရောက်ရှိရာ ကစ်ဗ်လဟ် သည် မည်သည့်ဘက်၌ ရှိသည်ကို မသိရသော်လည်းကောင်း၊ မေးမြန်းရန် လူကလည်း

မရှိသော်လည်းကောင်း မိမိစိတ်ဝယ် စူးစမ်း ဆင်ခြင်၍ 'ကစ်ဗ်လတ်'ဘက်ဟု ယုံကြည်စိတ်ချရသည့်ဘက်သို့ မျက်နှာမူ၍- နမာဇ်ဖတ်ရမည်၊ အကယ်၍စူးစမ်းဆင်ခြင်ခန့်မှန်းခြင်း မပြုဘဲလျက်ဖတ်လျှင် နမာဇ်မပိုင်ချေ၊ သာမက အကယ်၍ ဖတ်ပြီးသည့်နောက် ၎င်းဘက်သည် 'ကစ်ဗ်လတ်'ဘက် မှန်ကန်နေကြောင်းသိရသော်လည်း နမာဇ်မပိုင်ချေ၊ အကယ်၍ ထိုဌာနၥ လူကားရှိ၏၊ သို့ရာတွင် မေးမြန်းရမည်ကို ရှက်၍လည်းကောင်း (ပရ်ဒဟ်) ကြောင့်လည်းကောင်း မမေးဘဲ နမာဇ်ကိုဖတ်လျှင် နမာဇ်မမြောက်၊ ဤသို့သောအချိန်မျိုး၌ ဤသို့အရှက်မျိုး မထားသင့်ပေ၊ မေးမြန်းစုံစမ်း၍ နမာဇ်ကိုဖတ်ရမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၀။

၂။ မတ်စ်အလတ် ပြဿနာ။ အကယ်၍ ပြောပြမည့်သူ မတွေ့သဖြင့် စိတ်တွင်း ယုံကြည်ချက်ဖြင့် နမာဇ်ဖတ်ရာ ပြီးမှ 'ကစ်ဗ်လတ်'ဘက်မဟုတ်ကြောင်း သိရသော်လည်း နမာဇ်မြောက်၏။

ဘဲဟ်ရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၁၈၀။

၃။ မတ်စ်အလတ် ပြဿနာ။ အကယ်၍ ဘက်မှား၍ နမာဇ်ဖတ်၏၊ ထို့နောက် နမာဇ်တွင်း၌ပင် ဤကား'ကစ်ဗ်လတ်'မဟုတ် အခြားတဘက် ဖြစ်နေကြောင်း သိရသော် နမာဇ်ဖတ်လျက်ပင် 'ကစ်ဗ်လတ်'ဘက်သို့လှည့်လိုက်ရမည်၊ ယခု သိပြီးနောက် အကယ်၍ 'ကစ်ဗ်လတ်'ဘက်သို့ မလှည့်လျှင် နမာဇ်မမြောက်။

ဘဲဟ်ရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၈၀။

၄။ မတ်စ်အလတ် ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူသည် (ကအ်ဗဟ်ရှရီဖ်)ဗိမာန်တော်၏အတွင်း၌ပင် နမာဇ်ဖတ်လျှင် ပိုင်၏၊ ထိုအတွင်း နမာဇ်ဖတ်သူသည် ကြိုက်ရာဘက်သို့ မျက်နှာမူ၍ ဖတ်နိုင်လေသည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၆၇။

၅။ မတ်စ်အလတ် ပြဿနာ။ ကအ်ဗဟ် ရှရီဖ် ဗိမာန်တော်၏ အတွင်း၌ ဖွရ်သွ် နမာဇ်ဖြစ်စေ၊ နဖ်လ်နမာဇ်ဖြစ်စေ ဖတ်ခြင်း ပိုင်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅၄။

## ဖွရ်သွ် နမာဇ် ဖတ်ပုံ ဖတ်နည်း အကြောင်း

**မှတ်ချက်။** ရှရတ္ခ် အားလုံးကို ကရုပြုပြီးလျှင် လက်နှစ်ဘက်ကို အင်္ကျီလက် ၎င်း ခြုံထည်စောင်မှထုတ်ပြီး နားနုထိမြောက်ရမည်၊ လက်မသည် နားနုနှင့်ထိပြီး လက်ဖဝါးသည် 'ကစ်ဗ်လတ်' ဘက်သို့ ရှိနေစေရမည်၊ လက်ချောင်းများသည် စေ့လည်း စေ့မနေစေရ၊ ကျယ်လွန်းခြင်းလည်း မရှိစေရ၊ ဖတ်လိုသော နမာဇ်ကို စိတ်၌ နီယတ်ပြုခါ၊ နှုတ်လျှာဖြင့်လည်းမြွက်ဟရမည်၊ နီယတ်ပြုပြီး လက်နှစ်ဘက်ကို ချက်အောက်သို့ ပိုက်ရမည်၊ သို့သော်နားနုထိ လက်မြောက်ခြင်းနှင့်လက်ချောင်းများ ချဲထားရန်မှာ အမျိုးသားများ အတွက်သာဖြစ်သည်။ အမျိုးသား နှင့် အမျိုးသမီးတို့၏ ကွဲလွဲချက်များမှာ....

၁။ တတ်က်ဗီးရ်တဟ်ရီမဟ် ဆိုသောအခါ အမျိုးသားများသည် အအေးမိမည်ကို မစိုးရိမ်ရသော် ဧရာဝင့်စသည်မှ လက်ကိုထုတ်၍ နားနုထိမြှောက်ရမည်၊ အမျိုးသမီးတို့သည် ရာသီဥတုတိုင်းတွင် လက်ကိုခြုံထည်အတွင်းမှ ပခုံးထိ မြှောက်ကြရမည်၊ (၂)တဟ်ရီမဟ် ဆိုပြီးနောက် အမျိုးသားများသည် ချက်အောက်တွင် လက်ပိုက်ရမည်၊ အမျိုးသမီးတို့သည် ရင်ဘတ်တွင်ပိုက်ရမည်၊ (၃) အမျိုးသားများသည် လက်မနှင့် လက်သန်းဝိုင်း၍ ကျန်သုံးချောင်းကို ဘယ်ဘက် လက်ကောက်ဝတ်ပေါ်တွင် တင်ရမည်၊ အမျိုးသမီးတို့သည် ညာဘက်လက်ဝါးကို ဘယ်ဘက် လက်ဖမိုးပေါ်ထားရမည်၊ လက်ချောင်းများဝိုင်းခြင်း လက်ကောက်ဝတ်ပေါ် တင်ခြင်းများ ပြုရန်မလိုပေ၊ (၄) အမျိုးသားများသည် ရိုကူအ်ပြုရာ၌ကောင်းစွာ ကုန်းရမည်၊ ခေါင်း၊ ကျော၊ တင်ပါး တပြေးတည်းဖြစ်စေရမည်၊ အမျိုးသမီးတို့သည် ဤမျှခန့် မကုန်းရသာမက လက်သည် ဒူးသို့ရောက်ရုံမျှပင် ကုန်းရမည်၊ (၅)အမျိုးသားတို့သည် ရိုကူအ်၌ ဒူးပေါ်တင်ရာတွင် လက်ချောင်းများကို ခွဲထားရမည်၊ အမျိုးသမီးတို့သည် မခွဲရ စေ့ထားရမည်၊ (၆) အမျိုးသားတို့သည် ရိုကူအ်၌ တထောင်ကို နံဘေးနှင့် တခြားထားပြီး အမျိုးသမီးတို့သည် စေ့ကပ်၍ ထားရမည်၊ (၇) အမျိုးသားတို့သည် စစ်ဂျ်ဒဟ်၌ ဝမ်းပိုက်ကို ပေါင်နှင့် နံဘေးကို လက်မောင်းနှင့် တခြားထားရမည်၊ အမျိုးသမီးတို့သည် ထိကပ်လျှက် ထားကြရမည်၊ (၈) အမျိုးသားတို့သည် စစ်ဂျ်ဒဟ်၌ တထောင်ဆစ်များကို အခင်းနှင့်မထိဘဲ ထားရမည်၊ အမျိုးသမီးတို့ကား ထိကပ်လျှက် ထားရမည်၊ (၉) အမျိုးသားတို့သည် စစ်ဂျ်ဒဟ်၌ ခြေနှစ်ဘက်ကို ခြေချောင်းများဖြင့် ထောင်ထားရမည်၊ အမျိုးသမီးများမှာ ထောင်မထားရ၊ (၁၀) အမျိုးသားတို့သည် ထိုင်ရာ၌ ဘယ်ဘက် ခြေပေါ်ထိုင်ကာ ညာခြေကို ထောင်ထားရမည်၊ အမျိုးသမီးတို့သည် ခြေနှစ်ဘက်ကို ညာဘက်သို့ထုတ်၍ တင်ပါးဖြင့်ထိုင်ရမည်၊ ဤသို့ထိုင်ခြင်းဖြင့် ညာဘက်ပေါင်သည် ဘယ်ဘက်ပေါင်ပေါ်သို့ရောက်ပြီး ညာခြေသလုံးသည် ဘယ်ဘက်ခြေသလုံးပေါ်သို့ ရောက်စေရမည်၊ (၁၁) အမျိုးသမီးတို့သည် နမာဇ်များကို ဖတ်ရာ၌ အသံဖြင့် ကေရာအတ် မဖတ်ရ၊ သာမက နမာဇ်တိုင်းတွင် တိုးတိုးစွာ ကေရာအတ် ဖတ်ကြရမည်။

၁။ မတ်စ်အလဟ် ပြဿနာ။ ။နမာဇ်ဖတ်ရန် နိယတ်ပြုပြီးနောက် (အလ္လာဟို အတ်က်ဗရ်)ဟု မြွက်ဆိုသောအချိန်တွင် မိန်းမတို့သည် မိမိလက်နှစ်ဘက်ကို ပခုံးစွန်းအထိ မြှောက်ရမည်၊ သို့ရာတွင် လက်များကို ခြုံထည်၏အပြင်သို့ မထွက်စေရ၊ ထို့နောက် ရင်ဘတ်ပေါ်တွင် လက်ပိုက်ရမည်၊ ညာလက်ဝါးကို ဘယ်ဘက် လက်ဖမိုးပေါ်တွင် တင်ထားရမည်၊ ထို့နောက် ဤဒိုအာကို ဖတ်ရမည်။

سُبْحَانَكَ اللّٰهُمَّ وَبِحَمْدِكَ وَتَبَارَكَ اسْمُكَ وَتَعَالٰى جَدُّكَ وَلَا

اِلٰهَ غَيْرُكَ

သနာအဓိပ္ပါယ်.... အို....အလ္လာဟ်အသျှင်မြတ် ကိုယ်တော်အသျှင်သည် ချို့တဲ့ခြင်း အပေါင်းမှ ကင်းစင်တော်မူပါ၏၊ (ကျွန်တော်မျိုး/မသည်) ကိုယ်တော်အသျှင်အား ချီးကျူး တ,သပါ၏၊ ကိုယ်တော်အသျှင်မြတ်၏ နာမံတော်သည်(ဘရ်ကတ်)မင်္ဂလာအဖြာဖြာနှင့် ပြည့်စုံတော်မူပါ၏၊ ကိုယ်တော်အသျှင်မြတ်၏ဘုန်းတန်ခိုးတော်သည်အမြင့်မြတ်ဆုံးဖြစ်ပါ၏ ကိုယ်တော်အသျှင်မြတ်မှတစ်ပါး ခ,ဝပ်ကိုးကွယ်ခြင်း ခံထိုက်သူ အလျှင်းမရှိပါ၊ ထို့နောက် 'အအူသို့နှင့်ဗစ်မစ်လ္လာဟ်'ကို ဖတ်ရမည်။

أَعُوذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيمِ بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيمِ

ထို့နောက် (အလ်ဟမ်) စူရဟ်ဖတ်ရမည်၊ (ဝလတ်သွာလီန်) ဖတ်ပြီးနောက် (အာမီန်) ဆိုရမည်။

တစ်ခုခုသော (စူရဟ်)ကို ဖတ်ရမည်၊ ထို့နောက် (အလ္လာဟို့၊ အတ်က်ဗရ်)ဟု မြွက်ဆို၍ ရိုကူအ် ဦးညွှတ်ခြင်း ပြုရမည်၊ ထို့နောက်....

سُبْحَانَ رَبِّيَ الْعَظِيمِ

(စုဗ်ဟာန။ ရဗ်ဗေယလ် အဇ္ဇီမ်) ကျွန်တော်မျိုး/မအား မွေးမြူဖန်ဆင်းတော်မူသော အသျှင်မြတ်သည် ကြီးကဲမြင့်မြတ်တော်မူ၍ ချို့တဲ့ခြင်း အပေါင်းတို့မှ အလျှင်းကင်းစင်တော်မူပါ၏ဟု သုံးကြိမ်ဖြစ်စေ, ငါးကြိမ်ဖြစ်စေ, ခုနစ်ကြိမ်ဖြစ်စေ မြွက်ဆိုရမည်။

ရိုကူအ် ပြုရာ၌ လက်နှစ်ဘက်၏ လက်ချောင်းကလေးများကို ထိကပ်လျက် ဒူးခေါင်းပေါ်သို့တင်ရမည်၊ လက်မောင်းနှစ်ဘက်ကို နံဘေးနှစ်ဘက်တွင်ကပ်ထားရမည်၊ ခြေနှစ်ဘက်၏ ခြေမျက်စေ့ကို လုံးဝကပ်လျက်ထားရမည်၊ ဤနည်းကား မိန်းမများအဖို့ဖြစ်သည်၊ ယောကျ်ားများအတွက် အဆစ်အပိုင်းအားလုံးကိုခွဲ၍ထားရမည်၊ ထို့နောက်....

سَمِعَ اللّٰهُ لِمَنْ حَمِدَهُ

(စ,မေ့အလ္လာဟို့ လေမန်၊ ဟ,မေ့ဒဟ်) (ရဗ်ဗနာ၊ လကလ်၊ ဟမ်ဒ်) အလ္လာဟ်အသျှင်မြတ်သည် ချီးမွမ်းထောပနာ ပြုသူတို့၏ ချီးမွမ်းထောပနာ ပြုခြင်းကို အကြွင်းမဲ့ ကြားတော်မူပါ၏။

အို....ကျွန်တော် မျိုး/မတို့အား မွေးမြူဖန်ဆင်းတော်မူသော အသျှင် ချီးမွမ်းထောပနာပြုခြင်းအပေါင်းသည် ကိုယ်တော်အသျှင်အဖို့သာလျှင် ဖြစ်ပါ၏ဟုမြွက်ဆိုလျက် ဦးခေါင်းကို ကြွရမည်၊ ကောင်းမွန်တည့်မတ်စွာ ရပ်မိသောအခါ တဖန် (အလ္လာဟို့ အတ်က်ဗရ်) ဟု မြွက်ဆိုလျက် (စစ်ဂျဒဟ်) ဦးချခြင်း ပြုရမည်၊ မြေပေါ်တွင် ပထမ ဒူးချ၍ ထို့နောက် နားနှစ်ဘက်အညီ လက်ဖဝါးနှစ်ဘက်ကို ချရမည်၊ လက်ချောင်း

ကလေးများအားလုံး ပူး၍ထားရမည်၊ ထို့နောက် လက်နှစ်ဘက်ကြား၌ ပထမ နှာခေါင်း ဒုတိယ နဖူး နှစ်ခုစလုံးကိုချကာ ဦးချရမည်၊ လက်ချောင်း ခြေချောင်းကလေးများကို ကစ်ဗ်လဟ်ဘက်သို့ လှည့်ထားရမည်၊ သို့ရာတွင် ခြေထောက်များကို ထောင်မထားရ၊ သာမက လက်ယာဘက်သို့ ထုတ်ထားရမည်၊ ကောင်းမွန်ကျစ်လစ်စွာ ဝပ်၍ စစ်ဂျ်ဒဟ်ပြုရမည်၊ နံဘေးနှင့် လက်မောင်းကိုလည်းကောင်း၊ ဝမ်းဗိုက်နှင့် ပေါင်ကိုလည်းကောင်း မခွာရ၊ ထိကပ်ထားရမည်၊ လက်မောင်းနှစ်ဘက်သည် မြေနှင့် ထိနေစေရမည်။

စစ်ဂျ်ဒဟ်တွင် (စွဗ်ဟာန ရဗ်ဗေယလ် အအ်လာ)

سُبْحَانَ رَبِّيَ الْأَعْلٰى

(ကျွန်ုပ်တော်မျိုး/မအား မွေးမြူဖန်ဆင်းတော်မူသော အသျှင်မြတ်သည် မြင့်မြတ်တော်မူ၍ ချို့တဲ့ခြင်းအပေါင်းတို့မှ ကင်းစင်တော်မူပေ၏၊) ကို အနည်းဆုံး သုံးကြိမ်ခန့် မြွက်ဆိုရမည်၊ ထို့နောက် (အလ္လာဟို့၊ အတ်က်ဗရ်) ဟု မြွက်ဆိုလျက် ကောင်းမွန်ကျနစွာ ထိုင်ရမည်၊ ထို့နောက် ဒုတိယ စစ်ဂျ်ဒဟ်ကို (အလ္လာဟို့ အတ်က်ဗရ်) မြွက်ဆို၍ ချရမည် အနည်းဆုံး (စွဗ်ဟာန၊ ရဗ်ဗေယလ်၊ အအ်လာ) သုံးကြိမ်ခန့် မြွက်ဆိုပြီးလျှင် (အလ္လာဟို့၊ အတ်က်ဗရ်)ဟု မြွက်ဆိုလျက် မတ်တတ်ရပ်ရမည်၊ ထသောအခါ မြေပေါ်တွင် လက်ထောက်၍ မထရ။

ထို့နောက် (ဗစ်မစ်လ္လာဟ်) ဖတ်၍ အလ်ဟမ်စူရဟ် အဆုံးထိ ဖတ်ရမည်၊ ထို့နောက် အခြားစူရဟ် တစ်ခုကိုဖတ်၍ ဒုတိယ ရကအတ်ကို ဤနည်းပင် ပြည့်စုံစွာ ဖတ်ရမည်၊ ဒုတိယ စစ်ဂျ်ဒဟ် ပြုပြီးသောအခါ ဝဲဘက်တင်ပါးပေါ်၌ ထိုင်ရမည်၊ ခြေနှစ်ဘက်ကို ညာဘက်အမြင်သို့ထုတ်၍ ထိုင်ကာ လက်နှစ်ဘက်၏ လက်ချောင်းများကို ပူးစပ်လျက် ပေါင်နှစ်ဘက်ပေါ်၌ ညီမျှစွာ ချထားရမည်၊ ထို့နောက် (အတ္တဟိယာတ်) ဖတ်ရမည်။

اَلتَّحِيَّاتُ لِلّٰهِ وَالصَّلَوَاتُ وَالطَّيِّبَاتُ اَلسَّلَامُ عَلَيْكَ

اَيُّهَا النَّبِيُّ وَرَحْمَةُ اللّٰهِ وَبَرَكَاتُهٗ اَلسَّلَامُ عَلَيْنَا وَعَلٰى

عِبَادِ اللّٰهِ الصَّالِحِيْنَ اَشْهَدُ اَنْ لَّا اِلٰهَ اِلَّا اللّٰهُ وَاَشْهَدُ

اَنَّ مُحَمَّدًا عَبْدُهٗ وَرَسُوْلُهٗ

တရှုပ်ဟုဒ် အဓိပ္ပါယ်....

နှုတ်လျှာဖြင့် ခ,ဝပ်ခြင်း၊ ကိုယ်ခန္ဓာဖြင့် ခ,ဝပ်ခြင်း၊ ဥစ္စာပစ္စည်းဖြင့် ခ,ဝပ်ခြင်းတို့သည် အလ္လာဟ်အသျှင်မြတ် အဖို့သာ ဖြစ်ပါသည်။ အို....နဗီကမန်တော် ချမ်းမြေ့သာယာခြင်း အပေါင်းတို့သည် လည်းကောင်း၊ အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်'

ကရုဏာတော်သည် လည်းကောင်း 'ဘရ်ကတ်' တိုးတက်မင်္ဂလာ အဖြာဖြာတို့သည် လည်းကောင်း ကိုယ်တော်အပေါ်၌ သက်ရောက်ပါစေသော်ဝ်။

ကျွန်တော်မျိုး/မတို့အပေါ်နှင့် အသျှင်မြတ်၏ ဩဇာခံ သူတော်စင်များအပေါ်၌လည်း ချမ်းမြေ့သာယာခြင်း သက်ရောက်ပါစေသော်ဝ်။

အလ္လာဟ်အသျှင်မြတ်မှ တစ်ပါး ခ,ဝပ်ကိုးကွယ်ခြင်း ခံထိုက်သူ မရှိကြောင်းကို ကျွန်တော်မျိုး/မ သက်သေခံပါ၏၊ ၎င်းပြင် မုဟမ္မဒ်သခင်သည် အလ္လာဟ်အသျှင်မြတ်၏ ဩဇာခံ ဖြစ်ကြောင်းနှင့် တမန်တော် အစစ်အမှန် ဖြစ်ကြောင်းကို ကျွန်တော်မျိုး/မ သက်သေခံပါ၏။

'အရှ်ဟဒို' ဟူသော အပိုဒ်သို့ ရောက်လျှင် ညာလက်သန်းနှင့် လက်သူကြွယ်ကို ဆုတ်ထား၍ လက်ခလယ်နှင့် လက်မကိုဝိုင်း၍ လက်ညှိုးကို (လာအေလာဟ) မှ စ၍ ထောင်ထားရမည်၊ (အစ်လလ္လာဟို) သို့ ရောက်သောအခါ ပြန်ချရမည်၊ သို့သော် လက်ဆုတ်ထားခြင်း၊ ဝိုင်းထားခြင်းကိုမူ နမာဇ်ပြီးသည့်တိုင်အောင် ထားရမည်။

အကယ်၍ လေးရကအတ်ဖတ်ရန်ဖြစ်လျှင် ထို့ထက်ပို၍ ဘာမျှမဖတ်ဘဲ ချက်ချင်း (အလ္လာဟို အတ်က်ဗရ်) မြွက်ဆိုလျက် ရပ်ရမည်၊ ထို့နောက် ကျန်နှစ်ရကအတ် ထပ်ဖတ်ရမည်၊ ဖွရ်သွ်နမာဇ်၌ နောက် နှစ်ရကအတ်တွင် အလ်ဟာမ်စူရဟ် ဖတ်ရုံဖြင့် ပြီး၏၊ အခြားသော စူရဟ်မဆက်တွဲရချေ၊ လေးရကအတ်ပြည့်၍ ထိုင်သောအခါ တဖန်ထပ်၍ (အတ္တဟီယာတ်) တစ်ကြိမ်ဖတ်ပြီးလျှင် ဤဒရူးဒ်ကို ဖတ်ရမည်။

اَللّٰهُمَّ صَلِّ عَلٰى مُحَمَّدٍ وَّعَلٰى اٰلِ مُحَمَّدٍ كَمَا
صَلَّيْتَ عَلٰى اِبْرَاهِيْمَ وَعَلٰى اٰلِ اِبْرَاهِيْمَ
اِنَّكَ حَمِيْدٌ مَّجِيْدٌ
اَللّٰهُمَّ بَارِكْ عَلٰى مُحَمَّدٍ وَّعَلٰى اٰلِ مُحَمَّدٍ كَمَا
بَارَكْتَ عَلٰى اِبْرَاهِيْمَ وَعَلٰى اٰلِ اِبْرَاهِيْمَ
اِنَّكَ حَمِيْدٌ مَّجِيْدٌ

ဒရူးဒ်ရှရီဖ် အဓိပ္ပါယ်....'

အို....အလ္လာဟ်အသျှင်မြတ် မုဟမ္မဒ် သခင်နှင့် တကွ ကိုယ်တော်၏ ဆွေတော်မျိုးတော်များအပေါ်သို့ တမန်တော်အစ်ဗ်ရာဟီးမ်သခင်နှင့်ထိုသခင်၏ဆွေတော်မျိုးတော်များအပေါ်တွင် သုခချမ်းသာမင်္ဂလာများ ပို့ချပေးတော်မူဘိသကဲ့သို့ ပို့ချပေးတော်

မူပါ၊ မုချ ကေန် ကိုယ်တော် အသျှင်သည် ချီးမွမ်း ထောပနာခြင်း အပေါင်း တို့ကို ခံထိုက်တော်မူ၍ မြင့်မြတ်သော ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူပါသည်။

အို... အလ္လာဟ်အသျှင်မြတ်၊ မုဟမ္မဒ်သခင် နှင့် တကွ ကိုယ်တော်၏ ဆွေတော် မျိုးတော်များ အပေါ်သို့ တမန်တော် အစ်ဗ်ရာဟီးမ် သခင်နှင့် ထိုသခင်၏ ဆွေတော် မျိုးတော်များအပေါ်တွင် တက်ဖြိုးဝေသော သုခမင်္ဂလာ အဖြာဖြာတို့ကို ပို့ချ ပေး တော်မူဘိသကဲ့သို့ ပို့ချ ပေးတော်မူပါ၊ မုချ ကေန် ကိုယ်တော်အသျှင်သည် ချီးမွမ်း ထောပနာခြင်း အပေါင်းတို့ကို ခံထိုက်တော်မူ၍ မြင့်မြတ်သော ဂုဏ်တော် အပေါင်းနှင့် ပြည့်စုံတော်မူပါသည်။

ထို့နောက် ဤဒိုအာကို ဖတ်ရွတ်ရမည်။

رَبَّنَآ اٰتِنَا فِى الدُّنْيَا حَسَنَةً وَّفِى الْاٰخِرَةِ حَسَنَةً وَّقِنَا عَذَابَ النَّارِ

(အဓိပ္ပါယ်)အို... ကျွန်တော်မျိုး/မတို့အား မွေးမြူဖန်ဆင်းတော်မူသော အသျှင် ကျွန်တော်မျိုး/မ တို့အား ဒွန္နယာ လောကဝ၌ ကောင်းချီး မင်္ဂလာ အဖြာဖြာကို လည်းကောင်း၊ အာခေရတ်၌ ကောင်းချီးမင်္ဂလာ အဖြာဖြာကိုလည်းကောင်း ပေးသနား တော်မူပါ၊ ၎င်းပြင် ကျွန်တော်မျိုး/မတို့အားငရဲမီးဘေးမှလည်းကင်းဝေးစေတော်မူပါ။

သို့မဟုတ် ဤဒိုအာကို တောင်းဆိုရမည်။

اَللّٰهُمَّ اغْفِرْ لِىْ وَلِوَالِدَىَّ وَلِمَنْ تَوَالَدَ وَارْحَمْهُمَا
كَمَا رَبَّيٰنِىْ صَغِيْرًا وَّاغْفِرِ اللّٰهُمَّ وَلِجَمِيْعِ الْمُؤْمِنِيْنَ
وَالْمُؤْمِنٰتِ وَالْمُسْلِمِيْنَ وَالْمُسْلِمٰتِ الْاَحْيَاءِ
مِنْهُمْ وَالْاَمْوَاتِ بِرَحْمَتِكَ يَآ اَرْحَمَ الرّٰحِمِيْنَ

အဓိပ္ပါယ်ကား အို...အလ္လာဟ် အသျှင်မြတ်၊ ကျွန်တော်မျိုး/မနှင့် တကွ ကျွန် တော်မျိုး/မ၏ မိဘနှစ်ပါးအားလည်းကောင်း၊ ၎င်း ကျွန်တော်မျိုး/မကို ကျွေးမွေးခဲ့သူ များအားလည်းကောင်း ၎င်း ထိုမိဘနှစ်ပါးကို ကရုဏာသက်တော်မူပါ ကျွန်တော်မျိုး/မ အား ငယ်ရွယ်စဉ်က ကရုဏာဖြင့်ကျွေးမွေးသကဲ့သို့ ခပ်သိမ်းသောမုအ်မင်န် ယောကျ်ား

မိန်းမများအားလည်းကောင်း၊ မွတ်စလင်မ် ယောကျ်ား-မိန်းမများအား လည်းကောင်း၊ ၎င်းတို့ အနက်မှ ရှင်နေသူများအား လည်းကောင်း၊ ကွယ်လွန် သေဆုံးပြီးသူများအား လည်းကောင်း အပြစ်ဘေးမှ ခွင့်လွှတ် ချမ်းသာပေးတော်မူပါ၊ ကိုယ်တော်၏ ရဟ်မတ်တော်ဖြင့် အို.... ကရုဏာသက်သူအပေါင်းတို့ထက် လွန်ကဲစွာ ကရုဏာသက်တော်မူသော အသျှင်။

သို့မဟုတ် အခြားတစ်စုံတစ်ခုသော ကုရ်အာန်နှင့်ဟဒီးသ်တော်များတွင် ပါရှိသော ဒိုအာကို တောင်းဆိုရမည်။

ထို့နောက် မိမိလက်ယာဘက်သို့ စလာမ်လှည့်ရမည်၊ လှည့်စဉ်....

اَلسَّلَامُ عَلَيْكُمْ وَرَحْمَةُ اللّٰهِ

(အတ်စလာမို့၊ အလိုင်ကွန်မ်၊ ဝရဟ်မတွလ္လာဟ်) (သင်တို့အပေါ်၌ ငြိမ်းချမ်းသာယာ မင်္ဂလာအပေါင်း ရှိကြပါစေသော်ဝ်)ဟု မြွက်ဆိုရမည်၊ ထို့နောက် ဤသို့ပင်ဆိုလျက် လက်ဝဲဘက်သို့ စလာမ် လှည့်ရမည်၊ စလာမ် လှည့်စဉ် (မလာအေ့ကဟ်) ကောင်းကင်တမန်များကို စိတ်က ရည်စူးရမည်၊ ဤသည်ကား နမာဇ် ဖတ်ရွတ်သော နည်းလမ်းဖြစ်လေသည်။

မိမိ၏ ဝဲ-ယာ၌ အတူ ရှိသူများကိုလည်း ရည်စူးရမည်၊ သို့ရာတွင် ထို့အနက် အကြင် ဖွရ်သွ်များသည် အကယ်၍ တစ်ခုခုန့်လိုနေလျှင် ပျက်ကွက်ခဲ့လျှင် နမာဇ် မဖြစ်မြောက်ချေ၊ တမင်လွှတ်သည်ဖြစ်စေ၊ မေ့လျော့၍လွှတ်သည်ဖြစ်စေ အမိန့်မှာ တစ်မျိုးတည်း ဖြစ်လေသည်။

၎င်းအနက် အချို့သော အချက်များမှာ ဝါဂျစ်ဗ် ဖြစ်လေသည်၊ ထို့အနက် သိသျက်ဖြင့် တမင်လွှတ်ခဲ့သော် နမာဇ်သည် မပြည့်စုံဖြစ်သွားလေသည်၊ တဖန် ပြန်၍ ၎င်းနမာဇ်ကို ဖတ်ရမည်၊ အကယ်၍ တဖန် ပြန်၍ ဖတ်လျှင် ဖွရ်သွ် တာဝန်ကား ကျသွား၏၊ သို့ရာတွင် များစွာ အပြစ်ဖြစ်လေသည်။

အကယ်၍ မေ့လျော့ခြင်းကြောင့် လစ်လပ် ပျက်ကွက်သွားမူ စစ်ဂျ်ဒဟ်-စဟ်ဝ် ပြုခြင်းဖြင့် နမာဇ် အောင်မြင်ထမြောက်လေသည်၊ ၎င်းအနက် အချို့သောအချက်များမှာ- စွန္နတ်ဖြစ်၍၊ အချို့သော အချက်များမှာ မွတ်စ်တဟဗ် ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၃၄၊ ၃၅၊ ၈၄။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၀။
ဟေဒါယဟ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၈၄။

၂။ မတ်စ်အလတ်ပြဿနာ။ နမာဇ်၌ ခြောက်ခုသောအရာသည် ဖွရ်သွ်ဖြစ်လေသည်၊ (၁)နိယတ်ချည်သောအချိန်၌ အလ္လာဟို၊ အတ်က်ဗရ်ဆိုခြင်း၊ (၂)မတ်တတ်ရပ်ခြင်း၊ (၃) ကုရ်အာန် ကျမ်းတော်မှ စူရတ် သို့မဟုတ် အာယတ်ကို ဖတ်ရွတ်ခြင်း၊ (၄)ရိုကူအ် ဦးညွတ်ခြင်း၊ (၅)စစ်ဂျဒဟ် နှစ်ကြိမ်ဦးချခြင်း၊ (၆)နမာဇ်အဆုံး၌ အတ္တဟီယာတ် အစအဆုံးခန့် ထိုင်ခြင်းတို့ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ၁၈၄။

၃။ မတ်စ်အလတ်ပြဿနာ။ ဤအရာများသည် နမာဇ်၌ ဝါဂျစ်ဗ် ဖြစ်၏၊ အလ်ဟာမ်စူရတ်ဖတ်ခြင်း၊ အခြားစူရတ်တွဲခြင်း၊ ဖွရ်သွ်တိုင်းကို မိမိ၏ ဆိုင်ရာဌာနတွင် ကျင့်သုံးခြင်း၊ ပထမရပ်၍ အလ်ဟာမ်ဖတ်ခြင်း၊ ထို့နောက် စူရတ်တွဲခြင်း၊ ထို့နောက် ရိုကူအ် ဦးညွတ်ခြင်း၊ ထို့နောက် စစ်ဂျဒဟ် ဦးချခြင်း၊ နှစ်ရကာအတ် ရလျှင် ထိုင်ခြင်း၊ ထိုင်သည့်နေရာနှစ်ခုစလုံးတွင် အတ္တဟီယာတ်ကိုဖတ်ခြင်း၊ ဝစ်ဘ်ရ်နမာဇ်၌ (ဒိုအာကိုနူတ်) ဖတ်ခြင်း။

(အတ်စ်စလာမို့ အလိုင်ကွန်မ်၊ ဝရဟ်မတွလ္လာဟ်)ဟု ဆိုလျက် စလာမ်လှည့်ခြင်း၊ ဤအချက်များသည် ငြိမ်သက်စွာ ဆောင်ရွက်ခြင်း၊ အဆောတလျင် မပြုခြင်း။

ဘဲဟ်ရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၂။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၂။

၄။ မတ်စ်အလတ်ပြဿနာ။ ထိုအချက်များအပြင် အခြားသော ကိစ္စများမှာ အားလုံး စွန္နတ် ဖြစ်လေသည် ၊သို့ရာတွင် အချို့မှာ ၎င်းတို့အနက်မှ မွတ်စ်အဟာဗ်များ ဖြစ်လေသည်။

တွာဟ်ဘွာဝီကျမ်း။

၅။ မတ်စ်အလတ်ပြဿနာ။ အကြင်သူသည် အကယ်၍ နမာဇ်၌ အလ်ဟာမ်ဒို မဖတ်ဘဲ အခြားသောအာယတ်ကိုဖြစ်စေ၊ စူရတ်ကိုဖြစ်စေ ဖတ်၏၊ သို့မဟုတ် အလ်ဟာမ်ဒို တစ်ခုစာည်းသာ ဖတ်၍ အခြားစူရတ် သို့မဟုတ် အာယတ် မတွဲဘဲ ဖတ်၏၊ သို့မဟုတ် နှစ်ရကာအတ်ဖတ်ပြီးနောက် မထိုင်ဘဲ အတ္တဟီယာတ်မဖတ်ဘဲ တတိယရကာအတ်အဖို့ ပြန်ရပ်၏၊ သို့မဟုတ် ထိုင်တော့ထိုင်၏၊ သို့သော် အတ္တဟီယာတ် မဖတ်ဘဲရှိ၏။

အားလုံး ဆိုခဲ့သမျှသော အကြောင်းများသည် ဖွရ်သွ်တာဝန်ကား ကျသွား၏ သို့ရာတွင် ပြည့်စုံသော နမာဇ်မဟုတ်ဘဲ ချွတ်ယွင်းသောအဖြစ်သို့ ရောက်သဖြင့် တဖန် ပြန်၍ဖတ်ရန် ဝါဂျစ်ဗ်ဖြစ်လေသည်၊ ပြန်မဖတ်လျှင် ကြီးသောအပြစ်ဖြစ်၏၊ သို့သော် သဘ်လစ်မေ့ပြီး ဤသို့ပြုမိသော် စစ်ဂျဒတ်-စဟ်ဝ်ပြုလျှင် နမာဇ်သည် ပိုင်သွားလေသည်။

ဘဲဟ်ရ်ကျမ်း။

၆။ မတ်စ်အလတ်ပြဿနာ။ အကယ်၍ အတ်စလာမို့၊ အလိုင်ကွန်မ်၊ ဝရဟ် မတွလ္လဟ် ဆိုရမည့်နေရာတွင် စလာမ်မလှည့်ဘဲ တစ်ဦးသူအား လှမ်း၍ စကားပြောဆိုသည်ဖြစ်စေ၊ သို့မဟုတ် တစ်နေရာသို့ ထသွားသည်ဖြစ်စေ၊ သို့မဟုတ် နမာဇ်ကို ပျက်

စေတတ်သော အလုပ်ကိစ္စတစ်ခုခုကိုပြုလုပ်သည်ဖြစ်စေ ၎င်းအရာများသည်လည်း ဤအမိန့်အတိုင်း ဖွဲ့ရန်သင့်တာဝန်မှုကား ကျသွား၏၊ သို့ရာတွင်နမာဇ်ကိုပြန်၍ဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်၊ ပြန်၍မဖတ်လျှင် ကြီးလေးသော အပြစ်ဖြစ်မည်။

ဘဲဟ်ရိကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၄၊ ၂၉၅။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ပထမ အခြားစူရဟ်တစ်ခုခုကိုဖတ်ပြီးမှ အလ်ဟာမ်စူရဟ်ကို ဖတ်လျှင်လည်း နမာဇ်ကိုပြန်၍ ဖတ်ရမည်၊ အကယ်၍ မေ့လျော့၍ ဤသို့ဖတ်မိသော် စစ်ဂျဒဟ်စဟ်ဝ် ပြုရမည်။

၈။ မတ်စ်အလဟ် ပြဿနာ။ အလ်ဟာမ်စူရဟ်၏နောက် အနည်းဆုံး သုံးအာယတ်ခန့် ဖတ်ရမည်၊ အကယ်၍ တစ်အာယတ်ဖြစ်စေ၊ နှစ်အာယတ်ဖြစ်စေ အလ်ဟာမ်စူရဟ်၏ နောက်တွင်ဖတ်ရာ အကယ်၍ ထိုတစ်အာယတ်သည် တိုသောအာယတ် သုံးအာယတ်နှင့် ညီမျှလျှင်လည်း ပိုင်၏။

ဘဲဟ်ရိကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၃။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အကြွင်သူသည် ရှီကူအ်မှထ၍ (စမေ့အလ္လာဟ်ှု၊ လေ့မန်၊ ဟမေ့ဒဟ်၊ ရဗ်ဗနာလကလ်ဟာမ်ဒ်)ကို ဖြစ်စေ၊ သို့မဟုတ် ရှီကူအ်၌ စွဗ်ဟာန၊ ရဗ်ဗေယလ်အဇွီမ် ကို ဖြစ်စေ မဖတ်လျှင်သော်လည်းကောင်း၊ စစ်ဂျဒဟ်၌ စွဗ်ဟာန၊ ရဗ်ဗေယလ်၊ အအ်လာကို မဖတ်သော်လည်းကောင်း၊ နောက်ဆုံးထိုင်ရာတွင် အတ္တဟီယာတ်၏ နောက် ဒရူးဒ် မဖတ်သော်လည်းကောင်း၊ နမာဇ်မှုကား ဖြစ်မြောက်သွား၏၊ သို့ရာတွင် စွန္နတ်တော်နှင့် ဆန့်ကျင် ကွဲလွဲလေသည်၊ ဤနည်းပင် အကယ်၍ ဒရူးဒ်၏နောက် တစ်ခုခုသောဒိုအာကိုမဖတ်ဘဲ ဒရူးဒ်တစ်ခုတည်းသာဖတ်၍ စလာမ်လှည့်လျှင်လည်း နမာဇ်ပိုင်သွား၏၊ သို့ရာတွင် စွန္နတ်တော်နှင့် ဆန့်ကျင်ကွဲလွဲ၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၀။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၅။

၁၀။ မတ်စ်အလဟ် ပြဿနာ။ နီယတ် ချည်သောအခါတွင် လက်နှစ်ဘက်ကို မြှောက်ခြင်း စွန္နတ်ဖြစ်လေသည်၊ အကယ်၍ မမြှောက်လျှင်လည်း နမာဇ်ပိုင်၏၊ သို့ရာတွင် စွန္နတ်တော်နှင့် ဆန့်ကျင်ကွဲလွဲ၏။

ဘဲဟ်ရိကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၂။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ရကာအတ်တိုင်းတွင် ဗစ်မစ်လ္လာဟ်ဖတ်၍ အလ်ဟာမ်ဒို ဖတ်ရမည်၊ စူရဟ်၏ အလျှင် ဗစ်မစ်လ္လာဟ် ကို ဖတ်ရမည်၊ ဤ နည်းသည် ကောင်းမွန်လေသည်။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၉၄။
ဘဲဟ်ရိကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၀၂။

၁၂။ မတ်အလယ် ပြဿနာ။ ။စစ်ဂျ်ဒဟ်ပြုသောအခါ အကာယ်၍ နှာခေါင်းနှင့် နဖူး နှစ်မျိုးစလုံး မြေတွင်မထိဘဲ နဖူးသာထိပြီး နှာခေါင်းမထိလျှင်လည်း ပိုင်၏၊ နဖူးမထိဘဲ နှာခေါင်းသာ မြေပေါ်၌ချမူ နမာဇ် မမြောက်ချေ၊ အကာယ်၍ တစ်စုံတစ်ရာ မစွမ်းနိုင်မှုကြောင့် ဖြစ်ခဲ့သော် နှာခေါင်းထိရုံဖြင့် ပိုင်၏။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၇။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅။

၁၃။ မတ်စ်အလယ် ပြဿနာ။ ။အကာယ်၍ ရိုကူအ်ဦးညွှတ်ပြီးနောက်ပြန်အထတွင် တည့်မတ်စွာမရပ်ဘဲ အထလိ (တမင်တကာ)ခေါင်းအနည်းငယ်ကြွပြီး စစ်ဂျ်ဒဟ်သို့ သွားလျှင် နမာဇ်ကို ပြန်၍ဖတ်ရမည်။ မေ့၍ပြုခဲ့သော် စစ်ဂျ်ဒဟ်စဟ်ဝ် ပြုရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၀။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၉။

၁၄။ မတ်စ်အလယ် ပြဿနာ။ အကာယ်၍ စစ်ဂျ်ဒဟ် နှစ်ခုကြား၌ ကောင်းမွန်တည့်မတ်စွာမထိုင်ဘဲ ခေါင်းအနည်းငယ် ကြွရုံမျှကြွ၍ ဒုတိယ စစ်ဂျ်ဒဟ် ပြုလျှင် အကာယ်၍ အနည်းငယ်မျှသာ ခေါင်းကြွလျှင် စစ်ဂျ်ဒဟ် တစ်ကြိမ်သာ ဖြစ်လေသည်၊ စစ်ဂျ်ဒဟ် နှစ်ကြိမ်မဖြစ်ချေ၊ နမာဇ်လည်း လုံးဝအထမမြောက်ချေ၊ အကာယ်၍ ဤမျှခန့်ခေါင်းကြွ၍ ထိုင်သည့်ဘက်တွင် နီးကပ်သွားမူ နမာဇ်တာဝန်ကျ၏၊ သို့သော် အလွန်မပြည့်စုံ ချွတ်ယွင်းသော နမာဇ် ဖြစ်သွားလေသည်၊ ထိုအတွက်ကြောင့် တဖန်ပြန်၍ ဖတ်ရမည်၊ မဖတ်လျှင် ကြီးသောအပြစ်ဖြစ်အံ့။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၀။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၇၃။

၁၅။ မတ်စ်အလယ် ပြဿနာ။ ။အကာယ်၍ကောက်ရိုး သို့မဟုတ် ဝါဂွမ်းပေါ်တွင် စစ်ဂျ်ဒဟ်ပြုလျှင် ခေါင်းကိုဖိ၍ စစ်ဂျ်ဒဟ်ပြုရမည်၊ ဘယ်မျှခန့် ဖိရမည်ဆိုလျှင် ထို့ထက် ပိုမိုဖိမရလောက်အောင် အစွမ်းကုန်ဖိရမည်၊ အကာယ်၍ အပေါ်ယံမျှသာ အနည်းငယ်ထိရုံလောက်ဖြင့် ခေါင်းချ၍ မဖိဘဲ ထားလျှင် စစ်ဂျ်ဒဟ် မမြောက်ချေ။

*မွန်ယဟ်ကျမ်း စာမျက်နှာ-၉၆။

ဂျောဝ်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၁၆။ မတ်စ်အလယ် ပြဿနာ။ ။ဖွရ်သွ် နမာဇ်တွင် နောက် နှစ်ရကအတ်၌ အကာယ်၍ အလ်ဟမ်ဒို၏နောက် အခြား စူရဟ် တစ်ခုခုကိုလည်း ဖတ်မိလျှင် နမာဇ်၌ တစ်စုံတစ်ရာ ဆုံးရှုံးမှုမရှိ၊ လုံးဝပိုင်သွား၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၃။

၁၇။ မတ်စ်အလယ်ပြဿနာ။ ။အကာယ်၍ နောက်နှစ်ရကအတ်တွင် အလ်ဟမ်ဒို မဖတ်ဘဲ (စွဗ်ဟာနလ္လာဟ်) သုံးကြိမ် ရွတ်ဆိုလျှင်လည်း ပိုင်၏၊ သို့ရာတွင် အလ်

ဟမ်ဒ့ိုဖတ်ရွတ်ခြင်းသည် ပိုမိုကောင်း၏၊ အကယ်၍ ဘာမျှမဖတ်ဘဲ ဆိတ်ဆိတ်ရပ်လျှက် နေလျှင်လည်း ဘာမျှကိစ္စမရှိချေ၊ နမာဇ်ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၃။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၆။

၁၈။ မတ်စ်အလဟ် ပြဿနာ။ နောက်ဆုံး နှစ်ရကအတ်တွင် အလ်ဟမ် စူရဟ်၏ နောက် အခြားစူရဟ် တွဲ၍ဖတ်ခြင်းသည် ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ ပထမ ရကအတ် တစ်ခုခု၌ အလ်ဟမ် တစ်ခုတည်းဖတ်မိ၍ စူရဟ် မတွဲမိသော်လည်းကောင်း၊ သို့မဟုတ် အလ်ဟမ်ဒ့ိုလည်းမဖတ် (စွဗ်ဟာနလ္လာဟ်၊ စွဗ်ဟာနလ္လာဟ်)ဟု ဖတ်ရွတ်လျှက်နေမှု နောက် ရကအတ်များတွင် အလ်ဟမ်ဒ့ိုနှင့်အတူ အခြားစူရဟ်ကို တွဲဘက်ဖတ်ရမည်၊ ထို့နောက် အကယ်၍ တမင်သိလျှက် ဤသို့ဖတ်လျှင် နမာဇ်ကို တဖန်ပြန်၍ ဖတ်ရမည်၊ အကယ်၍ မေ့လျော့၍ပြုမိမူ စဇ်ဒဟ်စဟ်ဝ် ပြုရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၄။

၁၉။ မတ်စ်အလဟ် ပြဿနာ။ တစ်ကိုယ်တည်းဖတ်သော နမာဇ်၌ အလ်ဟမ် စူရဟ်နှင့် အခြားစူရဟ်စသည်များကို ၎င်းဖတ်ရွတ်ရမည့် အရာအားလုံး တို့ကို ဖြည်းဖြည်း နှင့် တိုးတိုး ဖတ်ရမည်၊ သို့ရာတွင် မိမိနားတွင် မိမိအသံကို ကောင်းစွာ ကြားစေရန် အရေးကြီးသည်၊ အကယ်၍ မိမိနား၌ပင် မိမိအသံ မကြားရလျှင် နမာဇ်မမြောက်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၆။

ဘဲဟ်ရ်ကျမ်း အတွဲ၁၊ စာမျက်နှာ-၃၂၁။

၂၀။ မတ်စ်အလဟ် ပြဿနာ။ မည်သည့် နမာဇ်၏အတွက်မျှ စူရဟ်တစ်ခုခုကို အတည် သတ်မှတ်မထားရ၊ စိတ်ဝယ် ရရှိသော စူရဟ်ကို ကောက်ခါငင်ကာ ဖတ်ရမည်၊ စူရဟ်ကို မိမိသဘောဖြင့် သတ်မှတ်ထားခြင်းသည် မတ်ကရူးဟ် ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၀။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း စာမျက်နှာ-၅၆။

၂၁။ မတ်စ်အလဟ် ပြဿနာ။ ဒုတိယ ရကအတ်တွင် ပထမ ရကအတ်ထက် ရှည်လျားသော စူရဟ်ကို မဖတ်ရ၊ မတ်ကရူးဟ် ဖြစ်သည်။

နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၇၀။

၂၂။ မတ်စ်အလဟ် ပြဿနာ။ အားလုံးသောမိန်းမများသည် မိမိတို့၏ နမာဇ် ကို ဂျမာအတ်ဖြင့် မဖတ်ဘဲ သီးခြားသီးခြားဖတ်ကြရမည်၊ ဂျမာအတ်အတွက် ဗလီသို့ သွားခြင်း၊ ဗလီတွင် ယောကျ်ားများ နှင့် အတူ ဖတ်ရန် မထိုက်ချေ၊ ဖတ်ခဲ့သော် မတ်ကရူးဟ် တဟ်ရီမဟ် ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၈၃။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း စာမျက်နှာ ၆၀။

အကယ်၍ မိန်းမ တစ်ဦးတစ်ယောက်သည် မိမိလင်ယောကျ်ားနှင့် သော်လည်းကောင်း၊ နေကာဟ်ဟရာမ်ဖြစ်သော ဆွေမျိုးသားချင်း တစ်ဦးဦးနှင့်သော်လည်းကောင်း ဂျမာအတ်ပြုလုပ်၍ နမာဇ်ဖတ်မှု ရှင်းပြသနာကို ပညာရှိတစ်ဦးတစ်ယောက်ထံ မေးမြန်းရမည်၊ အဘယ့်ကြောင့်ဟူမူ ဤသို့ကြုံကြိုက်ခဲလေသည်၊ ထို့ကြောင့် ကျွန်ုပ်မရေးသားတော့ပြီ၊ သို့သော်လည်း ဤမျှခန့်သိမှတ်ထားစေလိုသည်မှာ အကယ်၍ ဤသို့ကြုံကြိုက်ပါလျှင် ယောကျ်ားနှင့်တန်းတူမရပ်ဘဲ နောက်မှရပ်ရမည်၊ သို့မဟုတ်က သူ၏နမာဇ်လည်း ပျက်သွား၍၊ ထိုယောကျ်ား၏ နမာဇ်လည်း ပျက်သွားအံ့။

၂၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နမာဇ်ဖတ်နေစဉ် သူမသည် ဝိုသွ့ူ ပျက်သွားလျှင် ဝိုသွ့ူပြန်ပြု၍ တဖန် နမာဇ်ကို အသစ်ဖတ်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၉။

၂၄။ မတ်စ်အလဟ် ပြဿနာ။ မွတ်စ်တဟဗ်များမှာဤသို့ရှိလေသည်၊ကေယာမ်ရပ်သောအခါတွင် မိမိအရှုကို စစ်ဂျဒဟ်နေရာသို့ ထားရမည်၊ ရိုကူအ် ဦးညွှတ်သောအခါတွင် ခြေဖမိုးသို့ထားရမည်၊ စစ်ဂျဒဟ်ဦးချသောအခါတွင် နှာခေါင်းဖျားကို ကြည့်ရမည်၊ စလာမ်လှည့်သောအခါတွင် ပခုံးစွန်းကို ကြည့်ရမည်။

သန်းဝေချင်သောအခါ ပါးစပ်ကိုကောင်းစွာပိတ်ရမည်၊ ပိတ်မရလျှင် လက်ဖမိုးဖြင့် ပါးစပ်ကို ကာ၍ သန်းဝေရမည်၊ လည်ချောင်း ယားသော အခါ တတ်နိုင်သည်ခန့် ချောင်းဆိုးခြင်းကို ထိန်းရမည်၊ ချုပ်တည်းရမည်။

ဘဲဟ်ရိကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃။



## ကုရ်အာန် ကျမ်းတော်မြတ် ဖတ်ရွတ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ကုရ်အာန် ကျမ်းတော်မြတ်ကို မှန်ကန် ပီသစွာ ဖတ်ခြင်းသည် ဝါဂျစ်ဗ် ဖြစ်၏၊ အက္ခရာတိုင်းကို ဌာန်ကရိုင်း ကျနစွာ ဖတ်ရမည်။ (ဟမ္ဗဇဟ်)နှင့် (အိုင်န်)တွင် ခြားနားမှုကိုလည်းကောင်း၊ ထိုနည်းပင် (ဟေကြီး) နှင့် (ဟေကလေး)တွင် လည်းကောင်း၊ (သာလ်....သွေ....ဇေ....သွာဒ်) ၌ လည်းကောင်း၊

(စီန်....စွာဒ်........ဆေ) တွင် လည်းကောင်း အသံမှန်စွာထုတ်၍ ဖတ်ရမည်၊ ဗျည်းတစ်ခု၏ နေရာတွင် အခြားဗျည်းကို မဖတ်ရ။

ဒွရ်ရတွလ်ဖွရီးဒ် စာမျက်နှာ-၁၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တစ်ဦးတစ်ယောက်သောသူသည် အကြင် အက္ခရာကို ပီသစွာ မဖတ်နိုင်ခဲ့သော် ဥပမာ....(ဟေကြီး)ကို (ဟေကလေး) သံဖြင့် ဖတ်၏၊ သို့မဟုတ် (အိုင်န်) ၏ အသံကို မှန်စွာမထွက်ခြင်း သို့မဟုတ် (ဆေ....စီန် စွာဒ်) အားလုံးကို (စီန်....စ)သံဖြင့်ချည့် ဖတ်သော်လည်းကောင်း ,အသံမှန် ဖတ်တတ်အောင် လေ့လာခြင်းပြုရန်ထိုက်၏၊ အကယ်၍ မှန်ကန်ကျနစွာ ဖတ်နိုင်ရန် မကြိုးပမ်းလျှင် အပြစ်ရှိသူဖြစ်မည်၊ ၎င်းသူ၏ မည်သည့်နမာဇ်မျှ ပိုင်မည်မဟုတ်၊ သို့သော်လည်း အကယ်၍ ကြိုးပမ်းပါလျက် မှန်ကန်စွာ မရွတ်ဆိုနိုင်မှု မစွမ်းနိုင်သဖြင့် ခွင့်လွှတ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၄၅၃၊၄၈၂။

၃။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ (ဟေကြီး)နှင့်(အိုင်န်)စသည်တို့တွင် အားလုံး အက္ခရာ ကျန မှန်ကန်စွာ ဆိုနိုင်၏၊ သို့ရာတွင် ဤသို့သော ဂရုမစိုက်မှုဖြင့် ဖတ်ရွတ်ရာတွင်(ဟေကြီး)နေရာတွင်(ဟေလေး)ကိုလည်းကောင်း၊ (အိုင်န်)၏ နေရာတွင် (ဟမ်ဇဟ်)ကိုလည်းကောင်း အမြဲဖတ်ရွတ်လျက်ရှိသည်၊ လုံး၀ သတိမမူ ဂရုမစိုက်ဘဲဖတ်လျှင်လည်း အပြစ်ရှိသူဖြစ်၏၊ နမာဇ်လည်း မပိုင်ချေ။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ပထမရကအတ်၌ဖတ်ခဲ့သော စူရဟ်ကို ဒုတိယရကအတ်၌လည်း ထိုစူရဟ်ကိုပင် ထပ်၍ ဖတ်ရွတ်မိသော်လည်း ဘာမျှ အပြစ်မရှိချေ၊ သို့ရာတွင် အကြောင်းမဲ့ ဤသို့ဖတ်ခြင်း မကောင်းချေ။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၇၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ကုရ်အာန်ကျမ်းမြတ်၌ စူရဟ်များကို ရှေ့နောက် အစဉ်လိုက် ရေးသားထား သကဲ့သို့ နမာဇ်၌လည်း ထိုနည်း အစဉ်လိုက် ဖတ်ရမည်၊ ဥပမာဆိုသော်.... အမ္မဂျဇ်၌ ရေးသားရိုက်နှိပ်ထားသကဲ့သို့ မဖတ်ပါလင့်၊ အဓိပ္ပါယ်မှာ-ပထမရကအတ်၌ စူရဟ်တစ်ခုကိုဖတ်လျှင် ဒုတိယရကအတ်၌ ထိုစူရဟ်၏နောက်တွင် ပါရှိသော စူရဟ်ကို ဖတ်ရမည်၊ သူ၏အလျှင်ရှိသော စူရဟ်ကို မဖတ်ရ။

ဥပမာ.... အကြင်သူသည် ပထမ ရကအတ်၌ (ကွလ်ယာ) ကို ဖတ်လျှင် ဒုတိယရကအတ်၌ (အေသာဂျာအ)ဖြစ်စေ၊ (ကွလ်ဟို)ဖြစ်စေ၊(ကွလ်အအူသို့ဖွလကေ့)ဖြစ်စေ၊ (နာစေ့)ဖြစ်စေ ဖတ်ရမည်၊ သူ၏အထက်တွင် ရှိသော (အလမ်တရ) ကို ဖြစ်စေ၊ (လေအီလာဖွေ့)စသည်ကိုဖြစ်စေ မဖတ်ရ၊ ဤသို့ ပြောင်းပြန် ဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်၊ အကယ်၍ မေ့လျော့၍ဖတ်မိမူ မတ်က်ရူးဟ် မဟုတ်ချေ။

၆။ မတ်စ်အလဟ် ပြဿနာ။ အကြင်အခါ စူရဟ်တစ်ခုကို စတင် ဖတ်ရွတ်ပြီးနောက်၊ အကြောင်းမဲ့ ၎င်းကိုကျော်လွှန်၍ အခြားစူရဟ်ကိုမကူးရ၊ ဤသို့ကူးပြောင်းခြင်း မတ်ကဲရူးဟ်ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၇၃။
မွန်ယဟ်ကျမ်း၊နေစာအီကျမ်း။

၇။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်မဖတ်တတ်၍သော်လည်းကောင်း သို့မဟုတ် အခြားဘာသာမှ ဝင်ရောက်လာသော မွတ်စလင်မ်ဖြစ်စ ပုဂ္ဂိုလ်များအတွက်သော်လည်းကောင်း ထိုသူတို့သည် အားလုံးသောနေရာတို့တွင် (စွဗ်ဟာနလ္လာဟ်) ဖတ်ရုံဖြင့် ဖွရ်သွတာဝန်ကျ၏၊ သို့ရာတွင် နမာဇ် ဖတ်ပုံ ဖတ်နည်းကို ဆက်လက် သင်ကြားနေရမည်၊ အကယ်၍ နမာဇ်ဖတ်နည်းသင်ကြားရာတွင် ပေါ့လျော့မှုပြုလျှင် များစွာအပြစ်ကြီး၏။

မဂ္ဂျမအွလ်အန်ဟရ်ကျမ် အတွဲ-၁၊ စာမျက်နှာ-၁၁၇။



# နမာဇ် ပျက်စေသော အရာများ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တမင်တကာ ဖြစ်စေ၊ သို့မဟုတ် မေ့လျော့၍ ဖြစ်စေ၊ နမာဇ်တွင်း၌ စကားပြောလျှင် နမာဇ်ပျက်၏။

မဂ္ဂျမအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈။
ဟေဒါယဟ်ကျမ်း အတွဲ-၁ စာမျက်နှာ-၁၁၃။

၂။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်တွင်း၌ အို့၊အင်း၊ဟား၊ဟင်း၊ဟု ဆိုလျှင်သော်လည်းကောင်း အသံကျယ်စွာဖြင့်ငိုလျှင်သော်လည်းကောင်း၊နမာဇ်ပျက်၏။ အကယ်၍ ငရဲနှင့်သုခဘုံကို သတိရ၍ မထိန်းနိုင်ဘဲ စိတ်တက်ကြွလာသဖြင့် အသံကျယ်စွာထွက်ပေါ်သွားသော် နမာဇ်မပျက်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။
မဂ္ဂျမအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈။

၃။ မတ်စ်အလဟ် ပြဿနာ။ အကြောင်းမဲ့ ချောင်းဟန့်ခြင်း၊ လည်ချောင်းရှင်းခြင်းဖြင့် အက္ခရာတစ်လုံး၏ တစ်ဝက်ခန့်မျှဖြစ်ပေါ်အသံထွက်မှု နမာဇ်ပျက်၏။ မလွှဲမရှောင်သာသော အခါ မတတ်သာသော အခါများ၌ ချောင်းဟန့်ခြင်း ပိုင်၏၊ နမာဇ်မပျက်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။

၄။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်တွင်း၌ နှာချေ၍ (အလ်ဟမ်ဒိုလစ်လ္လာဟ်) ဆိုလိုက်မှု နမာဇ်မပျက်ချေ၊ သို့ရာတွင် ဆိုရန်မထိုက်၊ အခြားသူက နှာချေရာ မိမိက (ယရ်ဟာမို့ကလ္လာဟ်)ဟု ပြန်ကြားလျှင် နမာဇ်ပျက်၏။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၆၀။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။

၅။ မတ်စ်အလဟ် ပြဿနာ။ နမာဇ် ဝတ်ပြုစဉ် ကုရ်အာန်ကျမ်းတော် စာကို ကြည့်ပြီးဖတ်လျှင် နမာဇ်ပျက်၏။

မဂ်ျမအွလ်အနဟ်ရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၂၀။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၆။

၆။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်အတွင်း၌ ဤမျှခန့်လှည့်ရာ ရင်ဘတ်သည် ကစ်ဗ်လဟ်ဘက်မှ လှည့်သွားမှု နမာဇ်ပျက်၏။ နူရွလ်အီသွာဟ်ကျမ်းစာမျက်နှာ-၅၉။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၃။

၇။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသူ၏ စလာမ် ပေးခြင်းကို (ဝအလိုင်ကို မွတ်စလာမ်)ဟု ပြန်ကြားလျှင် နမာဇ်ပျက်၏။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၅၉။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၃။

၈။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်အတွင်း၌ ဆံပင်ကိုထုံးမှု နမာဇ် ပျက်၏၊ (ဆံပင်ထွေးလျက် နမာဇ်ဖတ်ခြင်း မတ်ကရူးဟ်ဖြစ်၏။)

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၇၁။

မဂ်ျမအွလ်အနဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။

၉။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်တွင်း၌ တစ်စုံတစ်ခုသော ပစ္စည်းကိုစားခြင်း သောက်ခြင်း ပြုလျှင် နမာဇ်ပျက်၏၊ အဘယ်မျှတိုင်ဟူမူ အကယ်၍ နှမ်းတစ်စေ့ကိုပင် ကောက်စားလျှင် နမာဇ်ပျက်၏၊ သို့သော် အစရှိသော ပစ္စည်းတစ်ခုခုသည် သွားကြား၌ ကပ်လျက်နေရာ ၎င်းကိုမျိုချလိုက်လျှင် အကယ်၍ ကုလားပဲစေ့ထက်သေးမှု နမာဇ်ပိုင်၏၊ အကယ်၍ ကုလားပဲစေ့ခန့်ရှိသော် သို့မဟုတ် ထိုထက်ကြီးသော် နမာဇ်ပျက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၅၁။

၁၀။ မတ်အလဟ် ပြဿနာ။ ပါးစပ် တွင်း၌ ကွမ်းငုံလျက် ထားရာ ကွမ်း သွေးသည် လည်ချောင်းတွင်းသို့ ကျလျှင် နမာဇ်မပိုင်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၅၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ တစ်စုံတစ်ခုသော မုန့်ချိုကို စားရာ နှုတ်ကျင်းပြီး နမာဇ်ဖတ်၏၊ သို့ရာတွင် အာခံတွင်း၌ ချိုသောအရသာ ကြွင်းကျန်၍ တံတွေးနှင့်တကွ လည်ချောင်းတွင်းသို့ ကျဆင်းသွားမှု နမာဇ်ပိုင်၏။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၅၁။

၁၂။ မတ်စ်အလတ် ပြဿနာ။ နမာဇ်တွင်း၌ တစ်စုံတစ်ခုသော ပျော်ရွှင်ဖွယ် သတင်းကိုကြားရ၍ (အလ်ဟမ်ဒိုလစ်လ္လာဟ်)ဟု ဆိုလိုက်သော်လည်းကောင်း၊ သို့မဟုတ် တစ်ဦး တစ်ယောက် သေဆုံးသော သတင်းကို ကြားရသဖြင့် (အင်နာလစ်လ္လာဟေ ဝအင်နာ အေလိုင်ဟေ ရာဂျေအူန်)ဆိုလိုက်သော်လည်းကောင်း နမာဇ်ပျက်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃။

၁၃။ မတ်စ်အလတ် ပြဿနာ။ ကလေးသူငယ် တစ်ဦးတစ်ယောက် လိမ့်ကျ သဖြင့် ထိုကလေးလိမ့်ကျသောအချိန်တွင်(ဗစ်မစ်လ္လာဟ်)ဟုဆိုလိုက်လျှင် နမာဇ်ပျက်၏။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၄၀။

ဘဟ်ရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄။

၁၄။ မတ်စ်အလတ် ပြဿနာ။ နမာဇ် ဖတ်နေစဉ် ကလေးက နို့လာစို့လျှင် နမာဇ်ပျက်၏၊ သို့သော် မထွက်လျှင် နမာဇ်မပျက်ချေ။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၄၉။

ဘဟ်ရ်ကျမ်း အတွဲ၂၊ စာမျက်နှာ-၁၂။

၁၅။ မတ်စ်အလတ် ပြဿနာ။ (အလ္လာဟို၊အတ်က်ဗရ်)ဟု ဆိုသောအချိန်တွင် (အလ္လာဟ်)၏ (အလစ်ဖ်)ကို ဆွဲ၍ (အာလ္လာဟို၊ အတ်က်ဗရ်)ဟု ဆိုလျှင်လည်းကောင်း သို့မဟုတ် (အလ္လာဟို၊ အာ....ကဗရ်) ဟု ဆိုလျှင် နမာဇ်ပျက်၏၊ ဤနည်းပင် အကယ်၍ (အတ်က်ဗရ်)၏(ဗေ)ကို ဆွဲ၍ (အလ္လာဟို၊အတ်က်ဗာရ်)ဟု ဆိုလျှင်လည်း နမာဇ်ပျက်၏။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၅၆။

မဂ္ဂမအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၂။

၁၆။ မတ်စ်အလတ် ပြဿနာ။ စာတစ်စောင်ပေါ်သို့ဖြစ်စေ၊ စာအုပ်တစ်အုပ် ပေါ်သို့ဖြစ်စေ မျက်စိရောက်သွား၍ ၎င်းစာကို မိမိနှုတ်လျှာဖြင့် ဖွင့်မဖတ်ချေ၊ သို့ရာတွင် စိတ်တွင်း၌ အဓိပ္ပါယ်သဘောကိုသိလျှင် နမာဇ်မပျက်၊ အကယ်၍ နှုတ်လျှာဖြင့် ဖွင့်ဖတ် သော် နမာဇ်ပျက်၏။

မဂ္ဂမအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၂။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၃။

၁၇။ မတ်စ်အလတ် ပြဿနာ။ နမာဇ်ဖတ်သောသူ၏ရှေ့မှ တစ်ဦးတစ်ယောက် ဖြတ်သန်းသွားသော်လည်းကောင်း၊ သို့မဟုတ် ခွေး၊ကြောင်၊ဆိတ်၊ အစရှိသော မည်သည့် သတ္တဝါဖြစ်စေ ဖြတ်သန်းသွားလာလျှင် နမာဇ်မပျက်ချေ၊ သို့ရာတွင် ရှေ့မှဖြတ်သန်း သွားသောသူသည် အလွန်အပြစ်ကြီးလေသည်၊ ထို့အတွက် ရှေ့မှ ဖြတ်သန်းသွားလာမှု မပြုနိုင်သော နေရာဖြစ်၍ သွားလာရာတွင် လူအများအား ခက်ခဲမှုမဖြစ်စေသော နေရာ မျိုး၌ ဖတ်ရန် ထိုက်လေသည်၊ အကယ်၍ ယင်းသို့ သီးခြားနေရာမရှိမှု မိမိရှေ့မှောက်တွင်

တုတ်တစ်ချောင်းကို စိုက်ထားရမည်၊ ထိုတုတ်သည် အရှည် တစ်တောင် အတုပ် လက်တစ်လုံးခန့် ရှိစေရမည်၊ ထိုတုတ်ကို အနီးအပါးတွင် စိုက်ထူရမည်၊ ၎င်းကို နှာခေါင်းနှင့် တည့်တည့်တွင်မစိုက်ဘဲ လက်ဝဲဘက် သို့မဟုတ် လက်ယာဘက် မျက်စိနှင့် တည့်တည့်တွင် စိုက်ရမည်၊ အကယ်၍ တုတ်ချောင်း သစ်သားကို မစိုက်လိုလျှင် ထိုမျှခန့် မြင့်သော အခြားပစ္စည်းဝတ္ထုတစ်ခုခုကို ရှေ့မှောက်တွင်ထားရမည်၊ ဥပမာ....ထိုင်ခုံတစ်ခု ရှေ့မှာ ရှိနေလျှင် ၎င်းရှေ့မှ ဖြတ်သန်းသွားခြင်း ပိုင်လေသည် ၊ဘာမျှ အပြစ်မရှိချေ။

ဟောဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၁၄။

မဂ်ျမအ္ဗလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။

၁၈။ မတ်စ်အလဟ် ပြဿနာ။ အကြောင်းတစ်စုံတစ်ခုကြောင့် အကယ်၍ ကစ်ဗ်လဟ်ဘက်သို့ ခြေတစ်လှမ်း၏ တစ်ဝက်ခန့် တိုးသွား၏၊ သို့မဟုတ် နောက်သို့ ဆုတ်သွား၏၊ သို့သော်လည်း ရင်ဘတ်သည် ကစ်ဗ်လဟ်ဘက်မှ မလှည့်သော် နမာဇ်ပိုင်လေ၏၊ သို့ရာတွင် စစ်ဂျ်ဒဟ်ပြုသောနေရာမှ ရှေ့သို့တိုးသွားလျှင် နမာဇ်မမြောက်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၅၅။

နူရုလ်အီဆွာဟ်ကျမ်း စာမျက်နှာ-၆၉။



## နမာဇ်၌ မတ်က်ရူးဟ် ဖြစ်သော အရာများနှင့်
### တားမြစ်သော အရာများ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မတ်က်ရူးဟ် ဟူသည်ကား ၎င်းအားဖြင့် နမာဇ်ကို မပျက်စေနိုင်ပေ၊ သို့ရာတွင်(သဝါဗ်)အကျိုးလျော့နည်း၍ အပြစ်ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၆၇။

၂။ မတ်စ်အလဟ် ပြဿနာ။ မိမိအဝတ်အထည် သို့မဟုတ် ကိုယ်လက် သို့မဟုတ် လက်ဝတ်လက်စား ဘာယက်တန်ဆာတို့ဖြင့် ကစားခြင်း၊ ကျောက်စရစ်ခဲများကို ဖယ်ရှားခြင်း စသည်တို့သည် မတ်က်ရူးဟ်ဖြစ်၏၊ အကယ်၍ ကျောက်စရစ်ခဲများကြောင့် စစ်ဂျ်ဒဟ် မပြုနိုင်လျှင် လက်ဖြင့် တစ်ကြိမ်-နှစ်ကြိမ် ဖယ်ရှားပစ်ခြင်း ပိုင်၏။

ဟောဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈၊၁၂၀။

မဂ်ျမအ္ဗလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၃။

၃။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်တွင်း၌ လက်ချောင်းများကို ချိုးခြင်း၊ ခါးပေါ်လက်တင်ခြင်း၊ လက်ယာ-လက်ဝဲသို့ မျက်နှာလှည့်၍ ကြည့်ခြင်း အပေါင်းသည် မတ်က်ရူးဟ် ဖြစ်၏၊ သို့သော်.... မျက်စေ့ထောင့်ထိုး၍ ကြည့်ကာ ဇက်က မလှည့်မူ

ထိုကဲ့သို့ပြုခြင်း၊ မတ်က်ရှုးဟ်မဖြစ်သော်လည်း အလွန်အရေးမကြီးဘဲ ဤသို့ကြည့်ခြင်းသည် မကောင်းချေ။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၄၇။
ဟောဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၂။

၄။ မတ်စ်အလဟ်ပြဿနာ။ နမာဇ်၌ခြေနှစ်ချောင်းထောင်၍ထိုင်ခြင်း၊ သို့မဟုတ် တင်ပလ္လင်ခွေထိုင်ခြင်း၊ သို့မဟုတ် ခွေးကဲ့သို့ထိုင်ခြင်း၊ ဤအရာအပေါင်းသည် မတ်က်ရှုးဟ် ဖြစ်လေသည်။

ရောဂါဝေဒနာကြောင့် မည်သို့ထိုင်ရမည်ဟု အမိန့်ပညတ်ရှိသည့်အတိုင်း မထိုင် နိုင်လျှင်၊ ထိုင်နိုင်သလို ထိုင်၍ ဖတ်ရမည်၊ ထိုအချိန်တွင် တစ်စုံတစ်ရာ မတ်က်ရှုးဟ် မဖြစ်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၄။

၅။ မတ်စ်အလဟ်ပြဿနာ။ စလာမ်ကိုဂျဝါဗ်ပြန်ကြားရာ၌ လက်မြှောက်ခြင်း၊ လက်ဖြင့် စလာမ် ဂျဝါဗ် ပြန်ကြားခြင်းသည် မတ်က်ရှုးဟ် ဖြစ်လေသည်၊ အကယ်၍ နှုတ်လျှာဖြင့် ပြန်ကြားလျှင်မူ နမာဇ်ပျက်၏၊ အထက်တွင် ဖေါ်ပြခဲ့လေပြီ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၃။
မဂျ်မအွ အန်ဟရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၇၀။

၆။ မတ်စ်အလဟ်ပြဿာ။ နမာဇ်တွင်း၌ မိမိ၏အဝတ်ကို ဟိုမှ သည်မှ သိမ်း ခြင်း-ပြုပြင်ခြင်း၊မြေနှင့်ဖုံမှုန့်မလူးအောင် သိမ်းခြင်းတို့သည် မတ်က်ရှုးဟ်ဖြစ်၏။

ဟောဒါယဟ်ကျမ်း စာမျက်နှာ-၁၂၅။

၇။ မတ်စ်အလဟ်ပြဿနာ။ အကြင်နေရာ၌ နမာဇ်ဖတ်လျှင် နမာဇ်အတွင်း၌ ရယ်မောစရာတွေ့အံ့၊ သို့မဟုတ် အာရုံပြန့်လွင့်ခြင်းဖြစ်အံ့၊ နမာဇ်၌ မှားယွင်း ချွတ်ချော် ခြင်းဖြစ်အံ့၊ ထိုသို့သောနေရာမျိုး၌ နမာဇ်ဖတ်ခြင်း မတ်က်ရှုးဟ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆ဂ၄။

ဂ။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် ရှေ့၌ ထိုင်၍ စကားပြောနေသော်လည်းကောင်း၊ သို့မဟုတ် အခြားအလုပ်တစ်ခုခု လုပ်ကိုင်နေသော် လည်းကောင်း၊ ထိုသူ၏နောက်ဝယ် သူ၏ကျောဘက်သို့ မျက်နှာမူ၍ နမာဇ် ဖတ်ခြင်း မတ်က်ရှုးဟ် မဟုတ်ချေ၊ သို့ရာတွင် ထိုင်နေသော သူသည် ၎င်းအားဖြင့် ဒုက္ခရောက်မူ ၎င်းသူသည် ရပ်ဆိုင်းနေရမည်ကို စိုးရိမ်ရသော်လည်းကောင်း ဤသို့သော အခါမျိုး၌ မည်သူ၏နောက်ဝယ်မှ နမာဇ်ကို မဖတ်ပါလင့်။

သို့မဟုတ် စကားကို ကျယ်လောင်စွာပြောနေသဖြင့် နမာဇ်၌ မေ့လျော့သွားမည်ကိုစိုးရိမ်ရမှု ထိုသို့သောနေရာမျိုး၌ နမာဇ်မဖတ်သင့်ပေ၊ မတ်က်ရူးဟ်ဖြစ်လေသည်။ တစ်ဦးတစ်ယောက်သောသူ၏ မျက်နှာဘက်သို့ မျက်နှာလှည့်၍ နမာဇ် ဖတ်ခြင်းလည်း မတ်က်ရူးဟ် ဖြစ်လေသည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၁။
မဂ္ဂိမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၆။

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နမာဇ်ဖတ်သောသူ၏ ရှေ့မှောက်တွင် ကုရ်အာန်ကျမ်းတော်ကိုဖြစ်စေ၊ သို့မဟုတ် ဓါးလွယ်ကိုဖြစ်စေ ဆွဲထားမှု ဘာမျှ ကိစ္စမရှိချေ။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၁။
မဂ္ဂိမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၂။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကြင် အခင်းပေါ်၌ ရုပ်ပုံများ ပါရှိလျှင် ၎င်းအပေါ်မှာ နမာဇ်မြောက်၏၊ သို့ရာတွင်ရုပ်ပုံပေါ်၌ စစ်ဂျ်ဒဟ်မပြုရ၊ ရုပ်ပုံပါသော ဂျာနမာဇ်အခင်းများထားခြင်း မတ်က်ရူးဟ်ဖြစ်လေသည်၊ ထို့ပြင် ရုပ်ပုံများ အိမ်တွင်ထားခြင်းလည်း ကြီးသောအပြစ် ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၇။
မဂ္ဂိမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၂။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရုပ်ပုံသည် ခေါင်းပေါ်တွင် ဖြစ်မှုအလိုမှာ- ခေါင်မိုးပေါ်ကဖြစ်စေ၊ ထုပ်ရောက်တွင်အရုပ်ထွင်းထားသည်ဖြစ်စေ၊ သို့မဟုတ် လက်ယာဘက် လက်ဝဲဘက် တို့တွင် ရုပ်ပုံ ရှိသည် ဖြစ်စေ မတ်က်ရူးဟ် ဖြစ်လေသည်၊ အကယ်၍ ခြေထောက်၏ အောက်က ရှိမှု မတ်က်ရူးဟ် မဟုတ်ချေ။

သို့ရာတွင် အလွန်သေးငယ်သော အရုပ်ဖြစ်၍ မြေပေါ်တွင်ထားသော် ရုပ်လျက်မမြင်ရသော အရာဖြစ်မှုလည်းကောင်း၊ ပြည့်စုံသောအရုပ်မဟုတ်ဘဲ ခေါင်းပြတ်နေသောအရုပ်ဖြစ်မှု သို့မဟုတ် ခေါင်းပုံပျက်နေသော ရုပ်ပုံဖြစ်မှု ၎င်းတို့ကြောင့် ဘာမျှ အပြစ်မဖြစ်ချေ၊ ဤသို့သော ရုပ်ပုံများသည် မည်သို့ပင် ရှိနေစေကာမူ နမာဇ် မတ်က်ရူးဟ်မဖြစ်ချေ၊ မည်သည့်ဘက်တွင် ရှိနေစေကာမူ ဟူ၏။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၁။
မဂ္ဂိမအွလ်အန်ဟာရ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၁၂။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ရုပ်ပုံပါသော အဝတ်အထည်ကို ဝတ်ဆင်၍ နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၀၆။

၁၃။ မတ်စ်အလတ် ပြဿနာ။ တောပုံ၊ တောင်ပုံ၊ သစ်ပင်ပုံ၊ အဆောက်အအုံ တိုက်တာ အိမ်ယာပုံ စသည့် အသက်မပါသော အရာဝတ္ထုများ၏ ပန်းချီကားချပ်ပုံများ ပြုလုပ်ထားမှု မတ်က်ရူးဟ် မဟုတ်ချေ။

မဂ်ျမအ္ဂလ်အန်ဟရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၁၂။

၁၄။ မတ်စ်အလတ် ပြဿနာ။ နမာဇ်တွင်း၌ အာယတ်များကိုဖြစ်စေ၊ သို့မဟုတ် အခြားအရာ (တပ်စ်ဗီးဟ်) များကိုဖြစ်စေ လက်ချောင်းများဖြင့် ချိုး၍ ရေတွက်ခြင်း မတ်က်ရူးဟ် ဖြစ်ချလသည်၊ အကယ်၍ လက်ချောင်း များကို ဖိလျက် ရေတွက်လျှင် ဘာမျှ အပြစ်မရှိချေ။

မဂ်ျမအ္ဂလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၅။

၁၅။ မတ်အလတ် ပြဿနာ။ ဒုတိယ ရကအတ်ကို ပထမ ရကအတ်ထက် ပို၍ ရှည်ခြင်းသည် မတ်က်ရူးဟ်ဖြစ်၏။

ကဗီရီကျမ်း စာမျက်နှာ-၅၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆၆။

၁၆။ မတ်စ်အလတ်ပြဿနာ။ နမာဇ်တစ်ခုခု၌ စူရဟ်တစ်ခုခုကို သတ်မှတ်ထားခြင်း၊ အစဉ်အမြဲ ၎င်းစူရဟ်ကိုသာ ဖတ်ရွတ်၏၊ အခြားသောစူရဟ်များကို တရံတခါမျှ ဖတ်ရွတ်ခြင်းမပြုလျှင် ဤအရာသည် မတ်က်ရူးဟ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆၇။

၁၇။ မတ်စ်အလတ် ပြဿနာ။ ပခုံးပေါ်တွင် ပုဝါ တဘက် စသည် တို့ကို ဖါးယားချ၍ နမာဇ်ဖတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၆၇။

မဂ်ျမအ္ဂလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၂၄။

၁၈။ မတ်စ်အလတ် ပြဿနာ။ အလွန်ညစ်ပေသောအဝတ်ကို ဝတ်ဆင်၍ နမာဇ် ဖတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်၏၊ အကယ်၍ အခြား လဲလှယ်ရန် အဝတ် မရှိခဲ့သော် ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၀။

၁၉။ မတ်စ်အလတ် ပြဿနာ။ ပိုက်ဆံစေ့ ကြေးစေ့ စသည်ပစ္စည်းတစ်စုံတစ်ခုကို ပါးစပ်တွင်းငုံ၍နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ်ဖြစ်၏၊ အကယ်၍ နမာဇ်တွင်း၌ ကေရာအတ် စသည် မဖတ်နိုင်လောက်အောင် ငုံထားမှု နမာဇ်ပျက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၀။

၂၀။ မတ်စ်အလတ် ပြဿနာ။ မည်သည့်အခါ ကျင်ကြီး၊ ကျင်ငယ်သွားလိုဇော များနေလျှင် ဤသို့သောအချိန်တွင် နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၀။

၂၁။ မတ်စ်အလဟ်ပြဿနာ။ မည်သည့်အခါ အလွန် ဆာလောင်မွတ်သိပ်၍ ထမင်းအသင့်ချပြီးဖြစ်နေလျှင် ပထမ ထမင်းကိုစားလိုက်ရမည်၊ ထို့နောက်မှ နမာဇ်ကို ဖတ်ရမည်၊ ထမင်းမစားဘဲ နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ်ဖြစ်လေသည်၊ သို့သော် အချိန် အလွန်တိုတောင်းနေလျှင် ပထမ နမာဇ်ကို ဖတ်ရမည်။

ကဗီရီကျမ်း စာမျက်နှာ-၃၅၂။

၂၂။ မတ်စ်အလဟ် ပြဿနာ မျက်စိမှိတ်၍ နမာဇ် ဖတ်ခြင်းမှာ မသင့်ချေ၊ သို့ရာတွင် မျက်စိမှိတ်ဖတ်ခြား၌ နမာဇ်တွင် ကောင်းစွာစိတ်ပါဝင်စားမှုရှိခဲ့သော် မျက်စိမှိတ်ဖတ်ခြင်း၌ မည်သို့မျှ မကောင်းမဖြစ်ချေ။

ကဗီရီကျမ်း စာမျက်နှာ-၃၅၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇၄။

၂၃။ မတ်စ်အလဟ်ပြဿနာ။ အကြောင်းမဲ့ နမာဇ်တွင်း၌ တံတွေးထွေးခြင်း၊ နှာညှစ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်လေသည်၊ အကယ်၍ အကြောင်း ရှိခဲ့သော် ပိုင်၏၊ ဥပမာလူတစ်ဦး၌ ချောင်းဆိုး၍ ပါးစပ်ထည်း၌ သလိပ်ထွက်လာမူ မိမိလက်ဝဲဘက်သို့ ထွေးပစ်ရမည်၊ သို့မဟုတ် အဝတ်ဖြင့်ယူ၍သုတ်လိုက်ရမည်၊ လက်ယာဘက်နှင့် ကစ်ဗ်လဟ် ဘက်သို့ မထွေးရ။

ကဗီရီကျမ်း စာမျက်နှာ-၃၅၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၈၂။

၂၄။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်နေစဉ် ကြမ်းပိုးကိုက်ခဲ့သော် ၎င်းကို ဖမ်း၍ လွှင့်ပစ်ရမည်၊ နမာဇ် ဖတ်နေစဉ် သတ်ခြင်း မပြုသင့်၊ အကယ်၍ ကြမ်းပိုးက ကိုက်ခြင်းမပြုလျှင် ၎င်းကိုမဖမ်းနှင့်၊ မကိုက်ဘဲဖမ်းခြင်းသည် မတ်က်ရူးဟ်ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၈၂။

ဘဲဟ်ရ်ကျမ် အတွဲ-၁၊ စာမျက်နှာ-၃၁။

၂၅။ မတ်စ်အလဟ် ပြဿနာ။ ဖွရ်သွ် နမာဇ်၌ အကြောင်းမဲ့ တံတိုင်းအကာ စသော အရာတစ်ခုခုကို အမှီပြု၍ရပ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ—၁၁၀။

၂၆ မတ်စ်အလဟ် ပြဿနာ။ ယခုစူရဟ် မပြီးဆုံးသေးဘဲ ပါဒနှစ်လုံး-သုံးလုံး ကျန်နေစဉ် အလျှင်စလို ရိုကူအ် ကုန်းလိုက်၍ စူရဟ်ကို ရိုကူအ်တွင် သွား၍အဆုံးသတ်မူ နမာဇ်သည် မတ်က်ရူးဟ် ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၆။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၀။

၂၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ စစ်ဂျဒဟ်ပြုသောနေရာသည် ခြေချသော နေရာထက် မြင့်လျှင်၊ ဥပမာ.... တံခါးခုံပေါ်တွင် စစ်ဂျဒဟ်ပြုသော် အဘယ်မျှ

မြင့်သနည်းဟု ကြည့်ရမည်၊ အကယ်၍ တစ်ထွာထက် ပိုမြင့်လျှင် နမာဇ် မပိုင်ချေ၊ အကယ်၍ တစ်ထွာ သို့မဟုတ် တစ်ထွာထက်နိမ့်လျှင် နမာဇ်ပိုင်၏၊ သို့ရာတွင် အကြောင်းမဲ့ ဤသို့ပြုခြင်းသည် မတော်ရှူးဟ် ဖြစ်လေသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၉၆။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၇။



# နမာဇ်ကို ဖျက်ပစ်နိုင်သော အကြောင်းခံများ

## အကြောင်း။

၁။ မတ်စ်အလဟ် ပြဿနာ။ ။နမာဇ်ဖတ်နေစဉ် မီးရထားထွက်နေမှု ထိုအပေါ်တွင် မိမိကုန်ပစ္စည်းများ ပါရှိ၍ဖြစ်စေ၊ သို့မဟုတ် မိမိ၏သားသမီး စီးနင်းပါရှိ၍ဖြစ်စေ နမာဇ်ကိုဖျက်၍ မီးရထားပေါ် တက်ထိုင်ခြင်းပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၈။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ရှေ့ ဇယ်မှ မြွေလာနေသဖြင့် ၎င်းကိုကြောက်၍ နမာဇ်ကိုဖျက်ခြင်း ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၇။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ညအချိန်ကြက်လွှတ်နေ၍ ကြောင်က ကြက်အနီး၌ရောက်နေသဖြင့် ကြောင်ခုတ်မည်ကို စိုးရိမ်ရလျှင် နမာဇ်ကိုဖျက်ခြင်း ပိုင်၏။

အာလမ်ဂီရီကျမ်း စာမျက်နှာ-၁၀၇။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁၄။

၄။ မတ်စ်အလဟ် ပြဿနာ။ ။နမာဇ်၌ တစ်စုံတစ်ယောက်သောသူသည် ဖိနပ်ကိုလာယူ၏ အကယ်၍ နမာဇ်မဖျက်လျှင် ယူ၍ထွက်ပြေးလိမ့်မည်ကို စိုးရိမ်ရလျှင် ထိုသူအဖို့ နမာဇ်ဖျက်ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၇။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁၄။

၅။ မတ်စ်အလဟပ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သူသည် နမာဇ်ဖတ်နေစဉ် ထမင်းအိုးဆူဝေ၏ သူ၏တန်ဖိုးသည် သုံးပဲ လေးပဲ (၂၀....၂၅ ပြားခန့်) တန်လျှင် နမာဇ်ကိုဖျက်၍ ထမင်းငှဲခြင်းပိုင်၏။

အချုပ်မှာ တန်ဖိုး သုံးပဲ လေးပဲခန့် တန်သော တစ်စုံတစ်ခုသောပစ္စည်း ဆုံးရှုံးပျက်ဆီးမည်ဆိုက ၎င်းပစ္စည်းကို ကာကွယ် ထိန်းသိမ်းရန်အတွက် နမာဇ်ကို ဖျက်ခြင်း ပိုင်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၈။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၁၄။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ နမာဇ်တွင်း၌ ကျင်ကြီး ကျင်ငယ် သွားရန် ပြင်းထန်လာမူ နမာဇ်ကိုဖျက်၍ စွန့်လွှတ်သန့်ရှင်းမှုပြီးမှ ပြန်ဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၈၄။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ မျက်စိမမြင်သော ယောကျ်ားဖြစ်စေ မိန်းမဖြစ်စေ လမ်းသွားနေရာ ၎င်း၏ရှေ့၌ ရေတွင်းဖြစ်စေ ကျင်းချိုင့်ဖြစ်စေရှိ၍ လိမ့်ကျမည်ကို စိုးရိမ်ရသော် ၎င်းသူကို ကာကွယ်ပေးရန် နမာဇ်ကိုဖျက်ခြင်း (ဖွရ်သွ) ဖြစ်လေသည်၊ အကယ်၍ မဖျက်လျှင် ထိုသူလိမ့်ကျ၍ သေခဲ့သော် အပြစ်ရှိသူဖြစ်အံ့။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၈၅၊ ၇၄၄။

၈။ မတ်စ်အလဟ် ပြဿနာ။ ။ ကလေးသူငယ် တစ်ဦးတစ်ယောက်၏ အင်္ကျီ အစတ်တွင် မီးစွဲလောင်နေလျှင် ထိုမီးကို ကာကွယ်ရန်အတွက်လည်း နမာဇ်ကို ဖျက်ခြင်း ဖွရ်သွ ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၈၅၊ ၇၄၄။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ မိခင်၊ ဖခင်၊ အဘိုး၊ အဘွားတို့သည် တစ်စုံတစ်ခုသော ဘေးဥပဒ်တွေ့နေသဖြင့် ခေါ်ပါလျှင် ဖွရ်သွ နမာဇ်ကို ဖျက်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ ဥပမာ လူတစ်ဦး၏ အမေဖြစ်စေ၊ အဖေဖြစ်စေ နာမကျန်းဖြစ်၍ အိမ်သာစသည် တစ်စုံတစ်ရာ ကိစ္စဖြင့်သွားရာ သွားယင်းလာယင်း ခြေချော်လဲခဲ့သော် နမာဇ်ကိုဖျက်၍ ၎င်းကို ထူမ ပွေ့ယူရမည်၊ သို့ရာတွင် အခြား ထူမပေးမည့်သူ ရှိနေလျှင် အကြောင်းမဲ့ နမာဇ်ကို မဖျက်ရ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄၄။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ ယခုချော်လဲခြင်း ထိုင်လဲခြင်း မဖြစ်သေးသော်လည်း လဲလိမ့်မည်ဟု စိုးရိမ်ရ၍ ၎င်းတို့က အော်ခေါ်မူ ထိုအခါ၌လည်း နမာဇ်ကို ဖျက်လိုက်ရ၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄၄။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ အကြောင်း တစ်စုံတစ်ရာရှိ၍ ခေါ်ခြင်းမဟုတ်ဘဲ ရိုးရိုးခေါ်ခြင်းဖြစ်မူ ဖွရ်သွ် နမာဇ်ကို ဖျက်ခြင်း မပိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄၄။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ နဖ်လ် သို့မဟုတ် စွန္နတ် နမာဇ်ကို ဖတ်နေရာ ထိုအချိန်တွင် မိဘ, ဘိုးဘွား စသည်တို့က အော်ဟစ်ခေါ်၍ သို့ရာတွင် ဤခေါ်နေသူက မည်သူ မည်ဝါသည် နမာဇ် ဖတ်နေကြောင်းမသိမူ ဤသို့သောအချိန်၌ လည်း နမာဇ်ကိုဖျက်၍ ၎င်းတို့၏စကားကို ပြန်ကြားခြင်းသည် ဝါဂျစ်ဗ် ဖြစ်လေသည် အကြောင်းအားဥပဒ် ကစ်စုံတစ်ခုရှိ၍ဖြစ်စေ မရှိဘဲဖြစ်စေ အော်ခေါ်လျှင် ပြန်ကြားခြင်း တစ်မိန့်တည်းဖြစ်၏၊ အကယ်၍ နမာဇ်ကိုမဖျက်၍ မပြန်ကြားဘဲနေလျှင် အပြစ်ဖြစ်အံ့။

အကယ်၍ နမာဇ်ဖတ်နေကြောင်းကို ၎င်းတို့သိပါလျက် အော်ခေါ်မူ နမာဇ်ကို မဖျက်ရ၊ သို့ရာတွင် တစ်စုံတစ်ရာ အရေးကြီးသဖြင့်ခေါ်မူ ၎င်းတို့၌ ဒုက္ခဖြစ်မည်ဟု စိုးရိမ်ရသော် နမာဇ်ကိုဖျက်ရမည်၊ နမာဇ်ဖျက်နိုင်ခွင့်ရသော အမိန့်များမှာ နမာဇ်ချိန် ရှိသေးသည်ဖြစ်စေ မရှိတော့သည်ဖြစ်စေ ဖျက်ပစ်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄၄။

## ဝစ်တ်ရ် နမာဇ်၏ အကြောင်း။

၁။ မတ်စ်အလဟ် ပြဿနာ။ ။ ဝစ်တ်ရ် နမာဇ်သည် ဝါဂျစ်ဗ်ဖြစ်၏၊ ဝါဂျစ်ဗ်၏ အဆင့်အတန်းသည် ဖွရ်သွ်နှင့် နီးကပ်လျက်ရှိလေသည်၊ စွန့်လွှတ်လျှင် ကြီးသောအပြစ် ဖြစ်လေသည်။

အကယ်၍ တစ်ရံတစ်ခါ လွှတ်သွားမူ ရသည့်အချိန်တွင် ချက်ချင်း ၎င်း၏ကသွာ ကို ဖတ်ရွတ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။
မဂ်မအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ ဝစ်တ်ရ်မှာ သုံးရကအတ်ရှိလေသည်၊ နှစ်ရက အတ်ဖတ်၍ထိုင်ပြီး အတ္တဟီယာတ်ဖတ်ပြီးလျှင် ဒရူးဒ်ကို လုံးဝမဖတ်ဘဲ ချက်ချင်းထရမည်၊ အလ်ဟမ်နှင့် အခြား စူရဟ်ကိုဖတ်ပြီး (အလ္လာဟို့၊အတ်က်ဗရ်) ဆိုလျက် လက်နှစ်ဘက် မြောက်ကာ လက်ပြန်ပိုက်ရမည်၊ ထို့နောက် (ဒိုအာကိုနူးတ်) ဖတ်၍ ရိုကူအ် ကုန်းရမည်၊ တတိယ ရကအတ် ဖတ်ပြီးထိုင်လျှင် အတ္တဟီယာတ်နှင့် ဒရူးဒ် ရှရီးဖ် ဒိုအာများဖတ်၍ စလာမ်လှည့်ရမည်။

နူရုလ်အီသွာဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀။
ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ဒိုအာကိုနူးတ် ဟူသည်ကား....

اَللّٰهُمَّ اِنَّا نَسْتَعِيْنُكَ وَنَسْتَغْفِرُكَ وَنُؤْمِنُ بِكَ
وَنَتَوَكَّلُ عَلَيْكَ وَنُثْنِيْ عَلَيْكَ الْخَيْرَ وَنَشْكُرُكَ
وَلَا نَكْفُرُكَ وَنَخْلَعُ وَنَتْرُكُ مَنْ يَّفْجُرُكَ
اَللّٰهُمَّ اِيَّاكَ نَعْبُدُ وَلَكَ نُصَلِّيْ وَنَسْجُدُ وَاِلَيْكَ
نَسْعٰى وَنَحْفِدُ وَنَرْجُوْا رَحْمَتَكَ وَنَخْشٰى عَذَابَكَ
اِنَّ عَذَابَكَ بِالْكُفَّارِ مُلْحِقٌ

ဒိုအာ 'ကိုနူးတ်' အဓိပ္ပါယ်....

အို....အလ္လာဟ်အသျှင်မြတ် မုချကေန် ကျွန်တော်မျိုးတို့သည် ကိုယ်တော်အသျှင့် ထံတော်၌သာလျှင် အကူအညီများ တောင်းခံကြပါ၏၊ ၎င်း ကိုယ်တော်အသျှင့် ထံတော်သို့ အပြစ်ငရဲမှ လွတ်မြောက်ရန် ချမ်းသာခွင့် တောင်းကြပါ၏၊ ၎င်းပြင် ကိုယ်တော်အသျှင့်ကိုသာလျှင် အီမာန်စွဲယူ ယုံကြည်ကြပါ၏၊ ၎င်းပြင် ကိုယ်တော် အသျှင့်အပေါ်၌သာ ကိုးစားအားထားကြပါ၏၊ ၎င်းပြင် ကိုယ်တော်အသျှင်၏ မြင့်မြတ်တော်မူခြင်းကို ချီးမွမ်းဧာပနာ ပြုကြပါ၏၊ ၎င်းပြင် ကိုယ်တော်အသျှင်၏ ကျေးဇူးတော်ကို တ,သ သိတိရကြပါ၏၊ ၎င်းပြင် ကိုယ်တော်အသျှင်၏ ကျေးဇူး တော်များကို ငြင်းဆန် ပုန်ကန်ခြင်း မပြုကြပါ၊ ၎င်းပြင် ကိုယ်တော်အသျှင်၏ အမိန့် တော်ကို ငြင်းဆန် သွေဖီသူများအား ရှောင်ကြဉ်ကြပါ၏၊ အို....အလ္လာဟ်အသျှင်မြတ် ကျွန် တော် မျိုး တို့ သည် ကိုယ် တော် အသျှင့်ကို သာလျှင် ကိုးကွယ်ဆည်းကပ်ပါ၏၊ ၎င်းနောက် ကိုယ်တော် အသျှင့်အဖို့သာလျှင် နမာဇ် ဝတ်ပြုကြပါ၏၊ ၎င်းနောက်

စစ်ဂျဒဟ်ဦးချကြပါ၏၊ ၎င်းပြင် ကျွန်တော်မျိုးတို့သည် ကိုယ်တော်အသျှင့်ဘက်တော်သို့ အပြေးအလွှား ကြိုးပမ်းလျှက်ရှိကြပါ၏။

၎င်းပြင် ကိုယ်တော်အသျှင်၏ ရပ်မတ်မဟာကရုဏာတော်ကို မျှော်ကိုးအားထား လျက်ရှိကြပါ၏၊ ၎င်းပြင် ကိုယ်တော်အသျှင်ပေးတော်မူမည့်အပြစ်ဒဏ်များကိုကြောက်ရွံ့ ကြပါ၏၊ မုချကေန် ကိုယ်တော်အသျှင်၏ အပြစ်ဒဏ်များသည် ကာဖွင်ရ်များအပေါ် ၌သာ သက်ရောက်မည်ဖြစ်ပါသတည်း။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ဝစ်တ်ရ်၏ သုံးရကအတ်စလုံးတွင် အလ်ဟမ်၏ နောက် စူရဟ်ဆက်တွဲရမည်၊ အထက်တွင် ပြဆိုခဲ့သည့်အတိုင်း ဖြစ်လေသည်။

ကဗီရီကျမ်း စာမျက်နှာ-၄၀၂။
ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၂၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တတိယရကအတ်တွင် ဒိုအာကိုနူတ် ဖတ်ရန် မေ့လျော့သွား၍ ရိုကူအ် ညွတ်ကုန်းခြင်းပြုမိမှ သတိရလျှင် ယခု ဖတ်ရန်မလို တော့ချေ၊ နမာဇ်ပြီးဆုံးခါနီးတွင် စစ်ဂျဒဟ်စဟ်ဝ်ပြုရမည်၊ အကယ်၍ရိုကူအ်ကိုလွှတ်၍ ပြန်ရပ်ပြီး ဒိုအာကိုနူတ်ကိုဖတ်လျှင်လည်း နမာဇ်ဖြစ်မြောက်သွား၏၊ သို့ရာတွင်ဤသို့ပြုလုပ် ရန်မထိုက်ချေ၊ ၎င်းပြင် ထိုသို့ဖတ်သော်လည်း စစ်ဂျဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၀။

၆။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ မေ့လျော့ပြီး ပထမသို့မဟုတ်ဒုတိယ ရကအတ်၌ ဒိုအာကိုနူတ်ဖတ်မိလျှင် ၎င်းသည် အတည်မဖြစ်ချေ၊ တတိယ ရကအတ်တွင် ထပ်၍ဖတ်ရမည်၊ ၎င်းပြင် စစ်ဂျဒဟ်စဟ်ဝ်လည်း ပြုရဦးမည်။

ကဗီရီကျမ်း စာမျက်နှာ-၄၀၂။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၀။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ဒိုအာကိုနူတ် နှုတ်ငုံမရသောသူများအဖို့ ဤ ဒိုအာကို ဖတ်ရမည်။

رَبَّنَآ اٰتِنَا فِى الدُّنْيَا حَسَنَةً وَّفِى الْاٰخِرَةِ حَسَنَةً وَّقِنَا عَذَابَ النَّارِ

(ရဗ်ဗနာ၊အာတေ့နာ၊ဖွစ်ဒ်ဒွန်ယာ၊ ဟာစနတန်ဝ် ၀ဖွင်လ်အာခေ့ရတေ့၊ ဟာစန တန်ဝ် ၀ကေ့နာ အသာဗန်နာရ်)

သို့မဟုတ် ....

اَللّٰهُمَّ اغْفِرْ لِيْ

(အလ္လာဟွမ်၊ မဂ်ဖွင်ရ်လီ)ဟု သုံးကြိမ်ဆိုရမည်။ သို့မဟုတ်....

يَا رَبِّ يَا رَبِّ يَا رَبِّ

(ယာရဗ်ဗေ့)ဟု သုံးကြိမ်ဆိုရမည်၊ နမာဇ် အထမြောက်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၉၇။

မဂ်ျမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၉။



## စွန္နတ် နှင့် နဖိလ် နမာဇ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ဖွဂ်ျရ်ချိန်တွင် (ဖွရ်သွ်)၏အလျင် နမာဇ် နှစ်ရကအတ်ဖတ်ခြင်း စွန္နတ်ဖြစ်လေသည်၊ ဟဒီးသ်ဩ၀ါဒတော်တွင် ၎င်း နမာဇ်အတွက် လေးနက်စွာ တိုက်တွန်းချက်ရှိလေသည်၊ မည်သည့်အခါမျှ၎င်းနမာဇ်ကိုမလွှတ်သင့်ပေ။ အကယ်၍ တစ်ရက်တလေနောက်ကျနေသဖြင့် နမာဇ်ချိန်ကုန်ဆုံးရန် နီးကပ်နေသော် မလွဲမရှောင်သာသဖြင့် ဖွရ်သွ်နှစ်ရကအတ်တည်းသာလျှင် ဖတ်လိုက်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၅။

မဂ်ျမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀၊ ၁၃၁။

၂။ မတ်စ်အလဟ်ပြဿနာ။ ။ဇွဟ်ရ်ချိန်တွင် ပထမ လေးရကအတ် စွန္နတ်ဖတ်ရမည်၊ ထို့နောက် လေးရကအတ်ဖွရ်သွ်၊ ထို့နောက် နှစ်ရကအတ်စွန္နတ်၊ ဇွဟ်ရ်ချိန်၏ ဤ(၆)ရကအတ်တို့သည် အရေးကြီးလေသည်၊ ၎င်းတို့ကိုဖတ်ရန် လေးနက်စွာတိုက်တွန်းထားလေသည်။ အကြောင်းမဲ့စွန့်လွှတ်လျှင် အပြစ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၇၀၄။

မဂ်ျမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀၊ ၁၃၁။

၃။ မတ်စ်အလဟ်ပြဿနာ။ ။အတ်စ္ဂရ်ချိန်တွင် ပထမ လေးရကအတ် စွန္နတ်မွတ်စ်တဟဗ် ဖတ်ရမည်၊ ထို့နောက် လေးရကအတ် ဖွရ်သွ် ဖတ်ရမည်၊ သို့ရာတွင် အတ်စ္ဂရ်၏စွန္နတ်များမှာ တိုက်တွန်းချက်မရှိ မဖတ်လျှင်လည်း မည်သည့်အပြစ်မှမရှိချေ၊ အကြင်သူဖတ်လျှင် များစွာအကျိုးရရှိလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၄။
မဂျ်မအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀၊ ၁၃၁။

၄။ မတ်စ်အလဟ်ပြဿနာ။ ။မဂ်ရစ်ဗ်ချိန်တွင် ပထမ သုံးရကအတ် ဖွရ်သွ် ဖတ်ရမည်၊ ထို့နောက် နှစ်ရကအတ် စွန္နတ်ဖတ်ရမည်၊ ဤစွန္နတ်မှာ အရေးကြီးသည် မဖတ်လျှင် အပြစ်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၄။
မဂျ်မအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀၊ ၁၃၁။

၅။ မတ်စ်အလဟ်ပြဿနာ။ ။အေရှာအ်ချိန်တွင်သာမြတ်၍ မွတ်စ်တဟဗ်ဖြစ်သည်မှာ ပထမ လေးရကအတ် စွန္နတ်ဖတ်ရမည်၊ ထို့နောက် လေးရကအတ် ဖွရ်သွ်၊ ထို့နောက် နှစ်ရကအတ် စွန္နတ်ဖတ်ရမည်၊ ထို့နောက်ဖတ်လိုလျှင် နှစ်ရကအတ် နဖိလ်ကိုလည်းဖတ်ရမည်၊ ဤတွက်နည်းဖြင့် အေရှာအ်တွင် စွန္နတ်ခြောက်ရကအတ်ဖြစ်လေသည် အကယ်၍ အကြင်သူသည် ဤမျှခန့်မဖတ်လိုသော် ပထမ လေးရကအတ် ဖွရ်သွ်ဖတ်၍ ထို့နောက် နှစ်ရကအတ်စွန္နတ်ဖတ်ရမည်၊ ထို့နောက် ဝစ်တ်ရ်ဖတ်ရမည်၊ အေရှာအ်၏နောက် ဤနှစ်ရကအတ်သည် ဖတ်ရန်အရေးကြီးလေသည်၊ မဖတ်လျှင်အပြစ်ရှိသူဖြစ်အံ့။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၄။

၆။ မတ်စ်အလဟ်ပြဿနာ။ ။ရမဒ္ဒာန်လ၌ တရာဝီးဟ် နမာဇ် သည်လည်း စွန္နတ်ဖြစ်လေသည်၊ ၎င်းကိုဖတ်ရန်လေးနက်စွာ တိုက်တွန်းထားလေသည်၊ စွန့်လွှတ်ခြင်း မဖတ်ဘဲနေခြင်းသည် အပြစ်ဖြစ်၏၊ မိန်းမများသည် တရာဝီးဟ်နမာဇ်ကို အများအားဖြင့် မဖတ်ဘဲစွန့်လွှတ်ထားကြလေသည်၊ ဤသို့မပြုသင့်ကြပေ။

အေရှာအ်၏ ဖွရ်သွ် နှင့် စွန္နတ် ဖတ်ပြီးနောက် တရာဝီးဟ်နမာဇ် ရကအတ်ပေါင်း ၂၀-ဖတ်ရမည်၊ နှစ်ရကအတ်စီ နိယတ်ပြုလိုကပြုနိုင်၍ လေးရကအတ်စီ နိယတ်ပြုကလည်းပြုနိုင်လေသည်၊ သို့သော် နှစ်ရကအတ်တစ်ကြိမ်နိယတ်ပြုခြင်းသည် သာ၍ကောင်း၏။

ရကအတ်ပေါင်း-၂၀ ဖတ်ပြီးသော် ဝစ်တ်ရ်နမာဇ်ကိုဖတ်ရမည်၊ အကျိုးကျေးဇူးအကြင်စွန္နတ်များကို ဖတ်ရန် အရေးကြီးလေရာ ဤစွန္နတ်များကို (စွန္နတေ မို့အတ်ကဒဟ်)ဟု ခေါ်လေသည်၊ တစ်နေ့နှင့် တစ်ညတွင် ဤသို့သော စွန္နတ်များ ၁၂-ခုရှိလေသည်၊ ဖဂျ်ရ်တွင်-၂၊ ဇွဟ်ရ်၏အလျင်တွင်-၄၊ ဇွဟ်ရ်၏နောက်တွင်-၂၊ မဂ်ရစ်ဗ် ၏ နောက် တွင်- ၂၊ အေရှာအ် ၏ နောက်တွင်- ၂၊ ပေါင်း -၁၂- ဖြစ်၏၊

ရမည့်အခါနှင့်သည့် တရာဝီးဟ်သည်စွန္နတ်ဖြစ်၏၊ တချို့သောအာလင်မ်များက (တဟတ်ဂျ္ဒ်) ကိုလည်း (စွန္နတ်မို့အတ်ကဒဟ်)တွင် ထည့်သွင်းရေတွက်ကြလေသည်။

ဒွရ်ရေ့မွစ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၆။

မဂ်ါမအွလ်အန်ဟရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၃၂။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ဤမျှခန့်သော နမာဇ်များကို (ရှရီအတ်)တရား တော်တွင် သတ်မှတ်ထား၏၊ အကယ်၍ ထို့ထက်ပို၍ မည်သူမဆို ဖတ်လိုက်လျှင် အလို ရှိသလောက် ပိုမိုဖတ်နိုင်သည်၊ ဖတ်လိုသော အချိန်တွင် ဖတ်နိုင်သည်၊ မတ်ကရူးဟ် ဖြစ်သော အချိန်ကိုသာလျှင် မဖတ်ရန် သတိပြုရမည်၊ ဖွရ်သွ်နှင့် စွန္နတ်မှတပါး ဖတ် ရွတ်သော နမာဇ်များကို (နဖ်လ်)ဟူ၍ ခေါ်လေသည်၊ နဖ်လ်ကို များစွာဖတ်ရွတ်သော် ထိုမျှခန့်ပင် (သဝါဗ်) အကျိုးများစွာ ရရှိအံ့၊ ၎င်းနဖ်လ်၌ အကန့်အသတ် မရှိချေ၊ အချို့သော အသျှင်မြတ်၏ ဗန္ဒဟ်များသည် တစ်ညလုံး နဖ်လ်များကို ဖတ်ရွတ်လျက် လုံးဝအိပ်စက်ခြင်း မပြုကြပေ။ နွရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၃၀။

ရာဗေ့အဟ်ဗစ္စရီယဟ်(ရဟော့)သခင်မသည် တစ်ညလုံး အေဗာဒတ် ပြုနေတော် မူပေသည်၊ သခင်မကမိန့်သည်မှာ.... ကဗရ်၌ အိပ်နေရမည့် သူများသည် ညတွင်အိပ်ကြ သည်မှာ အံ့စရာဖြစ်သည်။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အချို့သော နဖ်လ်များ၏ သဝါဗ် အကျိုးမှာ အလွန်များပြားလေသည်၊ ထို့အတွက်ကြောင့် နဖ်လ်များကိုဖတ်မည့်အစား ၎င်းတို့ကို ဖတ်ခြင်းသည် သာပိုကောင်းလေသည်၊ အနည်းငယ် ကြိုးပမ်းရုံဖြင့် များပြားသော အကျိုးရရှိနိုင်လေသည်၊ ၎င်း နဖ်လ်များကား (တဟိယတွလ်ဝိုသွူ)၊ (အစ်ရှ်ရာက်)၊ (ကျားရှ်တ်၊ အောက်ဝါဗီးန်၊ တဟတ်ဂျ္ဒ်၊ ဆွလာတွတ်-တတ်စ်ဗီးဟ်)တို့ ဖြစ်လေသည်။

မဂ်ါမအွလ်အန်ဟရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၁။

၉။ မတ်စ်အလဟ် ပြဿနာ။ ။တဟိယတွလ်ဝိုသွူဟူသည်ကား....ဝိုသွူပြုသော အခါ ဝိုသွူ၏နောက်မှ နှစ်ရကအတ် နဖ်လ်ဖတ်ခြင်းကိုခေါ်လေသည်၊ ဟဒီးသ်တော်၌ ၎င်း၏အကျိုးကို များစွာဖေါ်ပြလေသည်၊ သို့ရာတွင် နဖ်လ်နမာဇ်ဖတ်ခြင်း၊ မတ်ကရူးဟ် ဖြစ်သောအချိန်တွင် မဖတ်ရ။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁၃။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အစ်ရှ်ရာက်နမာဇ်ဖတ်နည်းမှာ မည်သည့်အခါ ဖွဂျ်ရ်နမာဇ်ဖတ်ရွတ်ပြီးလေသော် နမာဇ်ဖတ်သောနေရာမှမထဘဲ ထိုနေရာတွင်ပင်ထိုင်နေ လျှက် ဒရူးဒ်၊ ကလေမဟ်၊ ဝဇ္ဇီဖွဟ် စသည်များကို ဖတ်ရွတ်လျက် အလ္လာဟ်အသျှင်မြတ် အား တ,သ သတိရနေရမည်၊ လောကီစကား တစ်စုံတစ်ရာကိုမပြောရ၊ လောကီအလုပ် ကိုလည်းမလုပ်ရ၊ နေလုံးပေါ်ထွက်လာ၍ မြင့်တက်လာကာ (ထန်းတဖျားခန့်) ရှိသော် နှစ်ရကအတ်ဖြစ်စေ၊ လေးရကအတ်ဖြစ်စေ ဖတ်ရမည်၊ ဟဂျ်တစ်ကြိမ်နှင့် အွမ္မရဟ်တစ် ကြိမ်ပြုသော အကျိုးကိုရရှိအံ့။

အကယ်၍ ဖွဂျ်ရ်နမာဇ်၏နောက် လောကီအလုပ်ကိစ္စ၌ ဝင်ရောက်လုပ်ကိုင်ပြီး နောက် နေလုံးမြင့်လာမှ 'အစ်ရှ်ရာက်' နမာဇ် ဖတ်လျှင်လည်းပိုင်၏၊ သို့ရာတွင် အကျိုး လျော့နည်းသည်။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ထို့နောက် နေလုံးသည် ကောင်းစွာမြင့်တက်လာ၍ နေပူရှိန်ပြင်းထန်လာသောအခါ အနည်းဆုံး နှစ်ရကအတ်ဖတ်ရမည်၊ သို့မဟုတ် ထို့ထက်ပို၍ဖတ်ရမည်၊ လေးရကအတ်၊ သို့မဟုတ် ရှစ်ရကအတ်၊ သို့မဟုတ် တဆယ်နှစ်ရကအတ်ဖတ်ရမည်၊ ၎င်းနမာဇ်ကို (သိုဟာ)ဟူ၍လည်းကောင်း၊ (ကျွားရှ်တ်)ဟူ၍လည်းကောင်း ခေါ်လေသည်၊ ၎င်း၏အကျိုးလွန်းများလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၄။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။မဂ်ရစ်ဗ်ဖွရ်သွ်နှင့်စွန္နတ်၏နောက်အနည်းဆုံး ခြောက်ရကအတ် အများဆုံး ရကအတ်နှစ်ဆယ်ဖတ်ရမည်၊ ၎င်းနမာဇ်ကို (အောက်ဝါဗိန်)ဟု ခေါ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၃။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ညဉ့်တဝက် သန်းခေါင်အချိန်တွင်ထ၍နမာဇ် ဖတ်ခြင်းသည် ကြီးသောအကျိုးရရှိလေသည်၊ ၎င်းနမာဇ်ကို (တဟတ်ဂျွဒ်)ဟုခေါ်လေသည်၊ ဤနမာဇ်သည် အသျှင်မြတ်ထံတော်တွင် များစွာနှစ်သက် လက်ခံတော်မူ၏၊ ၎င်းနမာဇ်သည် အားလုံးသော နမာဇ်ထက် ပိုမိုသော အကျိုးကုသိုလ် ရရှိလေသည်၊ တဟတ်ဂျွဒ်သည် အနည်းဆုံး လေးရကအတ်၊ အများဆုံး တဆယ်နှစ်ရကအတ် ဖြစ်လေသည်၊ မတတ်နိုင်လျှင် နှစ်ရကအတ်ပင်ဖြစ်သော်လည်းဖတ်နိုင်၏၊ အကယ်၍ညဉ့်နက်သန်းခေါင်တွင်မထနိုင်လျှင် အေရှာအ်နောက်တွင်ဖတ်ရမည်၊ သို့သော် ထိုကဲ့သို့အကျိုးရရှိမည်မဟုတ်၊ ၎င်းနမာဇ်များအပြင်လည်း နေ့ရောညဉ့်ပါ အလိုရှိသမျှ နဖွ်လ်နမာဇ်များကို ဖတ်နိုင်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၅။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။ ( စွလာတွတ်တပ်စ်ဗီးဟ် ) သည် ဟဒီးသ်တော်၌ ကြီးသောအကျိုး ရရှိကြောင်းလာရှိ၏၊ ၎င်းကိုဖတ်ခြင်းအားဖြင့် ရေတွက်မဆုံးသော အကျိုးသဝါဗ်များ ရရှိနိုင်လေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က

မိမိ၏ဘကြီးတော် ဟသ္ဇရတ် အဗ်ဗားစ် (ရသွေ့) သခင်အား ဤနမာဇ်ကို သင်ကြား ပြတော်မူခဲ့လေသည်၊ ၎င်းပြင် မိန့်တော်မူသည်မှာ ၎င်းနမာဇ်ကို ဖတ်ရွတ်လျှင် သင်၏ အကုသိုလ်အပေါင်း ရှေ့ဖြစ်နှောင်းဖြစ် အသစ်အဟောင်း အကြီးအသေး အားလုံးသော အပြစ်ဂိုနာဟ်များ ခွင့်လွှတ်ချမ်းသာရအံ့ဟူ၏၊ ထို့ပြင် မိန့်တော်မူသည်မှာ အကယ်၍ တတ်နိုင်လျှင် နေ့စဉ်နေ့တိုင်း ဤနမာဇ်ကိုဖတ်လော့၊ နေ့စဉ်မဖတ်နိုင်လျှင် ရက်သတ္တပတ် တွင် တစ်ကြိမ်ဖတ်လော့၊ အကယ်၍(၇)ရက်တစ်ကြိမ်မျှ မဖတ်နိုင်လျှင် တစ်လတစ်ကြိမ် ဖတ်လော့၊ တစ်လတစ်ကြိမ်မျှလည်းမဖတ်နိုင်သော် တနှစ်တစ်ကြိမ်ဖတ်ရမည်၊ ဤမျှပင် မဖတ်နိုင်သေးလျှင် တစ်သက်တွင် တစ်ကြိမ်ခန့် ဖတ်ရမည်။

စွလာတွတ် တတ်စ်ဗီးဟ် ဖတ်နည်းကား....

လေးရကအတ်နမာဇ် နိယတ်ပြုရမည်၊ ထို့နောက်(သနာ)အဒူသို့(ဗစ်မစ်လ္လာဟ်) (အလ်ဟမ်)(စူရဟ်) အားလုံးဖတ်ပြီးနောက် ရိုကူအ် မကုန်းမီအလျှင့် ဤ(တတ်စ်ဗီးဟ်) ကို (၁၅)ကြိမ် ဖတ်ရမည်။

سُبْحَانَ اللّٰهِ وَالْحَمْدُ لِلّٰهِ وَلَا إِلٰهَ إِلَّا اللّٰهُ وَاللّٰهُ أَكْبَرُ

(စွဗ်ဟာနလ္လာဟေ့ ဝလ်ဟမ်ဒိုလစ်လ္လာဟေ့ ဝလာအေ့လာဟာ၊ အစ်လလ္လာဟို၊ ဝလ္လာဟို၊ အတ်က်ဗရ်။)

ထို့နောက် ရိုကူအ် ကုန်းရမည်၊ (စွဗ်ဟာန၊ရဗ်ဗေ့ယလ်၊အဇွီးမ်)ဆိုပြီးနောက် ဆယ်ကြိမ်ထပ်၍ ဤတတ်စ်ဗီးဟ်ကိုပင် ဆိုရမည်၊ ထို့နောက် ရိုကူအ်မှ ထ,သော အခါ (စမေ့အလ္လာဟို၊ လေ့မန်၊ ဟမေ့ဒဟ်)ဆိုပြီးနောက် ထပ်၍ ၎င်းတတ်စ်ဗီးကို ဆယ်ကြိမ် ဖတ်ရမည်၊ ထို့နောက် စစ်ဂျဒဟ်ပြုရမည်၊ (စွဗ်ဟာန၊ ရဗ်ဗေ့ယလ်၊ အအ်လာ)ဆိုပြီး နောက် တဖန် ၎င်းတတ်စ်ဗီးဟ်ကို ဆယ်ကြိမ် ဖတ်ရမည်၊ ထို့နောက် စစ်ဂျဒဟ်မှ ခေါင်းကြွပြီး ဆယ်ကြိမ်ဆိုရမည်၊ ထို့နောက် ဒုတိယစစ်ဂျဒဟ်ပြုရမည်၊ ထိုအခါလည်း စွဗ်ဟာန၊ရဗ်ဗေ့ယလ်၊အအ်လာ၏နောက်ဆယ်ကြိမ်ဆိုရမည်၊ ထို့နောက် စစ်ဂျဒဟ်မှကြွ၍ ထိုင်ရမည်၊ ဆယ်ကြိမ်ဖတ်ဆို၍ ဒုတိယရကအတ်အတွက် ရပ်ရမည်၊ ဤနည်းဖြင့် ဒုတိယ ရကအတ်ကို ဖတ်ရမည်၊ ဒုတိယ ရကအတ်တွင် အတ္တဟီယာတ် ဖတ်ရန် ထိုင်သောအခါ

ပထမဂုင်းတတ်စ်ဗီးဟ်ကို ဆယ်ကြိမ်ဖတ်ရမည်၊ ထို့နောက်မှ အတ္တဟီယာတ်ကိုဖတ်ရမည်၊ ဤနည်းဖြင့် လေးရကအတ်အထိဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၀။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။ထိုလေးရကအတ်တွင် အလိုရှိသော စူရဟ်ကို ဖတ်နိုင်သည်၊ မည်သည့်စူရဟ်ကိုမျှ သတ်မှတ်ထားခြင်းမရှိချေ။

## [ကဏ္ဍ]

၁။ မတ်စ်အလဟ် ပြဿနာ။ ။နေ့အချိန်တွင် နဖ္ဖ်လ်နမာဇ်များဖတ်လျှင် နှစ်ရကအတ်စီဖြစ်စေ၊ လေးရကအတ်စီဖြစ်စေ နိယတ်ချည်ရမည်၊ နေ့တွင် လေးရကအတ်ထက် ပို၍ နိယတ်ချည်ခြင်း မတ်ကရူးဟ်ဖြစ်လေသည်။

ညအချိန်တွင် တစ်ခါတည်းတွင် ခြောက်ရကအတ်စီဖြစ်စေ၊ ရှစ်ရကအတ်စီဖြစ်စေ၊ နိယတ်ချည်ခြင်းပိုင်၏၊ ထိုထက်ပို၍နိယတ်ချည်ခြင်းသည် ညအချိန်၌လည်း မတ်ကရူးဟ်ဖြစ်၏။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ လေးရကအတ် နိယတ်ချည်၍ လေးရကအတ်စလုံးဖတ်လိုမူ မည်သည့်အခါ နှစ်ရကအတ်ဖတ်၍ထိုင်လျှင် ထိုအချိန်၌ အတ္တဟီယာတ်၏နောက် ဒရူးဒ်နှင့် ဒိုအာကိုလည်းဖတ်၍ ထို့နောက်စလာမ်မလှည့်ဘဲ မတ်ဘတ်ရပ်ရမည်၊ ထို့နောက် တတိယရကအတ်၌ (စွဗ်ဟာန၊ကလ္လာဟွန်မ်မ)ကိုဖတ်၍ (အအူသို) (ဗစ်မစ်လ္လာဟ်)ဖတ်ပြီး အလ်ဟမ်စူရဟ်ကိုအစပြုရမည်၊ တနည်းဖတ်လိုက အတ္တဟီယာတ် တစ်ခုတည်းသာဖတ်၍မတ်တတ်ရပ်ရမည်၊ ဒုတိယရကအတ်၌ ဗစ်မစ်လ္လာဟ်နှင့်အလ်ဟမ်ဒ့်မှ အစပြုရမည်၊ ထို့နောက် စတုတ္ထရကအတ်တွင် ထိုင်လျက်အတ္တဟီယာတ် အစရှိသည်တို့ကို အားလုံးဖတ်ရွတ်၍ စလာမ်လှည့်ရမည်။

အကယ်၍ ရှစ်ရကအတ်၏နိယတ်ချည်၍ ရှစ်ရကအတ်စလုံးကို စလာမ်တခါတည်းဖြင့်အပြီးဖတ်လိုမူ ဤနည်းပင် နှစ်မျိုးစလုံး ဖတ်နိုင်လေသည်၊ အတ္တဟီယာတ် ဒရူးဒ် ဒိုအာများကို ဖတ်၍ မတ်တဘ်ရပ်ရမည်၊ ထို့နောက် (စွဗ်ဟာန၊ကလ္လာဟွန်မ်မ)က စ၍ ဖတ်ရမည်၊ အလိုရှိလျှင် အတ္တဟီယာတ်ဖတ်၍ ပြန်ရပ်ပြီး (ဗစ်မစ်လ္လာဟ်) နှင့် အလ်ဟမ်စူရဟ်မှ အစပြု၍ ဤနည်းပင် ဆဋ္ဌမ ရကအတ်တွင် ထိုင်သောအခါ၌လည်း အလိုရှိလျှင် အတ္တဟီယာတ် ဒရူးဒ် ဒိုအာ အားလုံးဖတ်၍ ပြန်ရပ်ပြီး တဖန်(စွဗ်ဟာန၊ကလ္လာဟွန်မ်မ)ဖတ်ရမည်၊ အတ္တဟီယာတ်တစ်ခုတည်းကိုသာဖတ်၍ ပြန်ရပ်ပြီးလျှင်(ဗစ်မစ်လ္လာဟ်)

နှင့် အလ်ဟမ်စူရဟ်မှ အစပြုရမည်၊ အဠမ ရကအတ်တွင်ထိုင်လျက် အားလုံးကိုဖတ်၍ စလာမ်လှည့်ရမည်၊ ဤနည်းပင် နှစ်ရကအတ်တိုင်းတွင် ထိုအချက်နှစ်ခုကို ကြိုက်သလို ဖတ်နိုင်လေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၇၄၆။

၃။ မတ်စ်အလဟ်ပြဿနာ။ ။စွန္နတ်နှင့်နဖ်လ် နမာဇ်များ၏ အားလုံးသော ရကအတ်များ၌ အလ်ဟမ်စူရဟ်နှင့်တကွ အခြားစူရဟ်ကို ဆက်တွဲခြင်း ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ တမင်တကာ စူရဟ်မဆွဲဘဲဖတ်မှု အပြစ်ဖြစ်အံ့၊ အကယ်၍မေ့လျော့ ခြင်းဖြစ်မူ စစ်ဂျဒဟ်စဟ်ဝ် ပြုရမည်ဖြစ်လေသည်၊ (စစ်ဂျဒဟ်စဟ်ဝ်၏အကြောင်း ရှေ့တွင်ဖေါ်ပြမည်။) ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ။နဖ္ဖ်လ်နမာဇ်ကိုဖတ်ရန်နိယတ်ပြုလိုက်လျှင် ယခု ၎င်းကို တာဝန်ချရန် ဝါဂျစ်ဗ်ဖြစ်လေပြီ၊ အကယ်၍ ဖျက်ပစ်လိုက်မူအပြစ်ရှိသူဖြစ်အံ့၊ ဖျက်ပစ်လိုက်သော နမာဇ်ကိုလည်း ကဿွာဖတ်ရမည်ဖြစ်လေသည်။

သို့ရာတွင် နဖ္ဖ်လ်၏ နှစ်ရကအတ်တိုင်းသည် သီးခြားဖြစ်လေသည်၊ အကယ်၍ လေးရကအတ်၊ သို့မဟုတ် ခြောက်ရကအတ်နိယတ်ချည်မူ နှစ်ရကအတ်သာလျှင် ဖတ်ရန် ဝါဂျစ်ဗ်ဖြစ်လေသည်၊ လေးရကအတ်ဖတ်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊သို့ရှိရာအကယ်၍ အကြင်သူသည် လေးရကအတ်၏ နိယတ်ပြု၏၊ ထို့နောက် နှစ်ရကအတ်ဖတ်၍ စလာမ် လှည့်လိုက်သော် မည်သို့မျှအပြစ်မဖြစ်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၁။

၅။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူသည် နဖ္ဖ်လ်လေးရကအတ်၏ နိယတ် ချည်၏၊ ယခု နှစ်ရကအတ် ဖတ်၍မပြည့်မီ နမာဇ်ကို ဖျက်လိုက်သော် နှစ်ရကအတ်၏ ကဿွာသာလျှင်ဖတ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၃။

၆။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ လေးရကအတ်၏နိယတ်ချည်၏၊ နှစ် ရကအတ်ဖတ်ပြီးသောအခါ တတိယနှင့်စတုတ္ထတွင်းမှာ နိယတ်ဖျက်လိုက်သော် အကယ် ၍ ဒုတိယ ရကအတ်တွင်ထိုင်၍ သူသည် အတ္တဟီယာတ် အစရှိသည်တို့ကို ဖတ်ခဲ့လျှင်

နှစ်ရကအတိတ်၏ ကသွာသာလျှင် ဖတ်ရတော့မည်၊ အကယ်၍ ဒုတိယ ရကအတ်တွင် မထိုင်ဘဲ အတ္တဟီယာတ်မဖတ်ဘဲ ငဲမ့လျော့၍ မတ်တတ်ရပ်မိသော်လည်းကောင်း၊ သို့မဟုတ် တမင်သက်သက် ရပ်ခဲ့သော်လည်းကောင်း ထိုအခါ၌ လေးရကအတ်အပြည့် 'ကသွာ' ဖတ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၁။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ ဇွုဟ်ရ်၏ စွန္နတ်လေးရကအတ် နီယတ်သည့်အကယ်၍ ပျက်သွားပါမူ လေးရကအတ် ပြည့်စုံစွာပြန်၍ ဖတ်ရမည်၊ နှစ်ရကအတ်တွင်ထိုင်၍ အတ္တဟီယာတ် ဖတ်သည်ဖြစ်စေ၊ မဖတ်သည်ဖြစ်စေဟူ၏။ မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၅

၈။ မတ်စ်အလဟ် ပြဿနာ။ ။ နဖ္ဖ်လ်နမာဇ်ကို ထိုင်၍ ဖတ်ခြင်းသည်လည်း ပိုင်၏သို့ရာတွင်ထိုင်၍ဖတ်ခြင်း၌အကျိုးသဝါဗ်တဝက်မျှသာရရှိမည်ဖြစ်၍ ရပ်ပြီးဖတ်ခြင်း ကပိုမိုကောင်းလေသည်၊ ဤအဆိုတွင် ဝစ်ဘ်ရ်၏နောက် နဖ္ဖ်လ်လည်း ပါဝင်လေသည်။

သို့သော်နေထိုင်မကောင်း၍မကျန်းမာ၍ မရပ်နိုင်သော် ပြည့်စုံသောသဝါဗ်ရရှိအံ့ ၎င်းပြင် ဖွရ်သွ်၊ ဝါဂျစ်ဗ် နမာဇ်နှင့် စွန္နတ် နမာဇ်များကို တစ်စုံတစ်ရာ မစွမ်းနိုင်သော အကြောင်းခံမရှိဘဲ ထိုင်၍ဖတ်ခြင်း မပိုင်ချေ။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၈။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ နဖ္ဖ်လ် နမာဇ်ကို ထိုင်လျက်အစပြု၍ နောက်ပိုင်း၌ထ၍ ဖတ်လျှင်လည်းပိုင်၏။ မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ။ နဖ္ဖ်လ်နမာဇ်ကိုရပ်လျက်အစပြု၏၊ ထို့နောက် ပထမ ရကအတ်တွင်ဖြစ်စေ ဒုတိယ ရကအတ်တွင်ဖြစ်စေ ထိုင်၍ဖတ်မူ ဤသို့လည်းပိုင်၏။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ နဖ္ဖ်လ် နမာဇ်ကို ရပ်လျက်ဖတ်နေ၏၊ သို့ရာတွင် အားအင်နည်းပါးသဖြင့် ညောင်းညာလာလျှင် တုတ်ရှည်ဖြစ်စေ၊ တံတိုင်းကိုဖြစ်စေ မှီ၍ရပ်ပြီး ဖတ်ခြင်းလည်းပိုင်၏၊ မတ်က်ရူးဟ် မဟုတ်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃။

# အစ်တေခါရဟ်၏ နမာဇ် အကြောင်း။

အစ်တေခါရဟ်ဆိုသည်မှာ ရှရီအတ် တရားတော်နှင့် လျော်ညီစွာ ကြံအစည် အလိုဆန္ဒ ထမြောက်အောင်မြင်စေရန် ရည်ရွယ်၍ အသီဉာဏ် အလိမ္မာ အလိုအလျောက် ပေါ်လာစေခြင်းငှာ ဖတ်နေသောနမာဇ်ကို ခေါ်ဆိုလေသည်။

အကယ်၍ အကြောင်းတစ်ခုခုကြောင့် နမာဇ်မဖတ်နိုင်လျှင် ဥပမာ....ခရီးထွက်ရန် အရေးကြီးနေသည် သို့မဟုတ် ဟိုက်သွ်၊ နေဖွားစ်ကြောင့်ဖြစ်မူ ဒိုအာပင်တောင်း၍ အလုပ်စကြရမည်။

၁။ မတ်စ်အလဟ် ပြဿနာ။ ။ မည်သည့်အလုပ်ကိစ္စ တစ်ခုခုကိုပြုလုပ်ရန် ရည်သန်လျှင် (အလ္လာဟ်) အသျှင်မြတ်ထံတော်တွင် တိုင်တည်ရမည်၊ ယင်းသို့တိုင်တည်လျှောက်

ထားခြင်းကို (အစ်တေခါရဟ်)ဟုခေါ်၏၊ ဟဒီးသ်တော်၌ ၎င်း၏ နှိုးဆော်တိုက်တွန်းချက် များစွာလာရှိ၏၊ တမန်တော်မြတ် မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်တော်မူသည်မှာ....အလ္လာဟ်အသျှင်မြတ်ထံတော်တွင် တိုင်တည်ခြင်း၊ အကြံဉာဏ်တောင်းခံခြင်းကို မပြုသူသည် 'တတ်က်ဒီးရ်' ဆိုးသူ ဖြစ်လေသည်။

မင်္ဂလာစကား ကြောင်းလမ်းသော်လည်းကောင်း လက်ထပ်မှုပြုသော်လည်းကောင်း ခရီးထွက်သော်လည်းကောင်း အခြားအလုပ်အကိုင် တစ်စုံတစ်ခု စတင်ပြုလုပ်တော့မည့်အချိန်များတွင်လည်းကောင်း (အစ်တေခါရဟ်)မပြုဘဲ မလုပ်သင့်ပေ၊(အင်ရှာအလ္လာဟ်တအာလာ) ဘယ်သောအခါမျှ မိမိလုပ်ကိုင်သောကိစ္စ၌ စိတ်ရှုတ်ခြင်း မဖြစ်နိုင်ပေ။

ရှာမိကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၁၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ အစ်တေခါရဟ် နမာဇ်ဖတ်နည်းကား ဤသို့ဖြစ်သည်၊ ပထမ 'နှစ်ရကအတ်' နဖွိလ် ဖတ်ရမည်၊ ထို့နောက် စိတ်အာရုံ ကောင်းစွာစိုက်၍ ဤဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ اِنِّىْ اَسْتَخِيْرُكَ بِعِلْمِكَ وَاَسْتَقْدِرُكَ

بِقُدْرَتِكَ وَاَسْئَلُكَ مِنْ فَضْلِكَ الْعَظِيْمِ فَاِنَّكَ

تَقْدِرُ وَلَا اَقْدِرُ وَتَعْلَمُ وَلَا اَعْلَمُ وَاَنْتَ عَلَّامُ

الْغُيُوْبِ اَللّٰهُمَّ اِنْ كُنْتَ تَعْلَمُ اَنَّ هٰذَا الْاَمْرَ . . . . .

خَيْرٌ لِّىْ فِىْ دِيْنِىْ وَمَعَاشِىْ وَعَاقِبَةِ اَمْرِىْ

فَقَدِّرْهُ لِىْ وَيَسِّرْهُ لِىْ ثُمَّ بَارِكْ لِىْ فِيْهِ وَاِنْ

كُنْتَ تَعْلَمُ اَنَّ هٰذَا الْاَمْرَ . . . . . شَرٌّ لِّىْ فِىْ دِيْنِىْ

وَمَعَاشِىْ وَعَاقِبَةِ اَمْرِىْ فَاصْرِفْهُ عَنِّىْ

وَاصْرِفْنِىْ عَنْهُ وَاقْدُرْ لِىَ الْخَيْرَ حَيْثُ كَانَ

ثُمَّ اَرْضِنِىْ بِهٖ

(အလ္လာဟုန်မ၊ အင်နီ၊ အတ်စ်တခီရို့က၊ ဗေ့အင်လ်မေ့က၊ ဝအတ်စ်တပ်က်ဒေ့ရို့က၊ ဗေ့ကွဒ်ရတေ့က၊ ဝအတ်စ်အလို့က၊ မင်နဖွသွင်လေ့ကလ်၊ အဇွီမေ့၊ ဖွအင်န်နက၊ တပ်က်ဒေ့ရို့၊ ဝလာအွတ်က်ဒေ့ရို့၊ ဝတအ်လမို့။ ဝလာအအ်လမို့၊ ဝအန်တ၊ အလ္လာမွလ်ဂိုယူဗေ့၊ အလ္လာဟွန်မ်မ၊ အင်န်ကွန်ထ၊ တအ်လမို့အန်န၊ ဟာသလ်အမ်ရ--၊ခိုင်ရွလ်လီ၊ဖွီဒီနီ၊ဝမအာရှိ၊ဝအာကေ့ဗတေ့၊အမ်ရီ၊ဖွကတ်ဒေရ်ဟို့လီဝယတ်စစ်ရ်ဟို့လီ၊ သွမ်မ၊ ဗာရစ်က်လီဖွီဟေ့၊ ဝအင်န်၊ကွန်တ၊ တအ်လမို့၊အန်န၊ဟာသလ်အမ်ရ....၊ရှရ်ရွလ္လီ၊ဖွီဒီနီ၊ ဝမအာရှိ၊ဝအာကေ့ဗတေ့အမ်ရီ၊ဖွာစွ်ရစ်ဖ်ဟို၊အန်နီ၊ဝပ်စွ်ရစ်ဖ်နီ၊အန်ဟို၊ဝအတ်က်ဒေရ်၊လေယလ်ခိုင်ရ၊ဟိုင်သို၊ကာန၊သွမ်မရ်သွေနီဗေ့ဟီ။)

မည်သည့်အခါ (ဟာသလ်အမ်ရ) သို့ရောက်လျှင် ၎င်းကို ဖတ်သောအခါ မိမိကြံရွယ်လိုလားသောကိစ္စကို အာရုံပြုရမည်။

ထို့နောက် သန့်ရှင်းစင်ကြယ်သော အိပ်ရာပေါ်တွင် 'ကစ်ဗ်လဟ်' ဘက်သို့ မျက်နှာမူလျက် ဝိုသွူဖြင့် အိပ်စက်ရမည်၊ အိပ်ပြီးပြန်ထသောအခါ စိတ်တွင်း၌ ခိုင်မြဲစွာ ပေါ်ပေါက်လာသော်အရာသည် အကောင်းဆုံး ဖြစ်လေသည်၊ ထိုအတိုင်း လုပ်ဆောင်ရမည်။

အကယ်၍ အိပ်မက်၌အဖြူ ၎င်း အစိမ်းမြင်လျှင် ဤအလုပ်သည် ကောင်းသည်၊ လုပ်ရန်သင့်သည်ဟူ၍ ဖြစ်ပေသည်၊ အကယ်၍ အနက် ၎င်းအနီမြင်လျှင် မလုပ်သင့်ဟူ၍ ဖြစ်ပေသည်။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ တစ်ဂျက်ထည်းဖြင့် တစ်စုံတစ်ရာ ထူးခြားမှုမရှိသော် စိတ်၌ ရှုတ်ထွေးမှု သံသယရှိနေသေးသော် ဒုတိယနေ့တွင် တဖန်ဤသို့ပင် ဖတ်ရမည်၊ ဤနည်းဖြင့် ခုနှစ်ရက်တိတိ ဖတ်ရမည်၊ (အင်န်ရှာအလ္လာဟ်ိုတအာလာ်) အသျှင်မြတ်၏ အလိုတော်ဖြင့် မုချပင် ထိုအလုပ်၏ အဆိုးအကောင်း နှစ်ရပ်ကို ခွဲခြားသိရပါလိမ့်မည်။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ ဟဂျ်ပြုရန်အတွက် သွားရန်ဖြစ်မှု သွားသင့် မသွားသင့် အပေါ်၌ ဤအစ်တေခါရဟ်ကို မပြုလုပ်သင့်ပေ၊ သာမက အဘယ်နေ့တွင် သွားရမည် မသွားရမည်ကို အစ်တေခါရဟ် ပြုလုပ်ရမည်။

ရှာမီကျမ်း၊ အတွဲ-၁၊ စာမျက်နှာ-၇၁၇။

## တောင်ဗဟ် နမာဇ်၏ အကြောင်း။

၁။ မတ်စ်အလဟာ် ပြဿနာ။ ။အကယ်၍ ရှရီအတ် တရားတော်နှင့် ဆန့်ကျင်ကွဲလွဲသော အလုပ်ကိစ္စတစ်ခုခုကို ပြုလုပ်မိလျှင် နဖ္လ်နမာဇ် နှစ်ရကအတ်ဖတ်၍ အလ္လာဟ် အသျှင်မြတ်ထံ အလွန်ကြောက်ရွံ့ ရိုကျိုးခြင်းဖြင့် ငိုယိုကာ တောင်းပန် ဝန်ချခြင်း (တောင်ဗဟ်) ပြုရမည်၊ မိမိပြုလုပ်မိသော ပြစ်မှုအပေါ်တွင် နောင်တ သံဝေဂ ရပြီးလျှင် အသျှင်မြတ်ထံတော်၌ ခွင့်လွှတ်တော်မူရန် တောင်းပန်ရမည်၊ အနာဂတ် ကာလအဖို့

လည်း ဘယ်တော့မှ ဤအမှုကို မပြုလုပ်တော့ပါဟု သန္နိဋ္ဌာန် ချမှတ်လိုက်ရမည်၊ ယင်းသို့ နောင်းပန်ဝန်ချလျှင် “အသျှင်မြတ်သည် “မိမိအားအနားတော်ဖြင့်” အပြစ်ကို ) ခွင့်လွှတ် ချမ်းသာ ပေးတော်မူပေမည်။

# ကသွာ နမာဇ်များ ဖတ်ရန် အကြောင်း။

၁။ မတ်စ်အလဟ် ပြဿနာ။ ။ အကြင်သူသည် မည်သည့် နမာဇ်ပင်ဖြစ်စေ ပျက်ကွက်ခဲ့သော် သတိရလျှင် ရခြင်းပင် ချက်ချင်း ၎င်း၏အစား (ကသွာ) ဖတ်ရမည်၊ အကြောင်းတစ်စုံတစ်ရာမရှိဘဲ ‘ကသွာ’ ဖတ်ခြင်းကို ဆိုင်းငံ့ခြင်းသည် အပြစ်ဖြစ်၏။

သို့ရှိရာ အကြင်သူသည် နမာဇ်ကို ကသွာဖြစ်သွားရာ ထိုသူသည် ချက်ချင်း ၎င်း၏ ကသွာကိုမဖတ်ဘဲ တခြားအချိန် သို့မဟုတ် အခြားရက်သို့ ရွှေ့ပြောင်း၍ မည်သည့်နေ့မှ ဖတ်မည်ဟု ဆိုင်းငံ့နေစဉ် ထိုနေ့ထိုရက်မတိုင်မီ ရုတ်တရက် သေဆုံးသွားမူ အပြစ်နှစ်ဆ ရရှိအံ့၊ တစ်ခုမှာ နမာဇ်ကို ‘ကသွာ’ဖြစ်သောအပြစ်၊ အခြားတစ်ခုမှာ ချက်ချင်း‘ကသွာ’ ကို မဖတ်သောအပြစ် ဖြစ်၏။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ တစ်ဦးတစ်ယောက်သောသူ၌ များစွာသော နမာဇ်များ ကသွာဖြစ်ခဲ့သော် အတတ်နိုင်ဆုံး လျင်မြန်စွာဖြင့် အားလုံးသော ‘ကသွာ’များကို ဖတ်ရမည်၊ ဖြစ်နိုင်လျှင် ကြိုးစား၍ တချိန်တည်းတွင် အားလုံးသော ‘ကသွာ’များကို ဖတ်လိုက်ရမည်။

ဇုဟ်ရ်၏ ကသွာကို ဇုဟ်ရ်အချိန်ကျမှဖတ်ရန် အတ်စွ်ရ်၏ ကသွာကို အတ်စွ်ရ်ချိန် ကျမှ ဖတ်ရန်မလိုအပ်ပေ။

အကယ်၍ များစွာသောနမာဇ်များသည် လပေါင်းများစွာ နှစ်ပေါင်းများစွာက ‘ကသွာ’တင်ရှိခဲ့သော် ၎င်းကသွာများကိုလည်း အတတ်နိုင်ဆုံး လျင်မြန်စွာ ပြုကြရမည်၊ တစ်ချိန်တစ်ချိန်လျှင်ကသွာနမာဇ် နှစ်ကြိမ်ကျဖြစ်စေ လေးကြိမ်ကျဖြစ်စေ ဖတ်သွားရမည် အကယ်၍ တစ်စုံတစ်ခုသော မစွမ်းဆောင်နိုင်မှုကြောင့်ဖြစ်ခဲ့သော် တစ်ချိန်တွင် ကသွာ နမာဇ် တစ်ကြိမ်စီဖတ်သွားရမည်၊ ဤကားအလွန်နိမ့်သော အဆင့်အတန်းဖြစ်ပေလသည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ ကသွာ ဖတ်ရန်အတွက် မည်သည့်အချိန်ကိုမျှ သတ်မှတ်ထားခြင်းမရှိ၊ အားလပ်သောအချိန်တွင် ဝိုသွူပြု၍ ဖတ်လိုက်ရမည်၊ သို့သော် လည်း မတ်ကရူးဟ်ချိန်မဖြစ်ရန် သတိပြုရမည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆၅။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ အကြင်သူတွင် နမာဇ် တစ်ကြိမ်သာလျှင် ကသွာ ဖြစ်ခဲ့၏၊ ၎င်း၏အလျှင် မည်သည့်နမာဇ်မျှ ကသွာမဖြစ်ခဲ့သောလည်းကောင်း၊ သို့မဟုတ် ဤအလျှင်က နမာဇ်ကသွာတော့ဖြစ်ခဲ့၏ သို့ရာတွင် အားလုံးသော ကသွာများကို ဖတ်ပြီး၍ ထိုကသွာ တစ်ခုတည်းသာ ဖတ်ရန်ကျန်မူ ပထမ ၎င်း၏ကသွာကို ဖတ်ရမည်၊ ထို့နောက်မှ (အဒါအချိန်) နမာဇ်ကို ဖတ်ရမည်။

အကယ်၍ ကဿာနမာဇ် မဖတ်သေးဘဲ(အဒါနမာဇ်)ကိုဖတ်လျှင် (အဒါနမာဇ်) မပိုင်၊ ကဿာကိုဖတ်ပြီးမှ အဒါကိုဖတ်ရမည်။

အကယ်၍ ကဿာဖတ်ရန် သတိမရဘဲ လုံး၀မေ့လျော့နေမှု အဒါနမာဇ်သည် ပိုင်သွားလေသည်၊ သတိရလာသောအခါတွင် ကဿာကို ဖတ်ရမည်၊ အဒါကို ထပ်ဖတ်ရန် မလိုတော့ချေ။ ဒုရ်ရေ့မုခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၅၉။

၅။ မတ်စ်အလဲလ်ဟ် ပြဿနာ။ အချိန် အလွန်ကျပ်တည်းသည်၊ အကယ်၍ ပထမ ကဿာကိုဖတ်နေက အဒါနမာဇ်အချိန် ကျန်မည်မဟုတ်သော်၊ ပထမအဒါကိုဖတ်၍ ထို့နောက်မှ ကဿာကိုဖတ်ရမည်၊ အဒါမှာ ဖွန်သွိ နှင့် ၀ါဂျစ်ဗ်နမာဇ်ကို ဆိုလိုသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၉။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နမာဇ် ၂-ကြိမ်၊ ၃-ကြိမ်၊ ၄-ကြိမ်၊ ၅-ကြိမ် ကဿာဖြစ်၍၊ ထိုနမာဇ်များမှအပ ထိုသူ၏အပေါ်တွင် မည်သည့်နမာဇ်၏ကဿာ မျှမကျန်ခဲ့သော် အဓိပ္ပါယ်မှာ–တစ်သက်လုံးတွင်အပျိုဘော်၀င်သည့်အချိန်မှစ၍ တရံတခါ ပင် မည်သည့်နမာဇ်မျှ ကဿာမဖြစ်ခဲ့သော်သည်းကောင်း၊ သို့မဟုတ် ကဿာတော့ဖြစ်၏၊ သို့ရာတွင် အားလုံးသော ကဿာများကိုဖတ်ပြီးခဲ့သော် ထို၅-ကြိမ်သော ကဿာနမာဇ်များကို မဖတ်သေးသမျှကာလပတ်လုံး အဒါနမာဇ်ဖတ်ခြင်းမပိုင်ချေ။

မည်သည့်အခါ ထိုကဿာ ၅-ကြိမ်ကို ဖတ်မူ ဤသို့ဖတ်ရမည်၊ အကြင် နမာဇ်သည် အားလုံးထက်အဦးဆုံးလွတ်ခဲ့အံ့၊ ထိုနမာဇ်၏ကဿာကို ပထမဖတ်ရမည်၊ ထို့နောက် ၎င်း၏နောက်နမာဇ်၊ ထို့နောက် အစဉ်လိုက် ၅-ကြိမ်စလုံးအတွက် ကဿာဖတ်ရမည်။

ဥပမာ....လူတစ်ဦးသည် တနေ့တိတိ နမာဇ်များကို မဖတ်ခဲ့ချေ၊ ဖွဂျ်ရ်၊ ဇွဟ်ရ်၊ အတ်စွ်ရ်၊ မဂ်ရစ်ဗ်၊ အေရှာအ် ဤ၅-ကြိမ်စလုံးလွတ်ခဲ့မူ ပထမ ဖွဂျ်ရ်၏ကဿာကိုဖတ်ရမည်၊ ထို့နောက် အစဉ်လိုက် အေရှာအ်အထိဖတ်သွားရမည်၊ အကယ်၍ ပထမဖွဂျ်ရ်၏ကဿာကိုမဖတ်ဘဲ ဇွဟ်ရ်ကိုဖတ်၏၊ သို့မဟုတ် အတ်စွ်ရ်ကိုဖတ်၏၊ ဤသို့ အစဉ်မတွဲဘဲဖတ်လျှင် မည်သည့်နမာဇ်မျှ မပိုင်ချေ၊ အားလုံးပြန်ဖတ်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၇။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ လူတစ်ဦးသည် နမာဇ် ၆-ကြိမ် ကဿာဖြစ်ခဲ့သော် ယခု၎င်း၏ကဿာများကို မဖတ်ဘဲလည်း အဒါနမာဇ်ဖတ်ခြင်း ပိုင်၏၊ ထိုကဿာနမာဇ် ၆-ကြိမ်ကို ဖတ်သော အခါ ပထမဆုံး ကဿာ ဖြစ်ခဲ့သော နမာဇ်မှ စတင်၍ဖတ်ခြင်း ၀ါဂျစ်ဗ် မဟုတ်တော့ချေ၊ သာမက ရှေ့နောက်ဖတ်လိုရာဖတ်နိုင်သည်၊ ယခုအစီအစဉ်အတိုင်းဖတ်ရန် ၀ါဂျစ်ဗ် မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၈။

၈။ မတ်စ်အလဟ် ပြဿနာ။ နှစ်လ-သုံးလ, သို့မဟုတ် နှစ်နှစ်-သုံးနှစ်, ကြာက လူတစ်ဦးတွင် နမာဇ် ၆-ကြိမ်၊ သို့မဟုတ် ထိုထက်များစွာ ကဿာဖြစ်ခဲ့၏၊ ယခုအထိ ၎င်း ကဿာများကို မဖတ်ဖြစ်သေး၊ သို့ရာတွင် ထို့နောက်ပိုင်း၌ အမြဲအစဉ် ၅-ကြိမ်ဖတ်လျက်

ရှိ၏၊ တရံတခါမျှ ကသ္ဒာမဖြစ်ခဲ့၊ အတန်ကြာပြီးမှ တဖန်နမာဇ်တစ်ကြိမ် ကသ္ဒာဖြစ်သွားသော် ထိုအခါ၌လည်း ကသ္ဒာများနေသည့်အတွက် ထိုကသ္ဒာကို မဖတ်သေးဘဲ 'အဒါ' နမာဇ်ကိုဖတ်လျှင်ပိုင်၏၊ အစီအစဉ်အတိုင်းဖတ်ခြင်း ဝါဂျစ်ဗ်မဟုတ်ပေ။

ဟေဒါယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၈။

၉။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူ၌ နမာဇ် ၆-ကြိမ်၊ သို့မဟုတ် များစွာသော နမာဇ်များ ကသ္ဒာဖြစ်ခဲ့၏၊ ထို့အတွက်ကြောင့် အစီအစဉ်ဖြင့်ဖတ်ခြင်း ထိုသူ၏အပေါ်၌ဝါဂျစ်ဗ်မဟုတ်ချေ၊ သို့ရာတွင် ထိုသူသည် တစ်ခုချင်း-နှစ်ခုချင်းခွဲ၍ အားလုံးသော ကသ္ဒာများကိုဖတ်လိုက်၏၊ ယခု မည်သည့်နမာဇ်မျှ ကသ္ဒာဖတ်ရန်မကျန်တော့လျှင် ယခုတဖန် နမာဇ်တစ်ကြိမ်ဖြစ်စေ၊ ငါးကြိမ်ဖြစ်စေ ကသ္ဒာဖြစ်ပြန်မူ အစီအစဉ်ဖြင့် ဖတ်ရမည်၊ ထိုကသ္ဒာ ၅-ကြိမ်ကို မဖတ်သေးဘဲ အဒါနမာဇ်ကိုဖတ်လျှင်မပိုင်ချေ၊ သို့ပေမယ့် ယခုတဖန် နမာဇ် ၆-ကြိမ် လွတ်ပြန်သော် အစီအစဉ်ကိုခွင့်လွှတ်ပြန်လေသည်၊ ထိုကသ္ဒာ ၆-ကြိမ်ကို မဖတ်သေးဘဲ အဒါနမာဇ် ဖတ်ခြင်းပိုင်၏။

ဟေဒါယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၉။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် များစွာသော နမာဇ်များ ကသ္ဒာဖြစ်ခဲ့၏၊ ထိုသူသည် နည်းနည်းချင်းဖြင့် အားလုံးသော ကသ္ဒာများကို ဖတ်၏၊ ယခု နမာဇ်လေးကြိမ်၊ ငါးကြိမ်သာကျန်တော့လျှင် ယခုဒင်းနမာဇ်လေး၊ ငါးကြိမ်ကို အစီအစဉ်ဖြင့်ဖတ်ခြင်း ဝါဂျစ်ဗ်မဟုတ်ချေ၊ စိတ်ကြိုက်သလို ဖတ်ခွင့်ရှိလေသည်၊ ဒင်းပြင် ထိုကျန်ရှိနေသော ကသ္ဒာများကို မဖတ်ဘဲဖြင့်လည်း အဒါနမာဇ်ကိုဖတ်ခြင်း ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆၃။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဝစ်တ်ရ်နမာဇ်ကသ္ဒာဖြစ်၏၊ ဝစ်တ်ရ်မှတစ်ပါး အခြား မည်သည့်နမာဇ်မျှ ကသ္ဒာတင်ရှိမနေသော် ဝစ်တ်ရ် ကသ္ဒာကိုမဖတ်ဘဲ ဖွဂျ်ရ်နမာဇ်ဖတ်ခြင်းမပိုင်ချေ၊ အကယ်၍ ဝစ်တ်ရ်ကသ္ဒာဖြစ်ခြင်းကိုသတိရ၏၊ သို့ရာတွင် ပထမကသ္ဒာကို မဖတ်ဘဲ ဖွဂျ်ရ်နမာဇ်ကို ဖတ်လျှင် ယခုကသ္ဒာဖတ်၍ ဖွဂျ်ရ်၏ကသ္ဒာကို ပြန်ဖတ်ရဦးမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အေရှာအ်နမာဇ် တစ်ခုတည်းဖတ်၍ အိပ်စက်၏၊ ထို့နောက် တဟာတ်ဂျွဒ်အချိန်တွင် ထ၏၊ ဝိုသ္ဒူပြု၍ တဟာတ်ဂျွဒ်နှင့် ဝစ်တ်ရ်နမာဇ်ကို ဖတ်၏၊ ထို့နောက် နံနက်တွင် အေရှာအ်နမာဇ်ကိုလျော့ပြီး ဝိုသ္ဒူမပြုဘဲ ဖတ်ခဲ့ကြောင်း သတိရလာလျှင်ယခုအေရှာအ်ကိုသာ ကသ္ဒာဖတ်ရတော့မည်၊ ဝစ်တ်ရ်၏ကသ္ဒာကိုမဖတ်ရ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၆။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ကသ္ဒာဟူသည် ဖွရ်သွ် နမာဇ်နှင့် ဝစ်တ်ရ်နမာဇ်များ၌သာဖတ်ရလေသည်၊ စွန္နတ်များတွင် ကသ္ဒာမရှိ၊ အကယ်၍ ဖွဂျ်ရ်နမာဇ် ကသ္ဒာဖြစ်၍ မွန်းမတည့်မီကသ္ဒာကိုဖတ်လျှင် စွန္နတ်ရော ဖွရ်သွ် ပါဖတ်ရမည်၊ အကယ်၍ မွန်းတည့်ပြီးမှ ကသ္ဒာဖတ်လျှင် ဖွရ်သွ် နှစ်ရကအတ်၏ ကသ္ဒာသာလျှင် ဖတ်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၀။

၁၄။ မတ်စ်အလတ်ပြဿနာ။ အကယ်၍ ဖွဂျ်ရ်ချိန်သည် ကျပ်တည်း၍ ဖွရ်သွင် နှစ်ရကအတ်ထည်းသာဖတ်နိုင်၍ စွန္နတ်ကိုလွတ်ခဲ့မူ အေမာမ်အဘူဟာနီဖွာဟ်နှင့် အဘူယူစွဖ် (ရဟာမတုလ္လာဟ်)သခင်နှစ်ပါးထံတွင် ကျန်နေခဲ့သော စွန္နတ်နမာဇ်ကို နေထွက်ပြီးဖြစ်စေ၊ မထွက်မီဖြစ်စေ ဖတ်ရန် မလိုပေ။ ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၇၀။

၁၅။ မတ်စ်အလတ်ပြဿနာ။ နမာဇ်မဖတ်သော (ဗေနမာဇီ) တစ်ဦးသည် နောင်တရ၍ 'တောင်ဗဟ်'ပြုလျှင် တစ်သက်လုံးတွင် တင်ရှိခဲ့သောကဿာနမာဇ်အားလုံးကို ဖတ်ရန် ဝါဂျစ်ဗ်ဖြစ်၏၊ တောင်ဗဟ်ဖတ်ခြင်းဖြင့် တင်ရှိသောကဿာနမာဇ်များ၏တာဝန် မှာခွင့်လွတ်ခြင်းမရှိ၊ သို့သော်မဖတ်ခဲ့သောကြောင့်တင်ရှိသည့်အပြစ်ကိုတောင်ဗဟ်ပြုသဖြင့် ခွင့်လွှတ်ခြင်းခံရမည်၊ ယခု ထိုသူသည် ကဿာမဖတ်ဘဲနေမူ တဖန်အပြစ်ရှိသူဖြစ်အံ့။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၅။

၁၆။ မတ်စ်အလတ်ပြဿနာ။ တစ်ဦးကစ်ယောက်သောသူသည် အချို့သော နမာဇ်များကဿာဖြစ်၏၊ ၎င်းကဿာများကိုဖတ်ရန်လည်း အခွင့်မရခဲ့သော် သေခါနီးတွင် နမာဇ်များ၏ဘက်မှ(ဖွစ်ဒ်ယာ)လျှော်ကြေးပေးရန် ဝစွီယတ်မှာတမ်းခြင်းဝါဂျစ်ဗ်ဖြစ်၏ သို့မဟုတ်လျှင် အပြစ်ဖြစ်အံ့။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆၆။

နမာဇ်အတွက် (ဖွစ်ဒ်ယာ)ပေးခြင်း အကြောင်းကို ရှိုဇဟ်၏ ဖွစ်ဒ်ယာ အခန်း၌ ဖေါ်ပြပေအံ့။



## စစ်ဂျ်ဒဟ် စဟ်ဝ်၏ အကြောင်း

၁။ မတ်စ်အလတ်ပြဿနာ။ နမာဇ်၌ ဝါဂျစ်ဗ် ဖြစ်သော အရာများအနက် ဝါဂျစ်ဗ်တစ်ခုဖြစ်စေ၊ သို့မဟုတ်များစွာသောဝါဂျစ်ဗ်များဖြစ်စေအကယ်၍မေ့လျော့ပြီး ပျက်ကွက် ကျန်လပ်ခဲ့သော် စစ်ဂျ်ဒဟ်စဟ်ဝ် ပြုလုပ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ ၎င်းကိုပြုလုပ် ခြင်းဖြင့် နမာဇ်ပိုင်သွားလေသည်၊ အကယ်၍စစ်ဂျ်ဒဟ်စဟ်ဝ်မပြုလျှင်နမာဇ်ကိုတဖန်ပြန်၍ ဖတ်ရမည်။

၂။ မတ်စ်အလတ်ပြဿနာ။ အကယ်၍ မေ့လျော့ပြီး နမာဇ်၏ဖွရ်သွင်တစ်ခုခု လွတ်ခဲ့သော် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရုံဖြင့် နမာဇ်မပိုင်ချေ၊ တဖန်ပြန်၍ဖတ်ရမည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇၃။

၃။ မတ်စ်အလတ်ပြဿနာ။ စစ်ဂျ်ဒဟ် စဟ်ဝ် ပြုနည်းကား ဤသို့တည်း.... နောက်ဆုံး ရကအတ်တွင် အတ္တဟီယာတ် အထိ သာလျှင် ဖတ်ပြီး နောက် လက်ယာဘက် သို့ စလာမ်လှည့်ပြီး စစ်ဂျ်ဒဟ်နှစ်ကြိမ်ပြုရမည်၊ ထို့နောက်ထိုင်၍ အတ္တဟီယာတ် ဒရူးဒ်ဒိုအာ များကို ဖတ်ပြီးလျှင် စလာမ်နှစ်ဘက်စလုံးလှည့်၍ နမာဇ်ကိုအပြီးသတ်ရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀။

၄။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် မေ့လျော့၍ စလာမ် မလှည့်မီ အလျင်ကပင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုလိုက်မိသော် ထိုအခါတွင်လည်း 'အဒါ'ဖြစ်သွား၍ နမာဇ် ပိုင်သွားလေသည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၀။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍မေ့လျော့ပြီး ရိုကူအ်နှစ်ကြိမ်ပြုမိသော် သို့မဟုတ် စစ်ဂျ်ဒဟ်သုံးကြိမ်ပြုမိသော် ၎င်းစစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

မွန်ယဟ်ကျမ်း စာမျက်နှာ-၁၂၅။

၆။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်၌ အလ်ဟာမ်စူရဟ် ဖတ်ရန် မေ့လျော့၍ တွဲရန်စူရဟ်ကိုသာလျှင်ဖတ်မိသော် သို့မဟုတ် ပထမစူရဟ်ကိုဖတ်၍ ထို့နောက်အလ်ဟာမ်ကို ဖတ်လျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀၊၈၁။

၇။ မတ်စ်အလဟ် ပြဿနာ။ ဖွရ်သ်၏ပထမ နှစ်ရကအတ်၌ စူရဟ်တွဲရန် မေ့လျော့လျှင် တဘိယနှင့် စတုတ္ထနှစ်ရကအတ်၌ စူရဟ်တွဲပြီးလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရမည်။ အကယ်၍ ပထမနှစ်ရကအတ်အနက် တစ်ရကအတ်၌ စူရဟ်မတွဲမိမူ၊ နောက်ပိုင်းတစ်ရက အတ်တွင်စူရဟ်တွဲရမည်၊ နောက်စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရမည်၊ အကယ်၍ နောက်ပိုင်းရကအတ် တို့တွင်လည်း စူရဟ်တွဲရန်သတိမရ၊ ရှေ့ပိုင်းတွင်လည်းသတိမရခဲ့ဘဲ နောက်ဆုံး ကအ်ဒဟ် ထိုင်၍ အတ္တဟိယာတ် ဖတ်နေစဉ်တွင် သတိရလာသော် စစ်ဂျ်ဒဟ်စဟ်ဝ် ပြုလိုက်လျှင် နမာဇ်မြောက်၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀။

၈။ မတ်စ်အလဟ် ပြဿနာ။ စွန္နတ်နှင့်နဖ္ဖလ် နမာဇ်များတို့တွင် အားလုံးသော ရကအတ်၌ စူရဟ်ဆက်တွဲခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ ထို့ကြောင့် အကယ်၍ မည်သည့်ရကအတ် တွင် ဖြစ်စေ၊ စူရဟ်တွဲရန် မေ့ကျန်နေရစ်မူ စစ်ဂျ်ဒဟ်စဟ်ဝ် ပြုရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၂။

၉။ မတ်စ်အလဟ် ပြဿနာ။ အလ်ဟာမ်စူရဟ် ဖတ်ပြီးနောက် အဘယ်စူရဟ်ကို ဆက်တွဲ ဖတ်ရပါမည်နည်း ဟု တွေးတောနေခြင်းသည် (စုဗ်ဟာနလ္လာဟ်) ၃-ကြိမ် ဆိုနိုင်သည်ခန့် ကြာကြာသွားလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၈၉။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍လုံးဝ နောက်ဆုံးရကအတ်တွင် အတ္တဟိယာတ် နှင့် ဒရူးဒ် ဖတ်ပြီးမှ ဒွိဟ ဖြစ်လာသည်မှာ မိမိသည် လေးရကအတ် ဖတ် သလော၊ သို့မဟုတ် သုံးရကအတ် ဖတ်မိသလောဟု တွေးတောယင်း ဆိတ်ညိမ်စွာ ထိုင် နေ၏၊ စလာမ်လှည့်ရာ၌(စုဗ်ဟာနလ္လာဟ်)သုံးကြိမ် ဆိုနိုင်သည့်အချိန်ခန့်ကြာပြီး နောက်မှ မိမိသည် လေးရကအတ်ဖတ်ခြင်းဖြစ်သည်ဟုသတိရလာသော် ထိုအဖြစ်တွင်လည်း စစ်ဂျ်ဒဟ် စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။ တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၅၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ မည်သည့်အခါ အလ်ဟာမ်နှင့်စူရဟ် တွဲ၍ဖတ်ပြီး နောက် မေ့လျော့၍ အနည်းငယ်စဉ်းစားနေရာ ရိုကူအ်ကုန်းရန် အထက်တွင်ဖော်ပြခဲ့ သော အချိန်ခန့်ကြာသွားလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။ဤနည်းပင်အကယ်၍ဖတ်လျက်နှင့်အလယ်၌ ရပ်သွား၍အနည်းငယ်စဉ်းစားနေရာထိုမျှခန့်ကြန့်ကြာသွားသော်လည်းကောင်း သို့မဟုတ် ဒုတိယ သို့မဟုတ် စတုတ္ထ ရကအတ်တွင် အတ္တဟီယာတ်၏အတွက် ထိုင်သောအခါ ချက်ချင်း အတ္တဟီယာတ်မဖတ်ဘဲ စဉ်းစားနေရာ ထိုမျှခန့် ကြာသွားသော်လည်းကောင်း၊ သို့မဟုတ် ရိုကူအ်မှပြန်ထသောအခါ အထက်နည်းရပ်၍ စဉ်းစားနေသော်လည်းကောင်း၊ သို့မဟုတ် စစ်ဂျ်ဒဟ် နှစ်ကြိမ်ပြုသောကြား၌ (ဂျလ်စာ) ထိုင်သောအခါ တစ်စုံတစ်ရာစဉ်းစားနေ၍ ထိုမျှခန့်ပင် ကြာနေသော်လည်းကောင်း၊ ထိုအားလုံးသော ကိစ္စများတွင် စစ်ဂျ်ဒဟ် စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ အချုပ်စကားမှာ...မေ့လျော့၍ တစ်စုံတစ်ခုပြုလုပ်ရန်တွင် ကြန့်ကြာခဲ့သော်လည်းကောင်း၊ သို့မဟုတ် တစ်စုံတစ်ရာကို စဉ်းစားနေမိ၍ ကြန့်ကြာခြင်း ဖြစ်ခဲ့သော်လည်းကောင်း၊ စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၉။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ သုံးရကအတ်ဖြစ်စေ လေးရကအတ်ဖြစ်စေ၊ ဖတ်ရသော ဖွရ်သွ် နမာဇ်၌ နှစ်ရကအတ်တွင် အတ္တဟီယာတ်ဖတ်ရန် ထိုင်သောအခါ အတ္တဟီယာတ်ကို နှစ်ကြိမ်နှစ်ခါ ဖတ်မိသွားလျှင်လည်း စစ်ဂျ်ဒဟ် စဟ်ဝ်ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ အတ္တဟီယာတ်၏နောက် ဒရူးဒ်ကို (အလ္လာဟုန်မ၊ စွာလ်လေ အလာ၊ မိုဟမ္မဒင်)အထိ ဖတ်မိသော်လည်းကောင်း၊ ထို့ထက်ပို၍ဖတ်မိပြီး၊ နောက်မှသတိရသဖြင့် ပြန်၍ ထရပ်လျှင်လည်း စစ်ဂျ်ဒဟ်စဟ်ဝ်ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ ဒရူးဒ်ကို ထို့ထက် နည်း၍ဖတ်လျှင် စဟ်ဝ်၏စစ်ဂျ်ဒဟ်ပြုရန် ဝါဂျစ်ဗ်မဟုတ်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။ နဖွ်လ်နမာဇ်၌ နှစ်ရကအတ်တွင်ထိုင်၍ အတ္တဟီယာတ်နှင့်အတူ ဒရူးဒ်ရှရီဖ်ကို ဖတ်လျှင်လည်းပိုင်၏၊ ထို့အတွက်ကြောင့် နဖွ်လ်၌ ဒရူးဒ်ဖတ်လျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန်မလိုချေ၊ သို့သော် အတ္တဟီယာတ်ကို နှစ်ကြိမ်နှစ်ခါ ဖတ်မိလျှင် နဖွ်လ်၌လည်း စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၇။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။ အတ္တဟီယာတ်ဖတ်ရန် ထိုင်၏၊ သို့ရာတွင်မေ့လျော့၍ အခြားသောအရာကိုဖတ်မိ၏၊ သို့မဟုတ် အလ်ဟာမ်စူရဟ်ကို ဖတ်မိပါလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၁။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ။ နိယတ်ချည်ပြီးနောက် (စုဗ်ဟာနကလ္လာဟုန်မ်မ) ၏နေရာတွင် (ဒိုအာကိုနူးတ်) ကိုဖတ်မိလျှင် စစ်ဂျ်ဒဟ် စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်မဟုတ် ဤနည်းပင် ဖွရ်သွ်၏ တတိယ သို့မဟုတ် စတုတ္ထရကအတ်၌ အကယ်၍ အလ်ဟာမ်၏နေရာတွင် အတ္တဟီယာတ်ဖြစ်စေ၊ သို့မဟုတ် အခြားသောအရာကို ဖတ်မိလျှင်လည်း စစ်ဂျ်ဒဟ် စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်မဟုတ်ချေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၁။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ။ သုံးရကအတ်နှင့် လေးရကအတ် ဖတ်ရသော နမာဇ်များ၌ နှစ်ရကအတ်တွင်ထိုင်ရန် မေ့လျော့သွားကာ နှစ်ရကအတ်အပြီး တတိယရကအတ်သို့ထသွားရာ အကယ်၍ အောက်ပိုင်း ကိုယ်ခန္ဓာတစ်ဝက်သည် တည့်မတ်မသွားသေးမူ ပြန်ထိုင်၍ အတ္တဟိယာတ်ဖတ်ရမည်၊ ထို့နောက်မှ ပြန်ရပ်ရမည်၊ ဤသို့သောအဖြစ်၌ စစ်ဂျဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ အောက်ပိုင်း ကိုယ်ခန္ဓာတစ်ဝက်သည် တည့်မတ်စွာဖြစ်သွားမူ ပြန်မထိုင်ဘဲရပ်ပြီး လေးရကအတ်ပြီးအောင် ဆက်ဖတ်သွားရမည်၊ အဆုံး၌ထိုင်၍ စစ်ဂျဒဟ်စဟ်ဝ်ပြုခြင်း ယခုလည်း ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ တည့်မတ်စွာပြန်ရပ်ပြီးမှ တဖန်ပြန်ထိုင်၍ အတ္တဟိယာတ်ဖတ်လျှင် အပြစ်ရှိသူဖြစ်အံ့၊ စစ်ဂျဒဟ်စဟ်ဝ်ပြုခြင်း ယခုလည်း ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၀။

၁၈။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ စတုတ္ထရကအတ်တွင် ထိုင်ရန်မေ့လျော့သွားမူ ကိုယ်ခန္ဓာအောက်ပိုင်း မတည့်မတ်သေးလျှင် ပြန်ထိုင်ရမည်၊ ၎င်းနောက် အတ္တဟိယာတ် ဒရူးဒ်စသည်ဖတ်၍ စလာမ်လှည့်ရမည်၊ စစ်ဂျဒဟ်စဟ်ဝ်မပြုရ၊ အကယ်၍ တည့်မတ်စွာရပ်မိမူ၊ ထိုအခါလည်းပြန်ထိုင်ရမည်၊ အကယ်၍အလ်ဟမ်နှင့် စူရဟ်ကိုလည်း ဖတ်ပြီးသော်လည်းကောင်း သို့မဟုတ် ရိုကူအ်ပြုပြီးသော်လည်း ပြန်ထိုင်ရမည်၊ အတ္တဟိယာတ်ဖတ်၍ စစ်ဂျဒဟ်စဟ်မ်ပြုရမည်။

အကယ်၍ ရိုကူအ်ပြုပြီးနောက်လည်းသတိမရ၊ ပဌမမြောက်ရကအတ်၏ စစ်ဂျဒဟ်ကိုလည်းပြုမိမူ၊ ဖွရ်သွနမာဇ်ကိုပြန်၍ ဖတ်ရမည်၊ ဤနမာဇ်သည် နဖွလ်ဖြစ်သွားလေပြီ၊ နောက်ထပ် တစ်ရကအတ်ဖြည့်၍ ခြောက်ရကအတ် ဖတ်လိုက်ရမည်၊ စစ်ဂျဒဟ်စဟ်ဝ်မပြုလင့်၊ အကယ်၍ နောက်ထပ်တစ်ရကအတ်ဖြည့်မဖတ်လျှင်သော်လည်းကောင်း၊ ငါးရကအတ်ထည်းဖြင့် စလာမ်လှည့်သော်လည်းကောင်း၊ လေးရကအတ်သည် နဖွလ်ဖြစ်သွား၍ တစ်ရကအတ်သည် အချည်းနှီးဖြစ်သွားလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၂။

၁၉။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ စတုတ္ထရကအတ်တွင်ထိုင်၍ အတ္တဟိယာတ်ဖတ်ပြီး မထတပ်ရပ်မိလျှင် စစ်ဂျဒဟ် မပြုမီအလျှင် သတိရလာပါက ပြန်ထိုင်ရမည်၊ အတ္တဟိယာတ်မဖတ်ရ၊ လက်ယာဘက်သို့ စလာမ်လှည့်၍ စစ်ဂျဒဟ်စဟ်ဝ်ပြုရမည်၊ အကယ်၍ပဌမမြောက်ရကအတ်၏စစ်ဂျဒဟ်ပြုပြီးမှသတိရခဲ့သော်နောက်ထပ်တစ်ရကအတ်ဖြည့်၍ ခြောက်ရကအတ် ဖတ်လိုက်ရမည်၊ လေးရကအတ်သည် ဖွရ်သွဖြစ်၍ နှစ်ရကအတ်သည် နဖွလ်ဖြစ်သည်၊ ဆဋ္ဌမ ရကအတ်၌ စစ်ဂျဒဟ်စဟ်ဝ်လည်းပြုရမည်၊ ဖြစ်လေသည်၊ အကယ်၍ ပဉ္စမရကအတ်တွင် စလာမ်လှည့်၍ စစ်ဂျဒဟ်စဟ်ဝ်မပြုခဲ့သော် မကောင်းပေ၊ လေးရကအတ်မှာ ဖွရ်သွဖြစ်၍ တစ်ရကအတ်မှာ အလဟဿ ဖြစ်သွားရလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၄။

၂၀။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ လေးရကအတ်နဖွလ်နမာဇ်ကိုဖတ်၍ နှစ်ရကအတ်တွင်ထိုင်ရန်မေ့လျော့သွား၍ တတိယရကအတ်၏ စစ်ဂျဒဟ်မပြုသေးမီအတွင်း

သတိရလာ၍ပြန်မှု ပြန်ထိုင်လိုက်ရမည်၊ အကယ်၍ စစ်ဂျိဒဟ်ပြုမိသော်ရှိစေ နမာဇ်ကား ဖြစ်မြောက်သွား၏၊ ထိုနှစ်မျိုးစလုံးတွင် စစ်ဂျိဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

၂၁။ မတ်စ်အလဟာပ်ပြဿနာ။ ။အကယ်၍ နမာဇ်၌ ဒွိဟဖြစ်၍ သုံးရကအတ် လော၊ လေးရကအတ်လောဟု မကွဲပြားမူ အကယ်၍ ယင်းသို့ ဒွိဟဖြစ်ခြင်းသည်၊ ရုတ် တရက်ဖြစ်ခဲ့၍ ဒွိဟဖြစ်ခြင်း အလေ့အထမရှိခဲ့မူ တဖန်ပြန်၍ နမာဇ်ကိုဖတ်ရမည်။

အကယ်၍ ဒွိဟာဖြစ်သောဓလေ့ရှိပါမူ အကြိမ်များစွာ ယင်းသို့ ဒွိဟဖြစ်ဖူးလျှင် စိတ်၌စဉ်းစား၍ စိတ်များရာဘက်သို့ လိုက်ရမည်၊ အကယ်၍ သုံးရကအတ်ဖတ်မိကြောင်း အထင်ပိုမိုလျှင် တစ်ရကအတ် ထပ်ဖတ်ရမည်၊ စစ်ဂျဒဟ်စဟ်ဝ် ဝါဂျစ်ဗ် မဟုတ်ချေ၊ အကယ်၍ စိတ်က လေးရကအတ်ဖတ်မိသည်ဟု အထင်ကပိုမိုခဲ့လျှင် တစ်ရကအတ်လည်း ထပ်မဖတ်ရ၊ စစ်ဂျဒဟ်စဟ်ဝ်လည်းမပြုရ။

အကယ်၍ စဉ်းစားပြီးနောက်လည်း နှစ်ဘက်စလုံး အထင်တူညီနေမူ သုံးဘက်သို့ လည်းမရောက် လေးဘက်သို့လည်းမရောက်မူသုံးရကအတ်ဟုသာမှတ်ယူလျက်တစ်ရကအတ် ကိုထပ်ဖတ်ရမည်၊ သို့ရာတွင်ထိုအဖြစ်၌ တတိယ ရကအတ်၌လည်းထိုင်၍ အတ္တဟိယာတ် ဖတ်ရမည်၊ ထို့နောက်မှ မတ်တပ်ရပ်ပြီး စတုတ္ထ ရကအတ်ကို ဖတ်ရမည်၊ ၎င်းပြင် စစ်ဂျဒဟ်စဟ်ဝ်ကိုလည်းပြုရမည်။ ဒွရ်ရေမုခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၀၇။

၂၂။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ ဖတ်သောရကအတ်သည် ပထမ လော၊ ဒုတိယလောဟု ဒွိဟဖြစ်လျှင်လည်း၊ ၎င်း၏အမိန့်မှာ ဤမိန့်ပင်ဖြစ်သည်၊ အကယ် ၍ တစ်ရံတစ်ခါမျှသာ ဒွိဟဖြစ်ပေါ်ခဲ့သော် ပြန်ဖတ်ရမည်၊ အမြဲ ဒွိဟဖြစ်တတ်သော် စိတ်အထင်များရာဘက်သို့လိုက်နာရမည်၊အကယ်၍နှစ်ဘက်ညီနေလျှင်တစ်ရကအတ်ထည်း ဟုမှတ်ယူရမည်၊ သို့ရာတွင် ထိုပထမရကအတ်တွင်ထိုင်၍ အတ္တဟိယာတ်ဖတ်ရမည်၊ အဘယ် ကြောင့်ဆိုသော် ဤရကအတ်သည် ဒုတိယ ရကအတ်ဖြစ်ကောင်း ဖြစ်ပေမည်၊ ဒုတိယ ရကအတ်ဖတ်၍ထိုင်ရမည်၊ ၎င်း၌အလ်ဟမ်နှင့် စူရဟ်လည်းတွဲရမည်၊ ထို့နောက် တတိယ ရကအတ်ဖတ်၍လည်းထိုင်ရမည်။

ဤရကအတ်သည် စတုတ္ထရကအတ် ဖြစ်ကောင်းဖြစ်မည်၊ ထို့နောက် စတုတ္ထရက ဖတ်၍ စစ်ဂျဒဟ်စဟ်ဝ်ပြုပြီး စလာမ်လှည့်ရမည်။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ ၇၀၈။

၂၃။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ဒုတိယ ရကအတ်လော၊ တတိယ ရကအတ်လောဟု ဒွိဟဖြစ်ခဲ့သော် ၎င်း၏အမိန့်မှာ ဤအမိန့်ပင်ဖြစ်လေသည်၊ အကယ်၍ အထင်သည် နှစ်ခုညီမျှနေသော် ဒုတိယရကအတ်တွင်ထိုင်၍ တတိယရကအတ်ကိုဖတ်ရမည်၊ ထို့နောက် ထိုင်၍ အတ္တဟိယာတ်ဖတ်ရမည်၊ ဤသည်မှာ စတုတ္ထရကအတ် ဖြစ်ကောင်း ဖြစ်မည်၊ ထို့နောက် စတုတ္ထ ရကအတ်ကိုဖတ်ရမည်၊ ထို့နောက် စစ်ဂျိဒဟ်စဟ်ဝ်ပြု၍ စလာမ်လှည့်ရမည်။ ရှာမီကျမ်း အတွဲ ၁၊ စာမျက်နှာ-၇၀၈။

၂၄။ မတ်စ်အလဟ် ပြဿနာ။ ။နမာဇ်ဖတ်ပြီးသည့်နောက်မှ သုံးရကအတ်သို့ မဟုတ်လေးရကအတ်ဖတ်မိသလောဟုဒွိဟဖြစ်ခဲ့လျှင် ယင်းဒွိဟကို မည်သို့မျှအရေးမထား

သင့် နမာဇ်မှာပြီးမြောက်လေပြီ၊ သို့သော်အကယ်၍သေချာစွာသတိရလာ၍ သုံးရကအတ်မျှသာ ဖတ်ရကြောင်းသိရလျှင် တဖန်ပြန်ရပ်၍ တစ်ရကအတ်ကို ဖြည့်ဖတ်ရမည်၊ ၎င်းပြင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရမည်၊ အကယ်၍ ဖတ်ပြီး စကားပြောမိမှုလည်းကောင်း၊ နမာဇ်ပျက်စေသောအရာကို ပြုလုပ်မိသော်လည်းကောင်း၊ နမာဇ်ကိုပြန်၍ဖတ်ရမည်၊ ဤနည်းပင် အတ္တဟိယာတ်ဖတ်ပြီးနောက် ဤဒွိဟဖြစ်ပေါ်လျှင် ၎င်း၏အဖို့လည်း ဤအမိန့်ပင်ဖြစ်လေသည်။ မှန်ကန်စွာသတိပြန်မရမခြင်း ၎င်းကိုအတည်မပြု၍၊ သို့သော်အကြင်သူတစ်ဦးသည် လုံလောက်ရန်သာဘောဖြင့် နမာဇ်ကိုတဖန်ပြန်ဖတ်လျှင် ကောင်းလေသည်၊ စိတ်၌အငြိအစွန်းမရှိဘဲ ဒွိဟကင်းရှင်းသွားပေမည်။ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၈။

၂၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍နမာဇ်-စစ်ဂျ်ဒဟ်စဟ်ဝ်-ဝါဂျစ်ဗ်ဖြစ်သောကိစ္စ မြောက်မြားစွာ ပေါ်ပေါက်ခဲ့သော် အားလုံးတို့အတွက် စစ်ဂျ်ဒဟ်စဟ်ဝ်တစ်ကြိမ်ပြုရုံဖြင့်ပြီး၏၊ နမာဇ်တစ်ကြိမ်၌ စစ်ဂျ်ဒဟ်စဟ်ဝ် နှစ်ကြိမ်မလုပ်ရချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇၄။

၂၆။ မတ်စ်အလဟ် ပြဿနာ။ ။ စစ်ဂျ်ဒဟ်စဟ်ဝ် ပြုပြီးနောက်တဖန် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်ထိုက်သော ကိစ္စတစ်ခုခုဖြစ်ခဲ့သော် ထိုပထမပြုထားသော စစ်ဂျ်ဒဟ်စဟ်ဝ်ဖြင့်ပင် လုံလောက်လေပြီ၊ ယခုထပ်ပြုရန် မလိုတော့ချေ။

၂၇။ မတ်စ်အလဟ်ပြဿနာ။ ။ နမာဇ်၌ တစ်စုံတစ်ရာ မေ့လျော့သွား၍ စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်ဖြစ်၏၊ သို့ရာတွင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် မေ့လျော့ပြီး စလာမ်နှစ်ဖက်စလုံးလှည့်မိ၏၊ သို့ရာတွင် ထိုနေရာ၌ပင်ထိုင်လျက်ရှိပြီး ရင်ဘတ်သည် ကာဗ်လဟ်ဘက်မှမလှည့်သေး၊ မည်သူနှင့်မျှစကားမပြောသေးဘဲ နမာဇ်ပျက်တတ်သော ကိစ္စတစ်ခုခုကိုလည်း မပြုလုပ်သေးလျှင် ယခုစစ်ဂျ်ဒဟ်စဟ်ဝ် ပြုလိုက်ရမည်၊ သာမကယင်းသို့ထိုင်ယင်းကုလေမဟ်ဒရွှဒ်စသည် မည်သည့်ဝဇီဖာဟ်ကိုဖြစ်စေ ဖတ်နေသော်လည်းဘာမျှကိစ္စမရှိချေ၊ ယခုစစ်ဂျ်ဒဟ် စဟ်ဝ်ပြုလိုက်သော် နမာဇ်မြောက်သွား၏။

ဒွုရ်ရေ့မွှခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၀၆။

၂၈။ မတ်စ်အလဟ် ပြဿနာ။ ။စစ်ဂျ်ဒဟ် စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ် ဖြစ်ကြောင်းသိပါလျက်နှင့် နှစ်ဖက်စလုံး စလာမ်လှည့်လိုက်၏၊ ၎င်းပြင် ကျွန်ုပ် စစ်ဂျ်ဒဟ်စဟ်ဝ်မပြုဟူ၍ နိယတ်ပြုလိုက်၏၊ ထိုအခါတွင်လည်း နမာဇ်ပျက်သောအရာ မဖြစ်ပေါ်သေးသမျှ စစ်ဂျ်ဒဟ်စဟ်ဝ်ပြုလိုက ပြုနိုင်ခွင့်ရှိနေသေးသည်။

ဒွုရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၆။

၂၉။ မတ်စ်အလဟ် ပြဿနာ။ ။ သုံးရကအတ်နှင့် လေးရကအတ် ဖတ်ရသော နမာဇ်များ၌ မေ့လျော့၍ နှစ်ရကအတ်၌ စလာမ်လှည့်မိလျှင် ယခုပြန်ထ၍ ထိုနမာဇ်ကို ပင်ဖြည့်၍ဖတ်ပြီးလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရမည်၊ သို့သော်စလာမ်လှည့်ပြီးမှ နမာဇ်ပျက်စေသောစကားများကို ပြုလုပ်ပြောဆိုမိလျှင် နမာဇ်ကို အစမှ အသစ်တဖန် ပြန်ဖတ်ရမည်။

ဒွုရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၇။

၃၀။ မတ်စ်အလယ် ပြဿနာ။ မေ့လျော့၍ ဝစ်တ်ရ်၏ ပထမ သို့မဟုတ်ဒုတိယ ရကအတ်တွင်(ဒိုအာကိုနူးတ်)ကိုဖတ်မိလျှင် ၎င်းသည် အတည်မဖြစ်၊ တတိယရကအတ်တွင် ထပ်၍ ဒိုအာကိုနူးတ်ကို ဖတ်ပြီး စစ်ဂျ်ဒဟ်စဟ်ဝ် ပြုရမည်။

ဘဲဟ်ရွရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁။

၃၁။ မတ်စ်အလယ် ပြဿနာ။ ဝစ်တ်ရ်နမာဇ်၌ ဣအရာသည် ဒုတိယရကအတ်လော၊ တတိယရကအတ်လောဟု ဒွိဟဖြစ်၍ မည်သည့်ဘက်မျှ သေချာစွာ အထင်မပေးနိုင်ဘဲ ညီမျှသောအထင်ရှိမူ ထိုရကအတ်၌ ဒိုအာကိုနူးတ်ကိုဖတ်ရမည်၊ ၎င်းနောက်ထိုင်ပြီး အတ္တဟီယာတ်၏နောက် မတ်တတ်ရပ်ပြီး တစ်ရကအတ် ထပ်ဖတ်ရမည်၊ ၎င်း၌လည်း ဒိုအာကိုနူးတ်ဖတ်ရမည်၊ အဆုံးတွင် စစ်ဂျ်ဒဟ်စဟ်ဝ် ပြုရမည်။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၆။

၃၂။ မတ်စ်အလယ် ပြဿနာ။ ဝစ်တ်ရ်၌ ဒိုအာကိုနူးတ်၏ နေရာတွင် သနာ (စွဗ်ဟာန၊ ကလ္လာဟုမ္မ)ကို ဖတ်မိ၏၊ ထို့နောက် သတိရလာသဖြင့် ဒိုအာကိုနူးတ်ကို ဆက်ဖတ်လျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်မဟုတ်ချေ။

၃၃။ မတ်စ်အလယ် ပြဿနာ။ ဝစ်တ်ရ်၌ ဒိုအာကိုနူးတ်ကိုဖတ်ရန်မေ့လျော့ပြီး စူရဟ်ဖတ်ပြီးနောက် ရိုကူအ်ကုန်းလိုက်လျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၀။

၃၄။ မတ်စ်အလယ် ပြဿနာ။ အလ်ဟံမ် စူရဟ် ဖတ်ပြီးနောက် စူရဟ် နှစ်ခု သုံးခုဖတ်မိခြင်းကြောင့် ဘာမျှစိုးရိမ်ရန်မရှိ၊ စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၊ ၂၅။

၃၅။ မတ်စ်အလယ် ပြဿနာ။ ဖွရ်သ် နမာဇ်၌ နောက်ပိုင်း နှစ်ရကအတ်တွင်ဖြစ်စေ၊ သို့မဟုတ် တစ်ရကအတ်တွင်ဖြစ်စေ၊ စူရဟ်တွဲ၍ဖတ်လိုက်သော် စစ်ဂျ်ဒဟ်စဟ်ဝ် ပြုရန်ဝါဂျစ်ဗ်မဟုတ်ချေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၁။

၃၆။ မတ်စ်အလယ် ပြဿနာ။ နမာဇ်၏ အစပိုင်း (စွဗ်ဟာန၊ ကလ္လာဟုမ္မ) ဖတ်ရန် မေ့လျော့သွားသော်လည်းကောင်း၊ သို့မဟုတ် ရိုကူအ်၌(စွဗ်ဟာန၊ ရဗ်ဗေ့ယလ် အဇွီမ်) မဖတ်မိသော်လည်းကောင်း သို့မဟုတ် စစ်ဂျ်ဒဟ်၌ (စွဗ်ဟာန၊ ရဗ်ဗေ့ယလ် အအ်လာ)မဖတ်မိသော်လည်းကောင်း သို့မဟုတ် ရိုကူအ်မှ အထဘွင် (စမေ့အလ္လာဟို၊ လေမန်၊ဟမေ့ဒဟ်)ဆိုရန် မေ့သွားသော်လည်းကောင်း၊ သို့မဟုတ် နီယတ်ချည်သော အချိန်တွင် နားဆီအောင် လည်းကောင်း၊ ပခုံး ထိအောင် လက် မြှောက်မိသော်လည်း ကောင်း၊ သို့မဟုတ် နောက်ဆုံး ရကအတ်၌ ဒရူးဒ်ရှရီဖ် သို့မဟုတ် ဒိုအာ မဖတ်မိဘဲ ဣအတိုင်း စလာ့မ်လှည့်မိသော်လည်းကောင်း ဆိုခဲ့သမျှ အားလုံးသော ကိစ္စများတွင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန်ဝါဂျစ်ဗ်မဟုတ်ချေ။ အာလမ်ဂီရီကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၀။

၃၇။ မတ်စ်အလဟ်ပြဿနာ။ ဖွဲရ်သွ်၏ နောက်ပိုင်း နှစ်ရကအတ်တွင်သော်လည်းကောင်း၊ သို့မဟုတ် တစ်ရကအတ်တွင်သော်လည်းကောင်း အလ်ဟမ်စူရဟ် ဖတ်ရန်မေ့လျော့သွား၍ တိတ်ဆိတ်စွာရပ်လျက် ရိုကူအ်၌သွားမှု စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ၀ါဂျစ်ဗ်မဟုတ်ချေ။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ၁၂၉။

၃၈။ မတ်စ်အလဟ်ပြဿနာ။ အကြင်ကိစ္စများကို မေ့လျော့ပြီးပြုလုပ်မိလျှင် စစ်ဂျ်ဒဟ်စဟ်ဝ်ပြုရန် ၀ါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ ၎င်းကိစ္စများကို တစ်ဦးတစ်ယောက်သည် သိပါလျက် ပြုလုပ်ခဲ့သော် စစ်ဂျ်ဒဟ်စဟ်ဝ် ၀ါဂျစ်ဗ်မဖြစ်၊ သာ့မက နမာဇ်ကိုအစမှ ပြန်ဖတ်ရမည်၊ စစ်ဂျ်ဒဟ်စဟ်ဝ်ပြုလုပ်သော်လည်း နမာဇ်မပိုင်ပေ။

အကြင် ကိစ္စများသည် နမာဇ်၌ဖွဲရ်သွ်လည်းမဟုတ် ၀ါဂျစ်ဗ်လည်း မဟုတ်သောအရာများကို မေ့လျော့ပြီး လွှတ်ခဲ့မိမှု နမာဇ် အောင်မြင်၏၊ စစ်ဂျ်ဒဟ်စဟ်ဝ် ပြုခြင်း ၀ါဂျစ်ဗ် မဟုတ်ချေ။ မွန်ယဟ်ကျမ်း စာမျက်နှာ-၂၅၁။

# စစ်ဂျ်ဒအေ့ တေလာ၀ပ်တ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ကုရ်အာန်ကျမ်းတော်မြတ်၌ (စစ်ဂျ်ဒဟ်)ပြုရသောဌာန (၁၄) ဌာန ရှိလေသည်၊ ကုရ်အာန် ကျမ်းတော်မြတ်၏ ဘေးပတ်၀န်းကျင်တွင် 'အတ်စစ်ဂျ်ဒဟ်'ဟူသော အရဗီအက္ခရာဖြင့် ပြထားသောနေရာရှိ အာယတ်တော်ကို ဖတ်မိလျှင် စစ်ဂျ်ဒဟ်ပြုခြင်း ၀ါဂျစ်ဗ်ထိုက်လေသည်၊ ထိုသို့ စစ်ဂျ်ဒဟ်ပြုခြင်းကို (စစ်ဂျ်ဒအေ့တေလာ၀ပ်တ်)ဟုခေါ်လေသည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၆။

၂။ မတ်စ်အလဟ်ပြဿနာ။ စစ်ဂျ်ဒဟ်တေလာ၀ပ်တ် ပြုနည်းမှာ- အလ္လာဟို၊ အတ်က်ဗရ်ဟု နှုတ်မှမြွက်ဆိုလျက် စစ်ဂျ်ဒဟ်ပြုရမည်၊ အလ္လာဟို၊ အတ်က်ဗရ် ဆိုသောအခါ လက်မမြှောက်ရချေ၊ စစ်ဂျ်ဒဟ်၌အနည်းဆုံးသုံးကြိမ်ခန့်(စွဗ်ဟာန၊ရဗ်ဗေ့ယလ်အအ်လာ)ဟု မြွက်ဆိုရမည်၊ ထို့နောက်(အလ္လာဟို၊အတ်က်ဗရ်)ဟု မြွက်ဆိုပြီး ဦးခေါင်းကြွရမည်၊ ဤသည်လျှင် 'စစ်ဂျ်ဒအေ့တေလာ၀ပ်တ်' တာ၀န်ကျသွား၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၇၀၃။

၃။ မတ်စ်အလဟ်ပြဿနာ။ အကောင်းဆုံးမှာ မတ်တတ်ရပ်လျက် ပထမဆုံး (အလ္လာဟို၊ အတ်က်ဗရ်)ဟု မြွက်ဆိုလျက် တောက်လျှောက် စစ်ဂျ်ဒဟ်သို့ သွားရမည်၊ ထို့နောက် အလ္လာဟို၊အတ်က်ဗရ်ဟုဆိုလျက် မတ်တပ်ရပ်ရမည်၊ ထိုင်လျက်ဖြင့်(အလ္လာဟို၊ အတ်က်ဗရ်)ဆိုကာ စစ်ဂျ်ဒဟ်ပြု၍ အလ္လာဟို၊အတ်က်ဗရ်ဆိုကာ ပြန်ထိုင်လျှင် မရပ်သော်လည်းပိုင်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၄။

၄။ မတ်စ်အလဟ်ပြဿနာ။ စစ်ဂျ်ဒဟ်ပါသောအာယတ်တော်ကိုဖတ်ရွတ်သောသူလည်း စစ်ဂျ်ဒဟ်ပြုခြင်း ၀ါဂျစ်ဗ်ဖြစ်၏၊ ကြားနာရသောသူလည်း စစ်ဂျ်ဒဟ်ပြုခြင်း ၀ါဂျစ်ဗ် ဖြစ်လေသည်။

ကုရ်အာန်ကျမ်းတော်မြတ်ကို နာခံရန်သဘောဖြင့် ထိုင်နေသည် ဖြစ်စေ၊ အခြားသော အလုပ်ကိစ္စရှိနေစဉ် မကြံရွယ်ဘဲကြားနာရသည်ဖြစ်စေ၊ စစ်ဂျ်ဒဟ် အာယတ်ဖတ်သံကို ကြားကစစ်ဂျ်ဒဟ်ပြုခြင်း ၀ါဂျစ်ဗ်ဖြစ်သည်။

ထို့ကြောင့် စစ်ဂျိဒဟ်အာယတ်ကိုဖတ်ရွတ်လျှင် တိုးတိုးဖတ်ရမည်၊ အခြားသူများ အပေါ်တွင် စစ်ဂျိဒဟ်ပြုရန် ဝါဂျစ်ဗ် တာဝန်မပေးရန် ဖြစ်သည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၆။

၅။ မတ်စ်အလဟ် ပြဿနာ။ အကြင် အရာများသည် နမာဇ်၏ ရှေ့တွင် စည်းကမ်းချက်များဖြစ်သည်၊ စစ်ဂျိဒအေ့ တေလာဝပ်တ်အတွက်လည်း ထိုစည်းကမ်းများပင် ဖြစ်လေသည် ၊အဒီပွါယ်မှာ.... ဝိုဇူရှိခြင်း၊ နေရာသန့်ခြင်း၊ ကိုယ်သန့်ခြင်း၊ အဝတ်သန့်ခြင်း၊ ကစ်ဗလဟ်ဘက်သို့မျက်နှာမူ၍ စစ်ဂျိဒဟ်ဦးချခြင်း စသည့်တို့ ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂ၆။

၆။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်၌ စစ်ဂျိဒဟ် ပြုလုပ်ဘိသကဲ့သို့ ထိုနည်းပင် စစ်ဂျိဒအေ့ တေလာဝပ်တ်၌ပြုလုပ်ရမည်၊ အချို့သော မိန်းမများသည် ကုရ်အာန်ကျမ်း မြတ်ပေါ်သို့စစ်ဂျိဒဟ်ချတတ်ကြလေသည်၊ ယင်းသို့ပြုခြင်းဖြင့်စစ်ဂျိဒဟ်တာဝန်မကျချေ၊

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂ၆ ။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အကြင်သူ၌ ထိုအချိန်တွင် ဝိုဇူမရှိခဲ့သော်ထို့နောက်အချိန်တစ်ချိန်တွင်ဝိုဇူပြု၍စစ်ဂျိဒဟ်ပြုရမည်၊ ချက်ချင်းပင်ထိုအချိန်၌ ပြုရန် အရေးမကြီးပေ၊ သို့သော်လည်း ပိုမိုကောင်းသော နည်းလမ်းမှာ ထိုအချိန်မှာ ဝိုဇူချက်ချင်းပြု၍ စစ်ဂျိဒဟ်ပြုခြင်းဖြစ်လေသည်၊ အဘယ့်ကြောင့်ဟူမူ သတိမရဘဲရှိနေမည်ကိုစိုးရိမ်ရသောကြောင့်ဖြစ်၏၊ ဘဟ်ရွှရ်ရာအစ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၁၉။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သောသူ၌ များစွာသော စစ်ဂျိဒဟ်တေလာဝပ်တ်များ တာဝန် တင်နေ၍ ယခုဘိုင်အောင်မဆောင်ရွက်ရသေးမူယခုတာဝန်ချလိုက်ပါလော၊ ထစ်သက်လုံး၌တစ်နေ့နေ့တာဝန်ချရန်သင့်လေသည်၊ မည်သည့်ရက်မှ တာဝန်မချလျှင် အပြစ်ရှိသူဖြစ်အံ့။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅ဝဂ။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဟိုက်သွင် ရာသီလာနေစဉ် သို့မဟုတ် နေဖွားစ် သားဖွား၍ သွေးလာနေစဉ် တစ်ဦးတစ်ယောက် ဖတ်ရွတ်သော စစ်ဂျိဒဟ် အာယတ်ကိုကြားနာရမူ၊ ၎င်းသူမအပေါ်၌စစ်ဂျိဒဟ်ပြုရန်ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ (ဂျနာဗတ်)ဂွတ်စ်လ်ပြုရန် ဝါဂျစ်ဗ် ထိုက်နေသောအခါ၌ ကြားနာရမူ ရေချိုးပြီးနောက် စစ်ဂျိဒဟ်ပြုရန်ဝါဂျစ်ဗ်ဖြစ်လေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊စာမျက်နှာ-ဂဝ၄။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နာမကျန်းသော အခါ၌ ကြား နာ ရ သဖြင့် စစ်ဂျိဒဟ်ပြုနိုင်သော အင်အားမရှိလျှင် နမာဇ်၏ စစ်ဂျိဒဟ်ကို (အေရှာရဟ်) နိမိတ်ဖြင့်ပြုလုပ်ဘိသကဲ့သို့ ၎င်းကိုလည်း(အေရှာရဟ်)ဖြင့် ပြုလုပ်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂဝ၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နမာဇ်တွင်း၌ စစ်ဂျိဒဟ် ပါသောအာယတ်ကို ဖတ်လျှင် ထိုအာယတ်ကိုဖတ်ပြီးလျှင် ချက်ချင်းမဆိုင်းတွဲဘဲ နမာဇ်တွင်း၌ပင် စစ်ဂျိဒဟ် ပြုရမည်၊ ထို့နောက် ကျန်သောစူရဟ်ကို ဆက်ဖတ်၍ ရိုကူဒ် ကုန်းရမည်၊ အကယ်၍

ထိုအာယတ်ကိုဖတ်၍ ချက်ချင်း စစ်ဂျဒဟ်မပြုဘဲ ထိုအာယတ်၏ဆက်လျက်ရှိသော အာယတ်နှစ်ခုဖြစ်စေ၊ သုံးခုဖြစ်စေဖတ်ပြီးမှ စစ်ဂျဒဟ်ပြုလျှင်လည်းပိုင်၏၊ အကယ်၍ ထို့ထက်ပိုမိုစွာ ဆက်ဖတ်သွားပြီးမှ စစ်ဂျဒဟ်ပြုလျှင် စစ်ဂျဒဟ်တော့တာဝန်ကျ၏၊ သို့ရာတွင် အပြစ်ရှိသူဖြစ်မည်။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၆။

၁၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍နမာဇ်၌ စစ်ဂျဒဟ်ပါသောအာယတ်ကို ဖတ်၍ နမာဇ်တွင်း၌ စစ်ဂျဒဟ်မပြုခဲ့သော် နမာဇ်၏အပြင်ရောက်မှ စစ်ဂျဒဟ်ပြုသော်လည်း တာဝန် မကျတော့ချေ၊ အမြဲအတွက် အပြစ်ရှိသူ ဖြစ်အံ့၊ ယခု 'တော်ဗဟ်' (အစစ်တစ်ဂ်ဖွာရ်)ဖတ်ခြင်းမှတပါး ခွင့်လွှတ်ချမ်းသာရရန် အကြောင်းမရှိချေ။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၈။

၁၃။ မတ်စ်အလဟ် ပြဿနာ။ စစ်ဂျဒဟ်ပါသော အာယတ်ကိုဖတ်ပြီး ချက်ချင်းပင် ရိုကူအ်၌သွား၍ ရိုကူအ်တစ် ကျန်အောင်သည် စစ်ဂျဒအော့တေလာဝပ်တ်အတွက်လည်း ဤရိုကူအ်ကို ပြုပါသည်ဟု 'နိယတ်' ရည်စူးလိုက်လျှင်လည်း ထိုအခါတွင် ၎င်းစစ်ဂျဒဟ်မှာ တာဝန်ကျသွားလေသည်။

အကယ်၍ ရိုကူအ်တွင် ဤသို့ နိယတ်မပြုဘဲ ရိုကူအ်၏နောက် စစ်ဂျဒဟ် ပြုသောအခါ စစ်ဂျဒဟ်သည် စစ်ဂျဒဟ်တေလာဝပ်တ်အတွက်လည်း တာဝန်ကျသွားလေသည်၊ နိယတ် ပြုသည်ဖြစ်စေ၊ မပြုသည်ဖြစ်စေ ဟူ၏။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၈။

၁၄။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်နေစဉ် သူတစ်ပါး ဖတ်ရွတ်သော စစ်ဂျဒဟ်အာယတ်ကို ကြားနာရသော် နမာဇ်တွင်း၌ စစ်ဂျဒဟ်မပြုရ၊ သာမက နမာဇ်ပြီးမှပြုရမည်၊ အကယ်၍ နမာဇ်တွင်း၌ပင် ပြုခဲ့မူ ထိုစစ်ဂျဒဟ်သည် တာဝန်မကျချေ၊ တဖန်ပြန်၍ ပြုရမည့်ပြင် အပြစ်လည်း ဖြစ်အံ့။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၀။

၁၅။ မတ်စ်အလဟ် ပြဿနာ။ တစ်နေရာတည်းတွင်ထိုင်နေစဉ်စစ်ဂျဒဟ်ပါသော အာယတ်ကို အကြိမ်များစွာ ထပ်၍ထပ်၍ ဖတ်မူ စစ်ဂျဒဟ် တစ်ကြိမ်တည်းသာပြုရန် ဝါဂျစ်ဗ် ဖြစ်လေသည်၊ အကြိမ်များစွာ ဖတ်ပြီးမှ နောက်ဆုံးတွင် ပြုလိုကပြု သို့မဟုတ် ပထမအကြိမ် ဖတ်ပြီးပြီးချင်း ပြုရမည်၊ ထို့နောက် ထပ်ခါထပ်ခါ ဖတ်ရမည်။

အကယ်၍နေရာဌာန ပြောင်းရွှေ့သွား၍ ထိုအာယတ်ကိုပင် ထပ်ခါထပ်ခါဖတ်သော်လည်းကောင်း၊ ထို့နောက် တတိယတစ်နေရာသို့သွား၍ ထိုအာယတ်ကိုပင်ဖတ်သော် ဤနည်းပင် နေရာကို ရွှေ့ပြောင်းနေမူ ဖတ်သမျှအကြိမ်နှင့်အမျှ စစ်ဂျဒဟ်ကိုပြုရမည်။

မဂ်ျမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၈။

၁၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်နေရာတည်းတွင်ထိုင်လျက် စစ်ဂျဒဟ်ပါသော အာယတ်တော်ပေါင်းများစွာကို ဖတ်လျှင် ဖတ်သည်နှင့်အမျှ စစ်ဂျဒဟ်ပြုရမည်၊

နှ်ရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၁။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ထိုင်လျက်နှင့် စစ်ဂျ်ဒဟ်ပါသောအာယတ်တော်ကို ဖတ်ပြီးနောက် မတ်တပ်ရပ်၏၊ သို့ရာတွင် သွားလာလှည့်ပတ်ခြင်းမရှိဘဲ ရပ်သောနေရာတွင်ပင် ထိုအာယတ်ကို ထပ်ဖတ်လျှင် စစ်ဂျ်ဒဟ်တစ်ကြိမ်သာလျှင်ပြုရန် ဝါဂျစ်ဗ်ဖြစ်လေသည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၇။

၁၈။ မတ်စ်အလဟ် ပြဿနာ။ တစ်နေရာတည်းတွင်စစ်ဂျ်ဒဟ်ပါသောအာယတ်တော်ကိုဖတ်၍ ကုရ်အာန်တေလာဝပ်လုပ်ပြီး နောက်မှ အခြား အလုပ်အကိုင်တစ်ခုခုကိုလုပ်၍ ၎င်းနေရာသို့ပြန်လာပြီး ထိုအာယတ်ကိုပင်ဖတ်လျှင် ထိုအခါတွင် စစ်ဂျ်ဒဟ်နှစ်ကြိမ်ပြုရမည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ၁၄၇။

၁၉။ မတ်စ်အလဟ် ပြဿနာ။ တစ်နေရာတည်းတွင်ထိုင်၍ စစ်ဂျ်ဒဟ်ပါသောအာယတ်ကို ဖတ်၏၊ ထို့နောက် ကုရ်အာန်ကျမ်းမြတ် ဖတ်ပြီးနောက် ထိုနေရာတွင်ပင်ထိုင်လျက် အခြားသောအလုပ်ကိစ္စများကိုလုပ်ကိုင်၏၊ ဥပမာ....ထမင်းစားခြင်း၊ သီခြင်း-ချုပ်ခြင်းတွင်မွေ့လျော်၏၊ သို့မဟုတ်ကလေးကိုနို့တိုက်၏၊ ထို့နောက် ၎င်းအာယတ်ကိုထိုနေရာ၌ပင် ဖတ်သော် စစ်ဂျ်ဒဟ်နှစ်ကြိမ် ပြုလုပ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ မည်သည့်အခါအခြားသောအလုပ်ကိစ္စတစ်ခုခုကိုပြုလုပ်လျှင် နေရာပြောင်းသည်ဟု မှတ်ယူရမည်။ ရှာမီကျမ်း အတွဲ-၁၊စာမျက်နှာ-၇၁၁။

၂၀။ မတ်စ်အလဟ် ပြဿနာ။ အခန်းတစ်ခန်း သို့မဟုတ် ဥပစာဆောင်ခန်းမ၏ ထောင့်တစ်ထောင့်တွင် စစ်ဂျ်ဒဟ်ပါသော အာယတ်တစ်ခုခုကိုဖတ်၏၊ ထိုနောက်အခြားသော ထောင့်တစ်ထောင့်တွင်သွား၍ထိုအာယတ်ကိုပင်ဖတ်၏၊ထိုအခါတွင်လည်းစစ်ဂျ်ဒဟ်တစ်ကြိမ်သာ ပြုလုပ်က လုံလောက်၏၊ အကယ်၍ အကြိမ်မည်မျှပင် ဖတ်သည်ဖြစ်စေ ဟူ၏။ အကယ်၍ အခြားသောကိစ္စတွင်မွေ့လျော်ပြီးနောက်မှ ထိုအာယတ်ကိုဖတ်ခြင်းဖြစ်သော် ဒုတိယ စစ်ဂျ်ဒဟ်ပြုရမည် ဖြစ်လေသည်၊ ထို့နောက် တတိယအလုပ်တွင် မွေ့လျော်ပြီးနောက် အကယ်၍ ဖတ်ပြန်လျှင် တတိယစစ်ဂျ်ဒဟ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်သွားအံ့။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၇။

၂၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အိမ်ကြီးဖြစ်ခဲ့သော် အခြားသောထောင့်တွင် တဖန်ပြန်၍ စစ်ဂျ်ဒဟ်အာယတ်ကိုဖတ်လျှင် ဒုတိယစစ်ဂျ်ဒဟ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ တတိယထောင့်တွင် တတိယစစ်ဂျ်ဒဟ် ပြုရမည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၇။

၂၂။ မတ်စ်အလဟ် ပြဿနာ။ ဗလီတွင်းလည်း ဤအမိန့်ပင် ဖြစ်လေသည်၊ ဗလီတွင်းမှာလည်းအခန်း၏အမိန့်အတိုင်းပင်ဖြစ်လေသည်မှာအကယ်၍စစ်ဂျ်ဒဟ်အာယတ်ကို အကြိမ်များစွာဖတ်လျှင် တစ်ကြိမ်တည်းသာလျှင် စစ်ဂျ်ဒဟ်ပြုခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်၊ တစ်နေရာတည်းတွင်ထိုင်၍ ထပ်ခါထပ်ခါဖတ်သည်ဖြစ်စေ၊ သို့မဟုတ် ဗလီထည်းတွင် ဟိုဟိုသည်သည် စင်္ကြံလျှောက်ယင်း ဖတ်သည်ဖြစ်စေ ဟူ၏။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၇။

၂၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နမာဇ်တွင်း၌ စစ်ဂျိဒဟ် အာယတ်တစ်ခုဘည်းကို အကြိမ်များစွာဖတ်ခဲ့သော် ထိုအခါတွင်လည်း စစ်ဂျိဒဟ် တစ်ကြိမ်တည်းပြုခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်၊ အားလုံးအကြိမ်များစွာဖတ်ပြီး နောက်ဆုံး၌ စစ်ဂျိဒဟ်ပြုလိုလျှင်လည်း ပြုနိုင်၏၊ သို့မဟုတ် တစ်ကြိမ်တည်းဖတ်၍ စစ်ဂျိဒဟ်ပြုပြီးလျှင် တဖန်ထိုရကအတ် သို့မဟုတ် ဒုတိယရကအတ်၌ ထိုအာယတ်ကိုပင် ဖတ်သည်ဖြစ်စေဟူ၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၈၆။

၂၄။ မတ်စ်အလဟ်ပြဿနာ။ မည်သည့် စစ်ဂျိဒဟ် အာယတ်တစ်ခု ဖတ်၍ စစ်ဂျိဒဟ်မပြုဘဲနေ၏၊ ထို့နောက် ထိုနေရာ၌ပင် နီယတ်ချည်၍ ထိုအာယတ်ကိုပင်တဖန် နမာဇ်၌ဖတ်၏၊ နမာဇ် စစ်ဂျိဒဟ်တေလာဝပ်တ် ပြုလျှင် ဤစစ်ဂျိဒဟ်သည် လုံလောက်၏၊ စစ်ဂျိဒဟ်နှစ်ခုအတွက် ထိုတစ်ကြိမ်တည်းဖြင့် တာဝန်ကျေ၏၊ အကယ်၍ နေရာပြောင်းရွှေ့ ဖတ်လျှင် ဒုတိယစစ်ဂျိဒဟ်လည်း ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၀။

၂၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ စစ်ဂျိဒဟ်အာယတ်ကိုဖတ်၍စစ်ဂျိဒဟ်ပြု၏၊ ထို့နောက် ၎င်းနေရာ၌ပင် နမာဇ်၏ နီယတ်ကိုချည်၍ ထိုအာယတ်ကိုပင် နမာဇ်တွင်း၌ တဖန်ဖတ်၏၊ ယခုနမာဇ်တွင်း၌ တဖန်စစ်ဂျိဒဟ်ထပ်၍ပြုရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၆၈။

၂၆။ မတ်စ်အလဟ်ပြဿနာ။ ဖတ်သောသူသည် နေရာမပြောင်းဘဲ တနေရာတည်းတွင်ထိုင်လျက် အာယတ်တစ်ခုတည်းကို အကြိမ်ကြိမ်ဖတ်နေ၏၊ သို့ရာတွင် ကြားနာသူမှာ နေရာပြောင်းရွှေ့က ပထမတစ်နေရာတွင်ကြားနာ၍ ဒုတိယတစ်နေရာတွင်ကြားနာပြီး တတိယ အခြားနေရာတွင် ကြားပြန်သော် ဖတ်သောသူတွင် တစ်ကြိမ်တည်းသော စစ်ဂျိဒဟ်သာလျှင်ပြုရန် ဝါဂျစ်ဗ် ဖြစ်၏၊ ကြားသောသူတွင် အကြိမ်များစွာ စစ်ဂျိဒဟ် ဝါဂျစ်ဗ်ဖြစ်၏၊ ကြားသောအကြိမ်နှင့်အမျှ စစ်ဂျိဒဟ်ပြုရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ၆၈။

၂၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကြားသောသူသည် နေရာရွှေ့ပြောင်းခြင်းမပြုဘဲ ဖတ်ရွတ်သောသူက နေရာရွှေ့ပြောင်းခဲ့သော် ဖတ်သောသူ၏ အပေါ်တွင် စစ်ဂျိဒဟ်အကြိမ်များစွာဖတ်သည်နှင့်အမျှပြုရန် ဝါဂျစ်ဗ်ဖြစ်၏၊ ကြားသောသူ၏အပေါ်တွင် စစ်ဂျိဒဟ် တစ်ကြိမ်သာလျှင် ပြုရန်ထိုက်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၆၈။

၂၈။ မတ်စ်အလဟ်ပြဿနာ စူရဟ် တစ်ခုလုံး ဖတ်ပြီး စစ်ဂျိဒဟ် ပါသော အာယတ်တော်ကို ချန်လှပ်ထားခြင်းမပြုရ၊ မတ်ကရူးဟ်ဖြစ်သည်၊ စစ်ဂျိဒဟ်ပြုရမည်ကို ရှောင်သောသဘောဖြင့် ထိုအာယတ်ကိုချန်လှပ်ခြင်းမပြုအပ်၊ ထိုသို့ပြုခြင်းသည် စစ်ဂျိဒဟ်ပြုခြင်းကို ဖီဆန်ရာရောက်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၅။

၂၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ စူရဟ်တစ်ခုတွင် အခြား အာယတ်များကိုမဖတ်ဘဲ စစ်ဂျိဒဟ်အာယတ် တစ်ခုတည်းကိုသာလျှင် ဖတ်ခဲ့သော် ၎င်းဖတ်ခြင်း

အတွက် ဘာမျက်စွမရှိချေ၊ အကယ်၍ နမာဇ်၌ ဤကဲ့သို့ဖတ်မှု ၎င်း၌ ဤသို့စည်းကမ်း ရှိလေသည်၊ အာယတ်တို သုံးခုနှင့် ညီမျှသော အာယတ်ရှည် ဖြစ်စေရမည်၊ သို့သော် အကောင်းဆုံးမှာ စစ်ဂျ်ဒဟ် အာယတ်ကို အခြား တစ်အာယတ်နှစ်အာယတ်ဖြင့် တွဲ၍ ဖတ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၅။

# မကျန်းမာသူတို့၏ နမာဇ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ကို မည်သည့်အဖြစ်မှမလွတ်ရချေ၊ မတ်တပ် ရပ်လျက်ဖတ်နိုင်သော အင်အား ရှိနေသေးသမျှ ကာလပတ်လုံး ရပ်လျက်သာဖတ်ရမည်၊ မရပ်နိုင်သောအခါမှ ထိုင်ဖတ်ရမည်။

ထိုင်၍ ဖတ်စဉ် ထိုင်လျက်ပင် ရိုကူအ် ကုန်းရမည်၊ ရိုကူအ် ကုန်းပြီး စစ်ဂျ်ဒဟ် နှစ်ကြိမ် ပြုရမည်၊ ရိုကူအ် ကုန်းရာ၌ ဤမျှခန့် ညွတ်စေရမည်၊ နဖူးသည် ဒူးနှင့် အညီ ဖြစ်စေရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၁။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရိုကူအ်နှင့် စစ်ဂျ်ဒဟ် ပြုနိုင်လောက် အောင်ပင် မစွမ်းနိုင်ခဲ့သော် ရိုကူအ်နှင့်စစ်ဂျ်ဒဟ်ကို (အေရှာရဟ်) အရိပ်နိမိတ်ဖြင့်သာ ပြုရမည်၊ စစ်ဂျ်ဒဟ်အတွက် ရိုကူအ်ထက်ပို၍ ညွတ်ကုန်းရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၄၄။

၃။ မတ်စ်အလဟ် ပြဿနာ။ စစ်ဂျ်ဒဟ်ပြုရန် အတွက် ခေါင်းအုံး မှီအုံး စသည် တစ်စုံတစ်ခုသောပစ္စည်းကိုခံ၍ ၎င်းအပေါ်တွင် စစ်ဂျ်ဒဟ်ပြုခြင်းသည် မကောင်း ပေ၊ မည်သည့်အခါ စစ်ဂျ်ဒဟ်ပြုနိုင်လောက်အောင်စွမ်းအားမရှိခဲ့သော် အေရှာရဟ်အရိပ် နိမိတ်ပြု၍ဖြင့် ပြီး၏၊ ခေါင်းအုံးပေါ်တွင် စစ်ဂျ်ဒဟ်ပြုရန်မလိုချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၄၄။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မတ်တပ်ရပ်နိုင်သော အင်အားတော့ ရှိ၏၊ သို့ရာတွင် ရပ်လိုက်လျှင် ကြီးစွာသော ဒုက္ခဖြစ်သော်လည်းကောင်း၊ သို့မဟုတ် ရောဂါတိုးမည်ကို စိုးရိမ်ရသော်လည်းကောင်း ထိုအခါမျိုး၌ ထိုင်၍ဖတ်ခြင်း ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မတ်တပ် ရပ်နိုင် သော် ငြားလည်း ရိုကူအ်နှင့် စစ်ဂျ်ဒဟ်ကို မပြုနိုင်ခဲ့သော် မတ်တပ်ရပ်၍ ဖတ်လိုကဖတ်နိုင်သည်၊ ရိုကူအ်နှင့် စစ်ဂျ်ဒဟ်ကို အရိပ်နိမိတ်ဖြင့် ပြုရမည်၊ ထိုင်ဖတ်လိုကလည်း ဖတ်နိုင်သည်၊ ရိုကူအ်နှင့် စစ်ဂျ်ဒဟ်ကို အရိပ်နိမိတ်ဖြင့်ပြုရမည်၊ သဘောကျနှစ်သက်သလို နှစ်မျိုးစလုံးဖတ်နိုင်သည်၊ သို့ရာတွင် ထိုင်၍ဖတ်ခြင်းက သာ၍ပိုကောင်းလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၇၉၁။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ထိုင်ခြင်းကိုပင် မစွမ်းနိုင်ခဲ့သော် ကျောဘက်မှ ခေါင်းအုံး မှီအုံး စသည်ခံ၍ ဤကဲ့သို့ လျောင်းလဲရမည်၊ ခေါင်းကိုကောင်းစွာ

မြင့်မြင့်ထားပြီး ထိုင်နေသကဲ့သို့ပင် မတ်နေစေရမည်၊ ခြေထောက်ကို 'ကစ်ဗ်လဟ်'ဘက်သို့ ဆင်းထားရမည်၊ အကယ်၍ အနည်းငယ် အားအင်ရှိသေးလျှင် ကစ်ဗ်လဟ်ဘက်သို့ ခြေကိုမဆင်းရ၊သာမက ဒူးကိုထောင်ထားရမည်၊ ထို့နောက်ဦးခေါင်း၏ အရိပ်နိမိတ်ဖြင့် နမာဇ်ဖတ်ရမည်၊ စစ်ဂျဒဟ်၏အရိပ်နိမိတ်တွင် ပိုမို၍ ငုံ့ရမည်၊ အကယ်၍ မှီအုံးဖြင့် မှီလျက်လည်း ခေါင်းနှင့်ရင် မြင့်အောင် လျောင်းလဲခြင်း မပြုနိုင်ခဲ့သော် 'ကစ်ဗ်လဟ်' ဘက်သို့ ခြေဆင်း၍ လုံးဝလျောင်းလဲလိုက်ရမည်၊ သို့ရာတွင် ခေါင်း၏ အောက်တွင် မြင့်သောခေါင်းအုံး ခံပေး၍ မျက်နှာကို ကစ်ဗ်လဟ်ဘက်သို့ ရှိစေရမည်၊ မိုးဘက်သို့ မော့မနေစေရ၊ ထို့နောက် ခေါင်း၏အရိပ်နိမိတ်ဖြင့် နမာဇ်ဖတ်ရမည်၊ ရှိကူအ်၏ အရိပ်နိမိတ်ကို အနည်းငယ်သာပြု၍ စစ်ဂျဒဟ်၏အရိပ်နိမိတ်ကို အနည်းငယ်ပိုမိုပြုရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၄၊၇၉၅။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ပက်လက်လျောင်းလဲခြင်းမပြုဘဲ လက်ယာ-လက်ဝဲသို့ စောင်းလျက် လျောင်းလဲနေသော် 'ကစ်ဗ်လဟ်' ဘက်သို့ မျက်နှာမူ၍ လျောင်းလဲရမည်၊ ခေါင်း၏အရိပ်နိမိတ်ဖြင့်ပင် ရှိကူအ်နှင့် စစ်ဂျဒဟ်ကို ပြုရမည်၊ ဤသို့ ပြုခြင်းလည်း ပိုင်၏၊ သို့ရာတွင် ပက်လက် လျောင်းလဲပြီး ဖတ်ခြင်းက ပိုမို ကောင်းမွန်လေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၉၁။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဦးခေါင်းဖြင့် အရိပ်နိမိတ်ပြုရန်ကိုပင် စွမ်းအားမရှိလျှင် နမာဇ်ကိုမဖတ်ရ၊ ထို့နောက် အကယ်၍ တစ်ညနှင့် တစ်နေ့ထက်ပို၍ ဤအခြေအနေမျိုးတွင်ရှိနေလျှင် နမာဇ်မှလုံးဝခွင့်လွှတ်လေပြီ၊ နေကောင်းလာပြီးနောက် 'ကဇ္ဇာ'ဖတ်ရန်လည်း ဝါဂျစ်ဗ် မဟုတ်တော့ချေ။

အကယ်၍ တစ်ညနှင့်တစ်နေ့ထက်မပိုဘဲ တစ်နေ့နှင့်တစ်ညအတွင်းတွင် အကယ်၍ ဦးခေါင်းဖြင့် အရိပ်နိမိတ်ပြုကာ နမာဇ်ကိုဖတ်နိုင်သောစွမ်းအားရရှိလာမှု အရိပ်နိမိတ်ဖြင့်ပင် ၎င်းတို့၏'ကဇ္ဇာ'ကိုဖတ်ရမည်၊ လုံးဝ ကျန်းမာလာသောအခါမှ ကဇ္ဇာ ဖတ်မည်ဟု မရည်စူးရ၊ အဘယ့်ကြောင့်ဟူမူ ဤအတွင်းကွယ်လွန်ခဲ့သော်အပြစ်ရှိသူအဖြစ်နှင့် သေရအံ့။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၇။

၉။ မတ်စ်အလဟ် ပြဿနာ။ ဤနည်းပင် အကယ်၍ ကျန်းမာသောလူကောင်း တစ်ယောက်သည် သတိလစ်မေ့သွားသော် အကယ်၍ သတိလစ်မေ့ခြင်းသည် တစ်နေ့နှင့် တစ်ညထက်မပိုလျှင် ကဇ္ဇာဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ တစ်နေ့နှင့်တစ်ညထက်ပိုလျှင် ကဇ္ဇာဖတ်ခြင်း ဝါဂျစ်ဗ်မဟုတ်တော့ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ နမာဇ် အစပြုသော အချိန်၌ ကောင်းမွန်ကျန်းမာစွာရှိ၍ အနည်းငယ်ဖတ်ပြီးနောက် နမာဇ်အတွင်း၌ပင် အကြောတင်းလာသဖြင့် မရပ်နိုင်မူ ကြွင်းကျန်သော နမာဇ်ကို ထိုင်၍ဖတ်ရမည်။

အကယ်၍ ရိုကူအ်နှင့် စစ်ဂျ်ဒဟ် ပြုနိုင်လျှင် ပြုရမည်၊ မပြုနိုင်သော် ရိုကူအ်နှင့် စစ်ဂျ်ဒဟ်ကို ဦးခေါင်းဖြင့်အရိပ်နိမိတ်ပြုရမည်၊ အကယ်၍ ထိုင့်နိုင်သောစွမ်းအားပင် မရှိခဲ့သော် ထိုနည်းပင်လျောင်းလဲ၍ ကျန်သောနမာဇ်ကို အပြီးဖတ်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၈၇။

၁၁။ မတ်စ်အလဟ် ပြဿနာ။ မကျန်းမာသောကြောင့် နမာဇ် အနည်းငယ်ကိုထိုင်၍ဖတ်၏၊ ရိုကူအ်၏နေရာတွင် ရိုကူအ်ပြု၏၊ စစ်ဂျ်ဒဟ်၏နေရာတွင် စစ်ဂျ်ဒဟ်ပြု၏၊ ထို့နောက် နမာဇ်အတွင်း၌ပင် ကောင်းမွန်လာသော် ထိုနမာဇ်ကို မတ်တပ်ရပ်၍ အပြီးဖတ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၉၆။

၁၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မကျန်းမာသောကြောင့် ရိုကူအ် စစ်ဂျ်ဒဟ်ပြုနိုင်သော အင်အားမရှိ၊ ထို့ကြောင့် ဦးခေါင်း၏ အရိပ်နိမိတ်ဖြင့် ရိုကူအ် စစ်ဂျ်ဒဟ်ပြု၏၊ ထို့နောက် နမာဇ်ကို အနည်းငယ် ဖတ်ပြီးနောက် ရိုကူအ် စစ်ဂျ်ဒဟ်ပြုနိုင်လာမူ ယခုဤနမာဇ်သည် ပျက်သွားလေပြီ၊ ၎င်းကို ပြည့်စုံအောင်မဖတ်ရ၊ သာမက တဖန်ပြန်၍ အစမှဖတ်ရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၈၇။

၁၃။ မတ်စ်အလဟ် ပြဿနာ။ သွက်ချာပါဒရောဂါဖြစ်၍လဲနေ၏၊ ထိုကဲ့သို့သောရောဂါဖြစ်၍ ရေဖြင့်(အစ်တင်န်ဂျာ)သုတ်သင်သန့်ရှင်းမှု မပြုနိုင်သော် အဝတ်စဖြင့်ဖြစ်စေ၊ မြေစိုင်ခဲဖြင့် ဖြစ်စေ သုတ်သင်ပေးရမည်၊ ဤနည်းနှင့်ပင် နမာဇ် ဖတ်ရမည်၊ အကယ်၍ မိမိဘာသာ တယမ်မွမ်မပြုနိုင်ခဲ့သော် အခြားတစ်ဦးတစ်ယောက်သောသူအား အပြုခိုင်းရမည်၊ အကယ်၍ မြေစိုင်ခဲ၊ အဝတ်စဖြင့် သုတ်သင်ခြင်းမပြုနိုင်သော် နမာဇ်ကို ကဿာမပြုရ၊ ဤအတိုင်းပင်ဖတ်ရမည်၊ အခြားသူသည်၎င်း၏ကိုယ်ခန္ဓာအား ကြည့်ရှုခြင်း၊ သုတ်သင်ပေးခြင်းမပိုင်၊ မိခင်ဖြစ်စေ၊ ဖခင်ဖြစ်စေ၊ သားဖြစ်စေ၊ သမီးဖြစ်စေ ဟူ၏။ သို့သော် မယားဖြစ်သူကို လင်ကလည်းကောင်း၊ လင်ဖြစ်သူကို မယားကလည်းကောင်း ကိုယ်ခန္ဓာကိုကြည့်ရှုခြင်းပိုင်၏၊ လင်နှင့်မယားမှတစ်ပါး အခြားသူအဖို့မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၃၁။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ကျန်းမာနေသော အချိန် ကာလ၌ အချို့သော နမာဇ်များ ကဿာဖြစ်ခဲ့၏၊ ထို့နောက် ရောဂါဖြစ်လာ၏၊ ထိုမကျန်းမာစဉ် အခါ၌ နမာဇ်ကို ဖတ်နိုင်သည့်နည်းဖြင့် ၎င်းကဿာကို ဖတ်ရမည်။

ရပ်နိုင်သော အားအင်ရှိလာမှ ဖတ်တော့မည် ဟူ၍ စောင့်စားမနေရ၊ သို့မဟုတ် ထိုင်နိုင်သော အခါကျမှ ရိုကူအ် စစ်ဂျ်ဒဟ်ပြုနိုင်သော အင်အားရှိမှ ဖတ်တော့မည်ဟု စောင့်ဆိုင်းမနေရ၊ ဤသို့သော စဉ်းစားမှုများသည် 'ရှိုင်တွာန်' ဘက်က စဉ်းစားမှုသာလျှင် ဖြစ်လေသည်၊ မစောင့်ဆိုင်းဘဲ ချက်ချင်းဖြစ်သလိုဖတ်ခြင်းသည် သာသနာကို လေးစားသူတို့၏ အလုပ်ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၈၈။

၁၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လူမမာ၏အိပ်ရာသည် မသန့်မရှင်း ဖြစ်နေ၏၊ သို့သော် ၎င်းအိပ်ရာကိုလဲလှယ်ပေးလိုက်လျှင် လူနာတွင် ဝေဒနာဒုက္ခခံစားရလိမ့်မည်ဖြစ်သော် ထိုအိပ်ရာပေါ်၌ပင် နမာဇ်ဖတ်ခြင်းပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၉။

## ခရီးသည် အဖြစ်တွင် နမာဇ် ဖတ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အကြင်သူသည် တစ်(မန်ဇဝ်လ်)တစ်နေ့ခရီးသို့မဟုတ် နှစ်(မန်ဇဝ်လ်)နှစ်နေ့ခရီးသို့သွားလာမူ ထိုခရီးဖြင့်(ရှရီအတ်)တရားတော်က အဘယ်အမိန့်ပညတ်မျှမပြောင်းလဲချေ၊ ရှရီအတ်ဥပဒေအရ ၎င်းကိုခရီးသည်အာဂန္တုဟု မခေါ်ချေ၊ ထိုသူ-ထိုသူမသည် အိမ်၌နေစဉ်က လုပ်ဆောင်ချက်အတိုင်း အားလုံး ပြုလုပ်ရမည်၊ လေးရကအတ် ဖတ်ရသောနမာဇ်ကို လေးရကအတ် အပြည့်ပင် ဖတ်ရမည်၊ ခြေအိတ် ဝတ်ဆင်ထားလျှင်လည်း တစ်ညဥ့်နှင့်တစ်နေ့ 'မတ်စ်ဟ်' ပြုရမည်၊ ထို့နောက် 'မတ်စ်ဟ်'ပြုခြင်း မပိုင်တော့ချေ။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၈။

၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် သုံး(မန်ဇဝ်လ်) သွားရန် ဆန္ဒပြု၍ ထွက်လာလျှင် ထိုသူသည် ရှရီအတ်ဥပဒေအရ ခရီးသည် အာဂန္တုဖြစ်လေသည်။ မည်သည့်အခါ မိမိမြို့၏ နယ်နိမိတ်မှ အပြင်သို့ထွက်ခွာလာမူ ရှရီအတ်တရားတော်အရ ခရီးသည် အာဂန္တုဖြစ်လေသည်၊ နယ်နိမိတ်အတွင်း သွားလာနေစဉ် ခရီးသည်မဟုတ်၊ ဘူတာရုံသည် အကယ်၍ နယ်နိမိတ်အတွင်းတွင်ရှိခဲ့သော် နယ်နိမိတ်၏ ပညတ်တွင်ပါဝင်၏၊ နယ်နိမိတ်၏ အပြင်တွင်ရှိသော် ထိုဘူတာရုံသို့ရောက်လျှင် ခရီးသည်ဖြစ်အံ့။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၈။

၃။ မတ်စ်အလဟ်ပြဿနာ။ သုံး(မန်ဇဝ်လ်) ဟူသည်ကား အမျှား အားဖြင့် ခြေလျှင်သွားသူတို့သည် သုံးရက်ဖြင့် ရောက်နိုင်လေသည်၊ ခန့်မှန်းချေအားဖြင့် ကျွန်ုပ်တို့ အိန္ဒိယနိုင်ငံ၌ (ပင်လယ်နှင့် တောင်များပေါ်တွင် ခရီးသွားရန် မရှိရကား) အင်္ဂလိပ်မိုင် ၄၈-မိုင်ခန့်ဖြစ်လေသည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၈။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍နေရာတစ်ခုသည်လူနှင့်ကုလားအုတ်တို့ ခြေလှမ်းဖြင့်သွားမူ သုံး(မန်ဇဝ်လ်)ခန့်ဝေးသော်ငြားလည်း မြန်သောယာဉ် ရထား မြင်းလှည်း တို့ဖြင့် သွားလျှင် နှစ်ရက်ဆည်းဖြင့် ရောက်နိုင်သော်လည်းကောင်း၊ သို့မဟုတ် မီးရထားကိုစီးနင်းသွားသော် တစ်ခဏဖြင့်ရောက်နိုင်သော်လည်း ထိုအခါတွင် ရှရီအတ်က ထိုသူအား ခရီးသည် အာဂန္တုဟုပင် ပညတ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၈။

၅။ မတ်စ်အလယ်ပြဿနာ။ အကြွင်သူသည် ရှရီအတ်အရ ခရီးသည်အဒ၇ဂန္တု ဖြစ်သော် ထိုသူသည် (ဇွဟ်ရ်)(အတ်စွ ်ရ်)(အေရှာအ်)၏ ဖွရ်သွ ်နမာဇ်မျာ:ကို နှစ်ရက အတ် သာလျှင် ဖတ်ရမည်၊ ၎င်းပြင် စွန္နတ်များ အတွက် အမိန့်ပညတ်မှာ အကယ်၍ အရေးကြီးသော် ဖွဂျ်ရ်၏ စွန္နတ်မှတစ်ပါး အခြား စွန္နတ်များကိုပါ လွှတ်ပိုင်လေသည်၊ ယင်းသို့လွှတ်လိုက်သဖြင့်မည်သည့်အပြစ်မျှမဖြစ်ချေ၊ အကယ်၍အရေးမကြီးဘဲ မိမိအဖေါ် များ ကျန်နေရစ်မည်ကိုလည်း မစိုးရိမ်ရလျှင်မလွှတ်ရ၊ လမ်းခရီး၌လည်း စွန္နတ်များကို ပြည့်စုံစွာဖတ်ရမည်၊ ၎င်းနမာဇ်များကို လျှော့ပစ်ခြင်းမပြုရ။

ဘဲဟ်ရွှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၆။ မတ်စ်အလယ်ပြဿနာ။ ဖွဂျ်ရ်.... မဂ်ရစ်ဗ်.... ဝစ်တ်ရ် နမာဇ် တို့၌လည်း မည်သို့မျှ လျှော့နည်းခြင်းမရှိ၊ အမြဲဖတ်ရွှတ်သကဲ့သို့ ဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၁။

၇။ မတ်စ်အလယ်ပြဿနာ။ ဇွဟ်ရ်.... အတ်စွ ်ရ်.... အေရှာအ် နမာဇ် တို့ကို နှစ်ရကအတ်ထက်ပို၍မဖတ်ရ၊ လေးရကအတ်အပြည့်ဖတ်ခြင်းအပြစ်ဖြစ်၏၊ ဥပမာ ဇွဟ်ရ်၏ ဖွရ်သွ ်ကို ခြောက်ရကအတ်ဖတ်လျှင် အပြစ်ရှိသူဖြစ်သကဲ့သို့တည်း။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၁။

၈။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ မေ့လျှော့ပြီး လေးရကအတ်ဖတ်မိလျှင် အကယ်၍ ဒုတိယရကအတ်တွင် ထိုင်လျက် အတ္တဟီယာတ်ဖတ်လျှင် ဖွရ်သွ ် နှစ်ရကအတ် ပြီးလေပြီ၊ ကျန်နှစ်ရကအတ်မှာ နဖွ ်လ်ဖြစ်သွားအံ့၊ စစ်ဂျဒဟ်စဟ်ဝ်ပြုရမည်၊ အကယ်၍ နှစ်ရကအတ်တွင် မထိုင်လျှင် လေးရကအတ်စလုံး နဖွ ်လ်ဖြစ်သွားအံ့၊ ဖွရ်သွ ်နမာဇ်ကို တဖန်ပြန်ဖတ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၂၆။

၉။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ လမ်း၌တစ်နေရာတွင်တည်းခိုမှု အကယ်၍ တဆယ့်ငါးရက်ထက်လျော့နည်း၍ နေထိုင်ရန်ရည်စူးလျှင် ၎င်းသူသည် ခရီးသည်အဖြစ်၌ တည်၏၊ လေးရကအတ် ဖတ်ရမည့် ဖွရ်သွ ်နမာဇ်များကို နှစ်ရကအတ်သာလျှင် ဖတ်ရမည်။

အကယ်၍ ၁၅-ရက် သို့မဟုတ် ၎င်းထက် ပိုမို၍ နေထိုင်ရန် ရည်စူးလျှင် ယခု ၎င်းသူသည်ခရီးသည် အာဂန္တုမဟုတ်တော့ချေ၊ ထို့နောက် အကယ်၍ ရည်ရွယ်ချက် ပြောင်းပြီး ၁၅-ရက်မတိုင်မီ ထွက်ခွာသွားရန် ဆန္ဒပြုပြီးသော်လည်း ခရီးသည်မဖြစ်နိုင် ချေ၊ နမာဇ်များကိုပြည့်စုံစွာဖတ်ရပေမည်၊ ထို့နောက် မည်သည့်အခါ ဤဌာနမှထွက်ခွာ သွားသော် ဤနေရာမှသွားမည့်နေရာသို့ ခရီး(သုံးမန်ဇင်လ်)ခန့်ဝေးလျှင် တဖန်ခရီးသည် အာဂန္တုဖြစ်ပြန်၏၊ ထို့ထက်နည်းမူ ခရီးသည်မဖြစ်ချေ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၂၉။

၁၀။ မတ်စ်အလယ်ပြဿနာ။ (သုံးမန်ဇင်လ်)သွားရန် ဆန္ဒပြု၍ အိမ်မှထွက်ခွာ ၏၊ သို့ရာတွင် အိမ်ကပင် မည်သည့်ဒေပ်ရွာတွင် ၁၅-ရက်နေမည်ဟုနိယတ်ပြုခဲ့လျှင် ခရီးသည်

အာဂန္တုအဖြစ်၌မရှိချေ၊ တစ်လမ်းလုံးတွင်နမာဇ်များအပြည့်အစုံဖတ်ရမည်၊ ထို့နောက် ရပ်ရွာကိုရောက်၍ ၁၅-ရက်ပြည့်အောင် မနေသော်လည်း ခရီးသည် မဟုတ်တော့ချေ။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ ၃၇၀။

၁၁။ မတ်စ်အလဟ် ပြဿနာ။ သုံးမန်ဇင်လ်သွားရန်ဆန္ဒပြု၍၊ သို့ရာတွင် ပထမ မန်ဇင်လ် သို့မဟုတ် ဒုတိယမန်ဇင်လ်၌ မိမိအိမ်ရှိနေမူ ထိုအခါ၌လည်း ခရီးသည်မဟုတ် သေးချေ။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၇၀။

၁၂။ မတ်စ်အလဟ် ပြဿနာ။ လေးမန်ဇင်လ်ခန့်သွားရန် ရည်စူး၍ ထွက်ခွာ ခဲ့၍၊ သို့ရာတွင်ပထမ နှစ်မန်ဇင်လ်တွင်ဓမ္မတာရာသီပန်းပွင့်လျက်လွန်ရောက်လာ၍၊ ထိုအခါ တွင်လည်း ၎င်းသူမသည် ခရီးသည်မဟုတ်ချေ၊ ယခုရေချိုးပြီးနောက် လေးရကအတ် ပြည့်စုံစွာဖတ်ရမည်၊ သို့သော် ဓမ္မတာရာသီသွေးရပ်စဲ၍ သန့်ရှင်းပြီးနောက်လည်းထိုနေရာ တွင် အကယ်၍ သုံးမန်ဇင်လ်ရှိနေမည်၊ သို့မဟုတ် ထွက်လာစဉ် သန့်ရှင်း၍၊ လမ်း၌ဓမ္မတာ ရာသီလာခဲ့သော် ထိုသူမသည် ခရီးသည်ဖြစ်၍ နမာဇ်ကို ခရီးသည်ကဲ့သို့ ဖတ်ရမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃၃။

၁၃။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်ယင်းဖတ်ယင်း နမာဇ်၏အတွင်း၌ပင် ၁၅-ရက် နေထိုင်ရန် ရည်စူးလိုက်သော် ခရီးသည် မဟုတ်တော့ချေ၊ ဤနမာဇ်ကိုလည်း ပြည့်စုံစွာ ဖတ်ရမည်။

အာလမ်ဂီရီကျမ်းအတွဲ-၁၊ စာမျက်နှာ ၆၀။

၁၄။ မတ်စ်အလဟ် ပြဿနာ။ သုံးလေးရက်အဖို့ လမ်းခရီး၌ တစ်နေရာတွင် ရပ်နားရန်ကြုံကြိုက်လာ၏၊ သို့ရာတွင် မသွားနိုင်သောကိစ္စပေါ်ပေါက်နေသဖြင့် နက်ဖြန် သဘက် ထွက်ခွာသွားမည်ဟုနိယတ်ရှိသော်လည်း မသွားဖြစ်ခဲ့၊ ဤနည်းအားဖြင့်၁၅-ရက် သို့မဟုတ် ၂၀-ရက်၊ သို့မဟုတ် ထို့ထက်ပင်ပို၍ နေရလေသည်၊ သို့ရာတွင် ၁၅-ရက် ပြည့်အောင်နေမည်ဟု မည်သည့်အခါမျှ နိယတ်မပြုခဲ့ချေ၊ ထိုအခါတွင်လည်း(မိုစာဖွင်ရ်) ခရီးသည်ဖြစ်လေတော့သည်၊ ဤနည်းဖြင့် မည်မျှပင် ရက်ကြာသွားသည်ဖြစ်စေဟူ၏။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၉။

၁၅။ မတ်စ်အလဟ် ပြဿနာ ။သုံးမန်ဇင်လ်သွားရန် ဆန္ဒပြု၍ ထွက်ခွာသွား၏၊ ထို့နောက် အနည်းငယ်ကွာဝေးသော ဌာနရောက်မှ အကြောင်းတစ်ခုခုကြောင့် ဆန္ဒ ပြောင်း၍ အိမ်သို့ပြန်လှည့်လာသော် ပြန်လှည့်ရန် ဆန္ဒပြုသောအချိန်မှစ၍ ခရီးသည် မဟုတ်တော့ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ ၇၃၅။

၁၆။ မတ်စ်အလဟ် ပြဿနာ။ အကြင် အမျိုးသမီးသည် မိမိလင်ယောကျ်ား နှင့်အတူပါ၏၊ လမ်းခရီး၌ လင်ယောကျ်ားဝင်ရောက်သောနေရာတွင် သူလည်းဝင်ရောက် ရမည်ဖြစ်၍ လင်ထက်ပိုမို နေခွင့်မရှိဖြစ်မူ ဤသို့သောအခြေအနေ၌ လင်ဖြစ်သူ၏ နိယတ် အပေါ်တည်၏၊ အကယ်၍ လင်ဖြစ်သူက တဆယ့်ငါးရက်ခန့် နေထိုင်မည်ဟုရည်စူး လျှင်မယားသည်လည်း ခရီးသည် မဟုတ်တော့ချေ၊ သူမသည် နေရန် နိယတ် ပြုသည် ဖြစ်စေ၊ မပြုသည်ဖြစ်စေဟူ၏၊ အကယ်၍ ယောကျ်ားဖြစ်သူက ထို့ထက်နည်း၍ နေရန် ရည်စူးလျှင် မိန်းမသည်လည်းခရီးသည်ဖြစ်၏။ ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၃၁။

၁၇။ မတ်စ်အလဟ်ပြဿနာ။ သုံးမန်ဇင်လ် လွန်ပြီးမှ တစ်ဌာနသို့ ရောက်ရာ ထိုဌာနှ၌ မိမိနေအိမ် ရှိနေမူ ခရီးသည် မဟုတ်ချေ၊ ရက်အနည်းငယ် နေသည်ဖြစ်စေ၊ ကြာမြင့်စွာနေသည်ဖြစ်စေဟူ၏။ အကယ်၍ မိမိအိမ်မဟုတ်မူ ၁၅-ရက်နေရန် ရည်စူးက ခရီးသည် မဟုတ်ချေ၊ ယခုနမာဇ်များကို အပြည့်ဖတ်ရမည်၊ အကယ်၍ မိမိအိမ်၌လည်း မဟုတ် ၁၅-ရက်ခန့် နေရန်လည်း မရည်စူးသော် ထိုနေရာသို့ရောက်ပြီး နောက်လည်း ခရီးသည်ပင်ဖြစ်၏၊ ၎လေးရကအတ် ဖွရ်သွ်ကို နှစ်ရကသတ်သာ ဖတ်ရမည်။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၂၁။

၁၈။ မတ်စ်အလဟ်ပြဿနာ။ လမ်းတွင် နေရာပေါင်း များစွာ၌ ရပ်နား ရန်ဆန္ဒရှိ၏၊ ဤမှာ ၁၀-ရက်၊ ထိုမှာ ၅-ရက်၊ ထိုမှာ ၁၂-ရက်ဖြစ်၏၊ သို့ရာတွင်၁၅-ရက် ပြည့်အောင် မည်သည့်နေရာမျှနေရန် မရည်စူးသော် ထိုအခါလည်း ခရီးသည်ပင် ဖြစ်လေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၂၁။

၁၉။ မတ်စ်အလဟ်ပြဿနာ။ လူတစ်ဦးသည် မိမိမြို့ကို လုံးဝစွန့်ခွာ၍အခြား နေရာ၌ အိမ်ဆောက်၍ ထိုနေရာတွင်နေထိုင်၏၊ ယခုပထမမြို့နှင့်ပထမနေခဲ့သောအိမ်သည် ဘာမျှမသက်ဆိုင်တော့လျှင် ယခုထိုမြို့သည်အဝေးမြို့ရွာအဖြစ်တူညီသွားလေပြီ၊ အကယ်၍ ခရီးထွက်သော အချိန်တွင် လမ်းခုလပ်၌ ထိုပထမနေခဲ့သောမြို့ကိုရောက်၍ သုံးလေးရက် ထိုမြို့တွင်နေထိုင်ရပါမူ ခရီးသည်အဖြစ်၌ရှိနေလေသည်၊ နမာဇ်များကို ခရီးသည်အတိုင်း ဖတ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၂၉။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သောသူ၏ နမာဇ် များသည် လမ်းခရီးတွင် ကဿာဖြစ်ခဲ့သော် အိမ်ပြန်ရောက်လျှင်လည်း ဇွဟ်ရ်-အတ်စွ်ရ် အေရှာအ် နမာဇ်များကို နှစ်ရကအတ်သာလျှင် ကဿာဖတ်ရမည်။

အကယ်၍ ခရီးမထွက်မီ ဇွဟ်ရ်နမာဇ်ကိုကဿာဖြစ်ခဲ့သော် လမ်းခရီးတွင် လေးရက အတ်ငင်း၏ ကဿာကိုဖတ်ရမည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၅၀။

၂၁။ မတ်စ်အလဟ်ပြဿနာ။ ထိမ်းမြားခြင်း ပွဲပြီးနောက် အကယ်၍ မိန်းမ ဖြစ်သူသည် အမြဲအားဖြင့် မိမိယောက္ခမအိမ်တွင် နေထိုင်သော် သူ၏ နေယင်း အိမ်သည် ယောက္ခမအိမ်ဖြစ်သွားလေသည်။ အကယ်၍ သုံးမန်ဇင်လ်သွားပြီးသော် သူမ၏မိဘအိမ် သို့ ရောက်၍ ၁၅-ရက်နေထိုင်ရန် နိယတ်မရှိလျှင် ခရီးသည်ဖြစ်လေသည်၊ ခရီးသည်၏ ပညတ်အရ နမာဇ် ရိုဇဟ်ကို ပြုကျင့် ဆောင်ရွက်ရမည်။

အကယ်၍ ထိုနေရာ၌နေခြင်းကို အမြဲအစဉ်နေရန်ဟု စိတ်မကူးသော် မိမိ ပထမ နေသော ဌာနသည် ယခုလည်း ဌာနရင်း ဖြစ်လေသည်။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၂၉။

၂၂။ မတ်စ်အလဟ်ပြဿနာ။ ၎မြစ်ထဲ၌ လှေသွားနေစဉ် နမာဇ်ချိန်ရောက်လာ သော် ထိုသွားနေသော လှေပေါ်တွင် နမာဇ်ကို ဖတ်ရမည်၊ အကယ်၍ ရပ်ဖတ်လျှင် ခေါင်းမူးသော် ထိုင်၍ဖတ်ရမည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၅။

၂၃။ မတ်စ်အလဟ် ပြဿနာ။ မီးရထားပေါ်၌ နမာဇ်ဖတ်ရန်လည်း ဤအမိန့် ပညတ်ပင်ဖြစ်လေသည်၊ ခုတ်မောင်းနေသော မီးရထားပေါ်တွင် နမာဇ်ဖတ်ခြင်းပိုင်၏၊ အကယ်၍ မှတ်တပ်ရပ်လျက်ဖတ်လျှင် ခေါင်းမူးမည်ကိုလည်းကောင်း၊ လဲကျသွားမည်ကို လည်းကောင်း စိုးရိမ်ရလျှင် ထိုင်၍ဖတ်ရမည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၄၅။

၂၄။ မတ်စ်အလဟ် ပြဿနာ။ နမာဇ် ဖတ်နေစဉ် မီးရထားသည် တစ်ဘက်သို့ လှည့်သွားသဖြင့် 'ကစ်ဗ်လဟ်' သည် အခြားတစ်ဘက်၌ဖြစ်သွားမူ နမာဇ်တွင်း၌ပင် လှည့်၍ 'ကစ်ဗ်လဟ်' ဘက်သို့မျက်နှာမူရမည်။ ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၈၇။

၂၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ သုံးမန်ဇင်လ်သွားရန် ဖြစ်မူ မိမိနှင့် နေကာဟ် ဟရာမ်ဖြစ်သူ ယောကျ်ားတစ်ဦးဦးသော်လည်းကောင်း၊ သို့မဟုတ် လင်ဖြစ်သူ သော်လည်းကောင်းအတူမပါဘဲနှင့် ခရီးထွက်ခြင်းမပိုင်ချေ၊ ၎င်းတို့မပါဘဲခရီးသွားခြင်း သည် အပြစ်ဖြစ်၏၊ အကယ်၍ တစ်မန်ဇင်လ် သို့မဟုတ်နှစ်မန်ဇင်လ်ဖြစ်စေ သူစိမ်းဖြင့်ခရီး သွားခြင်း မကောင်းချေ၊ ဟဒီးသ်တော်၌ ၎င်းကိစ္စနှင့်ပတ်သက်၍ ပြင်းထန်စွာ တားမြစ် ထား၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၉၁။

၂၆။ မတ်စ်အလဟ် ပြဿနာ။ အကြင် နေကာဟ်-ဟရာမ် ဖြစ်သူသည်လည်း ခိုဒါနှင့်ရစူလ်ကို မကြောက်ရွံ့သောသူ ရှရီအတ်တရားတော်ကို မလိုက်နာသူ ဖြစ်ခဲ့သော် ထိုသို့သောသူများနှင့်လည်း ခရီးအတူသွားခြင်း မပိုင်ချေ။

ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၄။

၂၇။ မတ်စ်အလဟ် ပြဿနာ။ နွားလှည်း မြင်းလှည်း တို့ဖြင့် ခရီး သွားရာ နမာဇ်ချိန်ရောက်လာသော် လှည်းပေါ်မှဆင်း၍ လွတ်လပ်သောတစ်နေရာတွင် ရပ်လျက် နမာဇ်ဖတ်ရမည်၊ ဤနည်းပင် အကယ်၍ လှည်းပေါ်တွင်ဝိုသ္ဇူမပြုနိုင်သော် လှည်းပေါ်မှ ဆင်း၍ ကွယ်ရာတစ်နေရာတွင်ထိုင်ပြီးဝိုသ္ဇူပြုရမည်၊ အကယ်၍ (ဗွရ်ကဟ်) ခြုံ ထည်မပါ သော် စောင်တစ်ခုခုကိုခြုံ၍ဆင်းပြီး နမာဇ်ဖတ်ရမည်၊ ဤသို့သောအခါတွင် ပရ်ဒဟ်ကို ကရုပြုလွန်းပြီး နမာဇ်ကို ကသ္ဇာဖြစ်စေလျှင် ဟရာမ်ဖြစ်၏၊ နေရာတိုင်း၌ ရှရီအတ်တရား တော်ကိုဦးစားပေးရမည်၊ ပရ်ဒဟ်ကိုလည်း ရှရီအတ်ကပေးထားသည့် စည်းကမ်းအတွင်း ၌သာထားရှိရမည်၊ ရှရီအတ်တရားတော်စည်းကမ်းထက် ကျော်ခြင်း၊ ရှရီအတ်အတိုင်း လုပ်ရမည်ကို ရှက်ခြင်းတို့သည် အလွန်မသိနားမလည်၍ မိုက်မဲရာကျချေ၏၊ အကြောင်းမဲ့ ပရ်ဒဟ်၌ လျော့နည်းမှုပြုခြင်းတို့သည် အရှက်ဗ္ဗန္ဓေ ကင်းမဲ့ရာရောက်သည်၊ ၎င်း အပြစ် ဖြစ်လေသည်။ ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃၄။

၂၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဤသို့သောရောဂါဖြစ်နေ၏၊ ထို ရောဂါကြောင့် ထိုင်၍နမာဇ်ဖတ်ခြင်းပိုင်သော်ငြားလည်း မောင်းနှင်လျက်ရှိသောလှည်း ပေါ်တွင်ထိုင်၍နမာဇ်ဖတ်ခြင်းမပိုင်ချေ၊ လှည်းသည်ရပ်လျက်ရှိသော်လည်း ထမ်းပိုးသည် နွားများပခုံးပေါ်တွင် တပ်လျက်ပင်ရှိသော်လည်း ထိုအပေါ်တွင် နမာဇ်ဖတ်ခြင်းမပိုင် ချေ၊ နွားကိုဖြုတ်ပြီးမှနမာဇ်ဖတ်ရမည်၊ မြင်းလှည်းအဖို့လည်းဤပြသက်ပင်ဖြစ်လေသည်၊

မြင်းလှည်းမှမြင်းကိုဖြုတ်ပြီး တစ်ခြားစီမဖြစ်သေးမီ ထိုအချိန်တိုင်အောင်မြင်းလှည်းပေါ်၌ နမာဇ်ဖတ်ခြင်း မပိုင်ချေ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃၄။

၂၉။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် ထိုင်၍ နမာဇ်ဖတ်ခြင်းပိုင်လျှင် ထမ်းစင်နှင့်ဝေါယာဉ်ပေါ်၌လည်း နမာဇ်ဖတ်ခြင်းပိုင်၏၊ သို့ရာတွင် ထမ်းစင်ကိုထမ်းသူများ၏ပခုံးထက်တွင်ရှိနေစဉ် နမာဇ်ဖတ်ခြင်းမပိုင်၊ မြေပေါ်တွင် ချခိုင်းပြီး နောက်မှ ဖတ်လျှင်ပိုင်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃၄။

၃၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကုလားအုတ်ပေါ်မှဖြစ်စေ၊ လှည်းပေါ်မှ ဖြစ်စေ ဆင်းလျှင် အသက်အတွက်လည်းကောင်း၊ ပစ္စည်းအတွက်လည်းကောင်း အန္တရာယ်ရှိသော် မဆင်းဘဲဖြင့်လည်း နမာဇ်ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၉၂။

# အိမ်၌ သေဆုံးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မည်သည့် အခါ မွတ်စလင်မ်တစ်ဦး ကွယ်လွန်သေခါးရန် နီးကပ်လာလျှင် ၎င်းကို ပက်လက်လျောင်းလဲ၍ထားရမည်၊ သို့တည်းမဟုတ် လက်ယာဘက်သို့ စောင်းထားရမည်၊ ၎င်း၏ခြေကို 'ကစ်ဗ်လဟ်' ဘက်သို့ ထားရမည်၊ ဦးခေါင်းကို ခေါင်းအုံးခံ၍ မြင့်မြင့်ထားပေးရမည်၊ သို့မှသာ ကစ်ဗ်လဟ်ဘက်သို့မျက်နှာမူလျက်ရှိမည်၊ ၎င်း၏အနီးအပါးတွင်ထိုင်၍ အသံဖြင့် ကလေ့မဟ်ကိုဖတ်ရမည်၊ သို့မှသာ အသင်၏ဖတ်သံကိုကြားနာရပြီး ကိုယ်တိုင်လည်း ကလေ့မဟ်ကို လိုက်ဖတ်ခြင်းပြုပေမည်၊ ကွယ်လွန်ခါနီး ၎င်းကို ကလေ့မဟ်ဖတ်ဆိုရန် အမိန့်ပေးခြင်း၊ တိုက်တွန်းခြင်း မပြုရ၊ အကြောင်းမှာ ထိုအချိန်သည် အလွန်ခက်ခဲသောအချိန်ဖြစ်၍ ၎င်း၏နှုတ်မှ မည်သို့ထွက်သွားမည်ကို မသိရသောကြောင့် ဖြစ်ခလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀၀။

၂။ မတ်စ်အလဟ် ပြဿနာ။ မည်သည့်အခါ ထိုသူသည် ကလေ့မဟ်တစ်ကြိမ်ခန့် လိုက်၍ဖတ်လျှင် ဆိတ်ဆိတ်နေကြရမည်၊ ကလေ့မဟ်ကိုဖတ်နေယင်း အသက်ထွက်သွားရန် မကြိုးစားလေနှင့်၊ အဘယ့်ကြောင့်ဟူမူထိုသူနှုတ်မှနောက်ဆုံးထွက်သောစကားသည် ကလေ့မဟ်ဖြစ်ရန်ပင် အဓိကလိုရင်းဆန္ဒဖြစ်ချေသည်၊ ကလေ့မဟ်ကိုအသက်ထွက်သည့်တိုင်အောင်ဖတ်ဆိုနေရန် အရေးမကြီးပေ၊ ဟုတ်ပါ၏၊ အကယ်၍ ကလေ့မဟ်ဖတ်ပြီးနောက် လောကီစကားများပြောလာလျှင် တဖန်ပြန်၍ ကလေ့မဟ်ကို ဖတ်ပြနေကြရမည်၊ မည်သည့်အခါ ထိုသူဖတ်လိုက်လျှင် ဆိတ်ဆိတ်နေကြရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀၀။

၃။ မတ်စ်အလဟ် ပြဿနာ။ မည်သည့်အခါအသက်ရှူမမှန်တော့ဘဲလျှင်မြန်စွာရှူရှိုက်၍ ခြေနှစ်ဘက်မှာ ပျော့ခွေ ကျလျက် ထောင်မရတော့လျှင် လည်းကောင်း၊ နှာခေါင်းကောက်လာ၍ နားထင်များ ကျသွားလျှင် သေတော့မည်ဟု မှတ်ယူရမည်၊ ထိုအချိန်တွင် ကလေ့မဟ်ဒတာ်ကို အော်၍ ဖတ်ပေးကြရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၀၀။

၄။ မတ်စ်အလဟ်ပြဿနာ။ (စူရဟ်ယာစိန်)ကို ဖတ်ပေးလျှင် အသက်ထွက်ခြင်း၏ ပြင်းထန်မှုကိုလျော့နည်းစေသည်၊ ထိုသူ၏ခေါင်းရင်းတွင်ဖြစ်စေ၊ အခြားတစ်နေရာတွင်ဖြစ်စေ ထိုင်၍ဖတ်ပေးရမည်၊ သို့မဟုတ် တစ်ဦးသောသူကို ဖတ်ခိုင်းရမည်။

အာလမ်ဂီရကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၀၀။

၅။ မတ်စ်အလဟ်ပြဿနာ။ ထိုအချိန်တွင် သူ၏စိတ်၌ လောကီ သံယောဇဉ်ငြိတွယ်ရန် စကားများကိုမပြောကြရချေ၊အဘယ့်ကြောင့်ဟူမူ ဤအချိန်သည်လောကီကိုစွန့်ခွာ၍ အလ္လာဟ်အသျှင်မြတ် ထံတော်သို့ ရောက်ရမည့်အချိန်ဖြစ်လေသည်၊ လောကီကိုလွှတ်၍ အလ္လာဟ်အသျှင်မြတ်ဘက်သို့ စိတ်ညွတ်ကိုင်းကာ သတိရစေမည့်စကားများကိုသာ ပြောဆိုကြားနာနေစေရမည်၊ သေမည့်သူ၏ အကောင်းကျိုးဆောင်ပေးခြင်းသည် ဤသို့ ပြုလုပ်ခြင်းသာလျှင် ဖြစ်ပေ၏၊ ဤအချိန်မျိုး၌ သားသမီး - ကလေးများကို ရှေ့ဝယ်ခေါ်လာခြင်း၊ သို့မဟုတ် ထိုသူနှင့်ချစ်ခင်ရင်းနှီးသူများကို ရှေ့ဝယ်ခေါ်လာခြင်းဖြင့် ၎င်းတို့ဘက်သို့ စိတ်ညွတ်ကိုင်း၍ ၎င်းတို့အားချစ်ခင်စိတ်ဝင်စားကာ လောကီ၏ မက်မောမှုကို ခံယူပြီး အဖြစ်ကူးပြောင်းအောင် ပြုလုပ်ခြင်းသည် အလွန် မကောင်းသောအလုပ်ဖြစ်လေသည်၊ အကြင်သူသည် လောကီမက်မောမှုကိုခံယူပြီးသေဆုံးမှု(နအူသို့၊ဗစ်လ္လာဟ်) မကောင်းသော သေခြင်းဖြင့် သေရခြင်းမည်၏။

၆။ မတ်စ်အလဟ်ပြဿနာ။ သေမည့်ဆဲဆဲအချိန်တွင်အာကယ်၍ထိုသူ၏ပါးစပ်မှ မတော်တဆ(ကွဖ်ရ်)ဖြစ်စေတတ်သော စကားတစ်စုံတစ်ရာထွက်လာမူ ၎င်းကို ကရုမစိုက်ရ၊ ကြွေးကြော်ပြောဆိုခြင်းမပြုရချေ၊ သာမက သေခြင်း၏ပြင်းထန်မှုသည် အသိဉာဏ်ကိုပင် ကွယ်ပျောက်စေနိုင်ကြောင်းကို သိထားရမည်၊ ထို့ကြောင့် ဤသို့ထွက်မိထွက်ရာ ပြောဆိုခြင်းဖြစ်လေသည်၊ အသိဉာဏ်ကွယ်ပျောက်နေစဉ်အချိန်၌ ပေါ်ပေါက်သမျှ ကိစ္စအဝဝအတွက် အပြစ်မှ ခွင့်လွှတ်၏၊ ထိုသူအဖို့ အလ္လာဟ်အသျှင်မြတ်ထံတော်တွင် အပြစ်မှ ချမ်းသာရရန် ချမ်းသာဆုပန်ပေးနေရမည်။

ဒုရ်ရေမုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၉၁။

၇။ မတ်စ်အလဟ်ပြဿနာ။ မည်သည့်အခါငြဉ်ချုပ်ငြိမ်းသွားလျှင်အားလုံးသောကိုယ်အင်္ဂါအစိတ်အပိုင်းများကို နေသားတကျပြုပြင်ပေး၍ ၎င်း၏ပါးစပ်ကိုအဝတ်တစ်ထည်ဖြင့် ဤနည်းစည်းပေးရမည်၊အဝတ်တစ်စကိုမေးအောက်မှသိုင်းပြီးခေါင်းပေါ်တွင် အစနှစ်ဘက်ကိုချည်နှောင်ရမည်၊ ပါးစပ်ဟသျှက်မနေရန်ဖြစ်သည်၊ မျက်စိနှစ်ဘက်ကိုလည်း ပိတ်ပေးရမည်၊ ခြေနှစ်ဘက်ကိုလည်း ကားမနေရန် ခြေမနှစ်ဘက်ကိုအဝတ်စကလေးတစ်ခုဖြင့်ချည်နှောင်ပေးထားရမည်၊ ထို့နောက်စောင်တစ်ထည်ဖြင့် ဖြန့်အုပ်ပေးထားရမည်၊ ရေချိုးခြင်း၊ ကဖွာန် ပိတ်ဖြူဝတ်ဆင်ပေးခြင်းကို မြန်နိုင်သမျှ လျှင်မြန်စွာဆောင်ရွက်ပေးရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၀၀။

၈။ မတ်စ်အလဟ်ပြဿနာ။ * ပါးစပ်၊ မျက်စိ စသည် ပိတ်သေးအခါ၌....

بِسْمِ اللّٰهِ وَعَلٰى مِلَّةِ رَسُوْلِ اللّٰهِ

(ဗစ်မစ်လ္လာဟေ့၊ ဝအလာ၊ မစ်လတေ ရစူလစ်လ္လာဟ်) ဟူသော ဒိုအာကို ဖတ်ဆိုရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၀၁။

၉။ မတ်စ်အလဟ်ပြဿနာ။ သေဆုံးပြီး နောက် သေသူ၏ အနီးအပါးတွင် လော်ဗန်စသည်အမွှေးအကြိုင်ကိုမီးရှို့၍ထားရမည်၊ ရာသီလာနေသောမိန်းမ၊ မီးနေသည် တို့သည်လည်းကောင်း၊ (ဂျနာဗတ်)ရေချိုးရန် ထိုက်နေသောသူများသည်လည်းကောင်း သေသူ၏အနီးအပါးသို့ မချဉ်းကပ်စေရ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၉၂။

၁၀။ မတ်စ်အလဟ်ပြဿနာ။ သေဆုံးပြီး နောက် ရေမချိုးသေးမီ အတွင်း သူသေ၏ အနီးအပါးတွင် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ခြင်း မပိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၉၃။

# သူသေကို ရေချိုးပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မည်သည့်အခါတွင်းနှင့် ကဖွာန် စသော ကိစ္စ အဝဝသည် အသင့်ဖြစ်၍ရေချိုးပေးလိုသောအခါ ပထမ ခုတင်တစ်ခုကိုဖြစ်စေ၊ သို့မဟုတ် ပျဉ်ပြားကြီးကို ဖြစ်စေ ခင်း၍ လော်ဗန် သို့မဟုတ် အမွှေးတိုင်ဖြင့် သုံးကြိမ် ဖြစ်စေ၊ ငါးကြိမ်ဖြစ်စေ၊ ခုနစ်ကြိမ်ဖြစ်စေ လေးမျက်နှာ မီးသင်းပေးရမည်၊ ထို့နောက် ၎င်း ခုံပေါ်သို့ သူသေကိုတင်၍ အခြားအဝတ်တစ်ထည်ဖြင့် ချက်အထက်မှ ဒူးအောက်အထိ ဖုံးအုပ်လျက် ဃခင်အဝတ်များကို ချွတ်လိုက်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၀၁။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေချိုးပေးရန် နေရာသီးခြားရှိ၍ ရေ သည် စီးသွားရန် လမ်းရှိလျှင် ကောင်း၏၊ မရှိခဲ့သော် ရေချိုးခုံအောက်တွင် ရေဝပ် ရန် တွင်းတူးပေးရမည်၊ အကယ်၍ တွင်းမတူးဘဲ တစ်အိမ်လုံးသို့ ရေစီးကုန်လျှင်လည်း မည်သည့်အပြစ်မျှမဖြစ်ပါ၊ သို့သော်သွားရာလာရာတွင် အခက်အခဲတွေ့၍ ချော်လဲခြင်း မဖြစ်ရန်အတွက်ဟူ၏။

၃။ မတ်စ်အလဟ်ပြဿနာ။ ရေချိုးပေးနည်းမှာ-ပထမသူသေကိုအစ်တင်န်ဂျာ သန့်စင်မှုပြုပေးရမည်၊ သို့ရာတွင် ၎င်း၏ပေါင်နှင့်အင်္ဂါဇာတ်နေရာသို့ မိမိလက်ကို မရောက် စေရ၊ ကြည့်လည်းမကြည့်ရ၊ မိမိလက်တွင်အဝတ်အိတ်ဖြင့်စွပ်လျက်ဖြစ်စေ၊ အဝတ်ရစ်ပတ် လျက်ဖြစ်စေ ထားရမည်၊ ဖုံးထားသောအဝတ်ကို မဖွင့်ရ၊ ထိုအဝတ်၏အောက်မှ လက် နှိုက်၍ ဆေးကြောပေးရမည်။

ထို့နောက် ဝိုသ္မူပြုပေးရမည်၊ သို့ရာတွင် ပလုပ်ဆေးခြင်း၊ နှာခေါင်း၌ ရေသွင်း ဆေးခြင်း လက်ကောက်ဝတ်အထိ လက်ကိုဆေးခြင်းများမပြုရ၊ သာမက ပထမ မျက်နှာ

ကိုဆေးကြောပေး၍ ထို့နောက်တတောင်ဆစ်ပါ လက်နှစ်ဘက်ကို ဆေးကြောပေးရမည်၊ ထို့နောက် ဦးခေါင်းကို မတ်စ်ဟ်သုတ်သပ်ပေးရမည်၊ ထို့နောက် ခြေနှစ်ဘက်ကို ဆေးကြောရမည်။

အကယ်၍ ဝါဠွမ်းကိုရေဆွတ်၍ သွားနှင့်သွားဖုံးများကိုသုံးကြိမ်ပွတ်တိုက်ပေးလျှင်သော် လည်းကောင်း၊ နှာခေါင်းပေါက် နှစ်ခုတွင်းသို့ လှည့်ပတ် မွှေနှောက်ပေးသော်လည်းကောင်းပို၏။

အကယ်၍ သေဆုံးသူသည် ရေချိုးရန်ထိုက်နေသူဖြစ်သော်လည်းကောင်း၊ ဓမ္မတာရာသီလာနေသူ ဖြစ်သော်လည်းကောင်း၊ သားဖွားပြီး သွေးလာနေသူ ဖြစ်သော်လည်းကောင်း ထိုနည်းအတိုင်း ပါးစပ်နှင့်နှာခေါင်းတွင် ရေသွင်းဆေးကြောပေးရန် အရေးကြီးလေသည်၊ ၎င်းပြင် နှာခေါင်း ပါးစပ်နှင့်နားနှစ်ဘက်ကို ဝါဠွမ်းဖြင့်ပိတ်ဆို့ထားရမည်၊ အဘယ့်ကြောင့်ဟူမူ ဝိုသွူပြုပေးသောအခါ ရေချိုးပေးသောအခါ ရေမဝင်ရန်ဖြစ်လေသည်။

မည်သည့်အခါဝိုသွူပြုပေးပြီးလျှင် ဦးခေါင်းကိုခေါင်ရမ်းပန်းဖြစ်စေ၊ သို့မဟုတ် အခြားပစ္စည်းဖြင့်ဖြစ်စေ၊ ဥပမာ....ကုလားပဲ၊ မုန့်ညက်၊ နှမ်းဖတ်ခဲ စသည်တို့ဖြင့် ပွတ်တိုက်ဆေးကြောပေးရမည်၊ သန့်ရှင်းအောင် ပြုလုပ်ပြီးနောက် သူသေကို လက်ဝဲဘက်သို့ စောင်း၍ ဇီးရွက်ပြုတ်ရေ ကြက်သီးနွေးဖြင့် ဦးခေါင်းမှခြေဖျားအထိ သုံးကြိမ်လောင်းရမည်၊ လက်ပဲဘက် နံဘေးအောက်အထိ ရောက်အောင် လောင်းရမည်၊ ထို့နောက် လက်ယာဘက်သို့စောင်း၍ ဤနည်းပင် ဦးခေါင်းမှခြေဖျားအထိ လောင်းရမည်၊ လက်ယာဘက်နံဘေးအောက်သို့ ရောက်အောင်လောင်းရမည်။

ထို့နောက် သူသေကို မိမိကိုယ်တွင်မှီ၍ အနည်းငယ်ထိုင်ပေးပြီးလျှင် ဝမ်းဗိုက်ကို ဖြည်းညှင်းစွာဖိ၍ သုတ်သပ်ပေးရမည်၊ အကယ်၍ အနည်းငယ် ကျင်ကြီးထွက်လာသော် အဝတ်ဖြင့်သုတ်၍ ဆေးကြောပေးရမည်၊ ဝိုသွူနှင့်ဂွတ်စ်လ်တွင် ယင်းသို့မသန့်ထွက်လာသဖြင့် ဘာမျှနစ်နာမှုမရှိချေ၊ ထပ်၍ပြုရန်မလိုပေ၊ ထို့နောက် လက်ဝဲဘက်သို့စောင်းပြီးလျှင် ပရုတ်မှုန့်ဖြင့်ဖျော်ထားသောရေကို ခေါင်းမှခြေထိ သုံးကြိမ်လောင်းရမည်၊ ထို့နောက် တကိုယ်လုံးကို ဖြူစင်သန့်ရှင်းသော အဝတ်ဖြင့် ရေသုတ်ယူ၍ 'ကဖွာန်' ဝတ်ဆင်ပေးရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၁။

ဗွရ်ရေမွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၅၊ ၇၉၆။

၄။ မတ်စ်အလတ်ပြဿနာ။ ။အကယ်၍ ဇီးရွက်ပြုတ်ရေမရနိုင်သော် ၎င်းရေရိုးရိုးကြက်သီးနွေးဖြင့်ပင်လုံလောက်၏၊ ထိုရေနွေးဖြင့် အထက်ပါနည်းအတိုင်း သုံးကြိမ်လောင်းရမည်၊ အလွန်ပူသောရေနွေးဖြင့်မချိုးရ၊ ယခုဤရေချိုးနည်းသည် စွန္နတ်တော်နည်းဖြစ်လေသည်။

အကယ်၍ အကြင်သူသည် ဤနည်းဖြင့် သုံးကြိမ်ရေမချိုးဘဲ တစ်ကြိမ်တည်းသာ တကိုယ်လုံးသို့ ရေလောင်းချိုးလိုက်လျှင် ထိုအခါတွင်လည်း "ဖွရ်သွ" တာဝန် ကျေပွန်သွားလေသည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ကဖွာန်အဝတ်ပေါ်သို့ သူသေကိုတင်ပြီးနောက် ဦးခေါင်းတွင်နံ့သာဆီမွှေး သုတ်လိမ်းပေးရမည်၊ အကယ်၍ သူသေသည်ယောကျ်ားဖြစ်ခဲ့သော် မုတ်ဆိတ်ကိုလည်းနံ့သာဆီမွှေးသုတ်လိမ်ပေးရမည်၊ ထို့နောက် နဖူး၊ နှာခေါင်း လက်ဝါးနှစ်ဘက်၊ ဒူးဆစ်နှစ်ဘက်၊ ခြေဖျားနှစ်ဘက်တွင် ပရုတ်သုတ်လူးပေးရမည်၊ တချို့တချို့သောသူများမှာကဖွာန်တွင် နံ့သာဆီကိုသုတ်လူးခြင်း၊ အဝတ်စကိုနံ့သာဆီလူး၍ နားတွင်းသို့ ထည့်သွင်းခြင်းတို့မှာ မှသိနားမလည်၍ လုပ်ကြခြင်းဖြစ်လေသည်၊ ရှရီအတ်တရားတော်တွင် ပါရှိသည်ထက်ပိုမိုမလုပ်သင့်ပါပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ကွယ်လွန်သူ၏ဆံပင်တွင်ဘီးမဖီးရ၊ လက်သည်း ခြေသည်းမဖြတ်ရ၊ မည်သည့်နေရာကအမွှေးအမျှင်ကိုမျှမရိပ်ရ၊ မူလအတိုင်းအားလုံးရှိစေ ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၈။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ယောကျ်ားတစ်ဦးတစ်ယောက် သေဆုံးရာ ရေချိုးပေးမည့်သူ ယောကျ်ားတစ်ဦးမျှမရှိခဲ့လျှင် မယားဖြစ်သူမှလွဲ၍ မည်သည့် မိန်းမမျှငင်းကိုရေချိုးပေးခြင်းမပိုင်ချေ၊ အကယ်၍နေကာဟ်ဟရာမ်ဖြစ်သူပင်ဖြစ်စေဟူ၏၊ အကယ်၍ မယားဖြစ်သူလည်းမရှိခဲ့သော် ၎င်းကိုတယမ်မွှန်မ်ပြုပေးရမည်၊ သို့ရာတွင်လက် ဖြင့် ၎င်း၏အသားကိုမထိမကိုင်ရ၊ လက်တွင်လက်အိတ်စွပ်၍ တယမ်မွှန်မ်ပြုပေးရမည်။

၈။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော အမျိုးသမီး၏ လင် ယောကျ်ားသေဆုံးမူ သူ၏ဇနီးမယားသည် ၎င်းအားရေချိုးပေးခြင်း၊ ကဖွာန်ဝတ်ဆင် ပေးခြင်းပိုင်လေသည်၊ အကယ်၍ မယားဖြစ်သူသေဆုံးခဲ့လျှင် လင်ဖြစ်သူသည် ထိခြင်း ကိုင်ခြင်းမပိုင်ချေ၊ သို့သော် ကြည့်ခြင်းမှာပိုင်၏၊ အဝတ်ပေါ်မှ ကိုင်တွယ်ခြင်းလည်း ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၂။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ အကြင် ရာသီလာနေသောမိန်းမ သို့မဟုတ် ကလေးဖွားမြင်ပြီး မသန့်ရှင်းသောမိန်းမတို့သည် သူသေကိုရေမချိုးရ 'မတ်က်ရူးဟ်' ဖြစ် ၍တားမြစ်၏၊ ဂျနာဗတ်ကိုယ်မသန့်သူလည်း ဤအမိန့်အတိုင်းဖြစ်၏။

ဒွရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂ၉၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အကောင်းဆုံးနည်းမှာ နီးစပ်သော ဆွေမျိုး ရင်းချာဖြစ်သူသည် ရေချိုးပေးရမည်၊ အကယ်၍ ထိုသူမတွင် ရင်းချာသူများမရှိလျှင် တစ်ဦးဦးသောဘာသာရေးလေးစားသူ၊ ကောင်းမြတ်သောအမျိုးသမီးအား အချိုးခိုင်း ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၀၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ရေချိုးပေးရာ၌တစ်စုံတစ်ခုသောအ ပြစ်အနာအဆာတွေ့မြင်ခဲ့သော် မည်သူ့ကိုမျှမပြောသင့်၊ အကယ်၍အသျှင်မြတ်အလိုတော် ဖြင့်သေပြီးနောက် ၎င်း၏မျက်နှာသည် အနေအထားပျက်နေသော်လည်းကောင်း၊ မည်း နက်သွားသော်လည်းကောင်း ဤအရာကိုလည်းမပြောသင့်၊ လုံးဝအကျော်ဒေးယျမပြုလုပ်

သင့်၊ ဤသို့ပြောခြင်းအားလုံး မပိုင်ချေ၊ အကယ်၍ ထင်ထင်ရှားရှား မကောင်းသော အကုသိုလ်မှုများကို ကျူးလွန်နေသူဖြစ်က ဥပမာ.... ကချေသည်လုပ်ခြင်း၊ သဘင်သည် အဖြစ် အသက်မွေးခြင်း၊ သို့မဟုတ် ပြည့်တန်ဆာအလုပ်ဖြင့် အသက်မွေးခြင်း ပြုလျှင် ဤသို့သော မိန်းမများအဖို့ ပြောပြခြင်းပိုင်၏၊ အခြားသောမိန်းမများ သတိသံဝေဂရ၍ ရှောင်ကြဉ်ပြီး 'တောဘ်ဗဟ်' ပြုလုပ်ရန် ဖြစ်လေသည်။

# ကဖွာန် ဝတ်ဆင်ပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မိန်းမကို ကဖွာန် အဝတ်စငါးထည်ဖြင့် ဝတ်ဆင်ပေးခြင်း စွန္နတ်တော်ဖြစ်လေသည်၊ ကွရ်တာအင်္ကျီတစ်ထည်၊ အေဇာရ်လုံချည်တစ်ထည်၊ စရ်ဗန်းဒ် ခေါင်းစည်းတစ်ထည်၊ ကျာဒရ် ခြုံစောင်တစ်ထည်၊ စီနာဗန်းဒ် ရင်စည်းတစ်ထည်။ အေဇာရ်သည် ခေါင်းကစ၍ခြေအထိရှည်ရမည်၊ ကျာဒရ်သည် ထိုအေဇာရ်ထက် တစ်တောင်ပိုရှည်ရမည်၊ ကွရ်တာအင်္ကျီသည် လည်ပင်းမှစ၍ ခြေဖျားထိ ရှည်ရမည်၊ သို့သော် လက်နှင့်ဂျိုင်းတွဲမပါချေ၊ စရ်ဗန်းဒ်ခေါင်းစည်းမှာ သုံးတောင်ရှည်ရမည်၊ စီနာဗန်းဒ် ရင်စည်းမှာ ရင်ဘတ်မှစ၍ ပေါင်အထိရှည်ရမည်၊ အနံမှာ ပတ်စည်းနိုင်လောက် အောင် ရှိစေရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။
ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ ၉၀၁၊၉၀၂။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ငါးထည်ဖြင့်ကဖွာန်မဆင်ဘဲသုံးထည် ထည်းဖြင့် ဆင်မြန်းလျှင်လည်း ပိုင်၏၊ (၁)အေဇာရ်၊ (၂)ကျာဒရ်၊ (၃)စရ်ဗန်းဒ် ဤမျှဖြင့် လုံလောက်၏၊ သုံးထည်ထက် နည်း၍ ဝတ်ဆင်ပေးခြင်းမှာ မကောင်းချေ၊ မတ်ကရူးဟ်ဖြစ်လေသည်၊ ဝယ်မရရှာမရသောအခါတွင် မစွမ်းနိုင်သဖြင့် ထိုထက်လျော့၍ ဝတ်ဆင်သော်ပိုင်၏။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၆၂။

၃။ မတ်စ်အလဟ် ပြဿနာ။ စီနာဗန်းဒ်ခေါ် ရင်စည်းသည် အကယ်၍ ရင်ဘတ်မှစ၍ ချက်အထိရှိလျှင်လည်းပိုင်၏၊ သို့သော် ပေါင်အထိရှိလျှင် ပိုမိုကောင်း၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ ၉၀၂။

၄။ မတ်စ်အလဟ် ပြဿနာ။ ပထမ ကဖွာန် အဝတ်များကို သုံးကြိမ်ဖြစ်စေ၊ ငါးကြိမ်ဖြစ်စေ လော်ဗန်အစရှိသောအမွှေးနံ့သာများထုံသင်းထားရမည်၊ ထို့နောက်မှ သေသူကိုဝတ်ဆင်ပေးရမည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၆၂။

၅။ မတ်စ်အလဟ်ပြဿနာ။ ကဖွာန် ဝတ်ဆင်ပေးနည်းမှာ- ပထမ ကျာဒရ် စောင်ကိုအောက်ဆုံးမှခင်းလိုက်ရမည်၊ ထို့နောက်၎င်းအပေါ်တွင် အေဇာရ်၊ထို့အပေါ် တွင်ကွရ်တာ၊ ထို့အပေါ်သို့ သေသူကိုပွေ့ယူပြီး တင်ထားပြီးလျှင် ပထမကွရ်တာအင်္ကျီကို ဝတ်ဆင်ပေးရမည်၊ ခေါင်းက ဆံပင်ကို နှစ်ပိုင်းခွဲ၍ အင်္ကျီအပေါ်မှ ရင်ဘတ်အပေါ်သို့ တင်ထားရမည်၊ ထို့နောက် စရ်ဗန်းဒ်ခေါင်းစည်းကို ဦးခေါင်းပေါ်နှင့် ဆံပင်ပေါ်သို့

အုပ်၍တင်ထားရမည်၊ စည်းနှောင်ခြင်း ရစ်ပတ်ခြင်းမပြုရ၊ ထို့နောက် အေဇာရ်ကို ပထမ လက်ဝဲဘက်ကအုပ်ရမည်၊ ထို့နောက် လက်ယာဘက်က အုပ်ရမည်၊ ထို့နောက် စီနားဗန်းဒ် ရင်စည်းကိုစည်းရမည်၊ ထို့နောက် အောက်ဆုံးမှ ကျာဒရ်စောင်ကို ပထမ လက်ဝဲဘက်ကအုပ်၍ ဒုတိယ လက်ယာဘက်က အုပ်ရမည်၊ ထို့နောက် ပိတ်စငယ်ဖြင့် ခြေရင်းမှတစ်စချည် ခါးမှတစ်စချည် ခေါင်းရင်းမှတစ်စချည်ရမည်၊ လမ်းတွင်ပွင့်မသွားရန်ဖြစ်သည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၆။ မတ်စ်အလဟ် ပြဿနာ။ ။စီနားဗန်းဒ် ရင်စည်းကို အကယ်၍ ခေါင်းစီး၏နောက် အေဇာရ်ကိုမစည်းမီအလျှင် စည်းပေးလိုက်လျှင်လည်း ပိုင်၏၊ အကယ်၍ အားလုံးသော ကဖွာန်များအပေါ်မှ စည်းလျှင်လည်းပိုင်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၀၃။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ကဖွာန် ဝတ်ဆင်ပေးပြီးလျှင် အနားမှဆုတ်ခွါကြ၍ ယောကျာ်းများကယူဆောင်၍ နမာဇ်ဖတ်ကြပြီး သင်္ဂြိုဟ်ကြရမည်။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ မိန်းမများဂျနာဇာဟ်နမာဇ် ဖတ်ကြလျှင်လည်းပိုင်၏၊ သို့ရာတွင်ဤသို့တရံတခါမျှ မကြုံကြိုက်ခဲ့ပေ၊ ထို့ကြောင့် ကျွန်ုပ်သည် မိန်းမများ ဂျနာဇာဟ်နမာဇ်နှင့် ဒဖွာန် မြေနှံ့သင်္ဂြိုဟ်ခြင်း အကြောင်း မတ်စ်အလဟ် ပြဿနာများကို မဖေါ်ပြတော့ပေ။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ကဖွာန် သို့မဟုတ် ကဘာရ်အတွင်း၌အဟာဒ်နာမာကတီစာချုပ်စာထမ်းဖြစ်စေ၊ သို့မဟုတ် မိမိတို့ပီရ်ဆရာ၏ စာတမ်းဖြစ်စေ၊ အခြားသော ဒိုအာဖြစ်စေ ထားခြင်းမပိုင်၊ ဤနည်းပင် ကဖွာန်ပိတ်စပေါ်၌ဖြစ်စေ၊ ရင်ဘတ်ပေါ်၌ဖြစ်စေ၊ ပရုတ်နှင့်သို့မဟုတ်မှင်နှင့် ကလေ့မဟ်စသည့်အခြားဒိုအာများကို ရေးခြင်းလည်း မပိုင်၊ သို့သော်ကအ်ဗဟ်ရှရီဖ်ကို ခြုံလွှမ်းသော ဂေလာဖ်ကိုသော်လည်းကောင်း၊ သို့မဟုတ် မိမိပီရ်ဆရာ၏ လက်ကိုင်ပုဝါစသည့်အဝတ် တစ်စုံတစ်ခုကို(တဗရ်ရွတ်က်) အဖြစ်ထည့်ခြင်း ပိုင်၏။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၄၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အကြွင်ကလေးသည် မွေးသောအခါ အရှင်မွေးလာ၏၊ ထို့နောက်ခဏတ္တအကြာတွင် သေဆုံးသွား၏။ သို့မဟုတ် မွေးမွေးခြင်းသေဆုံးသွားသော် ၎င်းကလေးကိုလည်း လူကြီးများနည်းတူ ရေချိုးခြင်းပြုပေးရမည်၊ ထို့နောက် ကဖွာန် ဝတ်ဆင်ပေး၍ ဂျနာဇာဟ်နမာဇ်ဖတ်ပြီး ဒဖွာန်သင်္ဂြိုဟ်ခြင်း ပြုရမည်၊ ကလေး၏ နာမည်လည်းပေးရမည်။ ဒွရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၂၈။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။အကြွင်ကလေးအား မိခင်ဝမ်းမှ အသေမွေးဖွားသော်မွေးသောအချိန်၌ ရှင်သောအရိပ်နိမိတ်တစ်စုံတစ်ခုမျှမရှိခဲ့သော်၊ ၎င်းကလေးကိုလည်းလူကြီးနည်းတူ ရေချိုးပေးရမည်၊ သို့သော် လူကြီးအတိုင်း ကဖွာန်မဝတ်ဆင်ဘဲ ပိတ်စတစ်ခုဖြင့်ထုတ်ပြီး ဒဖွာန်ပြုရမည်၊ ၎င်း၏နာမည်ကိုလည်း တစ်ခုခုထားလိုက်ရမည်။

ဒွရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၂၈။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ပဋိသန္ဓေပျက်မှုကလေး၏လက်, ခြေ မျက်နှာ, နှာခေါင်းစသည်ကိုယ်လက်အင်္ဂါများ စာစ်စုံတစ်ရာမထင်ရှားသေးလျှင် ရေချိုး ပေးရန်လည်းမလို၊ ကဖွာန်ဝတ်ဆင်ပေးရန်လည်းမလိုချေ။ ဘာမျှမလုပ်သင့်ပေ၊ အာဝတ် တစ်ထည်ဖြင့်ရစ်ပတ်၍ ကြွင်းတစ်ခုတူးပြီးမြှုပ်လိုက်ရမည်။

အကယ်၍ ကလေးသည် ကိုယ်လက်အင်္ဂါများထင်ရှားနေသော် အသေမွေးသော ကလေးအားပြုလုပ်ရသည့် အမိန့်ပညတ်အတိုင်းပင်ဖြစ်လေသည်။ အဓိပ္ပါယ်မှာ- နာမည် ပေးခြင်း၊ ရေချိုးခြင်းပြုလုပ်ရမည်။ သို့သော် လူကြီးဥပဒေအတိုင်း ကဖွာန်ဝတ်ဆင်ခြင်း မပြုရ၊ နမာဇ်လည်းမဖတ်ရချေသာမက၊ အာဝတ်ဖြင့် ရစ်ပတ်၍မြှုပ်နှံရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၈၂။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။ကလေး၏ ဦးခေါင်းသာလျှင် ထွက်လာ၍ ထိုအချိန်၌ရှင်နေ၍ ထို့နောက်မှသေဆုံးသွားသော်၊ ၎င်း၏အမိန့်ပညတ်မှာ အသေဖွား မြင်သောအခါ၊ ပြုလုပ်ရမည့် အမိန့်အတိုင်းဖြစ်လေသည်။

အကယ်၍ များသောအစိတ်အပိုင်းထွက်ပြူပြီး ထို့နောက်မှသေဆုံးသွားမူ၊ အရှင် မွေးသည်ဟုမှတ်ယူရမည်၊ အကယ်၍ ခေါင်းမှဖွားမြင်ခဲ့သော် ရင်အဆီထွက်ပြူလျှင်များ စွာသော အစိတ်အပိုင်း ထွက်လာသည်ဟုမှတ်ယူရမည်၊ ခြေမှဖွားမြင်ခဲ့သော် ချက်အထိ ထွက်ပြူခြင်းဖြစ်ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၂၇။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ငယ်ရွယ်သောသူငယ်မသည် အပျို ဘော်ဝင်ကာနီးတွင်သေဆုံးမူ ၎င်းအတွက်လည်း ကဖွာန်ငါးထည်ဝတ်ဆင်ပေးခြင်း စွန္နတ် ဖြစ်လေသည်၊ အပျိုများအတွက်ဝတ်ဆင်ရသကဲ့သို့ဖြစ်၏၊ အကယ်၍ငါးထည်မဝတ်ဆင်ဘဲ သုံးထည်သာ ဝတ်ဆင်လျှင်လည်း လုံလောက်၏၊ အချုပ်မှာ.... အကြွင်အမိန့်ပညတ်သည် မိန်းမကြီးများအပေါ်၌ ပညတ်သကဲ့သို့ အပျိုနှင့်ကလေးမများအပေါ်တွင်လည်း ပညတ် လေသည်၊ သို့သော်မိန်းမကြီးများမှာ အရေးကြီးသောအမိန့်ဖြစ်၍ ,ကလေးမများအဖို့ သာ့ပိုကောင်းမြတ်ခြင်းဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။အကြွင် မိန်းကလေးသည် အလွန်ငယ်ရွယ်၍ အပျိုဘော်ဝင်ရန် မနီးကပ်သေးမူ ၎င်းအဖို့အကောင်းဆုံးမှာ ကဖွာန်ငါးထည် ဝတ်ဆင် ပေးခြင်းဖြစ်၏၊ နှစ်ထည်ဝတ်ပေးခြင်းလည်းပိုင်၏၊ အဇာရ်တစ်ထည်၊ ကျာဒရ်တစ်ထည် ဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ယောကျ်ားကလေးသေဆုံး၍အမျိုး သမီးများက ၎င်းကိုရေချိုးခြင်း၊ ကဖွာန်ဝတ်ဆင်ပေးခြင်းလိုအပ်မူ ယခင်နည်းအတိုင်း ပင်ရေချိုးရမည်၊ အပေါ်၌ပြခဲ့လေပြီ၊ ကဖွာန်ဝတ်ဆင်ပေးရန်လည်း ထိုနည်းလမ်းပင်ဖြစ် လေသည်၊ အပေါ်၌ဖော်ပြခဲ့သည်ကိုသိပြီးဖြစ်လေသည်၊ ဤမျှခန့်သာကွာခြား၏မိန်းမမှာ ကဖွာန်ငါးထည်၊ ယောကျ်ားမှာ ကဖွာန်သုံးထည်မျှသာ ဖြစ်လေသည်၊ (၁) ကျာဒရ် စောင်တစ်ထည်။ (၂) အဇာရ် ကိုယ်ဝတ်တစ်ထည်။ (၃) ကွရ်တာ အင်္ကျီတစ်ထည် ဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ။ယောကျ်ားတို့၏ကဖွာန်၌ အကယ်၍နှစ်ထည်မျှသာရှိ၏၊ အဓိပ္ပါယ်.... ကျာဒရ်နှင့်အေဇာရ်ဖြစ်၍ ကွရ်ဘာမပါသော် ထိုအခါ၌လည်း ဘာမျှကိစ္စမရှိချေ၊ နှစ်ထည်ဖြင့်လုံလောက်လေသည်၊ နှစ်ထည်ထက်နည်း၍ ဝတ်ဆင်ပေးခြင်းမှာ မတ်က်ရူးဟ်ဖြစ်လေသည်၊ သို့သော် မစွမ်းနိုင်သော ခက်ခဲသောအချိန်အခါ၌ မတ်က်ရူးဟ်မဖြစ်ချေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၁၈။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်အဝတ်သည် ဂျနာဇဟ်ထမ်းစင်ပေါ်တွင်အုပ်၏၊ ထိုအရာသည် ကဖွာန်၌မပါဝင်ချေ၊ ကဖွာန်မှာ အထက်က ကျွန်ုပ်ဖော်ပြခဲ့သည့်ခန့်သာဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃။

၁၉။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်မြို့၌သေဆုံးလျှင် ထိုမြို့၌ပင်ဈာပနကိစ္စသင်္ဂြိုဟ်ခြင်းပြုရမည်၊ အခြားနေရာဌာနသို့ ယူဆောင်သွားခြင်းမကောင်းလှချေ၊ အကယ်၍ တစ်မိုင် တစ်မိုင်ထက်ခရီးခန့် ဝေးသောနေရာဌာနသို့ ယူဆောင်သွားခြင်းမှာ မည်သို့မျှအပြစ်မရှိချေ။ (ရှရ်အီမိုင်သည် အင်္ဂလိပ်မိုင် တစ်မိုင်ခွဲလောက်ရှိလေသည်။)

## အောက်ပါ မစာအင်လ်များကို ဖတ်နည်း

အကယ်၍ သင်ပြသောသူသည် ယောကျ်ားဖြစ်လျှင် ထို'မတ်စ်အလဟ်' များကို ကိုယ်တိုင်မသင်ပြလေနှင့်၊ သို့မဟုတ် မိမိဇနီးမယားအားဖြင့် သင်ပြပါလေ၊ သို့မဟုတ် စာဖတ်သူအမျိုးသမီးကို ညွှန်ကြားရန်မှာ ထိုပြဿနာများကို ကိုယ်တိုင်သာ ကြည့်စေရမည်၊ အကယ်၍ ဖတ်သောသူသည် အသက်ငယ်ရွယ်သော ယောကျ်ားကလေးဖြစ်သော် ၎င်းကိုလည်းမသင်ပြပါလေနှင့် သာမက နောက်မှကြည့်ရှုရန် ညွှန်ကြားရမည်။

### မစာအင်လ်



# ဟိုက်သွ် ဇမ္မတာရာသီလာခြင်းနှင့် အစ်တေဟာသွာ

### အကြောင်း။ ၆

၁။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမတို့သည်လစဉ်ဇမ္မတာအားဖြင့်အင်္ဂါဇာတ်အတွင်းမှ သွေးဆင်းခြင်းကို ဟိုက်သွ် ရာသီသွေးလာခြင်းဟုခေါ်လေသည်။
မွန်ယတ်ကျမ်း စာမျက်နှာ-၇၅။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ဟိုက်သွ်၏ရက်ပိုင်းသည်.အနည်းဆုံးသုံးနေ့သုံးညဖြစ်၍ အများဆုံး ဆယ်နေ့ဆယ်ည ဖြစ်လေသည်၊ အမျိုးသမီးတစ်ဦး၌ သုံးနေ့သုံးည ထက်နည်း၍သွေးဆင်းမှု ၎င်းသည် ဟိုက်သွ် မဟုတ် (အစ်တေဟာသွာ)ဟု ခေါ်လေသည်၊ တစ်စုံတစ်ခုသော ရောဂါကြောင့် ယင်းသို့ သွေးဆင်းခြင်းဖြစ်၏၊ အကယ်၍ ဆယ်နေ့ ဆယ်ညထက်ပို၍ သွေးဆင်းမှု ၎င်းသည်လည်း (အစ်တေဟာသွာ) ရောဂါ သွေးပင်ဖြစ်သည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၂။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ သုံးနေ့ရှိသော်လည်း သုံးညမပြည့်သေးလျှင် ဥပမာ....သောကြာနေ့နံနက်အချိန်တွင်သွေးဆင်း၍ တနင်္ဂနွေနေ့ညနေ နေဝင်ပြီးနောက်ရပ်သွားလျှင်လည်း ဤအရာသည် (ဟိုက်သွ်) မဟုတ်ပေ၊ (အစ်တေဟာသွာ) ဖြစ်လေသည်။ အကယ်၍ သုံးနေ့သုံးညထက် အနည်းငယ်မျှပင် လျော့စေကာမူ ထိုအရာသည်(ဟိုက်သွ်)မဟုတ်၊ ဥပမာ.... သောကြာနေ့တွင် နေထွက်ပြုချိန်တွင် သွေးကျဆင်း၍ တနင်္လာနေ့တွင် နေမထွက်မီ အနည်းငယ် ရပ်ဆိုင်းသွားမှု ၎င်းကို (ဟိုက်သွ်) ဟူ၍ မခေါ် (အစ်တေဟာသွာ)ဟု ခေါ်လေသည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉၃။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ဓမ္မတာရာသီလာချိန်အတွင်းသွေးသည်အနီ၊အဝါ အစိမ်း၊ ခါကီ၊ မြေရောင်၊ အနက် မည်သည့်အရောင်ဖြစ်စေ၊ (ဟိုက်သွ်) ရာသီသွေး ဖြစ်လေသည်၊ ဓမ္မတာလာစဉ် အသုံးပြုရသည့်အဝတ်တွင် အဖြူရောင်မမြင်ရသေးသမျှ ဟူ၏။ ဓမ္မတာလာစဉ်အသုံးပြုရသည့်အဝတ်တွင် လုံးဝအဖြူရောင်တွေ့ရမှု ယခုရာသီလာခြင်းမှ သန့်ရှင်းသွားလေပြီ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄၇။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ကိုးနှစ်ထက်ငယ်၍လည်းကောင်း၊ ငါးဆယ့်ငါးနှစ်ထက်ကျော်လွန်၍လည်းကောင်း မည်သူမျှ (ဟိုက်သွ်) ဓမ္မတာရာသီလာခြင်းမရှိချေ၊ ထို့အတွက်ကြောင့် ကိုးနှစ်ထက်ငယ်သော ကလေးများတွင် သွေးဆင်းလာလျှင်ထိုအရာသည် (ဟိုက်သွ်)မဟုတ်၊ (အစ်တေဟာသွာ)ဖြစ်သည်။

အကယ်၍ ငါးဆယ့်ငါးနှစ်ကကျော်လွန်ပြီးမှ တစ်စုံတစ်ရာကျဆင်းလျှင်အကယ်၍ သွေးသည် ကောင်းစွာနီသော်လည်းကောင်း၊ သို့မဟုတ် နက်သော် (ဟိုက်သွ်)ဖြစ်လေသည်၊ အကယ်၍ အဝါရောင်၊အစိမ်းရောင်၊ခါကီရောင်ဖြစ်လျှင် (ဟိုက်သွ်)မဟုတ်ချေ၊ (အစ်တေဟာသွာ) ဖြစ်လေသည်။

အကယ်၍ ထိုမိန်းမသည် ငယ်စဉ်အခါကလည်း ,အဝါရောင်၊ အစိမ်းရောင်၊ ခါကီရောင်များဆင်းသက်မှု အသက်-၅၅-နှစ် ကျော်လွန်ပြီးသော်လည်း ဤအရောင်ကို ရာသီသွေးဟု မှတ်ယူရမည်၊ အကယ်၍ ဖြစ်ရိုးဖြစ်စဉ်နှင့် ဆန့်ကျင်၍ ဤသို့ဖြစ်သော် (ဟိုက်သွ်)မဟုတ်၊ (အစ်တေဟာသွာ)ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂။

၆။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး တစ်ဦး၌ အမြဲ ၃-ရက်၊ သို့မဟုတ် ၄-ရက် သွေးစီးဆင်း၏၊ ထို့နောက် အခြားတစ်လတွင်ပိုမိုရက်ကြာ၏၊ သို့ရာတွင်၁၀-ရက်ထက်ပိုပြီးမလာလျှင်၎င်းသည် ဟိုက်သွ်ဖြစ်၏၊ အကယ်၍ ၁၀-နေ့ထက် ပိုမိုခဲ့သော် ပထမက ထုံးတမ်းအစဉ်အလာ ရှိခဲ့သည့်ရက် ထိုမျှခန့်ရက်မှာ ဟိုက်သွ်ဖြစ်၍ ကြွင်းသမျှ အားလုံး ရက်မှာ(အစ်တေဟာသွာ)ဖြစ်လေသည်။ ၎င်း၏ဥပမာမှာ.... အကြင်သူမ၌အမြဲထာဝစဉ်သုံးနေ့(ဟိုက်သွ်)လာလေ့ရှိ၏၊ သို့ရာတွင်အချို့လ၌ ၉-နေ့၊ သို့မဟုတ် ၁၀-နေ့၁၀-ည သွေးလာမှု ဤအရာ အားလုံးသည် (ဟိုက်သွ်) ဖြစ်၏၊ အကယ်၍ ၁၀-နေ့၁၀-ညထက် တစ်ခဏမျှပင် ပိုမို၍သွေးလာမှု၊ ထို၃-ရက်သည်(ဟိုက်သွ်)ဖြစ်၍ကြွင်းကျန်သောနေ့များသည် အားလုံး(အစ်တေဟာသွာ)ဖြစ်လေသည်။ ထိုနေ့များကို ကသွာဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏။

၇။ မတ်စ်အလဟ် ပြဿနာ။ မိန်းမတစ်ယောက်သည် မည်သည့်အစဉ်အလာမျှ သတ်မှတ်ခြင်းမရှိဘဲ တစ်ခါတစ်ရံ ၄-ရက်၊ တစ်ခါတစ်ရံ ၇-ရက် သွေးလာ၍ ဤသို့ပင် ပြောင်းလဲလေ့ရှိ၏၊ တစ်ခါတစ်ရံ ၁၀-ရက်မျှပင် လာခဲ့သော် ဤအရာ အားလုံးသည် (ဟိုက်သွ်)ဖြစ်၏၊ ဤသို့သောမိန်းမကို အကယ်၍တစ်ရံတစ်ခါ၁၀-နေ့၁၀-ညထက်ပိုမိုပြီး သွေးကျဆင်းမှု ထိုအလျှင်လ၌ ရက်မည်မျှ(ဟိုက်သွ်)လာသည်ကို ကြည့်ရမည်။ အဘယ်ကြောင့်ဟူမူ အလျှင်ကလာသမျှ ရက်ပိုင်းသာလျှင် (ဟိုက်သွ်) ဖြစ်၍ ကြွင်းသမျှသည် (အစ်တေဟာသွာ)ဖြစ်၏။ * အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉၇။

၈။ မတ်စ်အလဟ် ပြဿနာ။ ။သူမတွင် အမြဲထာဝစဉ်၄-ရက်မျှ ဓမ္မတာသွေး ကျဆင်းလေ့ရှိ၏၊ ထို့နောက် ၁-လတွင် ၅-ရက်ခန့် သွေးကျဆင်းမှု ထို့နောက် ဒုတိယလ၌ ၁၅-ရက်ခန့် သွေးကျဆင်းခဲ့သော် ထို ၁၅-ရက် အနက် ၅-ရက်သည် (ဟိုက်သွ်) ဖြစ်၍ ၁၀-ရက်မှာ(အစ်တေဟာသွာ)ဖြစ်လေသည်။ ပထမ အစဉ်အလာကို အသိအမှတ်မပြုချေ၊ အစဉ်အလာပြောင်းလဲကာ ၅-ရက် အလေ့အထဖြစ်သွားသည်ဟုမှတ်ယူရမည်။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၉။

၉။ မတ်စ်အလဟ် ပြဿနာ။ သူမတစ်ဦး၌ ၁၀-ရက်ထက်ပိုမို၍ သွေးကျဆင်း၏ သူမတွင် မိမိ၏ပထမအစဉ်အလာကို မမှတ်မိ၊ လွန်ခဲ့သောလတွင် မည်မျှရက်ခန့်သွေးဆင်းသည်ဟု လုံးဝ မမှတ်မိသော် ၎င်းပြဿနာသည် အလွန်နူးညံ့၍ ၎င်းကိုသိရန် ခက်၏၊ ဤသို့လည်းကြုံကြိုက်ခဲလှသည်၊ ထို့ကြောင့်ကျွန်ုပ်သည်၎င်းအမိန့်ပညတ်ကိုမဖော်ပြတော့၊ အကယ်၍ တစ်ရံတစ်ခါ လိုအပ်ခဲ့သော် တစ်ဦးတစ်ယောက်သော အာလင်မ်ပညာရှိထံသို့ မေးမြန်းရန်ထိုက်လေသည်၊ တတ်ယောင်ကား သာမန်မောင်လဝီထံသို့ ဘယ်သောအခါမျှ မမေးလေနှင့်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၆၆။

၁၀။ မတ်စ်အလဟ် ပြဿနာ။ မိန်းကလေးတစ်ဦးသည် ပထမဆုံးအကြိမ်သွေးမြင်ရမှု အကယ်၍၁၀-ရက်၊ သို့မဟုတ်၎င်းထက် ရက်နည်းသော်အားလုံး ‘ဟိုက်သွ်’ဖြစ်လေ

သည်။ ဆယ်ရက်ထက်ပိုမိုကျဆင်းသော် ဆယ်ရက်တိတိမှာ (ဟိုက်သွ်) ဓမ္မတာရာသီသွေး ဖြစ်၍ ထို့ထက်ပိုသမျှ ရက်အားလုံး(အစ်တေဟာသွာ)ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၄။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူမသည် ပထမဆုံးအချိန်တွင် သွေးမြင် ရ၏၊ ၎င်းကျဆင်းခြင်းသည် မရပ်စဲဘဲ တစ်လအထိအစဉ်တစ်စိုက်လာနေသော် ပထမသွေး ဆင်းသောနေ့မှ အစပြု၍ ဆယ်နေ့ဆယ်ည တိတိ ဟိုက်သွ် ရက်ပိုင်း ဖြစ်သည်။ ၎င်း၏ ရက်ပေါင်းနှစ်ဆယ်မှာ (အစ်တေဟာသွာ) ဖြစ်လေသည်။ ဤနည်းဖြင့် အစဉ်တစ်စိုက် လာနေသူအဖို့ (လစဉ်နှင့်အမျှ)ပထမဆယ်ရက်သည် ဟိုက်သွ် ဖြစ်၍ ကျန်သော အရက် နှစ်ဆယ်ကို(အစ်တေဟာသွာ)ဟုမှတ်ယူရမည်။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ဟိုက်သွ်နှစ်ခု၏စပ်ကြား၌ သန့်ရှင်းနေခြင်း၏ ရက်ပိုင်းသည် အနည်းဆုံး ၁၅-ရက်ဖြစ်လေသည်။ အများဆုံးမှာ ရက်အကန့်အသတ်မရှိ၊ သို့ရှိရာအကယ်၍ အကြောင်းတစ်ခုခုကြောင့် သူမတစ်ဦးတစ်ယောက်၌ ဟိုက်သွ်လာခြင်း ရပ်စဲသွားပါက လပေါင်းမည်မျှတိုင်ရှိနေစေကာမူ သန့်ရှင်းလျက်ပင်ရှိနေအံ့။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၆၅။

၁၃။ မတ်စ်အလဟ် ပြဿနာ။ သူမတစ်ဦး၌ သုံးနေ့သုံးည သွေးကျဆင်း၏၊ ထို့နောက် ၁၅-ရက်ခန့်သန့်ရှင်းနေ၏၊ ထို့နောက် သုံးနေ့သုံးည သွေးဆင်းလာမူပထမ သုံးရက်နှင့် ယခု ၁၅-ရက်၏ နောက် သုံးရက်ကို (ဟိုက်သွ်) ရက်ဟု မှတ်ယူရမည်၊ အလယ် ၁၅-ရက်မှာ သန့်ရှင်းသောအချိန်အခါဟု မှတ်ယူရမည်။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၉၈။

၁၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ရက်ဖြစ်စေ၊နှစ်ရက်ဖြစ်စေ သွေးကျဆင်း၏၊ ထို့နောက် ၁၅-ရက်သန့်ရှင်းနေ၏၊ ထို့နောက် တစ်ရက် သို့မဟုတ် နှစ်ရက်သွေးကျဆင်း ပြန်မူ အလယ်က ၁၅-ရက်သည် သန့်ရှင်းသော အချိန်အခါ ဖြစ်လေသည်။ ဟိုဘက် သည်ဘက်မှ တစ်ရက်နှစ်ရက် သွေးကျဆင်းခြင်းသည် ဟိုက်သွ် မဟုတ်(အစ်တေဟာသွာ) ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၁။

၁၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ရက်ဖြစ်စေ၊ သို့မဟုတ် ရက်ပေါင်း များစွာဖြစ်စေ သွေးကျဆင်း၏၊ ထို့နောက် ၁၅-ရက်ထက် နည်းပြီး သန့်ရှင်းသွား၏၊ ၎င်းကို မည်သို့မျှအသိအမှတ်မပြုသည်သာမက အစမှအဆုံးတိုင် သွေးကျဆင်းနေသည်ဟု ယူဆရမည်၊ သို့ရှိရာ အကြင်ဟိုက်သွ်လာနေကျရက်ပိုင်းသည်ဟိုက်သွ်နေ့ရက်များဖြစ်၏၊ ကြွင်းသမျှသည် အစ်တေဟာသွာဖြစ်လေသည်။ ၎င်း၏ဥပမာမှာ....မိန်းမတစ်ဦး၌ လစဉ် လဆန်းတစ်ရက်၊ နှစ်ရက်၊ သုံးရက်တို့တွင် ဓမ္မတာ ရာသီလာနေကျဖြစ်၏၊ ထို့နောက် မည်သည့်လတစ်လတွင်ဤသို့ဖြစ်ပေါ်လာ၏၊ အဘယ်သို့ဟူမူ လဆန်းတစ်ရက်နေ့တွင်သွေး ပေါ်လာ၏၊ ထို့နောက်၁၄-ရက်အထိသန့်ရှင်းနေသည်၊ ထို့နောက်မှ တစ်ရက်သွေးပေါ် လာပြန်သော် ၁၆-ရက်တိုင်တိုင် အစဉ်တစ်စိုက် ရာသီလာနေသည်ဟုယူဆရမည်၊ သို့ရှိရာ

ထို့အနက်မှပထမသုံးရက်မှာ ဟိုက်သွ ရက်ဖြစ်၍ ကျန်၁၃-ရက်မှာ (အစ်တေဟာသွာ) ဖြစ်လေသည်။

အကယ်၍ လဆန်းလေးရက်၊ ငါးရက်၊ ခြောက်ရက်တွင် (ဟိုက်သွ)ရာသီလာနေကျဖြစ်လျှင် ဤရက်များသည် (ဟိုက်သွ) ရက်များဖြစ်လေသည်၊ ပထမ သုံးရက်နှင့် နောက်ပိုင်းဆယ်ရက်သည် (အစ်တေဟာသွာ) ဖြစ်လေသည်။

အကယ်၍ ၎င်း၏ လာရိုးလာစဉ် မဟုတ်ဘဲ ပထမဦးဆုံး သွေးလာခြင်း ဖြစ်မူ ဆယ်ရက်မှာ(ဟိုက်သွ)ဖြစ်၍ ခြောက်ရက်မှာ(အစ်တေဟာသွာ)ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၈။

၁၆။ မတ်စ်အလယ် ပြဿနာ။ ပဋိသန္ဓေကိုယ်ဝန်ရှိသောအချိန်အခါ၌ အကြင်ကျဆင်းသော သွေးသည် ဓမ္မတာရာသီသွေး မဟုတ်ချေ၊ မည်မျှနေ့ရက်ပင် လာသည်ဖြစ်စေ (အစ်တေဟာသွာ) ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၃။

၁၇။ မတ်စ်အလယ် ပြဿနာ။ ကလေးမွေးဖွားသော အချိန်၌ ကလေးအပြင်သို့ မရောက်မီ ထွက်ရှိသောသွေးသည်လည်း (အစ်တေဟာသွာ) ဖြစ်လေသည် သာမက ကလေးသည် တစ်ဝက်ထက်ပို၍ အပြင်သို့မရောက်သေးသမျှ ကာလပတ်လုံး ထိုအချိန်အထိ ထွက်သောသွေးကို(အစ်တေဟာသွာ)ဟုပင် ခေါ်ရပေမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၄။

## ဓမ္မတာ ရာသီ၏ ပညတ်ချက်များ

၁။ မတ်စ်အလယ် ပြဿနာ။ ဓမ္မတာရာသီလာနေစဉ် နမာဇ်ဖတ်ခြင်း၊ ရိုဇဟ် ဥပုသ် ဆောက်တည်ခြင်းမပိုင်ချေ၊ နမာဇ်နှင့် ရိုဇဟ်သည် ဤမျှခန့်သာ ကွဲပြားသည်၊ နမာဇ်ကို လုံးဝ ခွင့်လွှတ်၍ သန့်ရှင်းပြီးသောနောက်တွင်လည်း ၎င်းနမာဇ်၏ ကဿာဖတ်ခြင်းသည် ဝါဂျစ်ဗ်မဟုတ်ချေ၊ သို့ရာတွင် ရိုဇဟ်ဥပုသ်စောင့်ထိန်းရန်မှာ ခွင့်မလွှတ်ချေ၊ သန့်ရှင်းပြီးနောက် ကဿာရိုဇဟ် ထားရမည်ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၆၃။

၂။ မတ်စ်အလယ် ပြဿနာ။ အကယ်၍ ဖွရ်သွ နမာဇ် ဖတ်နေစဉ်ဓမ္မတာရာသီသွေးကျဆင်းလာမူ ထိုနမာဇ်ကိုလည်း ခွင့်လွှတ်လေသည်၊ သန့်ပြီးနောက် 'ကဿာ' ဖတ်ရန်မလိုပေ၊ အကယ်၍ နဖွလ် သို့မဟုတ် စွန္နတ်နမာဇ် ဖတ်နေစဉ်တွင် ဓမ္မတာရာသီသွေးကျဆင်းမူ ၎င်းကို 'ကဿာ' ဖတ်ရမည်ဖြစ်လေသည်၊ ၎င်းပြင် ရိုဇဟ်ကို နေ့တစ်ဝက်စောင့်ထိန်းပြီးနောက် ဓမ္မတာ ရာသီလာသော် ထိုရိုဇဟ်သည် ပျက်သွားလေသည်၊ သန့်ရှင်းသွားပြီး နောက်တွင် ကဿာ ရိုဇဟ် ထားရမည်၊ အကယ်၍ နဖွလ် ရိုဇဟ်၌ ဓမ္မတာလာသော် ၎င်းကိုလည်း 'ကဿာ' ထားရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ ၃၀၀။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နမာဇ်၏နောက်ပိုင်းအချိန်တွင်ဓမ္မတာရာသီလာ၏၊ ယခု နမာဇ်မဖတ်ရသေးသော် ထိုအချိန်တွင်လည်း ခွင့်လွှတ်၏။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၀၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ဓမ္မတာရာသီလာနေသောအချိန်အခါတွင် လင်ဖြစ်သူအနီးအပါးတွင်နေခြင်း၊ အဓိပ္ပါယ်....ကာမစပ်ယှက်ခြင်းမပိုင်ချေ၊ ကာမစပ်ယှက်မှုမှအစ်ပါး အားလုံးသောကိစ္စများကို ပြုလုပ်ပိုင်လေသည်၊ အဓိပ္ပါယ်မှာ.... အတူတကွစားခြင်း၊ သောက်ခြင်း၊ လျောင်းလဲခြင်း စသည်တို့ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၄။

၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦး တစ်ယောက်သော မိန်းမသည် ၅-ရက် သို့မဟုတ် ၉-ရက်ခန့် ရာသီလာသောဓလေ့ရှိခဲ့၏၊ သူမ၏ ဓလေ့ ထုံးစံရှိသည့်ရက်အတိုင်း သွေးလာပြီးနောက် ရပ်စဲသွားမှု ရေမချိုးသေးသမျှကာလပတ်လုံး(ထိုမိန်းမအား) ကာမစပ်ယှက်ခြင်း မပိုင်ချေ။

အကယ်၍ဂုတ်စ်လ်ရေချိုးခြင်းမပြုသေးဘဲမည်သည့်အခါ နမာဇ်တစ်ကြိမ်၏အချိန်ကုန်ဆုံးသွားသဖြင့် နမာဇ်တစ်ကြိမ်၏ကဿာသည် သူမ၏အပေါ်တွင် 'ဝါဂျစ်ဗ်' ဖြစ်သွားသော် ထိုအခါ၌ ကာမစပ်ယှက်ခြင်းပိုင်၏၊ ထိုအလျင်မပိုင်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၆၄။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သွေး လာနေကျ ဓလေ့ထုံးစံသည် ၅-ရက် ဖြစ်သော်လည်း သွေးသည် ၄-ရက်သာ လာပြီး ရပ်စဲသွားသော် ရေချိုးပြီးနမာဇ်ဖတ်ခြင်းဝါဂျစ်ဗ်ဖြစ်၏၊ သို့ရာတွင်၅-ရက်မပြည့်မချင်းကာမစပ်ယှက်ခြင်းမပိုင်ချေ၊ အဘယ့်ကြောင့်ဟူမူ သွေးသည် တဖန်ပြန်၍လာနိုင်သောကြောင့်ဖြစ်၏။

အာလမ်ဂီရီကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၄။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ၁၀-နေ့ ၁၀-ည တိတိ (ဟိုက်သွ်) ဓမ္မတာရာသီလာ၍ မည်သည့်အခါရပ်စဲသွားမူ ထိုအခါတွင် ကာမဆက်ဆံခြင်း ပိုင်၏၊ ရေချိုးပြီးသည်ဖြစ်စေ၊ မချိုးရသေးသည်ဖြစ်စေ ဟူ၏။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၆၄။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ရက်ဖြစ်စေ၊ သို့မဟုတ်နှစ်ရက်ဖြစ်စေ သွေးလာ၍ ရပ်စဲသွားသော်ရေချိုးခြင်းဝါဂျစ်ဗ်မဟုတ်ချေ၊ ဝုဇူပြု၍ နမာဇ်ဖတ်ရမည်၊ သို့ရာတွင်ယခု ကာမဆက်ဆံခြင်း မပိုင်ချေ၊ အကယ်၍ ၁၅-ရက်မကျော်လွန်မီ သွေးကျဆင်းလာလျှင် ယခု ဟိုက်သွ် ရက်ပိုင်းဟု သိရမည်၊ အရေအတွက်အားဖြင့် ဟိုက်သွ်လာသောရက်သည် မည်မျှခန့်ဖြစ်သနည်း၊ ထိုမျှခန့်ကို ဟိုက်သွ်ဟူ၍ပင် မှတ်ယူရမည်၊ ယခု ဂုတ်စ်လ်ပြု၍ နမာဇ်ဖတ်ရမည် ဖြစ်သည်။

အကယ်၍ ၁၅-ရက် တိတိ စပ်ကြားတွင် ကျော်လွန်သွား၍ သွေးမကျဆင်းမှု (အစကလာသောသွေးကို)အစ်တေဟာသွာဟူ၍သိမှတ်ရမည်၊ သို့ရှိရာ တစ်ရက်နှစ်ရက်တွင် သွေးကျဆင်းသောကြောင့် မဖတ်ခဲ့ရသေးသော နမာဇ်များကို ယခု ကဿာဖတ်ရမည်။

၉။ မတ်စ်အလဟ် ပြဿနာ။ ။သုံးရက်ဟိုက်အ္သ ်လာသောဓလေ့ရှိ၏၊ သို့ရာတွင် အချို့လဉ် သုံးရက်ပြည့်သွားသော်လည်း သွေးဆင်းခြင်းမရပ်လျှင် ယခုဂ္ဂတ်စ်လ်မပြုနှင့် နမာဇ်မဖတ်နှင့်၊ အကယ်၍ ၁၀ရက်တိတိတွင်လည်းကောင်း၊ သို့မဟုတ် ထို့ထက်လျော့ နည်း၍သွေးရပ်စဲသွားမူ ထိုရက်အားလုံးတွင်ဖတ်ရန် နမာဇ်များကို ခွင့်လွှတ်လေသည်၊ မည်သည့် နမာဇ်ကိုမျှ ကဿာမဖြည့်ရတော့ချေ၊ ၎င်းပြင် ဓလေ့ပြောင်းသွားပြီဟုဆိုရပေမည်၊ ထို့အတွက်ကြောင့် ဤရက်အားလုံးကို ဟိုက်သ္ ်လာသောနေ့များဟု မှတ်ယူရမည်၊ ၎င်းနောက် အကယ်၍ တဆယ့်တစ်ရက်တွင်လည်း သွေးကျဆင်းမှုဟိုက်သ္ ်သည် သုံးရက်သာလျှင်ဖြစ်၏၊ ဤအားလုံးသည် (အစ်တေဟာ်သွာ) ဖြစ်လေသည်၊ သို့ရှိရာ တဆယ့်တရက်မြောက်သောနေ့တွင် ရေချိုးရမည်၊ ၇-ရက်၏ နမာဇ်များကို 'ကဿာ' ဖတ်ရမည်၊ ယခုနမာဇ်များကို လက်မလွှတ်ရ။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ အကယ်၍ ၁၀-ရက်ထက်နည်း၍ ဟိုက်သ္ ဓမ္မတာရာသီလာသော် ဤသို့သောအချိန်၌ သွေးရပ်စဲသွား၍ နမာဇ်ချိန်သည်လုံး၀ကျဉ်းကျပ်၍ လျှင်မြန်စွာရေချိုးလျှင် ရေချိုးပြီးနောက် လုံး၀ အချိန်အနည်းငယ်သာကျန်၍ ထိုအချိန်၌ (အလ္လာဟို့အတ်ကဗရ်)တစ်ကြိမ်ဆိုပြီး 'နိယတ်' ချည်နိုင်ရုံမျှသာရှိသည်၊ ထိုထက် ပိုမိုမဖတ်နိုင်သော် ထိုအခါ၌လည်း ယင်းအချိန်၏နမာဇ်သည် ၀ါဂျစ်ဗ်ဖြစ်သွား၏၊ ကဿာ ဖတ်ရပေမည်၊ ထိုထက်ပင် အချိန်နည်းပါးခဲ့သော် နမာဇ်ကိုခွင့်လွှတ်၏။ ၎င်း၏ကဿာ ဖတ်ခြင်း ၀ါဂျစ်ဗ်မဟုတ်ချေ။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ဆယ်နေ့ဆယ်ညတိတိ ဓမ္မတာရာသီ လာပြီး(အလ္လာဟို့အတ်ကဗရ်)တစ်ကြိမ်ခန့်သာ ဆိုနိုင်လောက်အောင် ကျန်သောအချိန်အတွင်း၌ ရာသီလာခြင်းရပ်စဲသွားကာ ထိုထက်ပိုမို၍ မည်သည့်မျှ ဖတ်ရွတ်နိုင်လောက်အောင် လုံး၀အချိန်မရ၊ ၎င်းပြင် ရေချိုးနိုင်လောက်အောင် အချိန်လည်းမရခဲ့သော်လည်း နမာဇ်မှာ ၀ါဂျစ်ဗ်ဖြစ်သွားလေပြီ၊ ၎င်းကိုကဿာဖတ်ရမည်။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ရမဿာန်လမြတ်၌ နေ့အချိန်တွင် သန့်ရှင်းသော် သန့်ရှင်းပြီးနောက် စားခြင်း,သောက်ခြင်း မပိုင်တော့ချေ။ ညနေချိန် ထိအောင် ရိုဇဟ်ဉပုသ်ရှိသူများကဲ့သို့နေရန် ၀ါဂျစ်ဗ်ဖြစ်၏။

သို့ရာတွင် ဤနေ့သည်ရိုဇဟ်ထားသောနေ့ဟု စာရင်း၌မပါချေ၊ သာမက ၎င်း နေ့အတွက် ကဿာရိုဇဟ်ပင်ထားရဦးမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၇။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ညအချိန်တွင်သန့်ရှင်းသွား၏၊ ဆယ် နေ့ဆယ်ည ဓမ္မတာရာသီလာခဲ့သော် အကယ်၍ ညအချိန်အနည်းငယ်အတွင်း (အလ္လာဟို့ အတ်ကဗရ်)တစ်ကြိမ်ဆိုနိုင်ရုံမျှပင် မကျန်တော့လျှင်လည်းထိုအခါတွင်လည်းနံနက်၌ရိုဇဟ် ထားခြင်း ၀ါဂျစ်ဗ်ဖြစ်လေသည်။

အကာယ်၍ ဆယ်ရက်ထက်နည်းပြီး ဓမ္မတာရာသီလာခဲ့သော် ဂွတ်စ်လ်ကို အမြန်ဆုံး ဖြင့်ပြုပြီး (အလ္လာဟ္ဦအတက်ဗရ်)တစ်ကြိမ်ဆိုနိုင်ရုံမျှ ညအချိန်မကျန်တော့လျှင်လည်းနံနက် တွင်ရိုဇဟ်ထားခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်။

အကာယ်၍ ထိုမျှခန့်ညအချိန်တော့ကျန်သေး၏ သို့ရာတွင် ရေမချိုးလျှင် ရိုဇဟ်ကို မဖျက်ရ၊ အဓိပ္ပါယ်မှာ.... ရိုဇဟ်၏နိယတ်ပြု၍ နံနက်ကျမှရေချိုးခြင်းပြုရမည်။

အကာယ်၍ ထို့ထက်ပင် ညအချိန် ကျပ်တည်း၍ ဂွတ်စ်လ်လည်း မပြုနိုင်ခဲ့သော် နံနက်တွင် ရိုဇဟ်ထားခြင်းမပိုင်တော့ချေ။ သို့ပေမယ့် နေ့အချိန်တွင် စားခြင်းသောက်ခြင်း မပိုင်ချေသာမက၊ တစ်နေ့လုံး ရိုဇဟ်ရှိသူများကဲ့သို့ နေထိုင်ရမည်။ ထို့ကြောင့် ၎င်းနေ့ အတွက် ကဇ္ဇာရိုဇဟ် စောင့်ထိန်းရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။မည်သည့်အခါ သွေးသည် အပေါက်မှ အပြင် ဘက်ရှိအရေပေါ်သို့ထွက်လာသော်ထိုအချိန်မှစ၍ (ဟိုက်သွ်)လာခြင်းအစဖြစ်လေသည်။ ထိုအာဝရ၏အပြင်တွင် ထွက်သည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ၊ ၎င်းကို အသိအမှတ်မပြုရ။

အကာယ်၍ အပေါက်အတွင်းသို့ ဝါဂွမ်းစသည်ထည့်ထား၍ သွေးအပြင်သို့မထွက် ဘဲ၊ အပေါက်အတွင်း၌သာသွေးရှိနေ၏။ အပြင်ဘက်ရှိ ဝါဂွမ်း,အရေစသည်၌ သွေးကွက် မထင်လျှင် ထိုအချိန်အထိ (ဟိုက်သွ်)၏ပညတ်ကို မပေးသေးချေ။ သွေးကွက်သည်အပြင် ဘက်ရှိအရေပေါ်တွင် ရောက်လာလျှင်သော်လည်းကောင်း၊ သို့မဟုတ် ဝါဂွမ်းစသည်တို့က ဆွဲစုတ်၍ အပြင်သို့ ထုတ်ယူလာသောအခါတွင် (ဟိုက်သွ်)၏ စာရင်းဝင်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၉။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။သန့်စင်သောမိန်းမသည် ညအခါ အင်္ဂါဇာတ် အတွင်း၌ ဝါဂွမ်းဖြင့်ပြုလုပ်သော ဖုံ့စသည်ထားရာ နံနက်လင်းသောအခါ၌ ၎င်းတွင် သွေးစွန်းထင်ခြင်းမြင်ရလျှင် ထိုမြင်ရသောအချိန်ကစ၍ (ဟိုက်သွ်)ဟူ၍ အမိန့်ပညတ်ပေး ရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၄။

## အစ်တေဟာသွာ၏ အမိန့်ပညတ်များ

၁။ မတ်စ်အလဟ် ပြဿနာ။ ။(အစ်တေဟာသွာ)၏ အမိန့်ပညတ်မှာဤသို့ဖြစ် လေသည်၊ဥပမာ.... သူမတစ်ဦး၌နှာခေါင်းသွေးယိုရာမရပ်စဲဘဲရှိသကဲ့သို့ဖြစ်၏၊ဤသို့သော အမျိုးသမီးသည် နမာဇ်လည်းဖတ်ရမည်၊ ရိုဇဟ်လည်းထားရမည်၊ ကဇ္ဇာမလုပ်ရချေ၊ ကာမဆက်ဆံမှုလည်း ပြုနိုင်လေသည်ပိုင်၏။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၇။

(မှတ်ချက်) အစ်တေဟာသွာ၏ အမိန့်ပညတ်မှာ (မအ်သွူရ်) မစွမ်းနိုင်သောသူ များ၏အမိန့်ပညတ်နှင့် လုံးဝတူညီလေသည်၊ ထိုအခန်းမှာ ပထမတွဲ၌ ဖေါ်ပြခဲ့လေပြီ ရှုကြည့်ကြပါကုန်။

# နေဖွားစ် သားဖွား သွေးလာခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။ကလေး ဖွားမြင်ပြီးနောက် မိန်းမအင်္ဂါဇာတ်မှ အကြင်သွေးသည်ထွက်၏၊ ၎င်းကို(နေဖွားစ်)ဟုခေါ်လေသည်၊ အများဆုံးမှာရက်ပေါင်း ၄၀-ဖြစ်လေသည်၊ အနည်းဆုံးမှာ ကန့်သတ်ချက်မရှိပေ။

အကယ်၍တစ်စုံတစ်ယောက်သောမိန်းမ၌နာရီဝက်ခန့်သွေးလာပြီးရပ်စဲသွားလျှင်လည်း ၎င်းကို(နေဖွားစ်)ဟု ခေါ်လေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၃။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ကလေး ဖွားမြင်ပြီးနောက် အကြင်မိန်းမ၌လုံးဝသွေးမထွက်လျှင် ထိုအခါ၌လည်းမွေးဖွားပြီးနောက် ရေချိုးခြင်း ဝါဂျစ်ဗ်ဖြစ်လေသည်။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ကလေးသည်တစ်ဝက်ထက်ပို၍ထွက်လာ၏၊ လုံးဝတစ်ကိုယ်လုံးမထွက်သေးမီ ထိုအချိန်တွင်သွေးထွက်သော် ၎င်းကိုလည်း (နေဖွားစ်)ဟုပင်ခေါ်လေသည်။

အကယ်၍ တစ်ဝက်ထက်နည်း၍ထွက်စဉ် ထိုအချိန်သွေးဆင်းလာမူ ၎င်းသည် (အစ်တေဟာသွာ) ဖြစ်လေသည်။

အကယ်၍ သတိရှိ၍ သတိမလစ်ဟင်းမူ ထိုအချိန်၌လည်း နမာဇ်ဖတ်ရမည်၊ မဖတ်လျှင်(ဂိုနာဟ်ဂါရ်) အပြစ်ရှိသူဖြစ်အံ့၊ မစွမ်းနိုင်သော် 'အေရှာရာ' အရိပ်နိမိတ်ဖြင့်ပင်ဖတ်ရမည်၊ ကသွာမလုပ်ရ၊ သို့သော် အကယ်၍ နမာဇ်ဖတ်လိုက်ပါက ကလေးတွင်နစ်နာပျက်စီးမှုရှိမည်ကို စိုးရိမ်ရသော် နမာဇ်ကိုမဖတ်ရ။

ဘဲဟ်ရှရိရာအစ်ကဲကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၀။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ အကြင်မိန်းမ၌ သားလျောလျှင် အကယ်၍ သန္ဓေသားသည် အင်္ဂါအစိပ်အပိုင်းများ တစ်ဝက်ခန့် ဖြစ်နေပြီဖြစ်လျှင် လျောကျပြီးနောက်ထွက်သောသွေးသည်လည်း (နေဖွားစ်) ဖြစ်လေသည်။

အကယ်၍ ပဋိသန္ဓေသည် လုံးဝမထင်ရှားသေးဘဲ အသားတုံးသဏ္ဍာန်မျှသာရှိမူ ဤသည်မှာ (နေဖွားစ်) မဟုတ်ချေ၊ သို့ရှိရာ အကယ်၍ ထိုသွေးသည် မီးယပ်သွေးဖြစ်လျှင်လည်းဖြစ်နိုင်၍ အကယ်၍ မီးယပ်သွေးမဟုတ်မူ ဥပမာ.... သုံးရက်ထက် နည်း၍လာလျှင်၊ သို့မဟုတ် သန့်ရှင်းနေသောအချိန်ပိုင်းမှာ ယခု ၁၅-ရက် မပြည့်သေးလျှင် ထိုသွေးသည် (အစ်တေဟာသွာ) ဖြစ်လေသည်။

ဘဲဟ်ရှရိရာအစ်ကဲကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၀၊ ၂၁၉။

၅။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍သွေးသည်ရက်ပေါင်းလေးဆယ်ထက်ကျော်လွန်မူ ၎င်းအကယ်၍ ဤကလေးသည် သားဦးဖြစ်ခဲ့သော် ရက်ပေါင်းလေးဆယ်သည် (နေဖွားစ်) ရက်ဖြစ်၍ ထိုထက်ပိုမိုသောရက်များမှာ (အစ်တေဟာသွာ) ဖြစ်၏၊ သို့ရှိရာ ရက်ပေါင်းလေးဆယ်ကျော်က ရေချိုးပြီးလျှင်နမာဇ်ကိုစတင်၍ဖတ်ရမည်၊ သွေးရပ်စဲသည့်အချိန်တိုင် ဆိုင်းငံ့မနေရ။

အကယ်၍ ဤကလေးသည် သားဦးမဟုတ်ခဲ့သော် သာမက ထိုအလျှင်ကမွေးဖွားပြီးဖြစ်ခဲ့သော် မိမိ၏ အစဉ်အလာကိုကြည့်၍ ရက်ပေါင်းမည်မျှ (နေဖွားစ်) သွေးကျဆင်းသနည်း၊ ထိုမျှခန့်ရက်ကို နေဖွားစ်ရက်ဟု မှတ်ယူရမည်၊ ထို့ထက်ပိုမိုသောရက်ကို (အစ်တေဟာသွာ)ဟုမှတ်ရမည်။ ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၀။

၆။ မတ်စ်အလဟ်ပြဿနာ။ ။တချို့မိန်းမများ၌ရက်ပေါင်းသုံးဆယ်(နေဖွားစ်) သွေးဆင်းလေ့ရှိ၏၊ သို့ရာတွင် ရက်ပေါင်းသုံးဆယ် ကျော်လွန်သော်လည်း သွေးရပ်စဲခြင်းမရှိလျှင် ယခုရေမချိုးလင့်၊ အကယ်၍ ရက်ပေါင်းလေးဆယ်ပြည့်မှ သွေးရပ်စဲသော် ဤအဖြစ်အားလုံးသည်နေဖွားစ်ဖြစ်၏၊ အကယ်၍ ရက်ပေါင်းလေးဆယ်ထက် ကျော်လွန်သွားမူကား ရက်ပေါင်းသုံးဆယ်သည် နေဖွားစ်ဖြစ်၍ ကျန်ရက်များသည် အားလုံးအစ်တေဟာသွာဖြစ်လေသည်၊ ထို့ကြောင့် ယခုချက်ချင်းပင်ရေချိုး၍ ဆယ်ရက်အတွက် ကသွာနမာဇ်များကိုဖတ်ရမည်။ ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၂။

၇။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ရက်ပေါင်းလေးဆယ်စော၍နေဖွားစ်သွေးသည်ရပ်စဲသွားသော် ချက်ချင်းရေချိုး၍ နမာဇ်စတင်ဖတ်ရမည်၊ အကယ်၍ ရေချိုးခြင်းဖြင့် အန္တရာယ်ဖြစ်စေမည်ဆိုက တယမ်မွမ်ပြု၍ နမာဇ်ကိုစတင်ဖတ်ရမည်၊ မည်သည့်နမာဇ်ကိုမျှ (ကသွာ)မဖြစ်ပါစေနှင့်။

ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၉။

၈။ မတ်စ်အလဟ်ပြဿနာ။ ။နေဖွားစ်သားဖွားသွေးကျဆင်းနေသောအချိန်တွင် နမာဇ်ကိုလုံးဝခွင့်လွှတ်သည်၊ ရိုဇဟ်မှာ ခွင့်မလွှတ်ချေ၊ သာမက ရိုဇဟ်ပျက်သောရက်များကို ကသွာအစားထားရလေသည်၊ ဤအခန်းတွင် ရိုဇဟ်နမာဇ်နှင့် ကာမဆက်ဆံခြင်း စသည်ပညတ်များသည် အထက်က ဖေါ်ပြသည့်အတိုင်းပင်ဖြစ်လေသည်။

ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၄။

၉။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ခြောက်လအတွင်း၌ပင် ကလေးနှစ်ယောက်ဆက်ခါမွေးမူ နေဖွားစ်၏ရက်ပိုင်းသည်ပထမမွေးသောကလေးကစတင်ယူရမည်။

အကယ်၍ ဒုတိယ ဖွားသောကလေးသည် ဆယ်ရက် သို့မဟုတ် အရက်နှစ်ဆယ်သို့မဟုတ် တစ်လ,နှစ်လ နေပြီးနောက်မှ ဖွားမြင်သော် ဒုတိယကလေးမှာ နေဖွားစ်၏ရက်ပိုင်းကို မတွက်ရချေ။ ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၀။

# နေ့ဖွားစ် နှင့် ဟိုက်သွင် စသည်တို့၏ အမိန့်ပညတ်များ

## အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်မိန်းမသည် ဟိုက်သွင်မမွတာရာသီလာသည် ဖြစ်စေ၊ နေ့ဖွားစ် သားဖွားပြီး သွေးဆင်းသည်ဖြစ်စေ၊ ရေချိုးရန် ဝါဂျစ်ဗ်ထိုက်နေသူ ဖြစ်စေ၊ ၎င်းမိန်းမတို့သည် ဗလီတွင်းသို့ဝင်ခြင်း(ကအ်ဗဟ်)ဗိမာန်တော်ကို တွဝါးဖ်လှည့် ခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ဖတ်ရွတ်ခြင်း ကိုင်တွယ်ခြင်း မပိုင်ချေ။

အကယ်၍ကုရ်အာန်ကျမ်းတော်မြတ်ကို အိတ်၌ဖြစ်စေ၊ သို့မဟုတ် လက်ကိုင်ပုဝါဖြင့် ပတ်၍ဖြစ်စေ၊ သို့မဟုတ် အိတ်စွပ်ဖြင့်စွပ်၍ဖြစ်စေ (ဂျူလစ် နှင့် ဆက်တွဲပြီး ချုပ်ထားခြင်း မရှိစေရ)သီးခြားဖြစ်ရမည်၊ ထုတ်လိုက လွယ်ကူစွာထုတ်ယူနိုင်သော် မှ၍ယူခြင်း ကိုင်တွယ်ခြင်းပြုပိုင်၏။ ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၆။

၂။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူ၌ ဝိုသူ မရှိလျှင် ထိုသူသည်လည်း ကုရ်အာန်ကို ကိုင်တွယ်ခြင်းမပိုင်၊ သို့သော် နှုတ်တိုက်ဖတ်ရွတ်ခြင်း ပိုင်၏။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

၃။ မတ်စ်အလဟ် ပြဿနာ။ အကြင် ဒင်္ဂါးတွင်သော်လည်းကောင်း၊ ပိုက်ဆံပြားတွင် သော်လည်းကောင်း၊ လင်ပန်းတွင် သော်လည်းကောင်း၊ တအ်ဝီးသ် ဒိုအာဘူးတွင်း သော်လည်းကောင်း၊ အခြား အသုံးအဆောင် ပစ္စည်းများတွင် သော်လည်းကောင်း၊ ကုရ်အာန်ကျမ်းတော်မြတ်မှ မည်သည့်အာယတ်ဖြစ်စေ၊ ရေးသားထားလျှင် ၎င်းပစ္စည်းများကို ကိုင်တွယ်ခြင်း ထိုသူ - ထိုသူမများ အတွက် မပိုင်ချေ၊ သို့သော် အိတ်တွင်ဖြစ်စေ၊ ပန်းကန်တွင်ဖြစ်စေ ထည့်ထားပါက ထိုအိတ်နှင့် ပန်းကန်ကို ကိုင်တွယ်ခြင်း၊ မှ၍ယူခြင်း ပိုင်လေသည်။

ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၀။

၄။ မတ်စ်အလဟ် ပြဿနာ။ အင်္ကျီစဖြင့်လည်းကောင်း၊ ခြုံထားသောတဘက်စဖြင့်လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ကိုင်တွယ်ခြင်း မှယူခြင်းမပိုင်ချေ၊ သို့သော် ကိုယ်မှ ချွတ်ထားသော အင်္ကျီ၊ တဘက်၊ လက်ကိုင်ပုဝါ စသည်တို့ဖြင့် ကိုင်တွယ်ခြင်း မှယူခြင်းပိုင်၏။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အာယတ်တစ်ခု အပြည့်အစုံ မဖတ်ဘဲ အနည်းငယ်သော စာလုံးကိုဖြစ်စေ၊ သို့မဟုတ် အာယတ်တော်၏ တစ်ဝက်ကိုဖြစ်စေ ဖတ်လျှင်ပိုင်၏၊ သို့သော် ထိုတစ်ဝက်ခန့်မျှသော အာယတ်သည် အာယတ်အတို တစ်ခုခန့်မျှ မရှည်စေရ။ ဘဲဟ်ရှရ်ရာအစ်က်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၉၉။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အလ်ဟမ်စူရဟ်တစ်ပုဒ်လုံးကို ဒိုအာဆုတောင်း၏၊ နိယတ်ဖြင့်ဖတ်သော်လည်းကောင်း၊ သို့မဟုတ် ကုရ်အာန်၌ပါရှိသော အခြား ဒိုအာများကို ဒိုအာ၏နိယတ်ဖြင့်ဖတ်၍ တေလာဝပ်တ်ဖတ်ရွတ်သော သဘောဆန္ဒမရှိမူ ပိုင်၏ ထိုသို့ဖတ်ခြင်း၌ဘာမျှအပြစ်မရှိချေ၊ ဥပမာ(ရဗ်ဗနာ၊ အာတေနာ)အဆုံးတိုင်ကိုဖြစ်စေ

(ရဗိဗနာ၊လာတို့အာခစ်သိနာ)အဆုံးတိုင် 'စူရဟ်ဗကရဟ်'၏အဆုံး၌ ပါရှိသော ဒိုအာများကိုဖြစ်စေ၊ ကုရ်အာန်ကျမ်းတော်မြတ်၌ပါရှိသည့် အခြားသောဒိုအာများကိုဖြစ်စေ ဒိုအာ၏ နိယတ်ဖြင့် အားလုံးကိုဖတ်ခြင်း ပိုင်လေသည်။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၉၉။

၇။ မတ်စ်အလဟ် ပြဿနာ။ ဒိုအာကိုနူးတ်ကို ဖတ်ခြင်းလည်း ပိုင်လေသည်။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၀။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍အကြင်မိန်းမသည်ကျောင်းသူများအား ကုရ်အာန်ကျမ်းမြတ်သင်ကြားပြသရသော် ဤသို့မသန့်သောအခါမျိုး၌ 'ဟစ်ဂျေ'စာလုံးပေါင်းပြီးသင်ပြခြင်းပိုင်၏၊ (ရဝါန်)တန်းဖတ်သင်သောအခါ အာယတ်တစ်ခုလုံးအပြည့်မဖတ်ရသာမက တစ်လုံးချင်းနှစ်လုံးချင်းဖတ်ပြီး အသက်ရှူကို ဖြတ်ခါဖြတ်ခါ (ရဝါန်) တန်း ဖတ်ခြင်းကို သင်ကြားပေးရမည်။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၀။

၉။ မတ်စ်အလဟ် ပြဿနာ။ ကလေ မဟ်၊ ဒရူးဒ် ဖတ်ခြင်း အသျှင်မြတ်နာမံတော်ကို တ သခြင်း၊ အစ်တစ်ဂ်ဖွာရ်၊ တောင်ဗဟ်ဖတ်ခြင်း၊ သို့မဟုတ် အခြားသော ဝဇီဖွာဟ်ဖတ်ခြင်း၊ ဥပမာ(လာဟောဝ်လ)အဆုံးတိုင် ဖတ်ခြင်း တို့ကို မတားမြစ်ချေ၊ ဤအရာအားလုံးပိုင်၏။ ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ဟိုက်သ်ဓမ္မတာရာသီလာနေစဉ် မွတ်စ်တဟာဗ်ဖြစ်သည်မှာ နမာဇ်ချိန်၌ဝိုသူပြု၍သန့်ပြန့်သောတစ်နေရာတွင်ခေတ္တခဏထိုင်၍ (အလ္လာဟ် အလ္လာဟ်)ဟု၊ တ သနေရမည်။ အစာယ်ကြောင့်ဟူမူ နမာဇ်အလေ့အထပျောက်မသွားရန် ဖြစ်လေသည်၊ ဤသို့ဖြင့် သန့်ရှင်းသွားသောအခါ ၌နမာဇ်ဖတ်ရန် စိတ်မပါခြင်းဖြစ်မည်မဟုတ်။ ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူမသည် ရေချိုးရန်ထိုက်နေရာ ရေမချိုးရသေးမီ ဓမ္မတာရာသီသွေးဆင်းသက်လာသော် ယခုရင်းအမျိုးသမီးသည် ရေချိုးရန် ဝါဂျစ်ဗ် မဟုတ်တော့ချေ၊ ရာသီလာခြင်း ရပ်စဲပြီးမှ ရေချိုးရမည် ဖြစ်သည်၊ ဂွတ်စ်သ် တစ်ကြိမ်ချိုးရုံဖြင့် ကိစ္စနှစ်ချိုးစလုံးအတွက် ပြီးမြောက်လေသည်။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။

## ဤတွင်၍ကား ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း

ဒုတိယတွဲ ပြီး၏။

# ဘဟာစ်ရှီတီဂျောင်ဟာရ်ကျမ်း

## ဒုတိယတွဲ



### နမာဇ်၏ ထွတ်မြတ်ခြင်း အကြောင်း

အလ္လာဟ်အရှင်မြတ် အမိန့်တော်ရှိသည်မှာ....

إِنَّ الصَّلٰوةَ تَنْهٰى عَنِ الْفَحْشَآءِ وَالْمُنْكَرِ

အဓိပ္ပါယ်.... မုချကေန် နမာဇ်သည် ရှက်ဖွယ်အမှု ဒုစရိုက်အပေါင်းတို့မှတားဆီး ပိတ်ပင်ပေးလေသည်။

အလိုသဘော ဤသို့ရှိ၏၊ နမာဇ်ကို စံနစ်တကျဝတ်ပြုခြင်းဖြင့် နမာဇ်ဝတ်ပြုသူသည် ဂိုနာဟ်ဒုစရိုက်အပေါင်းတို့မှ ရှောင်ကြဉ်ခြင်းတည်းဟူသော 'ဗရ်ကတ်' မင်္ဂလာကို ခံစားရရှိလေသည်၊ အကယ်၍ အခြားသော 'အေဗာဒတ်' ဝတ်ပြုမှုများတွင် ဤဗရ်ကတ် ရရှိစေကာမူ နမာဇ်သည် ယင်း (ဒုစရိုက်ပပျောက်မှု) 'ဗရ်ကတ်'တွင် ထူးကဲစွာ ရရှိစေသည်။

၎င်းနောက် နမာဇ်သည် ယင်းဒုစရိုက်ပပျောက်ရေးကဏ္ဍတွင် အမြင့်မားဆုံးသော အကျိုးကိုသက်ရောက်စေလေသည်၊ သို့ရာတွင်နမာဇ်ဝတ်ပြုရာ၌စွန္နတ်တော်နှင့်လျော်ညီစွာ အကောင်းဆုံးသော နည်းလမ်း စည်းကမ်းနှင့် ဝတ်ပြုရန် အရေးကြီးလေသည်။

နမာဇ်ဝတ်ပြုသူ၏စိတ်တွင်း၌ အလ္လာဟ်အသျှင်မြတ်၏ ကြီးကဲမြင့်မြတ်မှုပေါ်လွင်စေရမည်၊ အတွင်းရေအပြင်ပါ တည်ငြိမ်မှုနှင့်ကျိုးယေနိမ့်ချမှု အပြည့်ရှိနေရမည်၊ ဟိုဟို သည်သည်ကို မကြည့်ရ၊ နမာဇ်ကို ပြည့်ပြည့်စုံစုံ ဝတ်ပြုသည်နှင့်အမျှ ထိုအဆင့်အတန်းနှင့် အညီ ဤဗရ်ကတ်တော်ကိုလည်း ခံစား ရရှိစေနိုင်မည် ဖြစ်သည်။

အလ္လာဟ်အသျှင်မြတ်ထံတော်တွင် နမာဇ်ထက်သာလွန်၍ မည်သည့် 'အေဗာဒတ်' ဝတ်ပြုမှုကိုမျှ နှစ်သက်တော်မမူချေ၊ သို့ရှိလေရာ မွတ်စလင်မ်များအဖို့ ဂိုနာဟ်ဒုစရိုက် အပြစ်များကို ဤမျှပိတ်ပင် တားဆီးပေးမည်ကိုလည်းကောင်း၊ ငရဲမီးဘေးမှ လွတ်ငြိမ်း ဖယ်ရှား ပေးမည်ကို လည်းကောင်း၊ ရှေ့ရှုခြင်း အားဖြင့် ယင်းသို့သော ဝတ်ပြုမှုကို အဆူးစွဲမြဲစွာ ဝတ်ပြုကြရန် အရေးကြီးလေသည်၊ 'ကဿွာ' မဖြစ်စေနှင့် ဟူ၏။

ဟသ္ဒရတ်အေမာမ်ဟစ်ဗတ်စွ်ရီ(ရသွေ့)သခင်သည် ကြီးကျယ်သော အာလင်မ် ပညာရှင်ကြီး တစ်ပါး ဖြစ်သည့် အပြင် သူတော်စင်ကြီး တစ်ဦးလည်း ဖြစ်လေသည်၊ ၎င်းနောက် ဆွဟာဗဟ်(ရသွေ့)သခင်များကိုလည်း တွေ့မြင်ခဲ့ဘူးသူဖြစ်လေသည်။

(ဟာဖစ်ဇ္ဇ်မိုဟာဒ်ဒစ်သ်သဟာဗီ)သခင်ကထိုပုဂ္ဂိုလ်ကြီး၏အကြောင်းနှင့်ပတ်သက်၍ သီးခြားကျမ်းတစ်ဆူ ပြုစုခဲ့ဘူးလေသည်၊ ထိုဟစ်ဗတ်စ္စရီ(ရသွေ့)သခင်ကြီးက ရေဝါ ယတ် အကြောင်းပြန်ကြားခဲ့သည်မှာ.... တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့၏။

အကြင်သူသည် ဤသို့ နမာဇ်ဖတ်၏၊ အကြင် နမာဇ်ကို ထိုနမာဇ် ဖတ်သူအား ရှက်ဖွယ်လိလီ အမှုများမှလည်းကောင်း၊ ဂိုနာဟ်ဒုစရိုက်မှုတို့မှလည်းကောင်း တားဆီးမှု မပြုပါမူ ထိုသူသည် အလ္လာဟ်အသျှင်မြတ်နှင့် ဝေးကွာခြင်းမှအပ အခြားအကြောင်း မရှိတော့ချေ။

ထိုနမာဇ် ဝတ်ပြုမှုကြောင့် ထိုသူသည် အလ္လာဟ်အသျှင်မြတ်နှင့် နီးရင်းမှု၊ ၎င်း နောက် သဝါဗ်ကုသိုလ် ရရှိမှုများ လွယ်ကူတော့မည် မဟုတ်ချေ။

ထိုမျှမက အလ္လာဟ်အသျှင်မြတ်နှင့်ဝေးလံခြင်းသာလျှင် ပိုမိုတိုးတက်လာချေမည်၊ ဤကား ထိုသူသည်ဤမျှမွန်မြတ်လှသော(အေဗာဒတ်)ဝတ်ပြုမှု၏ တန်ဘိုးကိုမထားခြင်း၊ မရှိသေမလေးစားခြင်း၊ ထိုသူ၏ဝတ္တရားပျက်ကွက်ခြင်းတို့၏ အစားပင်ဖြစ်လေသည်။

သို့ရှိလေရာ နမာဇ် 'ကဘူလ်'ပြု လက်ခံတော်မူခြင်း၏ လက္ခဏာ အမှတ်ကျောက် သည် ဤသို့ရှိ၏၊ အဘယ်သို့ဘူမူ နမာဇ် ဝတ်ပြုသူသည် နမာဇ် ဝတ်ပြုခြင်းအားဖြင့် အပြစ်ဒုစရိုက်မှုတို့မှ ရှောင်ကြဉ်မှုရှိစေရမည်၊ ရံဖန်ရံခါ အကြောင်းအားလျော်စွာ အပြစ် တစ်စုံ ဘစ်ခုကို ကျူးလွန်မိမူ ဆောလျှင်စွာ (တောင်ဗဟ်) ပြုလုပ်ရမည်ဟူ၏။

ဟာသ္ဒရတ် အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူဒ် (ရသွေ့) သခင်သည် အထက်တန်းဆွဟာဗီ တစ်ဦးဖြစ်သည်၊ အာလင်မ်ပညာရှင်ကြီးတစ်ဦးလည်းဖြစ်၍မွတ်တကီသူတော်စင်ကြီးတစ်ဦး လည်းဖြစ်လေသည်၊ (၎င်းက)တမန်တော်မြတ်ထံမှ အကြောင်းပြန်ကြားတော်မူသည်မှာ။

မုချကေန် ထိုနမာဇီ၏ နမာဇ်ဝတ်ပြုခြင်းကို လက်ခံတော်မမူခြင်း၊ ၎င်းနောက် ထိုသူအား သဝါဗ်ကုသိုလ်အကျိုးမရရှိခြင်း၊ အချို့သူများအဖို့ နမာဇ်၏တာဝန်ကျသွား လင့်ကစား ကုသိုလ်သဝါဗ်လုံးဝမရရှိခြင်းတို့၏အကြောင်းကား ဤသို့ရှိလေသည်။ အကြင် သူသည် နမာဇ်၏ အန္ဒ အတာကို မခံယူခြင်းပင်ဖြစ်၏။

နမာဇ်အန္ဒ အတာခံယူခြင်း၏ (လက္ခဏာအမှတ်အသား) ဤသို့ရှိ၏။ အဘယ်သို့ ဟူမူ၊ နမာဇ်သည်နမာဇီ(ဝတ်ပြုသူ)အား ရှက်ဖွယ်လိလိအမှုများမှလည်းကောင်း၊ ဂိုနာဟ် (ဒုစရိုက်မှု) ကျူးလွန်ခြင်းတို့မှလည်းကောင်း၊ ကာကွယ်တားဆီးပေးရမည်ဟူ၏။

၎င်းနောက်ဟဒီးသ်တော်တစ်ရပ်တွင်လာရှိပြန်သည်မှာ....ယောကျ်ားတစ်ဦးသည်၊ တမန်တော်မြတ်ထံ လာရောက်၍လျှောက်ထားသည်မှာ မည်သူမည်ဝါသည် ညဥ့်အချိန်၌ နမာဇ်ဝတ်ပြု၏။ အဓိပ္ပါယ်.... ညဥ့်အချိန်တွင် မအိပ်စက်ဘဲလျက် (အေဗာဒတ်)ဝတ်ပြု ခြင်း၌မွေ့လျော်၏။ ထို့နောက်နံနက်မိုးလင်းသောအခါ ခိုးဝှက်ပါ၏ဟု (လျှောက်ထား သောအခါ) ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ မျှားမကြာမီ နမာဇ်သည်ထိုသူအားအသင်တင်ပြသည့်မကောင်းမှုတို့မှ မုချပင်တားဆီးပေးပေလိမ့်မည်။ (အဓိပ္ပါယ်မှာ.... ခိုးဝှက်မှုကိုစွန့်လွှတ်၍ ဒုစရိုက်မှုတို့မှ ရှောင်ကြဉ်လာလိမ့်မည်) ဟူ၏။ ဟာသ္ဒရတ်အိုဗာဒဟ်ဗင်န်စွာမစ်တ်(ရသွေ့) သခင်ကအကြောင်းပြန်ကြားတော်မူခဲ့သည်မှာ တမန်တော်မြတ်က မိန့်ဟောတော်မူခဲ့၏။

မည်သည့်အခါ ဗန္ဒဟ်လူသားတစ်ယောက်သည် ဝိုသ္ဒူပြု၏။ သို့ရှိရာအကောင်းဆုံး ဝိုသ္ဒူပြု၏။ (အဓိပ္ပါယ်မှာ.... စွန္နတ်တော်နှင့်အညီ ကောင်းမွန်စွာပြုလုပ်၏။) ထို့နောက် နမာဇ်ဝတ်ပြုရန်အတွက် မတ်တတ်ရပ်၏။ ထို့နောက်ပြည့်စုံစွာနမာဇ်၏ ရိုကူအ်ပြုလုပ်၏။ ထို့နောက် ပြည့်စုံစွာနမာဇ်၏ စစ်ဂျဒဟ်ပြုလုပ်၏။ ၎င်းနောက် ပြည့်စုံစွာ ကုရ်အာန်ကျမ်း မြတ်ကိုလည်း ရွတ်ဖတ်သရဇ္ဈာယ်၏။ (အဓိပ္ပါယ်မှာ.... ရိုကူအ်၊ စစ်ဂျဒဟ်၊ ကေရာအတ် တို့ကိုကောင်းမွန်စွာပြုလုပ်၏။) သို့ရှိလေရာ နမာဇ်ကပြောဆိုသည်မှာ အလ္လာဟ်အသျှင် မြတ်က အသင့်အား ထိန်းသိမ်းစောင့်ရှောက်ပါစေ၊ အသင်က ကျွန်ုပ်အား ထိန်းသိမ်း စောင့်ရှောက်သကဲ့သို့ဟူ၏။ အဓိပ္ပါယ်မှာ.... ကျွန်ုပ်၏ တာဝန်ဝတ္တရားကို ကျေပွန်စွာ ဆောင်ရွက်ပြီးလျှင် ကျွန်ုပ်အား ပျက်စီးဆုံးရှုံးမှုမပြုလုပ်ခဲ့ချေ။

ထို့နောက် ၎င်းနမာဇ်သည် မိုးကောင်းကင်ဘက်သို့ တင်ဆောင်သွားခြင်းကို ခံရ လိမ့်မည်၊ ထိုအခါ ဤနမာဇ်တွင် လင်းဝင်းတောက်ပလျက်ရှိနေခြင်းကြောင့် မိုးကောင်း ကင်၏တံခါးများကို ဖွင့်ပေးလိမ့်မည်။ (သို့မှသာ အဘွင်းသို့ရောက်ရှိကာ အသျှင်မြတ်၏ 'ကဘူလ်'ပြု လက်ခံတော်မူစေရန်ဖြစ်လေသည်။)

မည်သည့်အခါ ဗန္ဒဟ်လူသားသည် ဝိုသ္မူကို ကောင်းစွာမပြု ရီကူအ်၊ စစ်ဂျ်ဒဟ်၊ ကေရာအတ်တို့ကို ကောင်းမွန်စွာမပြုလုပ်ပါမူ၊ ထိုနမာဇ်က ပြောသည်မှာ.... အလ္လာဟ် အသျှင်မြတ်သည်အသင့်အားဖျက်ဆီးတော်မူပါစေ။ အသင်ကကျွန်ုပ်အားဖျက်ဆီးသကဲ့သို့ ဟူ၏။ ထို့နောက်ထိုနမာဇ်အား မိုးခကောင်းကင်ဘက်သို့တင်ဆောင်သွားလိမ့်မည်၊ ထိုအခါ ဤနမာဇ်သည် မည်းမှောင်၍နေလေသည်၊ ၎င်းနောက် မိုးကောင်းကင်၏တံခါးများကို ပိတ်ထားခြင်းခံရလိမ့်မည်။ (သို့မှသာလိုရာစခန်းသို့မရောက်ဘဲ အသျှင်မြတ်၏လက်ခံတော်မူခြင်း မခံရစေရန်ဖြစ်သည်။)

ထို့နောက် (၎င်းနမာဇ်ကိုအသုံးမဝင်သော) အဝတ်ဟောင်းများကို လိပ်သကဲ့သို့ အလိပ်ခံရပြီးလျှင် ထိုနမာဇ်ဖတ်သူ၏မျက်နှာသို့ အပေါက်ခံရလိမ့်မည်။ (အဓိပ္ပါယ်မှာ.... ထိုနမာဇ်ကို အသျှင်မြတ် လက်ခံတော်မမူ၊ သဝါဗ်ကုသိုလ်လည်းမရဟူ၏။)

ဟသ္ရတ်အဗ်ဒွလ္လာဟ်ဗင်န်မက်ဖလ် (ရမေသွ)သခင်က အကြောင်းပြန်ကြားခဲ့သည်မှာ ရဆူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူခဲ့၏။ သူခိုးများအနက် အကြီးဆုံး သူခိုးသည်ထိုသူပင်ဖြစ်သည်၊ အကြင်သူသည် မိမိ၏နမာဇ်ကိုခိုး၏။ ဆွဟာဗဟ်သခင်ကြီး များက၊ အိုတမန်တော်မြတ် မိမိ၏နမာဇ်ကို မည်သို့ခိုးဝှက်ပါသနည်းဟု လျှောက်ထား မေးမြန်းကြလေရာ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်ကြားတော်မူသည်မှာ.... နမာဇ်၏ ရီကူအ်နှင့် စစ်ဂျ်ဒဟ်တို့ကို ပြည့်စုံစွာ မပြုလုပ်ခြင်းပင်ဖြစ်သည်။ ၎င်းနောက် စဉ်းလဲသူများအနက်အကြီးဆုံးစဉ်းလဲသူသည် 'စလာမ်'ပေး၍နှုတ်ဆက်ခြင်းမှစဉ်းလဲတွန့်တို သူပင်ဖြစ်သည်။ (တွာဗ်ရာနီကျမ်း)

သခဘာတရားကား၊ ဤသို့တည်း နမာဇ်ဝတ်ပြုမှုသည် ဤမျှလွယ်ကူသော'အေဗာ ဒတ်'ဝတ်ပြုမှုဖြစ်ပြီးလျှင် အမြင့်မြတ်ဆုံးသော ဝတ်ပြုမှုတစ်ရပ်ဖြစ်ခြင်းကြောင့် ၎င်း၏ တာဝန်ဝတ္တရားများကို ပြည့်စုံအောင်မဆောင်ရွက်ခြင်းသည် အကြီးဆုံးသော ခိုးဝှက်မှု တစ်ရပ်ဖြစ်ချေသည်။ ယင်းသည် ခိုးဝှက်ခြင်း၏ အပြစ်ဂိုနာဟ်ကား ကြီးမားလှပေသည်။ (သို့အတွက်) မွတ်စလင်မ်များအဖို့ နမာဇ်ဝတ်ပြုမှုကို ပြည့်စုံစွာ တာဝန်မချခြင်းဖြင့် ဤကဲ့သို့လူဆိုးစာရင်းတွင် သွတ်သွင်းခြင်းခံရသည့်အတွက် ရှက်ကြောက်ဖွယ် ကောင်းလှ ပေသည်။ အနတ်စ်ဗင်န်မာလစ်က် (ရမေသွ) ဤပုဂ္ဂိုလ်၏ အကြောင်း နောက်ဆက်တွဲ ၁-တွင်၊ ဖော်ပြခဲ့ပြီးဖြစ်လေသည်၊ သခင်က အကြောင်း ပြန်ကြားတော်မူခဲ့သည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အပြင်သို့ထွက်ကြွလာတော်မူစဉ်လူတစ်ယောက်သည် ဗလီဝတ်ကျောင်းတော်၌ ရီကူအ်နှင့်စစ်ဂျ်ဒဟ်ကို ပြည့်စုံအောင်မလုပ်ဘဲ (နမာဇ်ဝတ်ပြု) နေသည်ကိုတွေ့မြင်တော်မူ၏။ ထိုအခါ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်ကြား တော်မူသည်မှာ.... အကြင်သူသည်၊ ရီကူအ် စစ်ဂျ်ဒဟ်ကို ပြည့်စုံစွာမပြုလျှင် ၎င်းနမာဇ် ဝတ်ပြုမှုသည် 'ကဘူလ်'ပြု၍လက်ခံတော်မူခြင်း ခံရလိမ့်မည်မဟုတ်ချေ။ (တွာဗ်ရာနီကျမ်း)

အဘူဟုရိုင်ရဟ်(ရမေသွ)သခင်သည်၊ အဆင့်အတန်းမြင့်သော'အာလင်မ်'ပညာရှင် ကြီးတစ်ဦး ဖြစ်သည်သာမက၊ အေဗာဒတ်၌ မွေ့လျော်သူ။ တတ်စ်ဗီးဟ် ဘာဝနာစီး ဖြန်းသရဇ္ဈာယ်သူ တစ်ဦးလည်းဖြစ်၏။

ဆွဲဟာဗဟ်များအနက် ဟာသွရတ် အစ်ဗ်နို့အမရ်ဗင်န်အားစ္စ(ရသေ့)သခင်သည်၊ ထိုပုဂ္ဂိုလ်ကြီးထက်ပို၍ ဟဒီးသ်တော်များကို တတ်ကျွမ်းနားလည်သူဖြစ်၏၊ ၎င်းနောက် မည်သည့် (ဆွဲဟာဗဟ်)သခင်များမှ အဘူဟုရိုင်ရဟ်(ရသေ့)သခင်ထက် ဟဒီးသ်တော် များကို တတ်ကျွမ်းနားလည်သူမရှိခဲ့ချေ၊ ၎င်း၏အမည်ကား အဗ်ဒွရ်ရဟ်မာန်ဖြစ်သည်။ အဘူဟုရိုင်ရဟ်သည် ၎င်း၏ဘွဲ့ထူးပင်ဖြစ်၏ အစပိုင်းတွင် အလွန်ဆင်းရဲ နွမ်းပါးခဲ့၏။ အငတ်ပြဿနာပင် ရင်ဆိုင်ခဲ့ဘူးလေသည်။

၎င်း၏အတ္ထုပ္ပတ္တိကား ရှည်လျားလှပေသည်၊ အစ္စလာမ် သာသနာတော်ဝင်ခါစ အချိန်၌ဆင်းရဲနွမ်းပါးမှုကြောင့်လက်ထပ်ခြင်းကိုပင်မပြုနိုင်ခဲ့ပေ၊ထို့နောက် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော် (ဝဖွာတ်)ကွယ်လွန်တော်မူပြီးနောက် ၎င်း၏စီးပွားရေးအခြေ အနေ တိုးတက်ကောင်းမွန်လာလေသည်။ မဒီနာမြို့တော်၏ အုပ်ချုပ်သူ မြို့တော်ဝန် တာဝန်ကို ထမ်းဆောင်ရန် ခန့်အပ်ခြင်းခံခဲ့ရ၏။

ယင်းသို့စီမံအုပ်ချုပ်မှုတာဝန်ကို ထမ်းဆောင်နေရသည့်အချိန်ကာလမှာပင် ထင်း စည်းများကိုသယ်ပိုး၍ ဈေး၌လှည့်လည်ရောင်းချလေ့ရှိသည်။ ၎င်းနောက် (ဤသို့လှည့် လည်ရောင်းချစဉ်) အစိုးရမင်းအတွက် လမ်းများ ဖယ်ရှင်းပေးကြလော့။ အဓိပ္ပါယ်.... ကျွန်ုပ်အတွက် လမ်းပေးကြပါဟု ပြောဆိုလေသည်။

ဤမျှကြီးကျယ်သော ရာထူးကိုခံယူရရှိပါလျက် မိမိအလုပ်ကို မိမိကိုယ်တိုင်ပင် လုပ်ကိုင်ခဲ့၏၎င်းအလုပ်သည်လည်း သာမန်ဂုဏ်အသရေရှိသူများပင်လျှင်သေးသိမ်သည်ဟု ယူဆကြသော အလုပ်ဖြစ်ချေသည်။

၎င်းနောက် မိမိကိုယ်ကို အနည်းငယ်မျှပင် ကြီးသည်ဟုမထင်မှတ်ချေ။ ငါသည် အာဏာပိုင်တစ်ယောက်ဖြစ်၏ မည်သည့်လက်အောက်ငယ်သား သို့မဟုတ် အစေခံတစ်ဦး တစ်ယောက်အား ခိုင်းစေသောအလေ့ဝါဒမရှိ။

ဤကား နဗီတမန်တော်အပေါင်းတို့၏ မကိုဋ်သင်းကျစ်မမွရာဇ် ဖြစ်တော်မူသော တမန်တော် မုဟမ္မဒ်မွတ်စ္စတဖွာ (ဆွလလ္လာဟု) ကိုယ်တော်နှင့်အတူတကွ၊ ပေါင်းသင်း နေထိုင်ကာ သင်ကြားဆည်းပူးခဲ့သော ပုဂ္ဂိုလ်မြတ်ကြီးများ၏ လမ်းစဉ်ပင်ဖြစ်ချေသည်။ ယခုခေတ်ကာလတွင်မူ သာမန်ရာထူးကလေးများကို ရရှိရုံမျှနှင့် မိမိတို့ကိုယ်တိုင် မိမိတို့ ဘဝင်မြင့်ကာ အထင်ကြီးတတ်ကြလေသည်။

ထို့နောက် အစ္စလာမ်အရေးကို (ဆောင်ရွက်ရမည်) ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကို ချစ်ခင်မြတ်နိုးပါသည်ဟူ၍ ကြွေးကြော်ကြ၏၊ သို့ရာတွင်အမှန် ကိုယ်တော် အားချစ်ခင်မြတ်နိုးသူသည် ကိုယ်တော်၏အမိန့်ဩဝါဒတော်များနှင့် စုန္နတ်တော်လမ်းစဉ် များကို အလုပ်တိုင်း နေရာတိုင်းတွင် လိုက်နာဆောင်ရွက်သူများသာလျှင်ဖြစ်ချေ၏။

ကဗျာဆရာတစ်ဦးက ရေးသားခဲ့သည်မှာ ....

အဓိပ္ပါယ်.... လူအများက ကျွန်ုပ်တို့သည် လိုင်လာ(မိန်းမပျို)နှင့် တွေ့ခဲ့ကြပြီဟု ကြွေးကြော်နေကြ၏၊ ၎င်းနောက် လိုင်လာ(မိန်းမပျို)ကမူ ထိုသူတို့ပြောစကားကိုဝန်ခံ ခြင်း မပြုချေ။

သို့ရှိလေရာထိုသူ၏ပြောစကားသည် အဘယ်မျှလျှင်မှန်ကန်နိုင်ပါအံ့နည်း၊ ဤနည်းအတိုင်းပင် အကြင်သူသည် အလ္လာဟ်ရစူလ်ကို ချစ်ခင်မြတ်နိုးပါသည်ဟု ကြွေးကြော်ပြောဆို၏။ ၎င်းနောက် ဟဒီးသ်၊ ကုရ်အာန်နှင့် ဆန့်ကျင်လုပ်ဆောင်နေ၏။ အလ္လာဟ်နှင့် ရစူလ်က ထိုသူ၏ကြွေးကြော်ချက်ကို ငြင်းဆိုလိုက်ပါမူ ထိုသူ၏ ကြွေးကြော်သံသည် အဘယ်မျှလျှင် မှန်ကန်နိုင်ပါအံ့နည်း။

ဟဒီးသ်တော်တွင် ပြတ်သားစွာ အမိန့်ရှိထားသည်မှာ မှန်ကန်သောလမ်းစဉ်သည် ထိုလမ်းစဉ်ပင်ဖြစ်၏။ အကြင်လမ်းစဉ်ပေါ်၌ ကျွန်ုပ် (ရစူလွလ္လာဟ်) နှင့် ကျွန်ုပ်၏ ဆွဟာဗဟ်များ ရှိနေကြလေသည်။

ဤဟဒီးသ်တော်မှ ထင်ရှားစွာသိရှိရသည်မှာ အကြင်လမ်းစဉ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်၏ လမ်းစဉ်နှင့်ကွဲလွဲဆန့်ကျင်သော် ထိုလမ်းစဉ်သည် အမှားသာလျှင်ဖြစ်၏၊ ၎င်းနောက် ထိုလမ်းစဉ်အပေါ်တွင် လိုက်နာဆောင်ရွက်သူတို့အားကိုယ်တော်သည် အလွန်ပင်စက်ဆုပ်မုန်းတီးတော်မူ၏။

အဘူဟုရိုင်ရဟ် (ရသွေ့) သခင် ပြောကြားခဲ့သည်မှာ၊... ကျွန်ုပ်သည် (ယတီမ်) ဖဘဆိုးဘဝနှင့်နေခဲ့ရသူဖြစ်၏။ ၎င်းနောက် ကျွန်ုပ်သည် မဒီနာမြို့တော်သို့ (ဟစ်ဂျ်ရတ်) ရွှေ့ပြောင်းစဉ်အခါမှာလည်း အလွန်ဆင်းရဲခဲ့၏။ ကျွန်ုပ်သည် (ဂတ်ဇ်ဝါန်)၏ သမီးထံတွင် အစေခံအဖြစ်နှင့်နေရသူဖြစ်သည်၊ ထမင်းတစ်လုပ် စားရရေးအတွက် မဒီနာလမ်းခရီးတွင် ရံဖန်ရံခါခြေလျှင်သွားရ၍ ရံဖန်ရံခါစီးနင်းခဲ့ရ၏။ ကျွန်ုပ်သည် ထိုအမျိုးသမီး၏၊ ကုလားအုတ်ကို ကဗျာဆို၍ မောင်းနှင်ပေးရ၏။ (အရဗ်တွင် ကုလားအုတ်များကို ကဗျာနှင့် မောင်းနှင်က ပိုမိုခရီးရောက်လေသည်။ ကုလားအုတ်များလည်း လွယ်ကူစွာသွားလေ့ရှိ၏။) ၎င်းနောက် ကျွန်ုပ်သည် သခင်မတို့အတွက် စခန်းချတိုင်း ထင်းများခွေပေးရ၏။

သို့ရှိလေရာ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်ကြီးသည် မိမိအား အစ္စလာမ်သာသနာတော်တွင်ခိုင်မြဲအောင်ပြုပေးတော်မူသောအလျှင်၊ မိမိအား သာသနာ့ခေါင်းဆောင်အဖြစ် ခန့်အပ် ပေးသနားတော်မူခြင်းကို လွယ်ကူစွာ ခံယူရရှိလေသောကြောင့် အသျှင်မြတ်၏ ‘နစ်အ်မတ်’ စည်းစိမ်တော်များအား ကျေးဇူးအထူးတင်တော်မူ၏။

ဆောင်လွှားမော်ကြွားသော မာနသဘောဖြင့် မိမိကိုယ်ကို ခေါင်းဆောင်တစ်ယောက်ဟူ၍ မပြောဆိုချေ။

၎င်းနောက် အသျှင်မြတ် (နစ်အ်မတ်) စည်းစိမ်တော်များကို ကျေးဇူးတင်သည့်အနေနှင့် ဖေါ်ထုတ်နိုင်သည့်စွမ်းရည်သည် လူတို့တွင်ရရှိသလောက် ကုသိုလ်အကျိုးများ ရရှိလေသည်။

၎င်းနောက် မာနထောင်လွှားမော်ကြွားသည့်အနေဖြင့် ထုတ်ဖေါ်ကြွားဝါခြင်းသည် (ဟရာမ်)ဖြစ်၍ တားမြစ်၏။

အဘူဟုရိုင်ရဟ်(ရသွေ့)သခင် အမိန့် ရှိခဲ့သည်မှာ- ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ကျွန်ုပ်အားမိန့်ကြားတော်မူခဲ့၏၊ အသင်သည် ကျွန်ုပ်ထံမှ(ဂနီမတ်)ပစ္စည်း(ဝါ) သို့ပန်းပစ္စည်းများကို အဘယ့်ကြောင့်မတောင်းခံပါသနည်းဟု မေးတော်မူ၏၊ ကျွန်ုပ်က ကိုယ်တော်အား အလ္လာဟ်အသျှင်မြတ်ကသင်ကြားပို့ချပေးတော်မူသောပညာရပ်များကို သင်ကြားပေးတော်မူစေလိုပါသည်ဟု လျှောက်ထားပန်ကြားလေရာ ကိုယ်တော်ကကျွန်ုပ်၏ကျောပေါ်တွင်ခြုံထားသောစောင်ကိုယူတော်မူ၍ကျွန်ုပ်နှင့်ကိုယ်တော်အကြားတွင် ခင်းတော်မူ၏၊ ကျွန်ုပ်သည် ထိုစောင်ပေါ်၌ ကြမ်းပိုးများသွားနေသကဲ့သို့ မြင်တွေ့ရ၏၊ ထိုစောင်ပေါ်တွင် ကျွန်ုပ်နှင့်ပတ်သက်၍ အချို့စကားလုံးများကိုမိန့်ကြားတော်မူသည်၊ အကြင်စကားလုံးများကိုမိန့်ကြားပြီးတော်မူပြီးနောက် ထိုစောင်ကို ခေါက်လုံးစေပြီးလျှင် (ဗရ်ကတ်) အလို့ငှာ မိမိရင်နှင့် ထိစေတော်မူ၏။

အဘူဟုရိုင်ရဟ်(ရသွေ့)သခင် အမိန့် ရှိခဲ့သည်မှာ.... ထိုသို့ ပြုလုပ်လိုက်ခြင်း၏ (ဗရ်ကတ်)ကြောင့် ကျွန်ုပ်မှာ ကိုယ်တော်၏ သင်ကြားပေးလိုက်သော ပညာရပ်များကို တစ်လုံးတစ်ပါဒမျှ လစ်လပ်ခြင်း မေ့လျော့ခြင်း မရှိတော့ချေ။

အခိပ္ပါယ်.... ကျွန်ုပ်၌ အာဂုံဆောင် မှတ်သားဉာဏ်သည် အလွန် (ထက်မြက်) ကောင်းမွန်လာလေတော့သည်၊ ၎င်းနောက် အဘူဟုရိုင်ရဟ်(ရသွေ့)သခင် အမိန့်ရှိခဲ့သည်မှာ- ကျွန်ုပ်သည် အလ္လာဟ်အသျှင်မြတ်ထံတော်တွင် တောင်ဗဟ် (အစ်တစ်ဂ်ဖွာရ်)၊

(အတ်စ်တဂ်ဖွေရုလ္လာဟ၊ ဝအတူဗို့၊ အေ့လိုင်ဟေ့)။

အခိပ္ပါယ်.... ကျွန်တော်မျိုးသည် အသျှင်မြတ်ထံတော်ဝယ် ချမ်းသာဆုပန်ပါ၏၊ ၎င်းနောက် ကျွန်တော်မျိုးသည် အသျှင်မြတ်၏ဘက်သို့ လှည့်ပါပြီ၊ သို့မဟုတ် အခြားအလားတူစာလုံးများကို တစ်နေ့လျှင် အကြိမ်ပေါင်းတစ်သောင်းနှစ်ထောင်အထိ နေ့စဉ်နေ့တိုင်း ဖတ်ရွတ်ပါ၏။

ထိုဆွဟာဗီသခင်ထံတွင် အထုံး နှစ်ထောင်ပါသော ကြိုးကွင်းတစ်ခုရှိ၏၊ မအိပ်မီအလျှင် ထို(အထုံးနှစ်ထောင်)မျှခန့် စွဗ်ဟာနလ္လာဟ် ဖတ်ရွတ် မပြီးမချင်း အိပ်တော်မမူချေ၊ ဆိုလိုသည်မှာ- စွဗ်ဟာနလ္လာဟ်ကို မအိပ်မီအလျှင် ဤ(အကြိမ်နှစ်ထောင်)မျှခန့် ဖတ်ရွတ်တော်မူ၏။

ဟာသွရတ် အဗ်ဒွလ္လာဟ်ဗင်န်အုမရ်(ရသွေ့)သခင်သည် ကြီးကျယ်သော ဆွဟာဗီများအနက်မှဖြစ်၏၊ အာလင်မ်ပညာရှင်လည်းဖြစ်၏၊ စွန္နတ်တော်ကို လိုက်နာဆောင်ရွက်ရာတွင် လူအများက ၎င်း၏ဦးနှောက်ပျက်မည်ကိုစိုးရိမ်သည့်တိုင်အောင် လေ့လာလိုက်စားခဲ့၏၊ ၎င်းနောက် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မိန့်ကြားတော်မူသည်မှာ-

အကယ်၍သာ အုမရ်၏သား အဗ်ဒွလ္လာဟ်သည် ညဉ့်၏နမာဇ် တဟတ်ဂျဒ် ဖတ်ပါလျှင် မင်းယောကျ်ားကောင်းတစ်ယောက်ဖြစ်မည်၊ ထိုအချိန်မှစ၍ အဗ်ဒွလ္လာဟ်သခင်သည်

တဟတ်ဂျဒ်နမာဇ် မည်သည့်အခါမျှမလွတ်တော့ချေ၊ ၎င်းနောက် ညဥ့်အချိန်၌ အနည်းငယ်သာ အိပ်စက်၏၊ ထိုသခင်က မေးခဲ့သည်မှာ- အို...အဘူဟုရိုင်ရဟ်(ရသေ့)၊ လူကြီးမင်းသည် ကျွန်တော်တို့ဆွဟာဗီများအနက် ကိုယ်တော်သခင်နှင့်အတူ အများဆုံး နေထိုင်ရသူဖြစ်ပါသည်၊ ၎င်းနောက် ကျွန်တော်တို့အထဲတွင် ဟဒီးသ်တော်များကို အများဆုံးတတ်ကျွမ်းသူတစ်ဦးလည်း ဖြစ်ပါသည်ဟု ပြောကြားခဲ့ဘူး၏။

ဟဇ္ဇရတ်တွဖွာစီ(ရဟေ)သခင်ကအမိန့်ရှိခဲ့သည်မှာ....ကျွန်ုပ်သည်အဘူဟုရိုင်ရဟ်(ရသေ့)သခင့်ထံ ၆-လခန့် ဧည့်သည် အဖြစ်နှင့် နေထိုင်ခဲ့ရဘူး၏၊ သို့နေထိုင်ခဲ့ရာ ဆွဟာဗဟ်ကြီးများအနက် အဘူဟုရိုင်ရဟ် သခင်ထက် ဂရုစိုက်သူ ဧည့်ဝတ်ကျေပွန်သူ မတွေ့မြင်ခဲ့ရပေ။

အဘူအွတ်စ်မာန်ဟာင်ဒီ(ရသေ့)သခင်အမိန့်ရှိခဲ့သည်မှာ....ခုနစ်ရက်တစ်ပါတ်အထိ အဘူဟုရိုင်ရဟ်(ရသေ့)သခင်၏ ဧည့်သည်တော် အဖြစ် နေထိုင်ခဲ့ရဘူး၏၊ သို့ရှိလေရာ အဘူဟုရိုင်ရဟ်(ရသေ့)သခင်နှင့်တကွ ၎င်း၏ဇနီး၊ ၎င်းအစေခံတို့သည် ညဥ့်အချိန်ကို သုံးပုံပုံ၍ တစ်ပုံလျှင် တစ်ယောက်ကျစီ အလှည့်ကျနမာဇ်ဝတ်ပြုကြ၏၊ တစ်ယောက်ဝတ်ပြုပြီးလျှင် အခြားတစ်ယောက်ကိုနှိုး၍အိပ်၏၊ တဖန် ဒုတိယတစ်ယောက်က ဝတ်ပြုပြီးသောအခါ တတိယသူကိုနှိုး၍ အိပ်၏၊ ဤအကြောင်းအရာသည် တပ်သ်ကေ ရတွလ်ဟွတ်ဖွာဇ်ဘိုခါရီ စသည်တို့မှ ရေးသားဖော်ပြခြင်း ဖြစ်သည်။

ထိုသခင်က ပြန်ကြားခဲ့သည်မှာ.... ရဆူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် မိန့်ကြားတော်မူခဲ့၏၊ အကယ်၍ အသင်တို့အနက်ဘစ်ဦးတစ်ယောက်သည် တိုင်တစ်လုံးကို စိုးပိုင်မည်ဖြစ်အံ့၊ ထိုသူသည် အကြင်တိုင်ကိုဖျက်ဆီးခြင်းခံရပါမူ စိတ်မကောင်းဖြစ်မည်သာတည်း။

သို့ရှိလေရာ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် အဘယ့်ကြောင့် မိမိ၏နမာဇ်ကို ပျက်စီးစေသောအလုပ်ကို ပြုလုပ်မည်နည်း။

ဤသို့သော နမာဇ်သည်ကား အသျှင်မြတ်အဖို့သာ ဖြစ်လေသည်။

သို့ရှိလေရာ အသင်တို့သည် ပြည့်စုံစွာ (စံနစ်တကျ) မိမိတို့၏နမာဇ်ကို ဝတ်ပြုကြလေကုန်။

အဘယ့်ကြောင့်ဟူမူ မုချကေန် အလ္လာဟ်အသျှင်မြတ်သည် ပြည့်စုံ လုံလောက်သောနမာဇ်ကိုသာလျှင် လက်ခံတော်မူ၏၊ အဓိပ္ပါယ်မှာ....မပြည့်စုံသော (ဝါ) ချို့ယွင်းသော နမာဇ်၊ ချို့ယွင်းသော အေဗာဒတ်ဝတ်ပြုမှုတို့သည် အသျှင်မြတ်၏လက်ခံတော်မူခြင်း ခံရမည်မဟုတ်ချေ။

ဟဇ္ဇရတ်အဗ်ဒွလ္လာဟ်ဗင်န်အမရ်(ရသေ့)သခင်က ပြန်ကြားခဲ့သည်မှာ- ရဆူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် မိန့်ကြားတော်မူခဲ့၏။

ကေန်မုချပင် ယောကျ်ားတစ်ယောက်သည် ရဆူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ရှေ့မှောက်တွင် အသင့်ရောက်ရှိလာကာ ကိုယ်တော်အား အကောင်းဆုံးသော အမလ်

ကိုယ်ကျင့်တရားနှင့်ပတ်သက်၍ (သာသနာတော်၌ အီမာန်၏နောက် အကောင်းဆုံးသော အမလ် ကိုယ်ကျင့်တရားသည် အဘယ်အရာဖြစ်ပါသနည်း)ဟု လျှောက်ထား မေးမြန်းလေရာ၊ ကိုယ်တော်က ဖြေဆိုမိန့်ကြားတော်မူသည်မှာ- ဖွရ်သွ် နမာဇ်ပင် ဖြစ်သည်ဟူ၏။ တဖန်ထိုသူက ၎င်းနောက် မည်သည့်(အမလ်)ကိုယ်ကျင့်တရားသည် အကောင်းဆုံးဖြစ်ပါသနည်းဟု လျှောက်ထားပြန်ရာ၊ ကိုယ်တော်က နမာဇ်ဟုပင် ဖြေကြားတော်မူ၏။ ထို့နောက် မည်သည့်(အမလ်)ကိုယ်ကျင့်တရားသည် အကောင်းဆုံးဖြစ်ပါသနည်းဟုလျှောက်ထားပြန်ရာ၊ နမာဇ်ဟုပင် ဖြေကြားတော်မူ၏။

သုံးကြိမ်တိုင်တိုင် ဤအဖြေကိုသာ မိန့်ကြားတော်မူလေသည်၊ နမာဇ်ဝတ်ပြုမှုသည် အမြင့်မြတ်ဆုံးသော ဝတ်ပြုမှုဖြစ်ခြင်းကြောင့် ဤမျှ လေးနက်စွာ မိန့်ကြားထားတော်မူခြင်း ဖြစ်ပေသည်။

ယင်းသို့အကြိမ်ကြိမ်အဖန်ဖန်မိန့်ကြားတော်မူခြင်းသည်လူအများအဖို့ယင်းနမာဇ်ဝတ်ပြုခြင်းအတွက် အထူးလေးစားမှုရှိစေရန်နှင့် ပျက်ကွက်ခြင်းဖြင့် ဆုံးရှုံးမှု မဖြစ်ကြစေရန် အလို့ငှာ ဖြစ်လေသည်။

ထို့နောက် မေးသူကလက်မလျှော့ဘဲ ရှေ့သို့ဆက်လက်၍ ကိုယ်တော်သခင်အား ၎င်းနောက် မည်သည့် 'အမလ်' သည် အကောင်းဆုံး ဖြစ်ပါသနည်းဟု ထပ်လောင်း၍ လျှောက်ထားပြန်ရာ (ဤအကြိမ်သည်ကား စတုတ္ထအကြိမ်ဖြစ်တန်ရာသည်) ကိုယ်တော်က မိန့်ကြားတော်မူသည်မှာ- အသျှင်မြတ်၏ လမ်းတော်တွင် (ဂျေဟာဒ်) တိုက်ပွဲဝင်ခြင်းဟု မိန့်ကြားတော်မူ၏၊ အဓိပ္ပါယ်မှာ....နမာဇ်၏နောက် ကာဖွင်ရ်များနှင့် ဘာသာရေးစစ်ပွဲဆင်နွှဲခြင်းသည် အလ္လာဟ်အသျှင်မြတ်၏သာသနာတော် လွှမ်းမိုးစေရန်အလို့ငှာ၊ အမြတ်ဆုံးဖြစ်၏၊ မိမိအား ဥစ္စာပစ္စည်းရလိုမှုနှင့်တိုက်ခိုက်ခြင်းမဖြစ်စေရ၊ အကယ်၍ ဥစ္စာပစ္စည်းရရှိစေကာမူ မိမိတိုက်ပွဲဝင်ခြင်း၏ နိယတ်ရည်စူးချက်သည် (သာသနာတော်အတွက်သာလျှင် ဖြစ်စေရမည်၊) ဥစ္စာပစ္စည်းအတွက်မဖြစ်သင့်ဟူ၏၊ သို့ရှိလေရာ ယင်းသို့တိုက်ပွဲဝင်ခြင်းသည် နမာဇ်ဝတ်ပြုမှု၏နောက် အမြတ်ဆုံးပင် ဖြစ်ချေသည်။

ထိုလုလင်က ကျွန်တော်မျိုး၏မိဘနှစ်ပါး(အသက်ရှင်လျက်)ရှိနေပါသည်၊ ၎င်းတို့နှင့်ပတ်သက်၍ အမိန့်ရှိတော်မူပါဟုလျှောက်ထားပြန်ရာ၊ တမန်တော်က မိန့်ကြားတော်မူသည်မှာ....ကျွန်ုပ်သည် အသင့်အား ၎င်းမိဘနှစ်ပါးကို ကောင်းမွန်စွာလုပ်ကျွေး ခယပြုလုပ်ရန် အမိန့်ပေးတော်မူလိုက်သည်၊ အဓိပ္ပါယ်ကား.... ၎င်းတို့အား ကောင်းမွန်စွာလုပ်ကျွေးခယပြုလုပ်ရမည် ဒုက္ခမရောက်စေရ၊ မိဘနှစ်ပါးအားဒုက္ခပေးခြင်းဆင်းရဲအောင်လုပ်ခြင်းသည် 'ဟရာမ်'(ကြီးလေးသောအပြစ်)ဖြစ်လေသည်။ ဤမျှတိုင် မိဘ၏ဝတ္တရားကျေပွန်မှုသည်အရေးကြီး၍ ဖွရ်သွ် တာဝန်ဖြစ်လေသည်၊ မိဘဝတ္တရားထက်ကြီးလေးသော တာဝန်၊ သို့မဟုတ် အသျှင်မြတ်အားသွေဖီငြင်းဆန်ခြင်းအဖြစ်သို့ရောက်သွားစေနိုင်သောအမှုများ မရှိသရွေ့ ကာလပတ်လုံး ၎င်းမိဘတို့အား ဒုက္ခဖြစ်စေတတ်သောအလုပ်ကို မပြုလုပ်ရ။

ဒုက္ခပေးခြင်းဟူသည်မှာ ရှရီအတ်တရားတော်က ဒုက္ခဟု သတ်မှတ်ပေးထားသော အရာကိုသာ ခေါ်ဆိုသည်၊ ဤအဆင့်ထက်ပို၍ လုပ်ကျွေး ပြုစုခြင်းသည် မှတ်စ်တဟဗ် အကျိုးရရှိလေသည်၊ အရေးကြီးသောတာဝန်မဟုတ်ကြောင်း ကောင်းစွာ မှတ်သားကြ ပါလေ၊ ဤမတ်စ်အလဟ် ပြဿနာနှင့်ပတ်သက်၍ လူအများတို့ ကြီးစွာအမှားတွေ့တတ် လေသည်။ ဤပြဿနာကို (အေဇ်ာလတွတ်ဒီးန်၊အန်ဟိုကူကွလ်ဝါလေဒိုင်)စာစောင်တွင် အကျယ်တဝင့် ရေးသား ဖော်ပြထားလေသည်။

ထိုလုလင်ကလျှောက်ထားသည်မှာ- ကျွန်တော်မျိုးသည် ကိုယ်တော်အား နဗီတမန် တော်အဖြစ်နှင့် အမှန်ပင်စေလွှတ်တော်မူလိုက်သော အလ္လာဟ်အသျှင်မြတ်အား(ကဆမ်) ကျိန်ဆို၍ပြောပါသည်၊ ကျွန်တော်သည် အမှန်မုချပင် စစ်ပွဲ၌ ပါဝင်တိုက်ခိုက်ပါမည်၊ ၎င်းနောက် အမှန်မုချ မိဘနှစ်ပါးကိုစွန့်လွှတ်၍ စစ်ပွဲသို့သွားပါတော့မည်၊ ထိုအခါကိုယ် တော်သခင်က မိန့်ကြားတော်မူသည်မှာ အသင်သည် မိဘနှစ်ပါးကိုပြုစုရသောအကျိုးနှင့် (ဂျေဟာဒ် စစ်ပွဲဝင်ခြင်း၏အကျိုးကို)ကောင်းစွာသိရှိလေပြီ၊ ၎င်းနှစ်မျိုးအနက် အသင် အလိုရှိရာ စိတ်သန်ရာကိုသာ ပြုလုပ်ဆောင်ရွက်ပေလော့။

ဤဟဒီးသ်တော် အရ သိရှိရသည်မှာ.... (ဂျေဟာဒ်) အဆင့်သည် မိဘနှစ်ပါးကို ပြုစုခြင်းထက်ကြီး၏၊ အချို့ဟဒီးသ်တော်များမှာ မိဘနှစ်ပါး၏ ဝတ္တရားသည် ဖွရ်သွ် နမာဇ်၏နောက် အကြီးဆုံးတာဝန်ဖြစ်ကြောင်း၊ ထို့နောက်မှ (ဂျေဟာဒ်)၏အဆင့်ကို ဖော်ပြ ပါရှိ၏။

ထိုအဆို ၂-ရပ်၏အဖြေကား ဤသို့တည်း၊ မိဘ၏ဝတ္တရားသည် 'ဂျေဟာဒ်'ထက် သာလွန်မြင့်မြတ်သည့်သဘောမှာ မိဘ၏ဝတ္တရားသည် ဗန္ဒဟ်(ကျေးကျွန်)များ၏ တာဝန် ဝတ္တရားဖြစ်၍၊ အကြင်ဝတ္တရားကို ပျက်ကွက်ပါက ကာယကံရှင်ကိုယ်တိုင်က ခွင့်မလွှတ် ဘဲ ချမ်းသာခွင့် မရနိုင်ပေ၊ ဤအကြောင်းကို ထောက်ရှုခြင်းအားဖြင့် မိဘ၏ ဝတ္တရား သည် ဂျေဟာဒ်ထက်ပို၍မြတ်၏ ၊အကယ်၍ ဖွရ်သွ်-ဂျေဟာဒ် မလိုက်မနေရသော အရေး တကြီးစစ်ပွဲပင်ဖြစ်စေကာမူ အချိန်မရရှိ၍ တိုက်ပွဲတွင်ပါဝင်နိုင်ခွင့်မရရှိက တောင်ဗဟ် ပြုခြင်းဖြင့် ချမ်းသာခွင့် ရရှိစေနိုင်သည်။

သို့ရာတွင် ဗန္ဒဟ်၏ဝတ္တရားမှာ တောင်ဗဟ်ပြုရုံဖြင့် ချမ်းသာခွင့်မရနိုင်ပေ၊ ဒုတိယ အဖြေမှာ ကိုယ်တော်ထံတွင် လူမျိုးစုံပင်မေးမြန်းရန် လာရောက်ကြ၏၊ ကိုယ်တော်သည် ၎င်းမေးသူတို့၏ အခြေအနေကိုကြည့်၍ ဖြေကြားတော်မူလိုက်ခြင်း ဖြစ်သည်။

အဟ်မဒ်ကျမ်း။

အဘူအိုင်ယူဗ် အန်စွာရီ (ရသွေ့)၊ ဤ(သခင်ကြီး၏ နေအိမ်မှာပင် ကိုယ်တော် မတ်က်ကဟ်မှ မဒီနာမြို့တော်သို့ ရွှေ့ပြောင်းတော်မူစဉ် တည်းခိုစခန်းချတော်မူခဲ့၏၊) ပြန်ကြားတော်မူခဲ့သည်မှာ- ရစူလွလ္လာဟ်(ဆွလလ္လာဟု)မိန့်ကြားတော်မူခဲ့၏၊ မုချ ဧကန် နမာဇ်ဟူသရွေ့တို့သည်(ထိုနမာဇ်၏)အလျင်က တင်ရှိခဲ့သော ဂိုနာဟ် အပြစ်ဒုစရိုက်တို့ကို ဖယ်ရှားပေးလေသည်။ အဟ်မဒ်ကျမ်း။

အလိုမှာ မည်သည့်နမာဇ်ကိုမဆိုဝတ်ပြုပါက ၎င်းနမာဇ်နှင့်အခြားနမာဇ်တစ်ကြိမ် အတွင်းတင်ရှိသောဂိုနာဟ်စွဂီရဟ်ခေါ် သေးငယ်သောအပြစ်ဒုစရိုက်များပလပ်သွားလေသည်၊

အဘူအိုမာမဟ်ဗာဟောလီ (ရသွေ့)သခင်က ပြန်ကြားခဲ့သည်မှာ.... ကျွန်ုပ်သည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံတော်မှ မိန့်ခွန်းတစ်ရပ်ကို ကြားနာခဲ့ရဘူး၏။

ဖွရ်သွ်နမာဇ်တစ်ကြိမ်သည်အခြား(ဖွရ်သွ်)နမာဇ်နှင့်စုပေါင်း၍(၎င်း၏အလျင်က တင်ရှိခဲ့သော ဂိုနာဟ်စွဂီရဟ် သေးငယ်သောအပြစ်ဒုစရိုက်များကို ပ,လပ်စေသည်။

၏နည်းပင် ဂျုမ်မို့အဟ်နမာဇ်သည် ၎င်း၏အလျင် ဂျုမ်မို့အဟ်က တင်ရှိသောအပြစ်များကို ဒုတိယဂျုမ်မို့အဟ်နမာဇ် ဝတ်ပြုလိုက်သည်နှင့်တပြိုင်နက် ပ,လပ်သွားလေသည်။

: အချို့ဟာဒီးသ်တော်များတွင် ဂျုမ်မို့အဟ်၏နောက် လာမည့် ၃-ရက်၏ ဂိုနာဟ်များကို ပ,လပ်ခံရမည်ဟူ၍ ပါရှိလေသည်။

၎င်းနောက် ရမသွာန်လမြတ်၏ ရိုဇဟ်သည် အလျင်ရမသွာန်အတွင်း တင်ရှိသော ဂိုနာဟ်များကို ဒုတိယရမသွာန်၏ ရိုဇဟ်ဥပုသ် စောင့်ထိန်းလိုက်သည် နှင့် တပြိုင်နက် ပ,လပ်သွားလေသည်။

၎င်းနောက် ဟဂ်ျတစ်ခုသည် အခြား ဟဂ်ျတစ်ခု၏ အတွင်းရှိ ဂိုနာဟ်များကို ဖယ်ရှား ပ,လပ်ပေး၏။

၎င်းနောက် (ရာဝီ)ပြန်ကြားသူက ပြောပြသည်မှာ.... ကိုယ်တော်က မွတ်စလင်မ် အမျိုးသမီးများအား မိမိတို့ လင်ယောကျ်ားသော် လည်းကောင်း၊ နေကာဟ် ဟရာမ် ဖြစ်သူဆွေမျိုးသားချင်း(တစ်ဦးတစ်ယောက်သော်လည်းကောင်း)မပါလျှင် ဟဂ်ျမပိုင်ဟု အမိန့်ရှိတော်မူခဲ့လေသည်။ တွာဗ်ရာနီနှင့်ကဗီရီကျမ်း။

အကယ်၍ အကြင်သူ၌ (ဂိုနာဟ်-စွဂီရဟ်) သေးငယ်သောအပြစ်များမရှိမူ ထိုသူ အဖို့ အဘယ်သို့သော မြင့်မြတ်ချက်များရှိပါသနည်း ဟူ၍လည်းကောင်း၊ အခြား မေးခွန်းမှာ (ငါးကြိမ်) နမာဇ်များဖြင့် အပြစ် ဒုစရိုက်အသီးသီးတို့ ပ,လပ်သွားခြင်းဖြင့် ယခု၎င်းသူတွင် ဂိုနာဟ်များကင်းရှင်းနေလေရာ ဂျုမ်မို့အဟ်နမာဇ် စသည်တို့ကိုဝတ်ပြု ခြင်းအားဖြင့် မည်သည့် ဂိုနာဟ်များ ပ,လပ်နိုင်ပါသေးသနည်းဟု တစ်ဦးတစ်ယောက်က မေးသည်ရှိသော်....

၎င်း၏ မေးခွန်းများ၏ အဖြေကား.... ထိုသူ၏ အဆင့်အတန်း (ဒရ်ဂျဟ်)သည် မြင့်တက်သွားမည်ဟူသတည်း။

အဘူအိုမာမဟ်(ရသွေ့)သခင် ပြန်ကြားခဲ့သည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော် မိန့်ကြားတော်မူခဲ့၏။

ငါးကြိမ်နမာဇ်ဝတ်ပြုခြင်း၏ဥပမာကား.... အသင်တို့၏တံခါးဝတွင် ရေတာသွင်သွင် စီးဆင်းလျက်ရှိသော ချောင်းမြောင်းတစ်ခုနှင့်အလားတူရှိ၏၊ အကြင်သူသည် ထိုချောင်း တွင် နေ့စဉ်နှင့်အမျှ ငါးကြိမ်ကျ ရေချိုးပါလျှင် ထိုသူ၌ ချေးညှော်များ ကျန်ရှိနိုင်ပါဦး မည်လော၊ (အညစ်အကြေးများမကျန်ပေ။) ကဗီရီကျမ်း။

အဘူဟုရိုင်ရဟ်(ရသွေ့)သခင် ပြန်ကြားခဲ့သည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်မိန့်ကြားတော်မူခဲ့၏၊ မုချကေန်(ကေယာမတ်နေ့၌)ပထမဦးစွာဗန္ဒဟ်များအား နမာဇ်၏စာရင်းကိုစတင်စစ်ဆေးတော်မူလိမ့်မည်၊ သို့ရှိလေရာအကြင်သူသည်ယင်းစာရင်း

ကို ကောင်းမွန်စွာဖြေရှင်းနိုင်ပါလျှင် ကျန်ရှိသောအမလ် ကောင်းမှုကုသိုလ်များ၏စာရင်း အင်းများလည်း ကောင်းမွန်စွာ ဖြေရှင်းနိုင်ပေလိမ့်မည်။ အကယ်၍ ယင်းနမာဇ် စာရင်းကို ကောင်းမွန်စွာ မဖြေရှင်းနိုင်လျှင် ကျန်အမလ်ကောင်းမှုကုသိုလ်များ၏ စာရင်း သည်လည်း ဖြေရှင်းနိုင်မည်မဟုတ်ချေ။ ပျက်စီး ဆုံးရှုံးခြင်းသို့ ရောက်ရချေတော့မည်။

ထို့နောက် (အလ္လာဟ်အသျှင်မြတ်)က မိန့်တော်မူမည်မှာ- အို.... ဖွရစ်ရှိတဟ် ကောင်းကင်တမန်အပေါင်းတို့၊ ငါအသျှင်မြတ်၏ ဗန္ဒဟ်၌ နဖွ်လ်နမာဇ်များ ၎င်းတို့၏ စာရင်းတွင် ရှိပါသေးသလော၊ အကယ်၍ရှိခဲ့ပါမူ ပျက်ကွက်ခဲ့သော ဖွရ်သ္ဝ်နမာဇ်များ တွင် ဖြည့်စွက် အစားထိုးပေးလော့။

ကျန်ဖွန်သ္ဝ်တာဝန်များဖြစ်သော ဖွရ်သ္ဝ်ရိုဇဟ်ကို နဖွ်လ်ရိုဇဟ်ဖြင့်လည်းကောင်း၊ ဖွန်သ္ဝ် ဆွဒကဟ် တာဝန်နှင့်ပေးလှူခြင်းကို နဖွ်လ်ဆွဒကဟ် တာဝန်မဲ့ပေးလှူခြင်းဖြင့် လည်းကောင်း စသည်ဖြင့် ဖြည့်စွက် အစားထိုးပေးခြင်း ခံရလိမ့်မည်။

ယင်းသို့ဖွရ်သ္ဝ်တာဝန်ကို နဖွ်လ်နှင့်အစားထိုးပေးခြင်းသည်ကား အလ္လာဟ်အသျှင် မြတ်၏ မဟာကရုဏာတော်ပင်ဖြစ်ချေသည်၊ ဥပဒေ- စည်းကမ်းအရဆိုလျှင် ဖွရ်သ္ဝ်၏ ပျက်ကွက်မှုကို နဖွ်လ်ဖြင့် အစားထိုးပေးရန် မလိုပေ၊ ဖွရ်သ္ဝ်တာဝန်တစ်ခု ပျက်ကွက် ခဲ့သည်ရှိသော် ၎င်းအား အပြစ်ပေးရန်သာရှိလေသည်၊ သို့ရာတွင် အသျှင်မြတ်၏ မဟာ ကရုဏာတော်ကား ဖွရ်သ္ဝ် တာဝန် ပျက်ကွက်သူတို့အား နဖွ်လ်များဖြင့် အစားထိုး ဖြည့်စွက်ရန်မရှိမှသာလျှင်အပြစ်ပေးတော်မူမည်ဖြစ်သည်။ ဟုတ်ပါ၏၊ အလ္လာဟ်အသျှင် မြတ်၏ မဟာကရုဏာတော်ဖြင့် အကြောင်းမဲ့ ချမ်းသာပေးတော်မူလျှင်လည်း တစ်မျိုး တစ်နည်းအားဖြင့် ပေးသနားနိုင်တော်မူသော အသျှင်ဖြစ်ပေသည်။

အစ်ဗ်နို့ အစာကင်ရ် နှင့် ကန်ဇွလ်အမ္မာလ်ကျမ်း။

အဘူဟုရိုင်ရဟ်(ရဇိ.)သခင် ပြန်ကြားခဲ့သည်မှာ....ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်ကြားတော်မူခဲ့၏။

နမာဇ် ဝတ်ပြုမှုသည် ဗန္ဒဟ်များအပေါ်တွင် အလ္လာဟ်အသျှင်မြတ်က သတ်မှတ် ပေးထားတော်မူသော အေဗာဒတ်ဝတ်ပြုမှုများအနက် အမြတ်ဆုံးဖြစ်လေသည်၊ သို့ရှိ လေရာ အကြင်သူ၌ ပိုမို၍ဝတ်ပြုနိုင်သော စွမ်းအားရှိပါလျှင် ပို၍ဝတ်ပြုရန် ထိုက်လေ သည်၊ အဓိပ္ပါယ်မှာ.... ကုသိုလ်သဝါဗ် မြောက်မြားစွာရရှိစေရန်အလို့ငှာ (နမာဇ်)ကို မြောက်မြားစွာ ဝတ်ပြုကြရမည်။

အိုဗာဒဟ်ဗင်န် စွာမစ်တ် (ရဇိ.) သခင် ပြန်ကြားခဲ့သည်မှာ.... ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော် မိန့်ကြားတော်မူခဲ့၏၊ ကျွန်ုပ်ထံသို့ ကြီးမြင့် မြတ်ထွတ်တော်မူ သော အလ္လာဟ်အသျှင်ထံတော်မှ ဂျစ်ဗ်ရာအီလ် (ကောင်းကင်တမန်ကြီး)ရောက်ရှိလာပြီး လျှင် အမိန့်တော်ပြန်သည်မှာ- အို....မုဟမ္မဒ် ဧကန်အမှန်အလ္လာဟ်အသျှင်မြတ်အမိန့်တော် ရှိလိုက်၏၊ မုချပင် ငါအသျှင်မြတ်သည် အသင်၏ အုမ္မတ် အသင်းသားများအပေါ်တွင် ငါးကြိမ်နမာဇ်ကို ဖွရ်သ္ဝ်အဖြစ် သတ်မှတ်တော်မူလိုက်သည်။

အကြ[illegible]သူသည် ထိုနမာဇ်ကို ၀ိုသ္မူဖြင့်လည်းကောင်း၊ အချိန်ဖြင့်လည်းကောင်း၊ ရိုကူအ်ဖြင့်လည်းကောင်း၊ စစ်ဂျဒဟ်ဖြင့်လည်းကောင်း ကောင်းမွန်စွာ ပြည့်စုံလုံလောက်အောင် ဆောင်ရွက်ခဲ့သည် ရှိသော် ထိုသူ့အဖို့ ထိုနမာဇ်ကို အကြောင်းပြု၍ 'ဂျန္နတ်' သုခဘုံသို့ သွတ်သွင်းပေးရန် ငါအသျှင်မြတ်တာဝန်ယူလိုက်သည်၊ ၎င်းနောက် အကြင်သူသည် ထို(အထက်တွင်ဖေါ်ပြပါ)အချက်များအနက် တစ်ခုခုတွင်ချို့ယွင်းပျက်ကွက်သည့်အဖြစ်နှင့် ငါအသျှင်မြတ်အားတွေ့ဆုံသည်ရှိသော် ထိုသူအဖို့ ငါအသျှင်မြတ်ထံတော်၌ မည်သည့်ကတိ မည်သည့်တာဝန်ခံချက်မျှ မရှိတော့ချေ၊ အကယ်၍ ငါအသျှင်မြတ်သည် ထိုသူအား အပြစ်ပေးလိုက ပေးတော်မူမည် ဖြစ်သည်၊ ၎င်းနောက် ချမ်းသာပေးလိုက ချမ်းသာပေးတော်မူမည်ဖြစ်သတည်း။ ကန်ဇုလ်အမ္မာလ်ကျမ်း။

ဟဒီးသ်တော်တွင်လာရှိသည်မှာ....အကြင်သူသည်၀ိုသ္မူပြု၍၊ ၎င်းနောက် ၀ိုသ္မူကို ကောင်းမွန်စွာ ကျနစွာ ပြုလုပ်၍၊ ထို့နောက် နမာဇ်နှစ်ကြိမ်ဝတ်ပြု၍၊ ထိုနမာဇ်နှစ်ကြိမ်မေ့လျော့မှုမပါက ၎င်း၏အတိတ်ကာလက တင်ရှိသော ဒုစရိုက်များကို ပယ်လပ်ချမ်းသာပေးတော်မူမည်ဖြစ်သတည်း။ အဟ်မဒ်နှင့်ကန်ဇုလ်အမ္မာလ်ကျမ်း။

နမာဇ်နှစ်ကြိမ် ၀တ်ပြုရာ၀ယ် မေ့လျော့မှုကင်းရှင်းစွာဖြင့် ထိန်းသိမ်းဆောင်ရွက်ရန်မှာ ခက်ခဲခြင်းမရှိ လွယ်ကူသောအလုပ် ဖြစ်ပေသည်၊ အမှန်မှာ- မေ့လျော့ခြင်း၊ စိတ်လွင့်ပါးခြင်း မရှိစေရန်ဖြစ်သည်၊ အများအားဖြင့် စိတ်လွင့်ပါးသည့်အခါ အမေ့အမှားများ ပေါ်ပေါက်တတ်လေသည်။

ဟဒီးသ်တော်တွင်လာရှိသည်မှာ.... အမျိုးသားအမျိုးသမီးတို့၏ နမာဇ်သည်'နူရ်' လင်းရောင်ခြည်ဖြစ်စေသည်၊ သို့ရှိရာအသင်တို့အနက် မည်သူမဆို အလိုရှိပါလျှင် မိမိတို့၏ စိတ်နှလုံးကို (နမာဇ်ဖြင့်) လင်း၀င်းအောင် ပြုကြကုန်လော့။

ဟဒီးသ်တော်တွင်လာရှိသည်မှာ မုချကေန်အလ္လာဟ်အသျှင်မြတ်သည် တောင်ဟီးဇ်အခ်ိပ္ပါယ်မှာ.... အလ္လာဟ်အသျှင်မြတ်၏ သာတ်တော် နှင့် စွေဖ္ဖာတ်တော်များ ဂုဏ်တော်များ စီမံလုပ်ဆောင်ချက်များတွင် ပြိုင်ဘက်ကင်း၍ တစ်ပါးတည်းတည်ရှိတော်မူကြောင်း ယုံကြည်ခြင်းနှင့် နမာဇ်၀တ်ပြုခြင်းထက် ပိုမိုမြင့်မြတ်သော အရာဟူ၍ တစ်စုံတစ်ရာကိုမျှ ဖွှရ်သွ်မလုပ်မနေရတာ၀န်တစ်ရပ်အနေဖြင့်သတ်မှတ်ပေးတော်မူခြင်းမရှိခဲ့ပေ၊ အကယ်၍ ဤဖေါ်ပြပါအရာများထက်တစ်စုံတစ်ရာပိုမိုမြင့်မြတ်သည်ရှိသော် မုချပင် ထိုအရာများကို မိမိ၏ ဖွှရစ်ရှ်ဘဟ်ကောင်းကင်တမန်များအတွက် ဖွှရ်သွ် ပြုလုပ်တော်မူမည်သာဖြစ်လေသည်၊ ၎င်းဖွှရစ်ရှ်ဘဟ်ကောင်းကင်တမန်များအနက်အချို့မှာ ရိုကူအ်ကုန်းလျက် အချို့မှာ စစ်ဂျဒဟ်ဦးချလျက်ရှိနေကြလေသည်၊ အဓိပ္ပါယ်မှာ- ကောင်းကင်တမန်တို့မည်သည် သန့်ရှင်းစင်ကြယ်၍ အသျှင်မြတ်၏ အနီးထုံးဗန္ဒာဟ်များဖြစ်ကြကုန်၏၊ ၎င်းတို့တွင် အေဗာဒတ် ၀တ်ပြုရန်အတွက်သာလျှင် အင်အားရှိလေသည်၊ သို့အတွက် ၎င်းတို့၏အလုပ်၀တ္တရားကား အေဗာဒတ်နှင့်အများဆုံးပတ်သက်လေသည်၊ သို့ရှိလေရာ အကယ်ပင် နမာဇ်ထက်ပို၍မြင့်မြတ်သော အေဗာဒတ်ရှိပါလျှင် ၎င်းဘို့အပေါ်၌ ဖွှရ်သွ်အဖြစ်နှင့် မုချ သတ်မှတ်တော်မူမည်သာဖြစ်ပေသည်၊ ၎င်းနောက် ဤဟဒီးသ်တော်အရ သိရသည်မှာ ကျွန်ုပ်တို့

အပေါ်တွင် နမာဇ်ကို ဂျမာအတ် စုပေါင်း အေဗာဒတ်အဖြစ်နှင့် သတ်မှတ်ပေးတော်မူသကဲ့သို့ ဖွဲ့ရစ်ရှိတဟ် ကောင်းကင်တမန်များ အပေါ်တွင် သတ်မှတ်တော်မမူခဲ့ပေ။

သို့သာမက ထိုနမာဇ်သည် အချို့အစိတ်အပိုင်းများကိုခွဲခြား၍ အချို့ကောင်းကင်တမန်တော်များအပေါ်တွင် ကိုယ်စီကိုယ်ငှ သတ်မှတ်ပေးထားတော်မူ၏။

သို့ရှိလေရာ ကျွန်ုပ်တို့အဖို့ အဘယ်မျှကောင်းမြတ်သော (နစ္စီးဗ်)ကုသိုလ်ဖြစ်သည်ကို ထိုကောင်းကင်တမန်များ၏ ကိုယ်စီကိုယ်ငှ ထမ်းဆောင်ကြရသော တာဝန်အသီးသီးကို အားလုံးစုပေါင်း၍ သတ်မှတ်ပေးထားခြင်းဖြင့် သိရှိနိုင်လေသည်၊ သို့ရှိလေရာ ဤ 'နစ်အိမတ်' စည်းစိမ်တော်ကို များစွာလေးစား ဂုဏ်ပြုအပ်ပေသည်။

ဟသ္ဇရတ်အနတ်စ်(ရထွေ)သခင်ပြန်ကြားခဲ့သည်မှာ- ရစူလွဲလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော် မိန့်ကြားတော်မူခဲ့၏၊ မိမိတို့၏နမာဇ်တွင် သေခြင်းတရားကို သတိရကြကုန်လော့၊ ဧကန်အမှန်ပင် အမျိုးသား(အမျိုးသမီး)အပေါင်းတို့သည် မည်သည့်အခါ မိမိတို့နမာဇ်တွင်း၌ သေခြင်းတရားကိုသတိရပါမူ၊ မိမိတို့၏နမာဇ်ကို ကောင်းမွန်ကျနစွာ ဝတ်ပြုနိုင်မည်ဖြစ်လေသည်။

ၚင်းနောက် ထိုသူသည် ဤနမာဇ်၏ အပြင် အခြား နမာဇ်ကို ဝတ်ပြုနိုင်မည် မဟုတ်တော့သကဲ့သို့ ဝတ်ပြုကြကုန်လော့၊ ၚင်းနောက် အသင်သည် မိမိကိုယ်ကို တာဝန်မကင်းသည့်အလုပ်များမှ ရှောင်ကြဉ်ကုန်လော့၊ (အဓိပ္ပါယ်မှာ) မိမိအား နောင်တရစေမည့် အလုပ်တာဝန်မကင်းသည့်အလုပ်များကို ရှောင်ရှားလေကုန်ဟူ၏။ ဒိုင်လမီကျမ်း။

ဟဒီးသ်တော်တွင်လာရှိသည်မှာ- အမြတ်ဆုံးနမာဇ်သည် 'ကေယာမ်' အရှည်ဆုံး နမာဇ်ပင် ဖြစ်ချေသည်၊ (အဓိပ္ပါယ်မှာ) ကုရ်အာန် ကျမ်းတော်မြတ်ကို ရှည်လျားစွာ ဖတ်ရွတ်၍ 'ကေယာမ်' ရှည်လျားသော နမာဇ် ဖြစ်သည်။ တွဟာဝီကျမ်း။

ဟဒီးသ်တော်တွင်လာရှိသည်မှာ- အကြင်သူသည် မိမိ၏နမာဇ်တွင် ရှိကျိုးမှုမရှိက ထိုသူ၏နမာဇ်သည် (ပြည့်စုံသော) နမာဇ် မဟုတ်ပေ။

ဟဒီးသ်တော်တွင် (တခတ်ရွှအ်) ဟူသော ပုဒ်ဖြင့် သုံးထားလေသည်၊ ထိုပုဒ်၏ အဓိပ္ပါယ်မှာ- ရှိကျိုးခြင်းဟုပြန်ဆိုထား၏၊ အဓိပ္ပါယ်အမှန်ကား- တည်ငြိမ်ခြင်းဟုရရှိလေသည်၊ သို့ရာတွင် တည်ငြိမ်စွာနမာဇ်ဝတ်ပြုခြင်းဆိုသည်မှာ ရှိကျိုးမှုမရှိဘဲလျှက် မရရှိနိုင်ချေ၊ သို့ကြောင့် ရှိကျိုးခြင်း အဓိပ္ပါယ်ဖြင့် ဆိုလိုက်ရပေသည်၊ အဘယ်ကြောင့်ဟူမူ ဤအဓိပ္ပါယ်သည် ထင်ရှားသော အဓိပ္ပါယ်တစ်ရပ် ဖြစ်လေသည်။

ၚင်းနောက် တည်ငြိမ်မှုသည် ရှိကျိုးခြင်းမရှိက လွယ်ကူစွာမရရှိနိုင်ပေ၊ မည်သည့်အခါ လူတို့သည် စိုးရိမ်ကြောက်ရွံ့ခြင်း ကင်းဝေးစွာဖြင့် ထိုင်ခြင်း၊ ထ ခြင်း အမှုကို ပြုလုပ်ပါက ဟိုဟိုသည်သည် မကြည့်ဘဲလျှက် မဖြစ်နိုင်ပေ၊ အကြောင်းမဲ့ လှုပ်ရှားမှုလည်း ပေါ်ပေါက်ချေမည်၊ ထိုမျှမက(ယင်းအမှုများပြုလုပ်ရန်အတွက်)လွတ်လပ်သွားချေမည်၊ မည်သည့်အခါ ရှိကျိုးခြင်းထားရှိပါမူ ရှိသေလေးစားစွာဖြင့် ဟိုဟိုသည်သည် မကြည့်ဘဲလျှက် နမာဇ်ကို ကောင်းမွန်စွာ ဝတ်ပြုနိုင်မည် ဖြစ်သတည်း။

အလီ(ရသွေ့)သခင် ပြန်ကြားခဲ့သည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ နောက်ဆုံးမိန့်ခွန်းတော် ဤသို့ရှိ၏။

နမာဇ်ကို ကောင်းစွာထိန်းသိမ်းကြကုန်လော့၊ နမာဇ်ကို (ကောင်းစွာထိန်းသိမ်းကြကုန်လော့) ၎င်းနောက် ကျေးကျွန်များနှင့်ပတ်သက်၍ အသျှင်မြတ်ကို ကြောက်ကြကုန်လော့။ ကန်ဇွလ်အမ္မာလ်ကျမ်း။

အထက်ပါ စကားနှစ်ရပ်သည် အလွန်အရေးကြီး၍ ထိန်းသိမ်းစောင့်ရှောက်အပ်သော တာဝန်များဖြစ်ချေသည်၊ အဘယ့်ကြောင့်ဟူမူ ရစူလွလ္လာဟ်(ဆွလလ္လာဟု) နှစ်ဌာန၏ခေါင်းဆောင်ကြီးက ဤဒုနိယာကမ္ဘာလောကကြီးမှ ကြွသွားတော်မူစဉ်အချိန်၌ပင်လျှင် အထူးလေးစားကြရန် မိန့်ချေတော်မူခဲ့သောကြောင့်တည်း။

ယင်းသို့ မိန့်ချေတော်မူခြင်းသည်လည်း လူသားတို့သည် နမာဇ်ဝတ်ပြုမှုတွင်များစွာပေါ့လျော့ခြင်း၊ ကျွန်,ကျွန်မများ (အစေခံမယားများ)အား ဒုက္ခပေးတတ်ခြင်း၊ ၎င်းတို့အား အထင်အမြင်သေးခြင်း စသောအမှုတို့ကို သာမန်ကိစ္စရပ်များဟု သဘောထားကြခြင်းကြောင့်ဖြစ်လေသည်၊ သို့ရှိလေရာ မွတ်စလင်မ်များသည် ယင်းကိစ္စရပ်များကို အထူးသဖြင့် ဂရုထားလေးစားအပ်ပေသည်။

သန့်ရှင်း စင်ကြယ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ အချို့သူတော်စင်သူတော်မြတ်များသည်ကား နမာဇ် ဝတ်ပြုမှုကို ဤမျှစွဲမြဲခဲ့ကြလေသည်၊ အဘယ်သို့ဟူမူ ဟာသွရတ်မန်စူရ်ဗင်န်ဇာဇာန် (ရသွေ့) (တာဗေအီ) သခင်အကြောင်းနှင့် ပတ်သက်၍ ရေးသားဖော်ပြထားသည်မှာ နေထွက်သည့် အချိန်မှစ၍ အတ်စွ ်ရ်ချိန်ထိ အစဉ်မပြတ် နမာဇ်ဝတ်ပြုလျက်ရှိချေသည်၊ အတ်စွ ်ရ်နမာဇ် ပြီးသည့်နောက်မဂ်ရစ်ဗ်အထိ (စွဗ်ဟာနလ္လာဟ်)ကို စီးဖြန်းသရဇ္ဈာယ်၏၊ ထို့နောက် မဂ်ရစ်ဗ်နမာဇ်ဝတ်ပြုတော်မူ၏၊ ထိုသခင်၏ ဝတ်ပြုပုံမှာ အကယ်၍ (တစ်ဦးတစ်ယောက်က) 'မလကွလ်မောဖ်တ်' သေမင်းတမန်သည် တံခါးဝ၌ ရပ်နေပြီဟု လာရောက်ပြောကြားသော်လည်း ၎င်း၏ အမလ် အဖော်ဒတ် ဝတ်ပြုမှုတွင် ဤထက်ပို၍ပြုနိုင်ရန်မရှိတော့ချေ၊ အဓိပ္ပါယ်မှာ-မိမိ၏သာသနာ့အမှုတော်ကို သေခါနီးသည်တိုင်အောင် ဤထက်ပို၍ မထမ်းဆောင်နိုင်တော့ချေ။

ပိုမိုထမ်းဆောင်နိုင်သူများကား (မောဖ်တ်) သခါ်ရသဘောတရားကို မေ့ပျောက်နေသူများ၊ အချိန်ရှိသည်နှင့်အမျှ အသျှင်မြတ်ကို သတိရ တ,သမှု မရှိသူများသည်သာလျှင် မိမိတို့သေရတော့မည့်အချိန် နီးကပ်ပြီဟု ကြားသိရသောအခါ ကောင်းမှုကုသိုလ်များကို ပိုမိုတိုးတက် ဆောင်ရွက်နိုင်လိမ့်မည်ဖြစ်သည်၊ အကြွင်သူ၌ မည်သည့်အချိန်မျှ အသျှင်၏ သတိရတ,သခြင်းမှ လစ်လပ်မှုမရှိပါလျှင် ၎င်းသခါ်ရသဘောတရားကို အချိန်ရှိသည်နှင့်အမျှ လက်ကိုင်ထား၍ သတိရနေပါမူ ထိုသူအဖို့ မည်ကဲ့သို့တိုးတက်ဆောင်ရွက်နိုင်ပါအံ့နည်း၊ ၎င်းနောက်ဤပုဂ္ဂိုလ်ကြီးသည် ကြီးကျယ်သော အာလင်မ်ပညာပါရဂူကြီးတစ်ဦးဖြစ်၏၊ ကြီးကျယ်သောအာလင်မ်ပညာရှင်ကြီးများသည် ထိုပုဂ္ဂိုလ်ကြီးထံမှ ဟဒီးသ်တော်များကို ဆည်းပူးသင်ကြားခဲ့ရလေသည်။

မန်စူရ်ဗင်နိမ္မအိတမရ်(ရသွေ့)သခင်သည် (တာဗေ့ အီ)တစ်ဦးဖြစ်၏၊ အာလင်မ် ပညာရှင်တစ်ဦးလည်းဖြစ်၍ သူတော်စင်တစ်ဦးလည်းဖြစ်လေသည်၊ ထိုသခင်၏အကြောင်း တွင်ဖေါ်ပြထားသည်မှာ နှစ်ပေါင်းလေးဆယ်တိုင်တိုင် နေ့အချိန်တွင် ရိုဇာဟ်ဥပုသ်စောင့် ထိန်း၍ညဥ့်အချိန်တွင် တညဥ့်ပတ်လုံးနိုးကြား၍ (အေဗာဒတ်ဝတ်ပြု)လျက်ရှိနေလေသည်။

၎င်းနောက် တညဥ့်ပတ်လုံး (အပြစ်ဒုစရိုက်များကို ကြောက်ရွံ့ခြင်းဖြင့်) ငိုကြွေး နေလေသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည် ၎င်းအားနမာဇ်ဝတ်ပြုနေစဉ် တွေ့မြင်ရ ပါလျှင် ထိုမြင်တွေ့သူ၏စိတ်၌ ဤသူကား ယခုပင်သေရှာတော့မည့်သူဟူ၍ ထင်မှတ်ရ ပေသည်၊ အမိပွါယ်မှာ....ဤမျှပင်ငိုကြွေးတသသခြင်းနှင့် နမာဇ်ကို လေးစားစွာ ဝတ်ပြု လေသည်၊ နံနက်မိုးသောက်လင်းသော် မိမိ၏မျက်လုံးများကို (စွရ်မာ) သားတော်မူ၏၊ ၎င်းနောက် နှုတ်ခမ်းများကို ရေစွတ်၍ စိုအောင်ပြုတော်မူ၏၊ ဦးခေါင်းကို ဆီထည့် တော်မူ၏၊ သို့ရှိလေရာ ၎င်း၏မိခင်က ၎င်းအား ဤသို့ပြုပြင်ချယ်လှယ်ရခြင်း၌ တစ်ဦး တစ်ယောက်ကိုသတ်ခဲ့ပါသလော့ဟုမေးလေ၏၊ ညအချိန်တွင် အေဗာဒတ်ဝတ်ပြုမှုကြောင့် လည်းကောင်း၊ ငို၍သော်လည်းကောင်း ရုပ်ပျက်နေခြင်းကို ပြုပြင်ခြင်းဖြစ်သည်၊ သို့ရှိ လေရာ မိခင်အားပြန်လည်ဖြေကြားသည်မှာ... (အို....မိခင်) ကျွန်တော်၏ စိတ်အလိုကို ကျွန်တော် အသိဆုံးဖြစ်ပါသည်၊ အဓိပ္ပါယ်မှာ.... စိတ်ခေါ်ဟူသည် လူအများထံ၌ ကျွန်တော်အား ဘာသာရေးရာစွဲမြဲသူ၊ အေဗာဒတ်ပြုသူဟူ၍ ထင်ပေါ်ကျော်ကြား စေလိုသည်၊ လူအများတို့က သူတော်ကောင်းဟု ထင်မှတ်ကြပေမည်၊ အကယ်၍ ဤ အရုပ်ကို မချယ်လှယ်မပြုပြင်က လူအများထံ ဤသူကား အေဗာဒတ်ပြုသူဖြစ်သည် ဟူ၍ အတည်ပြုကြမည်ဖြစ်လေသည်၊ သို့မဟုတ် ကျွန်တော်၏စိတ်ခေါ်သည် အေဗာဒတ်နှင့်တူ အောင်မလုပ်ကိုင်မဆောင်ရွက်နိုင်ပါဘဲလျက် ကျွန်တော်၏ရုပ်ကိုကြည့်ခြင်းဖြင့်အေဗာဒတ် ဝတ်ပြုသူဟူ၍ လူအများထင်မြင်လွဲမှားနိုင်လေသည်၊ ကျွန်တော့်အား သူတော်ကောင်း မဟုတ်ပါဘဲလျက်သူတော်ကောင်းဟု လူအများထင်မှတ်ကြမည်စိုးသဖြင့်ဤသို့ရုပ်ပြောင်း ချယ်လှယ်ရခြင်းဖြစ်သည်ဟု ဖြေကြားလေသည်။

ဤပုဂ္ဂိုလ်သည်ကား အလ္လာဟ်အသျှင်မြတ်ထံ ငိုကြွေးတသမှု ပြုလျက်နှင့်ပင် မျက်စိအားနည်း၍ သွားလေသည်၊ ‘အေရာက်’ ပြည်ရှင်ဘုရင်မင်းမြတ်က ၎င်းအား ဆင့်ခေါ်၍ ရှာမ်ပြည်ရှိ ကူဖွာမြို့တွင် (ကာသိ)တရားသူကြီးအဖြစ် ခန့်အပ်တော်မူ၏၊ ယင်းသို့ခန့်အပ်ခြင်းကို ငြင်းဆန်သောကြောင့် သခင်သည် သံခြေထိပ်များပင် အခပ်ခံ ခဲ့ရလေသည်၊ ထို့နောက် အပြစ်မှချမ်းသာပေး၍ လွှတ်လိုက်လေသည်၊ အချို့ကမူ မလွဲမရှောင်သာသဖြင့် ၂-လခန့် မင်းမှုတော်ကို ထမ်းဆောင်ခဲ့ရသေးသည်ဟု ဖေါ်ပြခဲ့ ကြသေး၏။

ယင်းအကြောင်း အရာများသည် ( တသ်ကေ့ရတွလ်ဟွတ်ဖွား‌ဇ် ) ပထမတွဲ၌ ဖေါ်ပြပါရှိ၏။

မွတ်စလင်မ်အပေါင်း သူတော်ကောင်းတို့အား ဝေဖန်စဉ်းစားစေလိုသည်မှာ.... ယင်းပုဂ္ဂိုလ်မြတ်သည် အလ္လာဟ်အသျှင်မြတ်၏ ဝတ်ပြုမှုတွင် အဘယ်မျှ စွဲလန်းမှုရှိ၍ (ဒွန္နယာ)လောကီ၏ ရာထူးဂုဏ်ထူးကို အဘယ်မျှ စက်ဆုပ်ရွံမုန်းခဲ့သည် အာဏာပိုင်မင်းမှု ထမ်းအဖြစ် မလျှောက်ထား မတောင်းဆိုရဘဲလျက် လွယ်ကူစွာရရှိသည့်ရာထူးကို စွန့်လွှတ်ခဲ့သည်၊ ကြီးကျယ်သော ဂုဏ်ဒြပ်နှင့် ဤမျှကောင်းမွန်သော စီးပွားရေးကို မျက်ကွယ်ပြုခဲ့သည်၊ ယင်းသည် အခွင့်အရေးမျိုးကို ရလိုကြသဖြင့် လူတိုင်းပင် အကြီးအကျယ် ကြိုးပမ်းဆောင်ရွက်ကြရသည်။

သို့ပင်သို့လင့်ကစား ယင်းပုဂ္ဂိုလ်ကား ပထာနမထားဘဲ သံခြေထိပ်ခပ်၍ပင် စွန့်လွှတ်ခဲ့လေသည်၊ မွတ်စလင်မ်များအဖို့ ဤနည်းအတိုင်းပင် ဖြစ်ရန်ထိုက်လေသည်၊ မိမိတို့ စားဝတ်နေရေးအတွက် အသင့်အတင့် ကြိုးစားပြီးလျှင် ကျန်အချိန်များကို အလ္လာဟ်အသျှင်မြတ်အား သတိရ တသခြင်း၌ အသုံးပြုကြရန်ထိုက်လှပေသည်။

ဟဒီးသ်တော်တွင်လာရှိသည်မှာ- အကြင်သူသည် တစ်နေ့နှင့် တစ်ညဥ့်တွင်ဖွဲ့ရသည် မဟုတ်သော နမာဇ် ၁၂-ရကအတ်ဝတ်ပြုပါလျှင် (ဤနေရာတွင် စွန္နတ်မို့အတ်ကဒဟ်ကို ဆိုလိုသည်၊ ဖဂျ်ရ်၌၂-ရကအတ်၊ ဇုဟ်ရ်၌အလျှင်-၄၊ နောက်-၂၊ ပေါင်း၆-ရကအတ် မဂ်ရစ်ဘ်၏နောက် ၂-ရကအတ်၊ အေရှာအ်နောက် ၂-ရကအတ်) ပေါင်း ၁၂-ရကအတ် ဖတ်သော် အလ္လာဟ်အသျှင်မြတ်သည် ထိုသူ့အဖို့ ဂျန္နတ်သုခဘုံတွင် အဆောင်တော် တစ်ခုကို အသင့်ပြုတော်မူလိမ့်မည်။ ဂျာမေ့အ်စွဂီးရ်ကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ- အကြင်သူသည် မဂ်ရစ်ဘ်နှင့် အေရှာအ်ကြား၌ နမာဇ်၆-ရကအတ် ဝတ်ပြုရမည်၊၎င်းအကြား၌ မကောင်းမှုကိုမပြုလုပ်ပါလျှင် ထိုသူအဖို့ ၁၂-နှစ်တိုင်တိုင် (၁၂-နှစ်စလုံး၏) (နဖ္လ်)အေဗာဒတ် ဝတ်ပြုသည့်အကျိုးသဝါဗ်နှင့် အညီအမျှ ရရှိမည်ဖြစ်သည်။ ဂျာမေ့အ်စွဂီးရ်ကျမ်း။

အဓိပ္ပါယ်မှာ.... နဖ္လ်နမာဇ် (အောက်ဝါဗီန်) ရကအတ်ဖတ်ခြင်းဖြင့် ၁၂-နှစ်၏ နဖ္လ် အေဗာဒတ်၏အကျိုး ရရှိမည်ဖြစ်သည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ .... အကြင်သူသည် နမာဇ် ၂-ရကအတ်ကို အလ္လာဟ်အသျှင်မြတ်နှင့်တကွ ထိုကောင်းကင်တမန်များ (အကြင် ကောင်းကင်တမန်များ သည် ကျင်ကြီး,ကျင်ငယ်စွန့်သည့်အချိန်နှင့် မေထုံသံဝါသပြုစဉ်အချိန်မှအပ ထိုနမာဇီ နှင့်အတူတကွ ရှိနေကြသည်)အပြင် မည်သူမျှမမြင်နိုင်အောင်တစ် ဦးတည်းနေရာသီးခြား တစ်ခုတွင် ဝတ်ပြုသည်ရှိသော် ထိုသူအား ဗိုဇခ်ရေမီးဘေးမှကင်းဝေးစေမည်၊(မှတ်ချက်) ကို ရေးမှတ်ခြင်း ခံရလိမ့်မည်။ စိုယူတွဲကျမ်း။

အဓိပ္ပါယ်မှာ.... ဂိုနာဟ်နှင့် ကင်းဝေးနိုင်သော စွမ်းအားရရှိစေမည်၊ ဂျဟန္နမ် အပါယ်ငရဲသို့ ရောက်နိုင်မည် မဟုတ်တော့ချေ။

သို့သော် ဝတ်ပြုမှုသာ ဤ'ဘရ်ကတ်'တော်ကို ခံစားရရှိနိုင်မည်ဖြစ်ချေသည်။

ဟဒီးသ်တော်တွင်လာရှိသည်မှာ.... အကြင်သူသည် ကြာရှုတ်(ဝါ)သို့ဟာ နမာဇ်

၁၂-ရကအတ်ဖတ်လျှင် အလ္လာဟ်အသျှင်မြတ်သည်၊ ထိုသူ့အဖို့ ဂျန္နတ် သုခဘုံ၌ ရွှေ, အဆောင်တော်တစ်ခုကို အသင့်ဖန်ဆင်းထားတော်မူလိမ့်မည်။ ဂျာမေ့အ်စွဂီးရ်ကျမ်း။

ဟဒီးသ်တော်ဘွင် လာရှိသည်မှာ.... အကြင်သူသည် ကြာရှ်တ်နမာဇ် ၄-ရကအတ်နှင့်ဇွှဟ်ရ်နမာဇ်အလျှင် (စွန္နတ်မို့အတ်ကဒဟ်အပြင်) ၄-ရကအတ်ဖတ်ခဲ့သော် ထိုသူ့အဖို့ဂျန္နတ်သုခဘုံ၌အဆောင်တော်တစ်ခု ဖန်ဆင်းပေးတော်မူလိမ့်မည်။ တွာဗ်ရာနီကျမ်း။

ဟဒီးသ်တော်ဘွင်လာရှိသည်မှာ.... အကြင်သူသည်၊ မဂ်ရစ်ဗ်နှင့်အေရှာအ်ကြား၌ နမာဇ် ရကအတ် ၂၀-ဖတ်ခဲ့လျှင် ထိုသူအဖို့ ဂျန္နတ်သုခဘုံ၌ အဆောင်တော်တစ်ခု ဖန်ဆင်းပေးတော်မူလိမ့်မည်။ စိုယူတွီကျမ်း။

ဟဒီးသ်တော်ဘွင်လာရှိသည်မှာ- အကြင်သူသည်၊အတ်စွိရ်နမာဇ်အလျှင်(နဖွိလ်) နမာဇ် ၄-ရကအတ်ဖတ်လျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုသူအား 'ဂျဟန္နမ်'ငရဲမီးဘေးမှ ဟရာမ်ပြုတော်မူလိမ့်မည်၊ အလိုသဘောမှာ-ယင်းနမာဇ်ကို အစဉ်အမြဲ ဝတ်ပြုခြင်းဖြင့် ကောင်းမှုကုသိုလ် ပြုကျင့်နိုင်သောစွမ်းအားနှင့် မကောင်းမှုဒုစရိုက်တို့ကို ရှောင်ကြဉ်နိုင်သောစွမ်းအားရရှိမည်ဖြစ်သည်၊ ထိုစွမ်းအား၏'ဗရ်ကတ်'တော်အကျိုးအားဖြင့် ဂျဟန္နမ်မီးဘေးမှ ကင်းဝေးစေမည်ဖြစ်သည်။

သို့ရာတွင် အေဗာဒတ်တစ်ခုကို အနည်းငယ်ပင်ဖြစ်စေ၊ အစဉ်အမြဲပြုကျင့်ဆောက်ရွက်ရန် လိုအပ်ပေသည်။ အကယ်၍ အကြောင်းမညီညွတ်သဖြင့် မလွဲမရှောင်သာပျက်ကွက်ခြင်းကား တခြားပြဿနာပင်ဖြစ်သည်။

သို့ရှိလေရာ နဝ်ဖွိလ်၊ အပိုအေဗာဒတ်များကို အစပြုဆောင်ရွက်ပါလျှင်၊ ၎င်းကို အစဉ်မပြတ် ထိန်းသိမ်းစောင့်ရှောက်ရန် အရေးကြီးလေသည်။ အစပြုပြီးနောက် လွှတ်ပစ်ခြင်းသည် များစွာမကောင်းသော အလုပ်ဖြစ်သည်။

ယင်းသို့ပြုမူခြင်းသည် အစမပြုခြင်းထက်ပို၍ဆိုး၏။ ဟဒီးသ်တော်တွင် လာရှိသည်မှာ.... အတ်စွိရ်နမာဇ်အလျှင် လေးရကအတ်ဝတ်ပြုသော် ထိုအမျိုးသား, အမျိုးသမီး အပေါ်၌ အသျှင်မြတ်၏မဟာကရုဏာတော် သက်ရောက်ပါစေသော်။ စိုယူတွီကျမ်း။

အို....မွတ်စလင်မ် အမျိုးသား, အမျိုးသမီး အပေါင်းတို့ ယင်းဟဒီးသ်တော်၏၊ အကြောင်းအရာများအပေါ်၌ ဦးလည် မသုံလိုက်နာဆောင်ရွက်ကြကုန်၊ အနည်းငယ်မျှသောကြိုးပမ်းမှုဖြင့် အဘယ်မျှကြီးကျယ်သော အဆင့်အတန်းရရှိသည်ကို စဉ်းစားကြည့်လေကုန်။ အဘယ်သို့ဟူမူ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ဒိုအာ (ဘရ်ကတ်)ကို၊ ခံစားရရှိနိုင်ခြင်းနှင့် အပြစ်ဒုစရိုက်များမှ ရှောင်ရှားနိုင်သော စွမ်းအားကို ရရှိစေနိုင်သည်၊ ဤသို့သော အေဗာဒတ်မျိုးကို သတ်မှတ်ပေးတော်မူသော အသျှင်အား မည်မျှပင်ကျေးဇူးဆပ်သည်ဖြစ်စေ၊ မည်မျှပင်ဂုဏ်ပြုသည်ဖြစ်စေ၊ ပိုနိုင်သည်မရှိ၊ လိုသည်သာလျှင်ရှိပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)၏ ဒိုအာသည်ကား အလွန်တပ်က်ဒီးရ်ကောင်းသူများမှသာလျှင် ခံစားရရှိနိုင်သည်၊ နံနက်နှင့်ညနေ နှစ်ချိန်စလုံး၌ ကျွန်ုပ်တို့၏ (အမလ်)

ကုသိုလ်ကောင်းမှု စာရင်းအင်းများကို နဗီတမန်တော်များ၏ ထိပ်ခေါင်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်သခင့်ထံ၌ ဆက်သခြင်းခံကြရလေ့သည်၊ အကြင်သူသည် ကောင်းမှုကုသိုလ် ပြုကျင့်ဆောက်တည်အံ့၊ ၎င်းနောက် ကိုယ်တော်သခင်အားပေး တိုက်တွန်းတော်မူသော (အေဗာဒတ်)ကို ပြုကျင့် ဆောရွက်အံ့၊ ထိုသူအား ကိုယ်တော်သခင်သည် များစွာ ပျော်ရွှင်တော်မူ၏၊ ကိုယ်တော်သခင်၏ ပျော်ရွှင်နှစ်သက်တော်မူခြင်းဖြင့် ဒွန္နယာအာခေရတ်နှစ်ဌာနတွင်(ရဟ်မတ်)မဟာကရုဏာနှင့်တည်ငြိမ်မှုကို လွယ်လင့်တကူ ရရှိစေနိုင်မည် ဖြစ်သတည်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သခင်၏ ရက်ရောတော်မူခြင်းသည်ကား ကမ္ဘာလောကကြီးနှင့်တကွ လောကုတ္တရာ၌အပြည့်ရှိနေလေသည်၊ ၎င်းနောက် ကိုယ်တော်သခင်၏ အသိပညာသည်ကား ကေယာမတ်ကမ္ဘာပျက်မည့်နေ့အထိ အဖြစ်အပျက်ဟူသမျှကို ရေးမှတ်ထားသော 'လောင်ဟေ့မဟ်ဖူးဇ်' (မြသင်ပုန်း)၏ ပညာရပ်များသည် အပြည့်ရှိလေသည်၊ သဘောမှာ ကိုယ်တော်သခင်၏ အာရုံစူးစိုက်တော်မူခြင်းနှင့် ရက်ရောတော်မူခြင်းဖြင့် လောကီလောကုတ္တရာ နှစ်ဌာနစလုံး၏ စည်းစိမ်ဥစ္စာများအတွက် အလွယ်တကူ ရရှိစေနိုင်သည်။

ကိုယ်တော်သခင်၏ပညာကို သင်ယူခြင်းဖြင့် (လောင်ဟေ့မဟ်ဖူးဇ်)၏ ပညာရပ်များကိုလွယ်ကူစွာရရှိစေနိုင်သည်၊ ယင်းအသိပညာရရှိစေရန်အတွက် အချက်နှစ်ခုရှိသည်၊ ပထမ အချက်မှာ- ကိုယ်တော် သခင်၏ မိန့်ခွန်းတော်များတွင် ဖုံးကွယ်လျှက် ရှိသော ခက်ခဲနက်နဲသော အချက်အလက်များပါရှိလေရာ အလ္လာဟ်အသျှင်မြတ်၏ ထူးခြားသော ဗန္ဒဟ် (အစေတော်)များမှ သာလျှင် ပွင့်လင်းစွာသိမြင်နိုင်ပေသည်။ ဒုတိယ အချက်မှာ ထိုနက်နဲသော အချက်များအပြင် အလ္လာဟ်အသျှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကိုယ်တော်သခင်၏ ဩဝါဒတော်များကို ရွတ်ဖတ်သရဇ္ဈာယ်သော 'ဇရ်ကတ်' ၎င်းနောက် လက်တွေ့ကျင့်သုံးသော အကြောင်းတရားများကြောင့် ဖုံးကွယ်လျှက်ရှိသော အတွင်းရေး နက်နဲချက်များသည် အမှန်တရားကို ရှာဖွေဆည်းပူးသူများအဖို့ ပွင့်လင်း၍သွားလေသည်။

ကောင်းစွာမှတ်သားကြလေကုန်၊ လက်တွေ့ကျင့်သုံးကြလေကုန်၊ ဖတ်ရုံသက်သက်ဖြင့် လက်တွေ့မကျင့်သုံးက အကျိုးထူးများ မသက်ရောက်နိုင်ပေ၊ အကျိုးထူး အစစ်အမှန်သည်ကား ဖတ်ရွတ်ပြီးနောက် လက်တွေ့ကျင့်သုံးမှသာလျှင်ခံစားရရှိနိုင်မည်ဖြစ်လေသည်။

ဟဒီးသ်တော်တွင်လာရှိသည်မှာ.... ညဥ့်၏(တဟတ်ဂျုဒ်)နမာဇ်ကို မိမိအပေါ်တွင် တစ်ရကာအတ်ပင်ဖြစ်စေ စွဲမြဲအောင် ပြုလုပ်ကြကုန်။ စိုယူတွိကျမ်း။

ဟဒီးသ်တော်၏ အလိုသဘောမှာ တဟတ်ဂျုဒ်နမာဇ်ကို အနည်းငယ်မျှပင်ဖြစ်စေ အမြဲတစေ ဖတ်လေကုန်ဟူ၏။ ယင်းနမာဇ်သည် ဖွရ်သွ်မဟုတ်ငြားလည်း သဝါဗ်ကုသိုလ် အလွန်များလေသည်၊ ယင်းဟဒီးသ်တော်တွင် နမာဇ်တစ်ရကာအတ်ပင် ဖြစ်စေဟု ပါရှိလေရာ 'နမာဇ်တစ်ရကာအတ်တည်းကို ဆိုလိုခြင်းမဟုတ်ပေ၊ အဘယ့်ကြောင့်ဟူမူ နမာဇ်တစ်ရကာအတ်တည်းဝတ်ပြုခြင်းကား မပိုင်သောကြောင့်တည်း၊ အနည်းဆုံး နှစ်ရကာအတ် ဝတ်ပြုရမည်ဖြစ်လေသည်။

(သို့အတွက် ဟဒီးသ်တော်၏အဓိပ္ပါယ်မှာ- အနည်းဆုံး နှစ်ရကအတ်လောက်ပင် ဖြစ်စေဟု ယူဆရမည်။)

ဟဒီးသ်တော်တွင်လာရှိသည်၊ ညဉ့်၏ဝတ်ပြုခြင်းကို (အဓိပ္ပါယ် တဟတ်ဂျုဒ်နမာဇ် ကို)မိမိအပေါ်၌ စွဲမြဲအောင်ပြုလေကုန်၊ အဘယ်ကြောင့်ဟူမူ ယင်းနမာဇ်သည် အသင်တို့ အလျင်က လွန်ခဲ့သော ရှေးသူတော်ကောင်းတို့၏ ကျင့်စဉ် ဖြစ်လေသည်၊ ၎င်းနောက် အလ္လာဟ်အသျှင်မြတ် ဘက်တော်သို့ နီးကပ်စေမည့်အရာဖြစ်သည်၊ ၎င်းနောက် အပြစ် ဂိုနာဟ်များကို ပိတ်ပင်တားဆီးမည့် အကြောင်းခံတစ်ခု ဖြစ်လေသည်။

၎င်းနောက်ဂိုနာဟ်(စွဂီရဟ်အသေး)များကိုပ,လပ်စေသည်၊ကိုယ်ကာယ၌ရှိသော ရောဂါဝေဒနာများကိုလည်း ပပျောက်စေသည်ဖြစ်သတည်း။ စိုယူတွီကျမ်း။

အဘယ်မျှ အကျိုးထူးများ ခံစား ရရှိနိုင်သည်ကို အနည်းငယ် စဉ်းစားစေလို သည်မှာ....

ယင်းနမာဇ်ကိုဝတ်ပြုခြင်းဖြင့် သဝါဗ်ကုသိုလ်လည်းရ၏၊ အပြစ်မှလည်း ပ,လပ် ချမ်းသာခွင့်ရ၏၊ အပြစ်ဒုစရိုက်မှုများကိုလည်း တားဆီးပိတ်ပင်၏၊ ကိုယ်ကာယရှိရောဂါ ဝေဒနာများကိုလည်း ပျောက်ကင်းစေ၏၊ စိတ်တွင်းရှိရောဂါများ၏ အဓိက ဆေးစွမ်း ကောင်းလည်းဖြစ်၏၊ အဘယ့်ကြောင့်ဟူမူ ဟဒီးသ်တော်တွင်လာရှိသည်မှာ.... အလ္လာဟ် အသျှင်မြတ်၏ သစ်က်ရ် သတိရ တ,သခြင်းသည် စိတ်နှလုံး၏ (ဝေဒနာများ)၏ ဆေး စွမ်းကောင်းဖြစ်လေသည်၊ ၎င်းနောက်နမာဇ်ဝတ်ပြုမှုသည် အကောင်းဆုံးသော သစ်က်ရ် သတိရ တ,သခြင်း ဖြစ်လေသည်၊ ခက်ခဲသော အလုပ်လည်း မဟုတ်ချေ၊ တဟဂျုဒ် အချိန်သည် အထူးသဖြင့် ဒိုအာ 'ကဘူလ်' လက်ခံတော်မူသော အချိန်ဖြစ်သဖြင့် မုချ ဝတ်ပြုကြရန် ထိုက်လေသည်။

အေမာမ်အဘူဟနီဖ္ဖာဟ်(ရဟေ)သခင်သည် နှစ်ပေါင်းလေးဆယ်တိုင်တိုင်အေရှာအ် နမာဇ်၏ ဝိုသ္မူဖြင့် ဖဂ္ဂျ်ရ် နမာဇ်ကို ဖတ်တော်မူ၏၊ တစ်ညပတ်လုံး အသျှင်မြတ်အား အေဗာဒတ် ဝတ်ပြုလျက်ရှိနေဘော်မူ၏။

ဟဒီးသ်တော်ဘင်လာရှိသည်မှာ....ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မိန့်ကြား တော်မူခဲ့၏၊ အလ္လာဟ် အသျှင်မြတ်က (လူသားတို့အား) မိန့်ထားတော်မူသည်မှာ.... ဇိုး...လူသား၊ အသင်သည် ငါအသျှင်မြတ်အဖို့(နဖွီလ်)နမာဇ် လေးရကအတ်ကို (စိတ် ဓာတ်ဖြူစင်စွာဖြင့်) ဝတ်ပြုလေကုန်၊ နေ့၏အစတွင် ငါအသျှင့်မြတ်သည် အသင်အဖို့ (အသင်၏ လုပ်ငန်းဆောင်တာများကို) ထမြောက် အောင်မြင့်အောင်ပြုပေးတော်မူမည်၊ (ယင်းသို့ပြည့်စုံအောင်ပြုပေးတော်မူခြင်းသည်) ညနေအချိန်ထိ ဖြစ်လေသည်။

တင်ရ်မေသီကျမ်း။

ဤသည်မှာ အစ်ရှ်ရာက်နမာဇ်၏မှန်မြတ်ခြင်းဖြစ်ပေသည်၊ ဖတ်နည်းမှာ- ဤကျမ်း တစ်နေရာတွင် လွန်ခဲ့ပေပြီ၊ ဤနမာဇ်ကို ဖတ်ခြင်းဖြင့် သဝါဗ် ကုသိုလ်လည်းရသည်၊ အလ္လာဟ်အသျှင်မြတ်က ထမြောက်အောင်မြင်အောင် ပြုပေးတော်မူလိမ့်မည်၊ လောကီ လောကုတ္တရာ၏ စည်းစိမ်များ ရရှိပေသည်။

လူသားတို့သည် ဟိုဟိုသည်သည်ပြေးလွှား အပင်ပန်းခံ၍ ကိုယ်ကျိုးတစ်ခုအတွက် လူသားအချင်းချင်း အောက်ကျို့၍ ချီးမွမ်းဂုဏ်ပေးသမှု ပြုကြလေသည်၊ ထိုသူတို့သည် ဤသည်ကိုပြုမည့်အစား အလ္လာဟ်အသျှင်မြတ်ညွှန်ကြားထားတော်မူသော ဝဇီဖွာဟ်များ၊ နမာဇ်များ ဆောက်တည်ကြပါမူ ထိုသူတို့သည် လောက လုပ်ငန်းဆောင်တာများလည်း အောင်မြင်ထမြောက်ကြ၍ ကုသိုလ်သဝါဗ်လည်း ရကြမည် ဖြစ်သဖြင့် ကုသိုလ်လည်းရ ဝမ်းလည်းဝကြမည်ဖြစ်ပေသည်၊ လူသား အချင်းချင်း အောက်ကျို့ လိုက်လျောရသည့် သေးသိမ်မှုမှလည်း လွတ်ကင်းကြမည် ဖြစ်ပေသည်။

ပုဂ္ဂိုလ်ကြီးတစ်ပါးကမိန့်သည်မှာ- အုပ်စုအမျိုးအနွယ်ပိုင်းတွင်လုပ်ငန်းတစ်မျိုးစီ ရှိကြသည်၊ (ထိုလုပ်ငန်းဖြင့်ဝမ်းစာရှာဖွေကြသည်)ကျွန်ုပ်တို့၏လုပ်ငန်းသည် တပ်က်ဝါ နှင့် တဝပ်က်ကွလ်ဖြစ်လေသည်၊ တပ်က်ဝါသည် ရှောင်ကြဉ်ခြင်း၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို ဦးထိပ်ပန်ဆင်လိုက်နာခြင်းကိုခေါ်ဆိုလေသည်၊ တဝပ်က်ကွလ်၏ အဓိပ္ပါယ်သည် အလ္လာဟ် အသျှင်မြတ် အပေါ် ယုံကြည် အားထားခြင်း ဖြစ်ပေသည်၊ ဤသည်သော အကြောင်းများသည် အတွဲ(၇)၊ နောက်ဆက်တွဲတွင် အင်ရှာအလ္လာဟ် လာပေမည်၊ အချုပ်မှာ.... ဘာသာ သာသနာရေးရာကို လိုက်စားဆောက်တည်ခြင်းဖြင့် လောက၏ ဒုက္ခသုက္ခများမှ လွတ်ကင်းမည် ဖြစ်ပေ၏။

# မတ်စ်အလဟ် ပြဿနာများ

၁။ မတ်စ်အလဟ် ပြဿနာ။ လူသား၏ဆံပင်မှနှုတ်ပစ်လိုက်မူ ဆံရင်းသည်စိုထိုင်း နေသောကြောင့်မသန့်ဖြစ်လေသည်။ ရှာမီကျမ်း။

၂။ မတ်စ်အလဟ် ပြဿနာ။ အီးဒ်နမာဇ် ဖတ်ထိုက်သောနေရာများတွင် အီးဒ် နမာဇ်အလျှင် ဖွဂျ်ရ်နမာဇ်ဖတ်ပြီးနောက် နဖွိလ် စသည့်နမာဇ်များဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်။ ဘဲဟ်ရွှရ်ရာအစ်က်ကျမ်း။

၃။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဗတ် ကိုယ်မသန့်သော အဖြစ်၌ လက်သည်း ခြေသည်း လှီးဖြတ်ခြင်း၊ ချက်အောက်မွေး စသည့် အမွေးအမြင်များ ကိုက်ဖြတ်ခြင်း မတ်က်ရူးဟ် ဖြစ်လေသည်။ အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၃၈။

၄။ မတ်စ်အလဟ် ပြဿနာ။ အရွယ်မရောက်သေးသော ကလေးသူငယ်များသည် နမာဇ် စသည်များပြုမူလျှင် သဝါဗ်ကုသိုလ်ရပေသည်၊ ထိုကလေးများကို သင်ပြပေးသူ သည် သင်ပြပေးသည့်အတွက် ကုသိုလ်ရပေသည်။

၅။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ်ဖြစ်သော အချိန်များ တွင် ကုရ်အာန် ကျမ်းတော်မြတ် သရဇ္ဈာယ်ခြင်း၊ ဒရူးဒ်၊ သစ်က်ရ်တော်များ ပြုနေခြင်း မတ်က်ရူးဟ်မဟုတ်ပေ။ စွဂီရီကျမ်း စာမျက်နှာ-၂၅၈။

၆။ မတ်စ်အလဟ် ပြဿနာ။ နမာဇ် ပထမရကာအတ်၌ စူရဟ်တစ်ပုဒ်၏ အချို့ တစ်ဝက်ကိုဖတ်ပြီး ဒုတိယရကာအတ်တွင် ၎င်းစူရဟ်၏ကျန်အပိုင်းကိုဖတ်မူ ပိုင်၏၊ ဤသို့ပင်

ပထမ ရကအတ်၌ စူရဟ်တစ်ခု၏ အလယ်ပိုင်း အစပိုင်းကိုဖတ်သည်၊ ဒုတိယရကအတ်၌ အခြားစူရဟ်တစ်ခု၏အလယ်ပိုင်းအစပိုင်း သို့မဟုတ် တိုသောစူရဟ်တစ်ခုကို ဖတ်လျှင်လည်း ပိုင်လေသည်။ 　　　　　　စွဂီရီကျမ်း စာမျက်နှာ-၂၅၆။

သို့သော် ဤသို့အလေ့အထမပြုခြင်းကကောင်းသည်၊ ရကအတ်တိုင်းတွင် စူရဟ်ကို ပြတ်သွားအောင်ဖတ်ခြင်းက အကောင်းဆုံးဖြစ်လေသည်။

၇။ မတ်စ်အလဟ် ပြဿနာ။ 　တရာဝီးဟ်နမာဇ်တွင် ကုရ်အာန် ကျမ်းတော်မြတ် ဖတ်ရာ၌ အာယတ်တစ်ခု သို့မဟုတ် စူရဟ်တစ်ခုလုံးမေ့မှား၍ ကျော်လွန်သွားလျှင် ရှေ့သို့ ဆက်ဖတ်မိသွားက နောက်မှ မည်သည့်အာယတ် စူရဟ်မေ့ကျန်ရစ်သည်ကို သတိရလျှင် မေ့မှားကျန်ရစ်သော အာယတ်စူရဟ်ကို ပြန်၍ဖတ်ရမည်၊ ကျော်လွန်၍ ဖတ်သွားမိသည် များကိုလည်း အဆက်ပြတ်မသွားစေရန် ပြန်၍ ဆက်ကိုက်ဖတ်လိုက်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၇၀။

မေ့မှားကျန်ရစ်သည်ကို ပြန်လည်၍ ဖတ်ခြင်းသည် မွတ်စ်တဟာဗ်ဖြစ်လေသည်၊ အာယတ်တော်မြောက်မြားစွာဖတ်ပြီး နောက်မှ မေ့ကျန်ရစ်သည်ကို သတိရပြီး ကျန်ရစ် သောနေရာမှပြန်၍ဖတ်ရန် ဝန်လေးနေပါက ကျန်ရစ်သည်ကိုပင် ဖတ်လိုက်၍ ရောက်နေ သောနေရာမှ ရှေ့သို့ဆက်ဖတ်သွားလျှင်လည်း ကိစ္စမရှိပေ။

၈။ မတ်စ်အလဟ် ပြဿနာ။ 　သေသောအချိန်တွင် နဖူးမှ ချွေးပြန်ခြင်း၊ စက္ခု အိမ်မှမျက်ရည်ထွက်ခြင်း၊ နှာခေါင်းပေါက်ကျယ်သွားခြင်းတို့သည် အသေကောင်းခြင်း၏ အထိမ်းအမှတ်များ ဖြစ်လေသည်၊ နဖူးမှ ချွေးထွက်ခြင်းလည်း အသေကောင်းခြင်းပင် ဖြစ်ပေသည်။ 　　　　　　　တင်ရ်မေသီကျမ်း။

၉။ မတ်စ်အလဟ် ပြဿနာ။ 　လမ်းတွင်ရှိနေသော ဗွက်နှင့် ရေသည် အကယ်၍ မသန့်လူးထိနေခြင်းမရှိပါကခွင့်လွှတ်လေသည်။ 　　　　မရာကင်လ်ဖွလားဟ်ကျမ်း။

၁၀။ မတ်စ်အလဟ် ပြဿနာ။ 　'မွတ်စ်တအ်မလ်' သုံးပြီးရေဆိုသည်မှာ ဝိုသွူ မရှိသူက ဝိုသွူပြုလိုက်သော ရေနှင့် ဂွတ်စ်လ် ထိုက်သူက ချိုးပြီးသောရေ ၎င်း ဝိုသွူ မထိုက်ဘဲနှင့် သဝါဗ်ကုသိုလ်ရရန်မက်ဖြင့် ပြုသောရေ၊ ဂွတ်စ်လ် မထိုက်ဘဲ သော့ာကြာနေ့ တွင် သဝါဗ်ကုသိုလ်ရရန်အတွက် ရေချိုးသောရေများဖြင့် ဝိုသွူဂွတ်စ်လ်ပြုခြင်း မပိုင်ပေ၊ ဤသို့သော ရေကို သောက်ခြင်း၊ စားသောက်ဖွယ် များကို အသုံး ပြုခြင်း များသည် မတ်ကရူးဟ် ဖြစ်လေသည်။ 　　　　　　ရှာမီကျမ်း။

ဂွတ်စ်လ် ထိုက်သူဟု ဆိုရာ၌ ရေချိုးသူ၏ ကိုယ်ကာယ၌ (နဂျာစတ်ဂလီဇွာဟ်) မသန့်ကြီးမရှိသူကိုဆိုလိုသည်၊ အကယ်၍ မသန့်လူးထိနေပါက ၎င်းသုံးပြီးရေသည် မသန့် ဖြစ်လေသည်၊ ထိုရေကိုသောက်ခြင်း၊ စားသောက်ဖွယ်များတွင် အသုံးပြုခြင်း 'ဟရာမ်' ဖြစ်လေသည်။

## ဤတွင်၍ကား ဗဟာစ်ရှိတီ ဇျေဝါဟရ်ကျမ်း

## ဒုတိယတွဲ ပြီး၏။

# ဘာဟစ်ရှ်တီဇေဝရ်ကျမ်း

# တတိယတွဲ




## ရှိဇဟ်ဥပုသ် ဆောက်တည်ခြင်း အကြောင်း

ဟဒီးသ်တော်တွင် ရှိဇဟ်စောင့်ထိန်းခြင်း၌ အကျိုးများစွာရရှိမည့် အကြောင်း လာရှိ၏၊ အလ္လာဟ်အသျှင်မြတ်၏ ထံတော်ပါး၌ ရှိဇဟ်ဆောက်တည်သူတို့၏ ဂုဏ်အဆင့်အတန်းသည် ကြီးမြင့်လေသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် မိန့်တော်မူသည်မှာ အကြင်သူ ရမသွာန်လ၏ ရှိဇဟ်ကို အလ္လာဟ်အသျှင်မြတ်အဖို့ သက်သက်ရည်စူး၍ ကုသိုလ်ရမည်ဟုသိရှိကာ စောင့်ထိန်းလျှင် ထိုသူ၏ ရှေးယခင်ကပြုမိခဲ့သမျှသော ဂိုနာဟ် စွဂီရဟ် အပြစ်ဒုစရိုက်အပေါင်း လွတ်ငြိမ်းချမ်းသာခွင့်ရလိမ့်မည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)မိန့်တော်မူသည်မှာ– ရှိဇဟ်စောင့်ထိန်းသူတို့၏ နှုတ်ခံတွင်းမှအနံ့သည် အလ္လာဟ်အသျှင်မြတ်ထံတော်၌ ကတိုးနံ့ ထက်ပင် ပိုမိုနှစ်သက်လေသည့် ကမ္ဘာပျက်သည်းမည့်နေ့၌လည်း ရှိဇဟ်၏အကျိုးသည် မရေမတွက်နိုင်အောင် ရရှိပေမည်။

ရေဝါယတ်မိန့်ခွန်းစကားတွင် ရှိဇဟ်စောင့်ထိန်းသူတို့အတွက် ကေယာမတ်ကမ္ဘာပျက်သည့်နေ့၌ (အရ်ရှ်)တော်၏အောက်ဘွင် စားပွဲခင်းကိုခင်းစေတော်မူ၍ ၎င်းအခင်းပေါ်တွင် ထိုသူတို့ထိုင်ကြပြီးနောက် စားသောက်ဖွယ် ခဲဘွယ်အမျိုးမျိုးတို့ကို စားသောက်ကြအံ့၊ ခပ်သိမ်းသောသူအပေါင်းမှာ စစ်ကြောမေး န်းခံနေကြရပေမည်၊ ထိုသူတို့က ဤသူတို့သည်ကား စားသောက်နေကြရလေပြီ၊ ကျွန်ုပ်တို့မှာမူ ယခုတိုင်အစစ်အကြော ခံနေကြရသည်ဟုဆိုကြအံ့။

ထိုအခါ ၎င်းတို့အား ဖြေကြားနာကြရမည်မှာ ဤသူတို့သည်ကား ရှိဇဟ် ဥပုသ် ဆောက်တည်ခဲ့ကြသောသူများဖြစ်ကြ၍ သင်တို့မှာမူ ရှိဇဟ်ဥပုသ်ဆောက်တည်ခြင်း မပြုခဲ့ကြသောသူများ ဖြစ်ကြလေသည်။

ဤရိုဇဟ်သည် အစ္စလာမ် သာသနာတော်၏ ကြီးသောမဏ္ဍိုင်ကြီး ဖြစ်လေသည်၊ အကြင်သူ ရမဒ္ဇာန်လတွင်ရိုဇဟ်ဥပုသ်မစောင့်ထိန်းလျှင် ကြီးသောအပြစ်ကိုခံယူရမည့်ပြင် ထိုသူ၏သာသနာရေးမှာလည်း အားနည်းညံ့ဖျင်းခြင်းဖြစ်မည်။

၁။ မတ်စ်အလဟ်ပြဿနာ။ ။ရမဒ္ဇာန်လတွင် မရှူးသွပ်သော အရွယ်ရောက်ပြီးသူမွတ်စလင်မ်ယောကျ်ား, မိန်းမတိုင်းအပေါ်တွင်(ဖွရ်သွ်)မလုပ်မနေရတာဝန်ဖြစ်သည်။

အရေးကြီးသောအကြောင်း 'အွသ်ရ်' တစ်စုံတစ်ရာမရဘဲလျက် ရိုဇဟ်ကိုစွန့်လွှတ်ခြင်းမပိုင်ပေ။

အကယ်၍ တစ်ဦးတစ်ယောက်သောသူသည် ရိုဇဟ်ထားရန် (နသရ်)ကိုးလိုက်လျှင် ကိုးလိုက်သည်နှင့်တပြိုင်နက် ထိုသူ့အပေါ်၌ရိုဇဟ်ထားရန်ဝါဂျစ်ဗ်ဖြစ်သွား၏ (ကဇ္ဇာ) နှင့် (ကဖ်ဖွာရဟ်) ရိုဇဟ်များလည်း ဖွရ်သွ်ဖြစ်၏၊ ၎င်းတို့မှအပ ကျန်အားလုံး ရိုဇဟ်များသည် (နဖွ်လ်)ဖြစ်၏။

၎င်းနဖွ်လ်ရိုဇဟ်ကို စောင့်ထိန်းလျှင် အကျိုးသဝါဒ်ရရှိ၍ မစောင့်ထိန်းလည်း မည်သည့်အပြစ်မျှမရှိချေ။

သို့သော်(အီဒွလ်ဖွစ်တ်ရ်)နေ့(အီဒွလ်အသ္ဟာ)နေ့နှင့် အီးဒ်ကြီးပြီးနောက်သုံးရက် (ပေါင်း-၅-ရက်တွင်) ရိုဇဟ်ဥပုသ်စောင့်ခြင်း (ဟရာမ်)ဖြစ်၏။

မဂ္ဂါမအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၃။

မွတ်စလင်မ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၀။

၂။ မတ်စ်အလဟ်ပြဿနာ။ ။ဖွဂျ်ရ်နမာဇ်ချိန်ကျရောက်လာသည်မှစ၍နေဝင်သည့်အချိန်ထိ ရိုဇဟ်၏နိယတ်အဓိဋ္ဌာန်ဖြင့် အလုံးစုံသော စားသောက်ဖွယ်ရာတို့ကိုလွှတ်၍ မိမိလင် ယောကျ်ားနှင့်လည်း ပေါင်းသင်းဆက်ဆံမှု မပြုရခြင်းတို့ကို ရှရီအတ်တရားတော်၌ ရိုဇဟ်ဥပုသ် စောင့်ထိန်းခြင်းဟုခေါ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၁။

၃။မတ်စ်အလဟ်ပြဿနာ။ ။နှုတ်ဖြင့် နိယတ်ကိုရွတ်ဆိုခြင်း အရေးမကြီးပေ၊ စိတ်၌သာ (ယနေ့ကျွန်မ ဥပုသ်ဆောက်တည့်ပါမည်)ဟု ရည်ရွယ်လိုက်၍တစ်နေ့လုံးမစား မသောက် မေထုံမှုမပြုဘဲနေလျှင် ထိုသူမသည် (ရိုဇဟ်)ရှိသူဖြစ်သွားလေသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သောသူသည်နှုတ်ဖြင့် အို-အသျှင်မြတ်ကျွန်မသည်နက်ဖြန်ကိုယ်တော်၏ ရိုဇဟ်ကို စောင့်ထိန်းပါမည် သော် ၎င်းအရဗီဘာသာဖြင့်....

بِصَوْمِ غَدٍ نَوَيْتُ

(ဗေ စွောင်မေ၊ ဂဒင်၊ နဝိုင်တ်)ဟု ရွတ်ဆိုပြီး စောင့်လျှင်လည်းကိစ္စမရှိပေ၊ ဤသို့ဆိုခြင်းသည် ပို၍ကောင်းလေသည်။

ဒွရ်ရေ မွခ်ဘာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၅။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အကြင် သူတစ်ယောက်သည် တစ်နေကုန်ဘာမျှ စားခြင်းသောက်ခြင်းမပြု၊ နံနက်မှညနေအထိ ဆာငတ်ခြင်းကိုခံနေ၏၊ သို့ရာတွင် စိတ်၌ ရိုဇဟ်ဥပုသ်၏ နိယတ်ရည်စူးခြင်းမပြု၍ သော်လည်းကောင်း၊ ဆာငတ်ခြင်း မရှိ၍သော် လည်းကောင်း၊ သို့မဟုတ် အခြားအကြောင်းတစ်ခုခုဖြင့် မစားမသောက်ရခြင်း ဖြင့်သော် လည်းကောင်း နေလျှင်ထို သူ/မသည် ရိုဇဟ်ထားခြင်းမဟုတ်ချေ၊ စိတ်၌ရိုဇဟ်၏ရည်စူး ချက်ရှိမှသာလျှင် ရိုဇဟ်ဖြစ်နိုင်လေသည်။ နူရုလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၃၅။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ ရှရီအတ် တရားတော်၌ ရိုဇဟ်သည် နံနက် (အရုဏ်တက်အချိန်မှ) စတင်လေသည် ထို့ကြောင့် ၎င်းအချိန်မကျရောက်သေးမီအလျှင် စားခြင်း, သောက်ခြင်း စသည်တို့သည် အားလုံးပြုလုပ်နိုင်၏၊ တချို့ သော မိန်းမတို့သည် သန်းခေါင်ကျော်ကတည်းက (စဲဟ်ရီ) ဥပုသ်ထမင်း စားသောက်ပြီးလျှင် နိယတ် ပြု၍ လျောင်းလဲနေကြ၏၊ ယင်းသို့ နိယတ်ပြုပြီးနောက် ဘာမျှမစား မသောက်ရတော့ပြီဟု ထင်မှတ်တတ်ကြလေသည်၊ ဤသို့ထင်မှတ်ခြင်းသည် မှားလေသည်၊ နံနက်အရုဏ်တက်ချိန် မရောက်သေးမီ ကာလပတ်လုံး စားခြင်း, သောက်ခြင်း ပြုလုပ်နိုင်ကြလေသည်၊ နိယတ် ပြုပြီးမှဖြစ်စေ၊ မပြုသေးမီဖြစ်စေ (စားနိုင်ခွင့်ရှိလေသည်)။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၆။

# ရမသွာန်လမြတ်၏ ရိုဇဟ်အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။ရမသွာန်လမြတ်၏ ရိုဇဟ်နိယတ်ကို အကယ်၍ ညဦးကပြုလျှင်လည်း ဖွရ်သွ်တာ၀န်ကျ၏၊ ညဦးက ရိုဇဟ်ထားရန်အကြံမရှိ၊ နံနက် လင်း အရုဏ်တက် ရောက်သည်အထိလည်း ငါသည် ယနေ့ ရိုဇဟ်မထားတော့ဟုဆိုပြီး နေလေ၏၊ ထို့နောက် နေထွက်လာပြီးအတော်ကြာမှ (ဖွ်ရ်သွ်)ကို စွန့်လွှတ်ခြင်းသည် မသင့်လျော်ဟုထင်ပြီး ရိုဇဟ်နိယတ်ပြုလိုက်ပြန်၏၊ ထိုအခါ ရိုဇဟ်ရရှိသွား၏၊ သို့ရာတွင် နံနက်တွင် တစ်စုံတစ်ရာ စားသောက်ပြီးမှ နိယတ်ပြုလျှင် မပိုင်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၆။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ တစ်စုံတစ်ရာ စားခြင်း,သောက်ခြင်း မပြုရသေးလျှင် မွန်းမတည့်မီ တစ်နာရီအလျှင် ရမသွာန်လမြတ်၏ရိုဇဟ်နိယတ်ပြုလိုက်လျှင် ပိုင်၏။ ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ရမသွာန်လမြတ်၏ရိုဇဟ်အတွက်ဤမျှခန့်နိယတ် ရည်စူးခြင်းပြုလျှင်လုံလောက်လေသည်၊ (ယနေ့ကျွန်တော်,ကျွန်မသည် ရိုဇဟ်ဥပုသ်စောင့် ထိန်းမည်)၊ (သို့မဟုတ် ညဥ့်ကဤသို့တွေးလိုက်လျှင်) နက်ဖန် ကျွန်တော်,ကျွန်မရိုဇဟ် ဥပုသ်စောင့်ထိန်းပါမည်ဟူသော နိယတ်လောက်နှင့်ပင် ရမသွာန်လ၏ရိုဇဟ် အတည့်ဖြစ် သွားပေသည်၊ အကယ်၍ နိယတ်ပြုရာ၌ (ရမသွာန်လ၏ရိုဇဟ် သို့မဟုတ် 'ဖွရ်သွ်'ရိုဇဟ်)ဟူ သော အထူးပြုချက်မပါသော်လည်း ရိုဇဟ်ပိုင်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၃။

၄။မတ်စ်အလဟ် ပြဿနာ။ ။ရမဒွာန်လ၌ အကယ်၍ တစ်ဦးတစ်ယောက်သော သူသည် နက်ဖန် ကျွန်တော်,ကျွန်မသည် (နဖ္စ်လ်ရိုဇဟ်)ကိုသာစောင့်ပါမည်၊ ရမဒွာန်လ၏ ရိုဇဟ်ကို မစောင့်ထိန်းပါ၊ နောက်မှ ကဒွာထားမည်ဟု နိယတ် ပြုသော်လည်း ရမဒွာန်လ၏ ရိုဇဟ်သာဖြစ်သွားသည်၊ နဖ္စ်လ်ရိုဇဟ်မဖြစ်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၇။

၅။ မတ်စ်အလဟ် ပြဿနာ။ ။လွန်ခဲ့သော ရမဒွာန်လက ရိုဇဟ်များ ကဒွာဖြစ်ခဲ့၏၊ တစ်နှစ်ပတ်လုံးကုန်ဆုံးသွားသော်လည်း ယခုတိုင်အောင် ကဒွာရိုဇဟ် မထားရသေးချေ၊ တဖန်ရမဒွာန်လ ပြန်ရောက်လေရာ ထိုလွန်ခဲ့သော ရမဒွာန်လ၏ နိယတ်ဖြင့် ရိုဇဟ်ထားလျှင် ရောက်ရှိနေသောရမဒွာန်လ၏ရိုဇဟ်သာဖြစ်မည်၊ ကဒွာရိုဇဟ်မဖြစ်ပေ၊ ကဒွာကို ရမဒွာန်လကုန်လွန်ပြီးမှ ထားလိုက်ရမည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူက(ကျွန်တော်,ကျွန်မသည်) မည်သည့်အလုပ်ကိစ္စ အောင်မြင်လျှင် အလ္လာဟ်အသျှင်မြတ်အဖို့ ရိုဇဟ်တစ်ရက်သို့မဟုတ် နှစ်ရက်ထားပါမည်ဟူ၍ကိုးလိုက်၏၊ ထို့နောက် မျှားမကြာမီ ရမဒွာန်လမြတ် ကျရောက်လာ၏၊ ထိုအခါ ရမဒွာန်ရိုဇဟ်နိယတ်ကိုမပြုဘဲ ထိုကိုးထားသော ရိုဇဟ်နိယတ်ကိုသာပြု၍ ရိုဇဟ်ထားလျှင် ရမဒွာန်ရိုဇဟ်သာ ဖြစ်သွားလိမ့်မည်၊ ကိုးထားသောရိုဇဟ်မရပေ၊ ကိုးထားသော ရိုဇဟ်ကို ရမဒွာန်လလွန်ပြီးနောက်မှ ထားရမည်၊ အချုပ်မှာ ရမဒွာန်လအတွင်း၌ အဘယ်ရိုဇဟ်နိယတ်ကိုမဆို ပြု၍ထားသော်လည်း ပြုသည့်နိယတ် ရိုဇဟ်မရပေ၊ ရမဒွာန်ရိုဇဟ်သာရမည်ဖြစ်လေသည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၇။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ရှအ်ဗာန်လ၏ ၂၉-ရက်နေ့တွင်အကယ်၍ရမဒွာန်လ၏ လဆန်းထွက်ပြူလာလျှင် နံနက်ကို ရိုဇဟ်စောင့်ထိန်းရမည်၊ အကယ်၍ ၂၉-ရက်နေ့ကိုမမြင်လျှင်သော်လည်းကောင်း၊ သို့မဟုတ် မိုးကောင်းကင်၌ တိမ်များရှိခြင်းကြောင့် မမြင်ရသော်လည်းကောင်း၊ နံနက်တွင် ရိုဇဟ်မထားရ၊ အဘယ်ကြောင့်ဟူမူ ဟဒီးသ်တော်၌ ထိုကဲ့သို့ လမမြင်ဘဲနှင့် ရိုဇဟ်ထားခြင်းကို တားမြစ်ထားလေသည်၊ ထိုအခါ ရှာအ်ဗာန်လကို အရက်(၃၀)အပြည့်ဖြည့်၍ ရမဒွာန်ရိုဇဟ်ကို အစပြုရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၈။ မတ်စ်အလဟ် ပြဿနာ။ ။(ရှာအ်ဗာန်လ) ၂၉-ရက်နေ့ကို တိမ်ကြီးမစင်သဖြင့် ရမဒွာန်လမမြင်လျှင် နံနက်တွင် နဖ္စ်လ်ရိုဇဟ်ကိုပင် မထားရချေ၊ အကယ်၍ တနင်းလာနေ့ သို့မဟုတ် ကြာသပတေးနေ့၊ သို့မဟုတ် မိမိရိုဇဟ်အမြဲထားလေ့ရှိသည့် ကန့်သတ်ထားသော ရက်ပိုင်းများနှင့်ကြုံကြိုက်လျှင် နဖ္စ်လ်နိယတ်နှင့်ပင် နံနက်ကိုရိုဇဟ်ထားလိုက်ခြင်းကောင်း၏ ထို့နောက် လမြင်ကြောင်းနေရာတစ်ပါးမှ သတင်းရောက်လာလျှင် ထိုနဖ္စ်လ်ရိုဇဟ်နှင့်ပင် ရမဒွာန်လ၏ရိုဇဟ် တာဝန်ကျေပွန်သွား၏၊ ယခုရင်း၏ ကဒွာထားရန် မလိုတော့ချေ။

ဗွဟ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၉။

၉။ မတ်စ်အလဟ် ပြဿနာ။ တိမ်ကြေး လကြေး ရှိသဖြင့် ၂၉-ရက် နေ့ကို ရမသွာန်လမမြင်ရလျှင် မွန်းမတည့်မီ ၁-နာရီ အလျှင်အချိန်ထိ ဘာကိုမျှ တစ်စုံတစ်ရာ စားသောက်ခြင်းမပြုဘဲနေရမည်၊ အကယ်၍လမြင်ကြောင်း တမ်နေနေရာမှသတင်းရောက်လာလျှင် ထိုအခါရှိဇဟ်နိယတ်ပြု၍ထားလိုက်ရမည်၊ သတင်းမရောက်လာလျှင်စားသောက်လိုက်ရမည်။ နူရွလ်အီသွားဟ်ကျမ်း စာမျက်နှာ-၁၃၈။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍(ရှအ်ဗာန်) ၂၉-ရက်နေ့ကို ရမသွာန်လမမြင်ရသဖြင့် နက်ဖြန်ဖြင့် ရမသွာန်တော့ မဟုတ်သေးဟု ဆိုပြီး လွန်ခဲ့သော နှစ်က ကျန်နေရစ်ခဲ့သော [illegible]ကိုဘဲ ကသွာထားလိုက်တော့မည် ဟူ၍ သဘောမထားလေနှင့်၊ သို့မဟုတ် ကိုးထားသောရှိဇဟ်ကိုဘဲ ထားလိုက်မည်ဟူ၍လည်း သဘောမထားလေနှင့်။

အဘယ့်ကြောင့် ဆိုသော် ၎င်းနေ့ကို (ကသွာ) ရှိဇဟ်၊ (ကပ်ဖွာရာရှိဇဟ်)နှင့် (ကိုးထားသောရှိဇဟ်)များထားခြင်း (မတ်က်ရူးဟ်)ဖြစ်၏၊ မည်သည့်ရှိဇဟ်မှမထားသင့်ချေ၊ အကယ်၍ ကသွာ ရှိဇဟ်သော်လည်းကောင်း၊ ကိုးထားသောရှိဇဟ်ကိုလည်းကောင်း ထားမိပြီးမှ တစ်မြို့တစ်ရွာက လမြင်ကြောင်းသတင်းရောက်လာသောအခါ ထိုအခါလည်း ရမသွာန်ရှိဇဟ်သာလျှင် အတည်ဖြစ်သွားလေသည်၊ ၎င်းတို့ကိုနောက်မှ ကသွာထားရမည်၊ အကယ်၍ သတင်းမလာရှိခဲ့သော် နိယတ်ပြုထားသောရှိဇဟ်ပင်(အဒါ)ဖြစ်သွား၏။

ရှရ်ဟ်ဝေ ကာယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၀၈။

# လကြည့်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မိုးကောင်းကင်၌ တိမ်ကြေး လကြေး ရှိသော်လည်းကောင်း၊ မြူမှုန်များရှိနေသော်လည်းကောင်း၊ ရမသွာန်လကို မမြင်ရသော် ဘာသာရေးလေးစားသူ၊ ကြဉ်ရှောင်သူ လူတော်လူမှန်တစ်ဦးတစ်ယောက်က ကျွန်ုပ်ကိုယ်တိုင် ရမသွာန်လကို လာရောက်၍ မြင်ရပါသည်ဟု သက်သေခံလျှင် ထိုသက်သေခံသောသူသည် ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ နှစ်ဦးစလုံး၏ သက်သေခံချက်သည် အတည်ဖြစ်သွားလေသည်။ ကိုဒူရီကျမ်းစာမျက်နှာ-၄၅။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တိမ်ကြေးလကြေးကြောင့် (အီးဒ်)၏ လကို မမြင်ရလျှင် အဘယ်မျှပင် ခိုင်လုံသောသူ ဖြစ်စေကာမူ တစ်ယောက်ထည်း၏ သက်သေခံခြင်းကို အရေးမယူရ၊ ခိုင်မာလုံလောက်၍ ကြဉ်ရှောင်သူ ယောကျ်ား တစ်ဦး သို့မဟုတ် ဘာသာရေးလေးစားသော အမျိုးသမီးနှစ်ဦးတို့က လမြင်ကြောင်း သက်သေခံလျှင် လမြင်ခြင်း အတည်ဖြစ်နိုင်၏။ အကယ်၍ မိန်းမလေးယောက်ပင် သက်သေခံကြသော်လည်း တရားတော်က လက်မခံချေ။

ကိုဒူရီကျမ်း စာမျက်နှာ-၄၈။

၃။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည်ဘာသာရေးကိုမလေးစားမကိုင်းရှိုင်းဘဲ အမြဲအစဉ်အကုသိုလ်မှုကိုပြုနေသော် ဥပမာ....နမာဇ်ဝတ်ပြုခြင်းမရှိ၊ ရိုဇယ်ဥပုသ်စောင့်ထိန်းခြင်းမရှိ၊ မုသားစကားပြောဆိုတတ်သူ၊ သို့မဟုတ် တစ်ခုခုသောအပြစ်ကို လုပ်လေ့ လုပ်ထရှိသူ၊ ရှရီအတ်တရားတော်ကို မလေးစားသူ ထိုကဲ့သို့သော သူ၏ စကားကို အဘယ်မျှပင် ကျိန်ဆို၍ ပြော သော် လည်း အရေးမယူရ၊ သာမက ဤကဲ့သို့သောသူ နှစ်ယောက်-သုံးယောက်တို့က ပြောသော်လည်း တရားတော်၌ အရေးမယူရချေ။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၆၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ရဂျဗ်လ၊ လေးရက်ဖြစ်သည့် နေ့ကို ရမသွာန်လဆန်း တစ်ရက် ဖြစ်တတ်သည်ဟု ကျော်ကြားနေသော စကားသည် ရှရီအတ် တရားတော်၌ အယူမရှိချေ၊ အကယ်၍ လမမြင်ရလျှင် ရိုဇဟ် မထားရချေ။

မစ်ရှ်ကာတ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၇၄။

၅။ မတ်စ်အလဟ် ပြဿနာ။ လမြင့်ပြီးနောက်(လဖြင့်အလွန်ကြီးသည်၊ မနေ့က ဆန္ဒင့်တူတာဘဲ)ဟူ၍ ပြောဆိုခြင်းသည် မကောင်းချေ၊ ဟဒီးသ်တော်၌ လာရှိသည်မှာ.... ယင်းကဲ့သို့ ပြောဆိုခြင်းသည် ကေယာမတ် ကမ္ဘာပျက်ရန် နီးလာခြင်း၏ နိမိတ်လက္ခဏာ တစ်ခုဖြစ်သည်၊ အချုပ်မှာ....လဆန်းပက္ခ၏ ကြီးခြင်း-ငယ်ခြင်းမှာ ဘာမျှအရေးထားရန် မဟုတ်၊ ဟိန္ဒူလူမျိုးများ ယုံကြည်ကြသော(ဒိုအဂျ်)ခေါ် လည့်နေခြင်း၊ ဖြော့နေခြင်း ကြောင့် လဆန်းနှစ်ရက်ရှိပြီဟု ပြောဆိုသဖြင့် ယနေ့ လအမှန်မြင်ရမည်ဟူသော စကား များကိုအလျဉ်းမယုံကြည်ရ၊ ဤစကားများသည်အလဟာဿစကားများသာဖြစ်လေသည်။

မစ်ရှ်ကာတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၄။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မိုးကောင်းကင်၌ တိမ်ကြေးလကြေး စင်လျက် ရှိနေလျှင် လူ သုံးလေးယောက်က လမြင်ကြောင်း ပြောဆို သက်သေခံရုံဖြင့် ရမသွာန် လဆန်းဖြစ်စေ၊ အီးဒ်၏ လဆန်းဖြစ်စေ ခိုင်မာလုံလောက်ခြင်းမရှိသေးချေ၊ မြောက်မြားစွာသော လူစုက မိမိတို့ လကို မြင်ကြရကြောင်း ပြောပြကြသော အခါ စိတ်က သက်သေခံ၍ ဤမျှခန့်သောလူထုသည် အားလုံးစကားကို လုပ်ကြံ၍ပြောရန်လာ ကြမည် မဟုတ်၊ ဤမျှခန့်လူထုသည် လိမ်လည်ပြောရန် မဖြစ်နိုင်ဟု ယူဆရသော အခါ လမြင်ခြင်း ခိုင်လုံသွားလေသည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၇။ မတ်စ်အလဟ် ပြဿနာ။ မနေ့က လမြင်ကြသည်ဟု တစ်မြို့လုံးသတင်းကျော် ကြားနေသော်လည်း လိုက်လံ ရှာဖွေ စုံစမ်းမေးမြန်းသောအခါ ကိုယ်တိုင်မြင်သူ တစ်ဦး တစ်ယောက်ကိုမျှမတွေ့ရသော် ဤသို့သောသတင်းကို တစ်စုံတစ်ရာ အရေးမယူရ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၅။

၈။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူ တစ်ယောက်သည် တစ်မြို့လုံးအနက်မှ သူတစ်ယောက်ထည်းသာ ရမသွာန်လဆန်းကို မြင်ရ၏၊ သို့ရာတွင် ဤသူသည် ရှရီအတ် တရားတော်ကို လိုက်နာ စောင့်ထိန်းသူမဟုတ်၊ ထိုအခါ ၎င်းသူ၏ သက်သေခံခြင်းဖြင့် အခြားသူများ ရိုဇဟ်ဥပုသ် မစောင့်ထိန်းရ၊ ထိုသူကိုယ်တိုင်မှာမူ ရိုဇဟ်ထားနိုင်၏။

အကယ်၍ ၎င်းတစ်ယောက်ထည်းသာမြင်၍ ထားသော ရိုဇဟ်သည်အရက် ၃၀၊ ပြည့်လာသဖြင့် ယခုတိုင် အီးဒ်၏လ မမြင်ရသေးလျှင် ထိုသူသည် (၃၁)ရက်ပါ ရိုဇဟ်ထားပြီး၊ အခြားသူများနှင့်အတူ အီးဒ်လုပ်ရမည်။ ကို့ဒူရီကျမ်းစာမျက်နှာ-၄၅။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အကြွင်သူတစ်ဦးတစ်ယောက်သည် မိမိတစ်ယောက်ထည်းသာ လမြင်သဖြင့် ရှရီအတ် တရားတော်က အရေးမယူလျှင် ထိုမြင်သူတစ်ယောက်ထည်း(အီးဒ်)မလုပ်ထိုက်ပေ၊ မိမိမြင်ရခြင်းကို အရေးမယူကြခြင်းဖြင့် ရိုဇဟ်ကိုလည်း မဖျက်ဘဲနှင့် နံနက်ကို ထားလိုက်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၆။

# ကဿာ ရိုဇဟ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်စုံတစ်ခုသောအကြောင်းဖြင့်ရမဿာန်လတွင် ရိုဇဟ်မစောင့်နိုင်လျှင် ရမဿာန်လ ကုန်ဆုံးပြီးနောက် ၎င်း၏အစား ပျက်ကွက်ရက်များကို ဖြည့်စွက်ထားခြင်းကို မြန်နိုင်သမျှ မြန်စေရမည်၊ အကြောင်းကြီးငယ် မရှိဘဲ (ကဿာ) ဖြည့်စွက်ခြင်း မပြုလျှင် အပြစ်ဖြစ်သည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၂။

၂။ မတ်စ်အလဟ် ပြဿနာ။ ဖြည့်စွက်သော ရိုဇဟ်၌ နေ့-ရက် ကန့်သတ်ပြီး နိယတ်ပြုရန်အရေးမကြီးပေ၊ ဥပမာ....မည်သည့်နေ့ရက်အတွက်ဟူ၍မလို၊ ပျက်ကွက်ခဲ့သမျှကိုသာ စောင့်ရမည်။

သို့သော် ရမဿာန် ၂-လ၏ ရိုဇဟ်အနည်းငယ်စီ ပျက်ခဲ့၍ ဤ ၂-လစလုံး၏ ပျက်ခဲ့သော ရိုဇဟ်များကိုစောင့်လိုသောအခါမှ နှစ်ကို ကန့်သတ်စောင့်ရမည်၊ ဥပမာ.... (မည်သည့် နှစ်က ရမဿာန်လရိုဇဟ်၏ ဖြည့်စွက်သော ရိုဇဟ်နိယတ်ကို ပြုပါသည်ဟူ၍ ဆိုပြီး စောင့်ရမည်။ ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄၃။

၃။ မတ်စ်အလဟ် ပြဿနာ။ ဖြည့်စွက်သောရိုဇဟ်၌ ညအချိန်က နိယတ်ပြုရန် လိုအပ်၏၊ အကယ်၍ မိုးလင်းပြီးမှနိယတ်ပြုလျှင် ၎င်းဖြည့်စွက်သောရိုဇဟ်မတည်ဘဲ နဖွလ် ရိုဇဟ်သာဖြစ်သွားလိမ့်မည်၊ ထိုအခါ ဖြည့်စွက်သောရိုဇဟ်ကို နောက်မှတစ်ခါ ပြန်ထားရပေမည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၄။ မတ်စ်အလဟ် ပြဿနာ။ ကဖ်ဖွာရဟ်ရိုဇဟ်သည်လည်း ထိုနည်းတူ ညအချိန်က နိယတ်ပြုထားရမည်၊ အကယ်၍ မိုးလင်းမှ နိယတ်ပြုလျှင် မပိုင်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၅။ မတ်စ်အလဟ် ပြဿနာ။ ဖြည့်စွက်ရန် ဖြစ်သွားသမျှသော ရိုဇဟ်များကို ရက်ဆက်စောင့်လိုကစောင့်နိုင်၍ အနည်းငယ်မျှစီခွဲ၍ စောင့်လိုကလည်း စောင့်နိုင်သည်၊ နှစ်မျိုးစလုံးပင်ပိုင်၏။ ကို့ဒူရီကျမ်းစာမျက်နှာ-၄၃။

၆။ မတ်စ်အလဟ်ပြဿနာ။ လွန်ခဲ့သော နှစ်က ရမသွာန်လ ရိုဇာဟ်ကို မဖြည့်ရသေးမီ ယခု ဒုတိယရမသွာန်လရောက်လာပြန်၏၊ ထိုအခါ ယခုရောက်ရှိနေသော ရမသွာန် ရိုဇဟ်ကိုသာ စောင့်ထိန်း၍ ထိုကသွာကို အီးဒ်ပြီးမှ ဖြည့်စွက်ပါလေ၊ သို့သော် ဤမျှခန့်ကြာရှည်စွာ ဆိုင်းငံ့ထားခြင်း မကောင်းချေ။ ကို့ဒုရီကျမ်း စာမျက်နှာ-၄၇။

၇။ မတ်စ်အလဟ်ပြဿနာ။ ရမသွာန်လ၌ နေ့အချိန် သတိလစ် မေ့သွားပြီး တစ်ရက်ထက် ပို၍ သတိမရဘဲရှိသော်၊ ကသွာ ဖြည့်စွက်သော ရိုဇဟ် ၂-ရက်တွက်သာ ထားရမည်၊ သတိ စတင်လစ်မေ့သွားသော နေ့ကို ကသွာထားခြင်း ဝါဂျစ်ဗ်မဟုတ်၊ အဘယ့်ကြောင့်ဆိုသော် ထိုနေ့၏ ရိုဇဟ်သည် နီယတ်ပြုပြီးဖြစ်၍ ပိုင်သွားလေပြီ၊ ဟုတ်ပါ၏၊ ထိုနေ့သည် ရိုဇဟ်မရှိဘဲနေသောနေ့ဖြစ်သောအခါသော်လည်းကောင်း၊ သို့မဟုတ် လည်ချောင်းထဲသို့ ဆေး တစ်ခုခု ထည့်သဖြင့် အထဲသို့ ဝင်သွားသောအခါ သော်လည်းကောင်း ထိုနေ့အတွက် ဖြည့်စွက်ရန် ဝါဂျစ်ဗ်ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၀၄။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ညအချိန်တွင် သတိလစ် မေ့မေ့သွားလျှင် ထိုအခါ ၎င်းည၌ဖြစ်သောနေ့ကို ချန်လှပ်၍ အားလုံး သတိလစ်မေ့နေသော ရက်များကို ဖြည့်စွက်ရန် (ဝါဂျစ်ဗ်) ဖြစ်သည်။

ထိုည၌ပင် နံနက်ကို ရိုဇဟ်စောင့်ရန် နီယတ်မပြုလိုက်သောအခါဖြစ်စေ၊ သို့မဟုတ် ၎င်းည၌ နံနက်ကို တစ်စုံတစ်ခုသောဆေးဝါး လည်ချောင်းထဲသို့ ထည့်သောအခါဖြစ်စေ ထိုအခါတွင် ၎င်းနေ့အတွက် ရိုဇဟ်ကိုလည်း ဖြည့်စွက်ရမည်။

ဘဟ်ရှရ်ရာအစ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၆။

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ရမသွာန်လတစ်လလုံးသတိလစ်မေ့မေ့နေလျှင် ထိုအခါတွင်လည်း ကသွာရိုဇဟ်ထားရန် လိုလေသည်၊ အားလုံးသော ရိုဇဟ်ကို ခွင့်လွှတ်လိမ့်မည်ဟု မမှတ်ယူသင့်ချေ။

အကယ်၍ ရမသွာန်တစ်လလုံး ရူးနှမ်းနေလျှင် ထိုရူးနေသမျှရက်များအတွက်ဖြည့်စွက်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ ရမသွာန်လတွင်း၌ပင် ရူးနှမ်းနေရာမှ ပြန်ကောင်းသွားလျှင် ကောင်းသည့်နေ့မှစပြီး ရိုဇဟ်စောင့်ရမည်မှတစ်ပါး ထိုရူးနေသမျှ ရက်များအတွက်လည်း(ကသွာ)ဖြည့်စွက်လိုက်ရမည်။

ဘဟ်ရှရ်ရာအစ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၆။

## ကိုးသော ရိုဇဟ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မည်သူမဆို ရိုဇဟ်စောင့်ထိန်းရန် ကိုးလိုက်သောအခါ ၎င်းကို စောင့်ထိန်းရန်(ဝါဂျစ်ဗ်)ဖြစ်သွားလေသည်၊ မစောင့်ထိန်းလျှင် အပြစ်ဖြစ်၏။

နူရှလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၅၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။(နသရ်)ကိုးခြင်းနှစ်မျိုးရှိ၏၊ တစ်မျိုးကားရက်ကန့်သတ်၍ကိုးခြင်း၊ ဥပမာ.... အို....အသျှင်မြတ် အကယ်၍ ယနေ့ မည်သည့်အလုပ်ကို အောင်မြင်လျှင် နက်ဖြန်ကို ကိုယ်တော်၏အဖို့ ရိုဇဟ် စောင့်ထိန်းပါမည်၊ သို့မဟုတ် အို.... အသျှင်မြတ် အကယ်၍ မည်သည့်အကြံအစည် အထမြောက်လျှင် သဘာက်ခါ သောကြာနေ့ကို ရိုဇဟ်ဥပုသ် ဆောက်တည်ပါမည်ဟူသော ကိုးခြင်းများ၌ညကတည်းက သော်လည်းကောင်း၊ သို့မဟုတ် စောင့်ထိန်းသည့်နေ့ မွန်းမတည့်မီ တစ်နာရီခန့်မျှအချိန် အလျှင်ကသော် လည်းကောင်း နှစ်မျိုးစလုံး၌ နိယတ်ပြုပိုင်၏၊ ကိုးသောတာဝန်ကျ၏။

မရာကင်လ်ဖလားဟ်ကျမ်း စာမျက်နှာ-၁၉၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။သောကြာနေ့၌ရိုဇဟ်စောင့်ထိန်းရန်ကိုးလိုက်၏၊ သောကြာနေ့ရောက်လာသောအခါ ထိုကိုးထားသော ရိုဇဟ်ဥပုသ်အတွက် (နိယတ်)ကို မကန့်သတ်လိုက်ဘဲ ယနေ့ရိုဇဟ်ထားပါသည်ဟူ၍သာနိယတ်ပြုလိုက်သည်ဖြစ်စေ၊ သို့မဟုတ် နဖွ်လ် ရိုဇဟ်အတွက် နိယတ်ပြုလိုက်သည်ဖြစ်စေ ထိုအခါ ကိုးထားသော ရိုဇဟ်သာ အတည်ဖြစ်သွားပေမည်။

သို့သော် သောကြာနေ့၌ ထိုကိုးထားသော ရိုဇဟ်ကို သတိမရ၍ ကဇ္ဇာရိုဇဟ် ထားလိုက်သည်ဖြစ်စေ သတိတော့ရ၏၊ သို့သော် အတာလိ(တမင်တကာ)ကဇ္ဇာရိုဇဟ်ကို ထားလိုက်သည်ဖြစ်စေ ထိုအခါ ကိုးထားသောရိုဇဟ် အတည်မဖြစ်ဘဲ ကဇ္ဇာရိုဇဟ် အတည်ဖြစ်သွား၏၊ ကိုးထားသောရိုဇဟ်ကို နောက်မှထားရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ဒုတိယ(နသရ်)ကိုးခြင်းမှာရက်ကန့်သတ်၍မကိုးခြင်း၊ ဥပမာ.... အို...အသျှင်မြတ် မည်သည့်အလုပ်ကိစ္စအောင်မြင်ပါလျှင် ရိုဇဟ်ဥပုသ် တရက် စောင့်ထိန်းပါမည်၊ သို့မဟုတ် အဘယ်အလုပ်ကိစ္စဟူ၍ အမည်မတပ်ဘဲ ရိုဇဟ် ငါးရက်စောင့်ထိန်းပါမည်ဟုပြောဆိုရည်ရွယ်လိုက်ခြင်းဖြစ်၏၊ ဤကဲ့သို့သောကိုးခြင်းများ၌ ညဉ့်ကတည်းက နိယတ်ပြုခြင်း အရေးကြီး၏၊ စည်းကမ်းချက်ဖြစ်သည်၊ အကယ်၍ နံနက်လင်းပြီးမှ နိယတ်ပြုလျှင် ကိုးထားသော ရိုဇဟ်သည် အတည်မဖြစ်သည်သာမက ရင်းသည် နဖွ်လ်ရိုဇဟ်သာ ဖြစ်သွား၏။ မရာကင်လ်ဖလားဟ်ကျမ်း စာမျက်နှာ-၁၉၅။

# နဖွ်လ်ရိုဇဟ်အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။နဖွ်လ်ရိုဇဟ်၏နိယတ်မှာ အကယ်၍(ကျွန်တော် ကျွန်မသည် နဖွ်လ်ရိုဇဟ် ထားပါသည်)ဟု ကန့်သတ်ထားလျှင်လည်းပိုင်၏၊ သို့မဟုတ် (ကျွန်တော်, ကျွန်မရိုဇဟ်ထားပါသည်)ဟု နိယတ်ပြုလျှင်လည်းပိုင်၏။

မရာကင်လ်ဖလားဟ်ကျမ်း စာမျက်နှာ-၁၉၅။

၂။ မတ်စ်အလဟ် ပြဿနာ။ မွန်းမတည့်မီ ၁-နာရီအလျင်က နဖ္ဖ်လ်ရိုဇဟ်၏ နီယတ်ပြုလျှင်ပိုင်၏၊ အကယ်၍ နေ့၁၀-နာရီထိ ဥပမာ....ရိုဇဟ်ထားရန် မကြံစည်သေးဘဲ ရှိ၍၊ သို့သော် ယခုထိ ဘာမျှစားခြင်းသောက်ခြင်းမရှိသေးဘဲ နောက်မှ ရိုဇဟ်ထားမည် ဟု အကြံရပြီး ရည်ရွယ်၍ထားလိုက်သော် ပိုင်သွား၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၃။ မတ်စ်အလဟ် ပြဿနာ။ ရမသွာန်လမှတစ်ပါး မည်သည့် နေ့ရက်မှာမဆို နဖ္ဖ်လ်ရိုဇဟ်ထားလျှင်ပိုင်၏၊ ထားနိုင်သမျှအကျိုးလည်းပိုမိုရ၏၊ သို့သော်(အီဒွလ်ဖွစ်တ်ရ်) နေ့၊ (အီဒွလ်အသွဟာ)နေ့၊ ထိုအီးဒ်ပြီး ၁၁-၁၂-၁၃-ရက်နေ့ (ပေါင်း ၅-ရက်)တွင် ရိုဇဟ်ထားခြင်း ဟရာမ်ဖြစ်၏၊ ထိုနေ့များမှတစ်ပါး ကျန်အားလုံးနေ့များ၌ ရိုဇဟ်ထား ပိုင်၏။ ဖွတာဝါ ဟင်န်ဒီယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၄။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍အီးဒ်နေ့ကိုရိုဇဟ်ထားရန် ကိုးမိသော် ထိုအခါ၌လည်း အီးဒ်နေ့ကို ရိုဇဟ်မထားပိုင်၊ ၎င်းအစားနောက်တစ်နေ့နေ့၌ ထားရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၈။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ အကြွင်သူတစ်ဦးက တစ်နှစ်လုံးလုံး တစ်ရက်မပျက် ရိုဇဟ်ထားပါမည်ဟု ကိုးလိုက်လျှင် ထိုအခါ အထက်က ရိုဇဟ်ထားခြင်း ဟရာမ်ဖြစ်သော ၅-ရက်၌မထားရ၊ ကြွင်းသမျှရက်တို့တွင်ထားနိုင်သည်၊ နောက်မှ ထို၅-ရက်အတွက်အစား (ကဇွာရိုဇဟ်) ထားရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၈။

၆။ မတ်စ်အလဟ် ပြဿနာ။ ။နဖ္ဖ်လ်ရိုဇာဟ်မှာ နီယတ်ပြုလျှင်ပြုခြင်း ထားရန် ဝါဂျစ်ဗ်ဖြစ်သွား၏၊ ထို့ကြောင့် နံနက်ချိန်တွင် ယနေ့ရိုဇဟ်ထားပါမည်ဟု နီယတ်ပြုပြီး နောက်မှ မထားဘဲဖျက်လျှင် ၎င်း၏ ကဇွာ ရိုဇဟ် ထားရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၇။

၇။ မတ်စ်အလဟ် ပြဿနာ။ ။နက်ဖြန် ရိုဇဟ်ထားမည်ဟု တစ်ဦးတစ်ယောက် က အကယ်၍ နီယတ်ပြုလိုက်သဖြင့် မိုးမလင်းသေးမီ မိမိရည်ရွယ်ထားသော အကြံအစည် ပျက်သွားသဖြင့်မထားဘဲနေသော် ထိုအခါ၎င်းအစား(ကဇွာရိုဇဟ်)ကိုထားရန်ဝါဂျစ်ဗ် မဟုတ်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၃။

၈။ မတ်စ်အလဟ် ပြဿနာ။ ။ခင်ပွန်းလင်သည် အိမ်၌ရှိနေပါက ၎င်း၏အခွင့် မရဘဲနှင့် နဖ္ဖ်လ်ရိုဇဟ်ထားခြင်းမထိုက်၊ အကယ်၍ ထားမိသော်၎င်းကအဖျက်ခိုင်းလျှင် ဖျက်လိုက်ရမည်၊ နောက် သူပြောသောအခါမှ ၎င်း၏ကဇွာကို ထားရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၄။

၉။ မတ်စ်အလဟ် ပြဿနာ။ ။နဖ္ဖ်လ်ရိုဇဟ်ထား၍ တစ်အိမ်အိမ်သို့ဧည့်သည် အဖြစ်နှင့်သွားရောက်ရန်အခိုက်ကြုံလာသဖြင့်သွားရသော် အိမ်ရှင်က တစ်စုံတစ်ခုကျွေးမွေး သည့်အခါဖြစ်စေ၊ စားသောက်ရန်ဖိတ်ကြားထားသောကြောင့်သွားရောက်ရသည်ဖြစ်စေ ထိုအခါမစားမသောက်လျှင်အိမ်ရှင်စိတ်မကျေနပ်သဖြင့်မကောင်းဖြစ်မည်ကိုစိုးရိမ်ရသော်

နဖွ ်လ်ရှိဇဟ်ကို ဖျက်ပစ်ထိုက်၏၊ အကယ်၍အိမ်ရှင်မှာလည်း နဖွ ်လ်ရှိဇဟ်နှင့် ဖြစ်လျှင် ဧည့်သည်မျက်နှာကိုထောက်ပြီး အိမ်ရှင်ကလည်း ဖျက်ပစ်လိုက်ရန် ထိုက်၏။ (မှတ်ချက်) ဤကား ဧည့်သည်နှင့်အတူ အိမ်ရှင်ပါဝင်၍မစားလျှင် ဧည့်သည်၏စိတ်နှလုံးမကြည်သာသောအခါမှဖြစ်၏။ ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၃၆။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးသောသူသည်အီးဒ်နေ့၌နိယာတ်ပြု၍နဖွ ်လ်ရှိဇဟ်ထားမိခဲ့သော် ဖျက်ပစ်လိုက်ရမည်၊ ၎င်း၏ကသွာထားရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ၃၀၇။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။မိုဟာရ်ရမ်လ ၁၀-ရက် နေ့ကို ရှိဇဟ် ဥပုသ်စောင့်ထိန်းခြင်း(မွတ်စ်တဟဗ်)ဖြစ်၏၊ ဟဒီးသ်ဩဝါဒတော် လာရှိသည်မှာ.... အကြင်သူ ဤနေ့၌ ရှိဇဟ်ထားမူ တစ်နှစ်လုံးပြုခဲ့မိသော အပြစ်ဘေးတို့မှ လွတ်ကင်းချမ်းသာရရှိအံ့။ (မှတ်ချက်) ၉-ရက်နှင့်တွဲ၍ဖြစ်စေ၊ ၁၀-ရက်နှင့် တွဲ၍ဖြစ်စေ ထားခြင်း မွတ်စ်တဟဗ် ဖြစ်၏။ ၁၀-ရက်နေ့ တစ်ရက်တည်းစောင့်လျှင် မတ်က်ရူးဟ်ဖြစ်၏။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။ဤနည်းအတိုင်းပင် (အီဒွလ်အသွဟာ) နေ့၏ ၉-ရက်နေ့ (အီးဒ်မတိုင်မီတရက်) တွင် ရှိဇဟ်ထားခြင်းလည်း များစွာအကျိုးရရှိသည်၊ ထိုသို့ထားခြင်းသည် ရှေးကတနှစ်နှင့် နောင်ဘွင်တနှစ်တို့၌ ပြုလုပ်မိခဲ့သော အပြစ်များ၊ ခွင့်လွှတ်ချမ်းသာရသည်၊ အကယ်၍ လဆန်းတစ်ရက်နေ့ကစပြီး ၉-ရက်နေ့အထိ ဆက်လက်ရှိဇဟ်ထားလျှင် အလွန်ကောင်း၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၀။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ရှဗေ့ဗရာအတ်(ရှအ်ဗာန်)လ ၁၅-ရက်ညနှင့် အီဒွလ်ဖွတ်တ်ရ်၏နောက် ၆-ရက်ရှိဇဟ်များစောင့်ထိန်းခြင်းလည်း အခြားနဖွ ်လ်များထက် အကျိုးပိုမိုရရှိလေသည်။ မစ်ရ်ကာတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၅။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍လတိုင်းလဆန်း၁၃-ရက်၊ ၁၄-ရက် ၁၅-ရက် ပေါင်း(၃)ရက်တွင် လစဉ်ရှိဇဟ်ထားလျှင် နေ့စဉ်မပြတ် တနှစ်လုံး ရှိဇဟ်ထားသော အကျိုးနှင့်တူညီလေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည်ထိုသုံးရက်ကို ဆောက်တည်တော်မူခဲ့မြဲဖြစ်လေသည်၊ ဤနည်းပင် တနင်းလာနေ့တိုင်း နှင့် ကြာသပတေးနေ့များတို့တွင်လည်း ရှိဇဟ်ထားတော်မူခဲ့၏။ မည်သူမဆို ကြိုးပမ်းအားခဲ၍၊ ၎င်းရှိဇဟ်များကို စောင့်ထိန်းလျှင် များပြားသော အကျိုးသဝါဗ်ကို ရရှိမည်ဖြစ်လေသည်။ မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၉၃။

## ရှိဇဟ်ကို မပျက်စေတတ်သော အရာများ နှင့်

### ပျက်စေတတ်သော အရာများ အကြောင်း

### ထိုသို့ပျက်လျှင် အစားဖြည့်ရန် ကတ်ဖွာရဟ် ဒဏ်ထိုက်ခြင်း

### အ ကြော င်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ရှိဇဟ်ဥပုသ် ဆောက်တည်သူသည် မေ့လျော့၍ အစာတစ်ခုခုကို စားမိသည်ဖြစ်စေ၊ သောက်မိသည်ဖြစ်စေ၊ မေ့လျော့ပြီး

ခင်ပွန်းလင်နှင့်မေထုံမှီဝဲမိသည်ဖြစ်စေ၊ ထိုအခါ စောင့်ထိန်းထားသော ရိုဇဟ်မပျက်ပေ။ အကယ်၍ မေ့လျော့ပြီး ဝမ်းပြည့်အောင် စားသောက်မိသည့်တိုင် ရိုဇဟ်မပျက်သာမှ က မေ့လျော့ပြီး အခါခါစားသောက်မိသော်လည်း ရိုဇဟ်မပျက်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။

၂။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူသည် မေ့လျော့ပြီး စားသောက်နေသည်ကို တွေ့မြင်ရသော် အကယ်၍ ၎င်းသူသည် ရိုဇဟ်ကြောင့် ပင်ပန်း နွမ်းလျခြင်းမရှိဘဲ အားအင်ရှိသည်ကိုမြင်ရမူ ရိုဇဟ်ရှိကြောင်း သတိပေးခြင်း (ဝါဂျစ်ဗ်) ဖြစ်၏၊ အားအင်ချိနဲ့၍ ရိုဇဟ်ကြောင့် နွမ်းလျပင်ပန်းခြင်းကို မြင်ရသော် ထိုသူအား စားနေစေ၍ သတိပေးခြင်းမပြုရ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၂။

၃။ မတ်စ်အလဟ် ပြဿနာ။ ။နေ့အချိန်တွင်အိပ်ပျော်သွား၍အိမ်မက်မက်ခြင်း 'ဂွတ်စ်လ်' ရေချိုးရန်ထိုက်လာသောအခါ ရိုဇဟ်မပျက်ချေ။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၇။

၄။ မတ်စ်အလဟ် ပြဿနာ။ ။နေ့အချိန်၌ စွရ်မာသားခြင်း၊ ဆီလိမ်းခြင်း၊ အမွှေးအကြိုင်ကိုနမ်းရှုတ်ခြင်းပိုင်၏၊ ယင်းသို့ပြုလုပ်ခြင်းဖြင့်ရိုဇဟ်၌တစ်စုံတစ်ရာချို့ယွင်းမှု မရှိပေ။ မည်သည့် အချိန်တွင်မဆို ပြုလုပ်နိုင်လေသည်သာမက၊ စွရ်မာ သားခြင်းဖြင့် အကယ်၍တံတွေးထဲ၌ဖြစ်စေ၊ နှပ်ထဲ၌ဖြစ်စေ၊ စွရ်မာ၏အရောင်တွေ့မြင်ရငြားသော်လည်း ရိုဇဟ်မပျက် မဒ္ဒက်ရူးဟ်မဖြစ်ချေ။ မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၂၀၁။

၅။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမနှင့်ယောကျ်ားအတူလျောင်းလဲခြင်းလက် နှင့် ထိခြင်းနှင့် နမ်းရှုတ်ခြင်းအားလုံးပိုင်၏။ သို့ရာတွင် ကာမစိတ်အားထက်သန်လာ၍ ရာဂစပ်ရှက်မှု လိုလားလာမည်ကိုစိုးရိမ်ရမူ ဤသို့မပြုလုပ်ရ၊ မတ်က်ရူးဟ်ဖြစ်၏။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၄၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ။လည်ချောင်းတွင်းသို့ ယင်ကောင်ဝင်သွားသည် ဖြစ်စေ၊ အလိုအလျောက်မီးခိုးဝင်သွားသည်ဖြစ်စေ၊ ဖုတ်ဖုံဝင်သွားသည်ဖြစ်စေ၊ ထိုအခါ ရိုဇဟ်မပျက်ချေ၊ သို့သော် တမင်တကာ ဤသို့ပြုလုပ်လျှင် ရိုဇဟ်ပျက်သွားသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၈။

၇။ မတ်စ်အလဟ် ပြဿနာ။ ။လော်ဗန် အစရှိသော ပစ္စည်းများကို မီးရှို့ပြီး အနား၌ထားလျက် နမ်းရှုတ်နေလျှင် ရိုဇဟ်ပျက်သွားအံ့၊ ဤကဲ့သို့ပင် ဆေးသောက်ဗူး ရှူလျှင်လည်းရိုဇဟ်ပျက်၏၊ သို့သော်ဤသို့သောမီးခိုးများမှတပါးနံ့ သာဆီ၊ ဆပ်သွားဖူး၊ နှင်းဆီပန်း အစရှိသောအနံ့နှင့် အမွှေးနံ့များကို နမ်းရှုတ်ခြင်းဖြင့် ရိုဇဟ်မပျက်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၉။

၈။ မတ်စ်အလဟ် ပြဿနာ။ ။သွားကြား၌အသားစဖြစ်စေ၊အမြေးအမျှင်ဖြစ်စေ အစာရေစာ လုံးယော်စိပ်ယော်များဝင်ညပ်၍ ခုလုဖြစ်နေသောအခါ သွားကြားထိုးတန်နှင့် ကလော်ထုတ်၍မထွေးပစ်ဘဲအလိုအလျောက်လည်ချောင်းတွင်းသို့ဝင်သွားကြသည်ဖြစ်စေ

ထိုအခါ ကြည့်ရမည်မှာ ၎င်းသည် အကယ်၍ ကုလားပဲစေ့ခန့်မျှထက်ငယ်လျှင် ရှိဇဟ်မပျက်၊ အကယ်၍ ကုလားပဲစေ့ခန့်မျှဖြစ်စေ၊ ၎င်းထက်များလျှင်ဖြစ်စေ၊ ရှိဇဟ်ပျက်၏၊ ပါးစပ်တွင်းမှပြင်ဘက်သို့ထုတ်ပြီး နောက်တဖန်ပြန်၍မျိုချလိုက်သောအခါ ကုလားပဲစေ့ခန့်မျှရှိသည်ဖြစ်စေ၊ ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ ရှိဇဟ်ပျက်၏။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၃၆၂။

၉။ မတ်စ်အလဟ်ပြဿနာ။ တံတွေး အဘယ်မျှပင် မျိုသော်လည်း ရှိဇဟ်မပျက်ချေ။ မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၃၆၂။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကွမ်းစားပြီးနောက် ကောင်းမွန်စွာနှုတ်ကျင်း၍ စင်ကြယ်အောင်ပြုလုပ်၏၊ သို့ရာတွင် ကွမ်းသွေးနီရောင်မပျောက်ဘဲနေသော်ဘာမျှကိစ္စမရှိချေ၊ ရှိဇဟ်ပိုင်၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၈။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ညဥ့်ကို ရေချိုးရန်ထိုက်လာ၍ မချိုးဘဲနေပြီး နေ့ကျမှ ရေချိုးလိုက်လျှင်လည်း ရှိဇဟ်မြောက်၏၊ သာမက အကယ်၍ တစ်နေကုန်ရေမချိုးဘဲနေသော်လည်း ရှိဇဟ်မပျက်၊ သို့သော် ရေမချိုးဘဲနေသော အပြစ်မှာ တစ်ခြား ဖြစ်လေသည်။ နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၄၁။

၁၂။ မတ်စ်အလဟ်ပြဿနာ။ လည်ချောင်းတွင်းသို့ ဝင်သွားလောက်အောင် တစ်အား နှာခေါင်းရှိုက်လိုက်လျှင်လည်း ရှိဇဟ်မပျက်ချေ၊ ထိုနည်းအတူ လျှာရည်ကို စုတ်ပြီး မျိုလိုက်သောအခါလည်း ရှိဇဟ်မပျက်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၀။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ပါးစပ်တွင်း ကွမ်းငုံ၍အိပ်ပျော်သွားရာ နံနက်လင်းသောအခါမှ မျက်စိပွင့်၍အိပ်ရာမှနိုးလာ၏၊ ထိုအခါရှိဇဟ်ပျက်သွား၏၊ ၎င်းအစားကသွာထားရမည်၊ (ကတ်ဖွာရဟ်) ဝါဂျစ်ဗ်မဟုတ်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ရှိဇဟ်ဥပုသ်ရှိကြောင်း သတိရပါလျက် နှုတ်ကျင်းရာတွင် လည်ချောင်းတွင်းသို့ ရေဝင်သွားသော် ရှိဇဟ် ပျက်သွား၏၊ ထိုအခါ ကသွာထားရန် ဝါဂျစ်ဗ်ဖြစ်၍ (ကတ်ဖွာရဟ်)မှာ ဝါဂျစ်ဗ်မဟုတ်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။

၁၅။ မတ်စ်အလဟ်ပြဿနာ။ နည်းသည် ဖြစ်စေ၊ များသည် ဖြစ်စေ အလိုအလျောက်အန်လျှင် ရှိဇဟ်မပျက်၊ သို့သော် တမင်တကာ ပါးစပ်အပြည့်မျှအန်ထုတ်လျှင် ရှိဇဟ်ပျက်သွား၏၊ အကယ်၍ ၎င်းထက်နည်းလျှင် တမင် အန်ထုတ်သော်လည်း ရှိဇဟ်မပျက်ချေ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၈။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အနည်းငယ်မျှ အန်ဘာတ်ထွက်လာပြီး နောက်မှ တဖန် အလိုအလျောက်လည်ချောင်းတွင်းသို့ပြန်ဝင်သွားသောအခါရှိဇဟ်မပျက်၊ သို့သော် အကယ်၍ တမင်ပြန်မျိုလျှင် ပျက်သွား၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၈။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ကျောက်စရစ်ခဲကိုဖြစ်စေ၊ သံတိုသံစ စသည်ကို ဖြစ်စေ၊ သို့မဟုတ် လူတို့စားလေ့စားထမရှိသောပစ္စည်းဝတ္ထုတစ်ခုခုကိုဖြစ်စေ၊ ဆေးဝါး များ၌ သုံးလေ့သုံးထမရှိသောပစ္စည်းကိုဖြစ်စေ စားမိလျှင် ရှိဇဟ်ပျက်၍ ကသွာထိုက်၏၊ သို့ရာတွင် ၎င်းအပေါ်၌ ကတ်ဖွာရဟ် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ လူတို့စားသောက် လေ့ရှိသောအရာတစ်ခုခုကိုသော်လည်းကောင်း၊ စားသောက်လေ့တော့မရှိ၊ သို့သော် ဆေးဝါးအဖြစ် ထည့်စားသုံးလေ့ရှိသောအရာတစ်ခုခုကိုသော်လည်းကောင်း စားမိလျှင် ရှိဇဟ်ပျက်သွား၏၊ ထိုအခါ ကသွာရော ကတ်ဖွာရဟ်ပါ နှစ်ခုစလုံးပြုလုပ်ရန် ဝါဂျစ်ဗ် ဖြစ်၏။ ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၄။

၁၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားနှင့် မေထုံ သံဝါသ မှီဝဲ ခြင်းပြုလုပ်လျှင် ရှိဇဟ်ပျက်သွား၏၊ ၎င်းအစား ကသွာထားရမည့်အပြင် ကတ်ဖွာရဟ် လည်းထိုက်သည်၊ သုက်ရည်ထွက်လာသည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ ယောကျ်ား အင်္ဂါ ဇာတ် ပန်းငုံ အထက်ထိဝင်သွားလျှင် ရှိဇဟ်ပျက်သွား၏၊ ထိုအခါ ၎င်းအစား ကသွာနှင့် ကတ်ဖွာရဟ် နှစ်မျိုးစလုံး ဝါဂျစ်ဗ်ဖြစ်သွားလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

၁၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားက နောက်လမ်း၌ သွား လာမိခဲ့သော်ထိုအခါလည်း ပန်းငုံ အထက်ထိဝင်သွားလျှင်ထိုအခါတွင်လည်း ယောကျ်ား ရော မိန်းမပါ နှစ်ဦးစလုံး၏ရှိဇဟ်ပျက်၏၊ ကသွာရောကတ်ဖွာရဟ်ပါ ဝါဂျစ်ဗ်ထိုက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၀။

၂၀။ မတ်စ်အလဟ်ပြဿနာ။ ရှိဇဟ်ကို ဖျက်လိုက်ခြင်းဖြင့် ကတ်ဖွာရဟ်ထိုက် လာခြင်းကား ရမ်သွာန်လ၌ဖျက်မှသာဖြစ်၏၊ ရမ်သွာန်လမှတစ်ပါး အခြားသောရှိဇဟ်ကို အကယ်၍ ရမသွာန်လ၏ ကသွာဖြစ်သော်ငြားလည်း အဘယ်နည်းနှင့်မဆို ဖျက်လိုက်စေ ကာမူ၊ ကတ်ဖွာရဟ်ဝါဂျစ်ဗ်မဟုတ်ချေ၊ ကသွာသာထိုက်၏၊ အကယ်၍ ရှိဇဟ်နိယတ်ကို ညဉ့်ကမပြုခြင်းဖြင့်သော်လည်းကောင်း၊ သို့မဟုတ် ရှိဇဟ်ဖျက်လိုက်၍ ၎င်းဖျက်သည့်နေ့ မှာဘဲမမွတာရသိသွေးဆင်းလာခြင်းဖြင့်သော်လည်းကောင်းထိုဖျက်ခြင်းဖြင့်ကတ်ဖွာရဟ် ဝါဂျစ်ဗ်မဟုတ်ချေ။ ကိုဒူရီကျမ်း စာမျက်နှာ-၄၆။

၂၁။ မတ်စ်အလဟ်ပြဿနာ။ ရှိဇဟ်အား၍ နှာရှူသည်ဖြစ်စေ၊ နား၌ဆီထည့် သည်ဖြစ်စေ၊ သောက်ရမည့်ဆေးကိုမသောက်ဘဲ ဝမ်းနုတ်ဆေးစားသည်ဖြစ်စေ ထိုအခါ လည်း ရှိဇဟ်ပျက်၏၊ သို့ရာတွင် ကသွာတစ်ခုတည်းသာလျှင် ဝါဂျစ်ဗ်ဖြစ်၏၊ ကတ်ဖွာရဟ် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ နားတွင်းသို့ ရေထည့်လျှင် ရှိဇဟ်မပျက်ချေ။

ဂျောင်ဟရာ်နိုင်ယေ့ရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၅။

၂၂။ မတ်စ်အလဟ်ပြဿနာ။ ရှိဇဟ်ထားစဉ် အင်္ဂါဇာတ်၌ ဆေးဝါး ထည့်ခြင်း သို့မဟုတ် ဆီ, အစရှိသောပစ္စည်းတစ်ခုခုကိုထည့်ခြင်းမပြုသင့်၊ အကယ်၍ ထည့်မိသော် ရှိဇဟ်ပျက်၏၊ ကသ္ဘာဝ ဂါဂျစ်မိဖြစ်၏၊ ကတ်ဖွာရဟ်ဝ ဂါဂျစ်ဗ်မဟုတ်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၅။

**မှတ်ချက်။** ဤအမိန့်သည် မိန်းမများ အဖို့သာ ဖြစ်၏၊ ယောကျ်ားများမှာ အင်္ဂါဇာတ်ထဲသို့ ဆီ, အစရှိသည်တို့ကိုထည့်လျှင် ရှိဇဟ်မပျက်ချေ၊ သေးအိမ့်ထဲသို့ ရောက်သွားလျှင် ပျက်၏။

၂၃။ မတ်စ်အလဟ်ပြဿနာ။ တစ်စုံတစ်ခုသော အကြောင်းဖြင့် ဝမ်းဆွဲက မိန်းမအင်္ဂါဇာတ်၌ လက်ညှိုးထိုးသည်ဖြစ်စေ၊ သို့မဟုတ် ကိုယ်တိုင် မိမိလက်ညှိုးကို ထိုးသည်ဖြစ်စေ၊ လက်ညှိုးအကုန်ဖြစ်စေ၊အနည်းငယ်မျှဖြစ်စေ ထိုး၍ နှုတ်ပြီးနောက် ပြန်ထိုးလျှင် ရှိဇဟ်ပျက်သွား၏၊ သို့သော် ကတ်ဖွာရဟ်ဝ ဂါဂျစ်ဗ်မဟုတ်ပေ၊ နှုတ်ပြီးနောက် ပြန်မထိုးလျှင် ရှိဇဟ်မပျက်ပေ၊ အကယ်၍ မထိုးမီအလှုပ်ကပင် ရေစသည်တို့ဖြင့် လက်ညှိုးစိုစွတ်နေလျှင် ထိုအခါ ပထမအကြိမ်ထိုးလိုက်ခြင်းဖြင့်ပင် ရှိဇဟ်ပျက်သွားလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၉။

၂၄။ မတ်စ်အလဟ်ပြဿနာ။ ပါးစပ်ကသွေးထွက်လာ၍ တံတွေးနှင့်ရောနှော ပြီး မျိုချလိုက်လျှင် ရှိဇဟ်ပျက်သွား၏၊ အကယ်၍ သွေးက တံတွေးထက် နည်း၍ ထိုသို့ မျိုချလိုက်သောအခါ သွေးအရသာကို လည်ချောင်းထဲ၌ မသိရသော် ထိုအခါ ရှိဇဟ် မပျက်ချေ။ ဖွတာဝါကာသ္မီခါန်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၈။

၂၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လျှာဖြင့် ပစ္စည်းတစ်ခုခုကိုမြည်း၍ထွေး ပစ်လိုက်လျှင် ရှိဇဟ်မပျက်ချေ၊ သို့ရာတွင် အရေးအကြောင်းမကြီးဘဲ ဤကဲ့သို့ ပြုလုပ်ခြင်း မတ်ကရူးဟ်ဖြစ်၏။ ဟုတ်ပါ၏၊ အကယ်၍ တစ်ဦးတစ်ယောက်သောမိန်းမ၏ ခင်ပွန်းလင် သည် စိတ်ခက်ထန်၍ ဟင်းလျာများ၌ ဆားပေါ့ခြင်း-လေးခြင်းကြောင့် စိတ်ဆိုးမည်ကို စိုးရိမ်ရသော် ၎င်းသည် ဆားမြည်းခြင်းထိုက်၏၊ မတ်ကရူးဟ် မဟုတ်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၂။

၂၆။ မတ်စ်အလဟ်ပြဿနာ။ မိမိပါးစပ်ဖြင့်ဝါး၍ ကလေးမွေးငယ်ကို ဝါး ဖတ်ကျွေးခြင်း မတ်ကရူးဟ်ဖြစ်၏၊ အကယ်၍ ဤကဲ့သို့ မပြုလျှင်မဖြစ်ဘဲ အခက်ကြုံသော အခါမျိုးတွင်မူ ဝါးပြီးကျွေးခြင်းလည်း မတ်ကရူးဟ်မဟုတ်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၂။

၂၇။ မတ်စ်အလဟ်ပြဿနာ။ မီးသွေးကိုဝါးလျက် သွားတိုက်ခြင်းနှင့် သွား ပွတ်ဆေးဖြင့် သွားတိုက်ခြင်း မတ်ကရူးဟ်ဖြစ်၏၊ အကယ်၍ တိုက်ပွတ်နေစဉ် အနည်း ငယ်လည်ချောင်းထဲသို့ ဝင်သွားလျှင် ရှိဇဟ်ပျက်၏။

တံပူဖြင့်သွားတိုက်ခြင်း အစိုဖြစ်စေ၊အခြောက်ဖြစ်စေပိုင်၏၊ အကယ်၍ တမာရိုး အစိုဖြင့် သွားတိုက်ရာ ခါးသက်သက်အရသာ လျှာပေါ်တွင် တွေ့ထိ သိရှိရသော်လည်း မတ်က်ရူးဟ် မဖြစ်ချေ။

မရာကင်လ်ဖလားဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၈။

၂၈။ မတ်စ်အလဟ် ပြဿနာ။ မေ့မောနေလောက်အောင် အိပ်ပျော်နေသော အကြင် မိန်းမတစ်ယောက်ကိုဖြစ်စေ၊ သတိလစ်ဟင်းတွေဝေနေသော အကြင် မိန်းမတစ် ယောက်ကိုဖြစ်စေ တစ်ဦးတစ်ယောက်သောသူက မေထုံပြုလျှင် ထိုအခါ နှစ်ဦးသောသူ၏ ရိုဇဟ်သည် ပျက်သွား၍ ကဿာထားရန်သာလျှင် ဝါဂျစ်ဗ်ထိုက်၏၊ ကတ်ဖွာရဟ်မှာ ဝါဂျစ်ဗ်မဟုတ်ချေ၊ ယောကျ်ားအပေါ်၌ ကတ်ဖွာရဟ်လည်း ဝါဂျစ်ဗ်ထိုက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၃။

၂၉။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် တစ်စုံတစ်ခု သော အရာကိုမေ့လျော့ပြီးစားလိုက်၍ ယခုငါဖြင့် ရိုဇဟ်ပျက်သွားလေပြီဟုအထင်ရောက် ပြီး တမင်တကာ အခြားပစ္စည်းတစ်ခုခုကိုစားသောက်ပြန်သော် ထိုအခါ ရိုဇဟ်ပျက်သွား ၏၊ ကဿာထားရန်သာ ဝါဂျစ်ဗ်ဖြစ်၏၊ ကတ်ဖွာရဟ်ဝါဂျစ်ဗ်မဟုတ်ချေ။

နူရုလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၁၄၅။

၃၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်သောသူသည် အန် အော့၍ ယခုငါဖြင့် ရိုဇဟ်ပျက်လေပြီဟု အထင်ရောက်ပြီး တမင်တကာ တဖန် ထပ်၍ စားသောက်ပြီး ရိုဇဟ်ကို ဖျက်လိုက်သော် ထိုအခါလည်း ကဿာထားရန်သာ ဝါဂျစ်ဗ် ဖြစ်၍ ကတ်ဖွာရဟ်ဝါဂျစ်ဗ်မဟုတ်ချေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၄။

၃၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူသည် စွရ်မာသားခြင်းဖြင့်ဖြစ်စေ၊ သို့မဟုတ် သွေးကြောကို ဖေါက်၍ သွေးစုတ်ခြင်းဖြင့်ဖြစ်စေ ဆီလိမ်းခြင်းထည့်ခြင်းဖြစ်စေ ရိုဇဟ်ပျက်သွားပြီဟုအထင်ရောက်ပြီး တမင်တကာ နောက် ထပ်ပြီး တစ်စုံတစ်ခုသောအရာကို စားလိုက်သော် ထိုအခါ ရိုဇဟ်ပျက်သွား၍ ကဿာနှင့် ကတ်ဖွာရဟ် နှစ်မျိုးစလုံးထိုက်၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၄။

၃၂။ မတ်စ်အလဟ် ပြဿနာ။ ရမဿာန်လ၌ အကြောင်း တစ်ခုခု ဆုံဆည်း ကြုံကြိုက်လာသဖြင့် တစ်ဦးတစ်ယောက်သောသူ၏ ရိုဇဟ်ပျက်သွားပါမူ ရိုဇဟ် ပျက်ပြီး နောက်လည်း နေ့ပိုင်း၌တစ်စုံတစ်ရာစားသောက်ခြင်းမအပ်သည့်အပြင် တစ်နေကုန် ရိုဇဟ် ရှိသူကဲ့သို့ပင် နေထိုင်ခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၀၄။

၃၃။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် ရမဿာန်လ၌ ရိုဇဟ်ထားရန် နီယတ်မပြုဘဲ စားခါသောက်ခါနေ၏၊ ထိုအခါ၎င်းသူ့အပေါ်၌ ကတ်ဖွာ ရဟ် ဝါဂျစ်ဗ် မဟုတ်ပေ၊ ကတ်ဖွာရဟ်ပေးရန် ဝါဂျစ်ဗ် ထိုက်လာခြင်းမှာ နီယတ်ပြုပြီး ဖျက်လိုက်ခြင်းသာ ဖြစ်၏။

# စဲဟ်ရီခေါ် နံနက်နေမထွက်သေးမီ ၁-နာရီခန့်မျှအချိန်၌ ပေါ်ထွက်လာသောရောင်ဖြူမထွက်လာသေးမီအလျင် (ဝါ) ထမင်းစားသောက်ခြင်းနှင့်အစ်မ်တွာရ်ခေါ် ညနေနေဝင်လျှင်ဝင်ခြင်း (ဝါဖြေ) စားသောက်ခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ စဲဟ်ရီစားသောက်ခြင်း စွန္နတ်ဖြစ်၏၊ အကယ်၍ မဆာမွတ်သော်လည်း ထမင်းမစားဘဲနေသော်လည်း အနည်းဆုံး စွန်ပလွံခြောက်နှစ်လုံး သုံးလုံးလောက်ကိုဖြစ်စေစားရမည်၊ သို့မဟုတ်အခြားတစ်စုံတစ်ခုသောအဟာရကိုအနည်း ငယ်မျှလောက် စားသုံးခြင်းပြုရမည်၊ ဤသို့မှ မဟုတ်လျှင် နောက်ဆုံး ရေအနည်းငယ် ဖြစ်စေ သောက်လိုက်ရမည်။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မသည် စဲဟ်ရီမစားဘဲ ထ၍ ကွမ်းတစ်ရာဖြစ်စေ စားလိုက်သော် စဲဟ်ရီစားသောအကျိုးကိုရ၏။ နေစာအီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၃။ မတ်စ်အလဟ်ပြဿနာ။ စဲဟ်ရီစားသောက်ခြင်း၌ တတ်နိုင်သမျှ ဆိုင်းငံ့၍ စားခြင်းကောင်း၏၊ သို့သော် ရိုဇဟ် ရမည်-မရမည်ကို မဝေခွဲနိုင်ခြင်း ဖြစ်လာလောက် အောင် ရောင်နီလာသည့်အချိန်ထိ ဆိုင်းငံ့ပြီး ကြာရှည်စွာမနေရ။ ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၅။

၄။ မတ်စ်အလဟ်ပြဿနာ။ စဲဟ်ရီကို မြန်မြန်စားလိုက်ပြီးနောက် ကွမ်း-ဆေး လက်ဖက်ရည်တို့ကို သောက်စားနေ၍ ကြာရှည်စွာနေပြီး နံနက် ရောင်ဖြူပေါ်ထွက်လာလု နီး ရှိသောအခါမှ နွတ်ကျင်းပစ်လိုက်လျှင်ထိုအခါလည်း ကြာရှည်စွာ ဆိုင်းငံ့၍ စား သောက်သောအကျိုးကိုရရှိအံ့။ ၎င်း၏အမိန့်မှာ ကြာရှည်စွာဆိုင်းငံ့ပြီး စားသောက်သော် သူနှင့် အတူတူပင်ဖြစ်လေသည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၀၅။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ညဉ့်ကို စဲဟ်ရီစားရန် အိပ်ရာကမနိုး ကြားဘဲ အားလုံးအိပ်ပျော်သွားကြသောအခါ စဲဟ်ရီမစားလိုက်ရသော်ငြားလည်း ရိုဇဟ် ကို မဖျက်ဘဲနှင့် ထားလိုက်ရမည်၊ စဲဟ်ရီ မစားရသဖြင့် ရိုဇဟ်ကို လွှတ်လိုက်ခြင်းသည် အလွန်သတ္တိကြောင်သဖြင့် အပြစ်လည်းကြီးလေသည်။

၆။ မတ်စ်အလဟ်ပြဿနာ။ နမာဇ် အကြောင်းနှင့် သက်ဆိုင်သော အခန်း ပါရှိသော(စွဗ်ဟေ့ဖွဂ်ရ်)အချိန် မရောက်သမျှ ကာလပတ်လုံး စဲဟ်ရီစားသောက်ထိုက် လေသည်၊ ကျရောက်ပြီးမှ စားသောက်ခြင်း မပိုင်ချေ။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၇။

၇။ မတ်စ်အလက် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် အိပ်ပျော်သွားသဖြင့် အတန်ကြာမှ မျက်စိဖွင့်ကြည့်လိုက်သောအခါ အချိန်ရှိသေးသည်ဟုထင်ပြီး စဲဟ်ရီစားလိုက်၏၊ စားသောက်ပြီးမှ အချိန်ကုန်လွန်ကြောင်း စဲဟ်ရီစားမိကြောင်းသိရလျှင် ထိုအခါ ရိုဇာဟ်မရပေ၊ ၎င်းအစားကသွာထားရမည်၊ ကတ်ဖွာရဟ်မထိုက်၊ သို့သော်လည်း အခြားရိုဇာဟ်ထားသူများကဲ့သို့ပင် တစ်နေ့ကုန် ဘာမျှမစားသောက်ဘဲနေရမည်။

ထိုနည်းအတူ နေဝင်ပြီဟုထင်မှတ်ပြီးလျှင် ဝါဖြေလိုက်ပြီးနောက်မှနေမဝင်သေးဘဲ ထွက်လာပြန်သည်ကို မြင်ရလျှင် ထိုအခါလည်း ရိုဇာဟ်ပျက်သွား၍ ၎င်းအစား ကသွာထားရမည်၊ ကတ်ဖွာရဟ်ဝါဂျစ်ဗ်မဟုတ်၊ သို့သော် ယခုနေမဝင်သေးမီ ကာလပတ်လုံး ဘာကိုမျှ စားသောက်ခြင်းမထိုက်။ ဟေဒါယာဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၅။

၈။ မတ်စ်အလဟ် ပြဿနာ။ နံနက် (စွတ်ဗဟေစွာဒစ်က်)အချိန် ဖြစ်, မဖြစ်၌ မဝေခွဲနိုင်ဘဲ ချိန်ဆနေခြင်းဖြင့် ကြာမြင့်သွားသော် ထိုအခါစားသောက်ခြင်း မတ်က်ရူးဟ် ဖြစ်၏၊ ထိုကဲ့သို့သော အချိန်၌ တစ်စုံတစ်ခုသောအရာကို အနည်းငယ်မျှ စားမိလျှင်သော်လည်းကောင်း၊ သောက်မိလျှင်သော်လည်းကောင်း ထိုအခါ မကောင်းဖြစ်လေသည်၊ သာမက အပြစ်လည်းဖြစ်လေသည်၊ ထို့နောက်နံနက်ဖြစ်ပြီးကြောင်းသိပြန်သော် ထိုအခါ ၎င်းအစား ကသွာထားလိုက်ရမည်၊ အကယ်၍ အချိန် ကျ,မကျ၌ မဝေခွဲနိုင်ဘဲနေလျှင် ၎င်းအစား ကသွာထားရန်ဝါဂျစ်ဗ်တော့မဟုတ်ပေ၊ သို့သော် ထားလိုက်လျှင် သာ၍ သင့်လျော်ပေသည်။ ဟေဒါယာဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၀၅၊ ၂၀၇။

၉။ မတ်စ်အလဟ် ပြဿနာ။ မွတ်စ်တဟာဗ်ဖြစ်သည်မှာ ကေန်မှုချ နေဝင်လျှင် ဝင်ခြင်း လျင်မြန်စွာ ရိုဇာဟ်ဝါလွှတ်ရမည်၊ နေဝင်ပြီးကြာရှည်စွာ ဆိုင်းငံ့၍ ဝါဖြေခြင်းကား မတ်က်ရူးဟ်ဖြစ်လေသည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တိမ်ကြေးလကြေး ရှိသည့်နေ့ကို အနည်းငယ်မျှ ဆိုင်းငံ့၍ ဝါလွှတ်ရမည်၊ နေဝင်ကြောင်း အသေအချာသိမှိယုံကြည်ပြီး နောက်မှ ဝါဖြေရမည်၊ နေဝင်ကြောင်း မိမိ၏ စိတ်နှလုံးက သက်သေမခံသမျှ ကာလပတ်လုံး နာရီကို အားမထားရ၊ အဘယ့်ကြောင့်ဆိုသော် နာရီသည် တစ်လုံးနှင့်တစ်လုံးမကိုက်ညီဘဲ အချိန်ကွဲလွဲကြလေသည်၊ သာမက တစ်ဦးတစ်ယောက်သောသူက(အသာန်)ဆိုလျှင်လည်း အချိန်ကျ,မကျ မဝေခွဲနိုင်လျှင် ရုတ်တရက် ရိုဇာဟ်ကို မလွှတ်သင့်ပေ။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၇။

၁၁။ မတ်စ်အလတ် ပြဿနာ။ စွန်ပလွံသီးခြောက်နှင့်ရိုဇာဟ်လွှတ်လျှင် သာ၍ကောင်း၏၊ သို့မဟုတ် အခြားချိုမြသောပစ္စည်းတစ်ခုခုနှင့်လွှတ်ရမည်၊ ဤသို့မှမဟုတ်လျှင် ရေနှင့်ဘဲ လွှတ်လိုက်ရမည်၊ အချို့သော ယောကျ်ားမိန်းမတို့သည် ဆားဖြင့် ရိုဇာဟ်လွှတ်ခြင်းကို အကျိုးရသည်ဟု ထင်မှတ်ယုံကြည် စွဲယူပြီးလျှင် ဆားဖြင့် လွှတ်ကြ၏၊ ဤကဲ့သို့ အယူထားခြင်းသည် မှား၏။ အဘူဒါဝူးဒ်နှင့် တင်ရ်မေဿီကျမ်း။

၁၂။ မတ်စ်အလဟ်ပြဿနာ။ နေဝင်မဝင်၌ မဝေခွဲနိုင်သမျှ ကာလပတ်လုံး ရှိဇဟ်ဝါဖြေခြင်းငှာ မထိုက်ချေ။ ယောဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၀၅။

# ကတ်ဖွာရဟ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရမဿွာန်လမြတ်၏ ရှိဇဟ်ကို ဖျက်လိုက်ခြင်းဖြင့် ထိုက်လာသောကတ်ဖွာရဟ်ကား နှစ်လတိတိဆက်ခါ ရှိဇဟ်ထားရခြင်းဖြစ်၏၊ အနည်းငယ်မျှစီ ထားခြင်းမထိုက်၊ အကယ်၍ အကြောင်းတစ်စုံတစ်ခုကြောင့် ကြားရက်၌ မထားမိတဲ့ ကျန်ခဲ့လျှင် ယခုတဖန်ပြန်၍ နှစ်လတိတိ ရှိဇဟ်ထားရမည်၊ ဟုတ်ပါ၏၊ ဓမ္မတာရာသီလာ နေသဖြင့် ပျက်ကွက်သောရှိဇဟ်မှာခွင့်လွှတ်၏၊ သာမကထိုကဲ့သို့ပျက်ခြင်းဖြင့်ကတ်ဖွာရဟ်၌ မည်သို့မှ မယုတ်လျော့ပေ၊ သို့ရာတွင် သန့်ရှင်းစင်ကြယ်သောအခါ ချက်ချင်းဆက်လက်ပြီး ရှိဇဟ်ထားစပြု၍ ရက်ပေါင်း ၆၀-အပြည့် ဖြည့်ရမည်။
ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၅၀။

၂။ မတ်စ်အလဟ်ပြဿနာ။ မွေးဖွားသန့်စင်နေသောကြောင့် ကြားရက်တို့၌ ရှိဇဟ် ပျက်ကွက်ခဲ့၍ ကတ်ဖွာရဟ်ရှိဇဟ်အကုန်ကို ရက်ဆက် မထားနိုင်သော် ထိုအခါ ကတ်ဖွာရဟ် မမှန်တော့သဖြင့် အားလုံးကို ပြန်ထားရမည်။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၀။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ကိုက်ခဲအောင့်အင်းသောရောဂါစွဲကပ် လာသဖြင့် ကြား၌ ကတ်ဖွာရဟ်ရှိဇဟ်ကို ရက်ဆက်မှန်အောင်မထားနိုင်၍ အနည်းငယ်မျှ ပျက်သွားသော် ထိုအခါလည်း ကျန်းမာလာလျှင်လာခြင်း ပြန်ထားစပြုရမည်။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၀။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကတ်ဖွာရဟ် ရှိဇဟ် ထားနေခိုက် ရမဿွာန်လကျရောက်လာသော် ထိုအခါလည်း ကတ်ဖွာရဟ်မပိုင်ဖြစ်သွား၏။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၀။

၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် ရှိဇဟ် စောင့်ထိန်းရန်အားအင်နည်းပါး၍မစောင့်ထိန်းနိုင်လျှင် နံနက်နှင့်ညဝမ်းပြည့်ဝအောင် ဆင်းရဲသောသူပေါင်း ၆၀-တို့ကို ထမင်းကျွေးရမည်၊ ၎င်းတို့ကောင်းစွာ စားနိုင်သမျှ စားစေရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၅၀။

၆။ မတ်စ်အလဟ်ပြဿနာ။ ထို'မစ္စကီန်' သူဆင်းရဲများ၌လည်း အကယ်၍ အချို့က လုံးလုံးငယ်ရွယ်သူများဖြစ်ကြ၍ ကလေးအရွယ်မျှသာရှိလျှင်မပိုင်ချေ၊ ထိုကလေးများအစား အခြားမစ္စကီန် အရွယ်ရောက်ပြီးသောသူများကို တဖန်ကျွေးရမည်။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၀၃။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဂျုံမုန့်ဖြစ်လျှင် ဟင်းမပါဘဲနှင့် မုန့်ချည့်ဘဲကျွေးလျှင်လည်းပိုင်၏၊ အကယ်၍ မုယောစပါးမုန့်၊ဆပ်မုန့်၊ ပြောင်းမုန့်ဖြစ်လျှင် ၎င်းတို့နှင့်စားသောက်ရန် အနည်းဆုံး ပဲဟင်း စသည်တို့ကိုပါ ပေးရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀၃။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍အစားအသောက်မကျွေးဘဲ၎င်းသူဆင်းရဲ ၆၀-တို့ကို ဆန်-စပါး-ဂျုံ အစိမ်းလိုက်ပေးလိုက်လျှင်လည်းပိုင်၏၊ ယင်းသို့ပေးသောအခါ တစ်ယောက်တစ်ယောက်ကို(ဆဒကဟ်ဖွစ်တ်ရ်)၌ ပေးရသမျှခန့် ပေးရမည်။ (အဝ်န်ရှာ အလ္လာဟ် ဇကာတ် အခန်း၌ ဖွစ်တ်ရဟ်အကြောင်းကို ဖတ်ရှုကြရဦးမည်။)

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၀။

၉။ မတ်စ်အလဟ် ပြဿနာ။ ဂျုံ-ဆန်-စပါး အစိမ်းလိုက်ကိုမပေးဘဲ ၎င်းတို့၏ ကျသင့်သောအဖိုးကို ပေးလိုက်လျှင်လည်း ပိုင်၏။

ဒွရ်ရေမွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၅၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသော သူက တစ်ဦး တစ်ယောက်အား အသင့်သည် ကျွန်ုပ်ဘက်က ကတ်ဖွာရဟ်ကို တာဝန်ချလိုက်ပါ 'မစ္စကီန်' သူဆင်းရဲ ၆၀-တို့ကို ကျွေးမွေးလိုက်ပါဟူ၍ပြောဆိုလိုက်သဖြင့် ထိုသူက ၎င်းသူဘက်မှ ကျွေးမွေးလိုက်ပြီး တာဝန်ချလိုက်လျှင်ဖြစ်စေ၊ သို့မဟုတ် ပစ္စည်းအစိမ်းကိုဘဲ ပေးလိုက်သည်ဖြစ်စေ ပိုင်၏၊ မစေခိုင်း မပြောဆိုဘဲနှင့် တစ်ဦး တစ်ယောက်က ပေးလိုက်လျှင် ထိုအခါ မပိုင်သဖြင့် ကတ်ဖွာရဟ် မပိုင်ချေ။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ ၇၀၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မစ္စကီန် သူဆင်းရဲတစ်ယောက်ထည်း ကိုဘဲ ရက်ပေါင်း ၆၀-အထိ နံနက်နှင့်ည ကျွေးသွားသည်ဖြစ်စေ၊ သို့မဟုတ် ရက်ပေါင်း ၆၀-အထိ ပစ္စည်း အစိမ်းကို ဖြစ်စေ၊ ၎င်း၏တန်ဘိုးကို ဖြစ်စေ ပေးလျှင် ကတ်ဖွာရဟ် ပိုင်လေသည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၅၇။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ရက်ပေါင်း ၆၀-လုံး တစ်ဆက်ထည်း ကျွေး မသွားနိုင်ဘဲ စပ်ကြား၌ အနည်းငယ်မျှသောရက်လွတ်သွားသော် ထိုအခါလည်း ဘာမျှ ကိစ္စမရှိပေ၊ ပိုင်၏။ မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၂၀၆။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ရက်ပေါင်း ၆၀-အတွက် ဂျုံ-စပါး အစိမ်းကို အတွက်ကျ ရေတွက်၍ တစ်နေ့ထည်း တစ်ယောက်ထည်းသော သူဆင်းရဲကို ပေးလိုက်ခြင်း မထိုက်ပေ။

ဤနည်းပင် တစ်ယောက်ထည်းသော သူဆင်းရဲကို တစ်ရက်ထည်း၌ အကယ်၍ အကြိမ် ၆၀-ပြု၍ပေးလျှင် ထိုအခါ၌လည်း တစ်ရက်အတွက်သာဖြစ်သွား၍ ၅၉-ယောက် သော မစ္စကီန်တို့ကို ပြန်ပေးရမည်၊ တန်ဘိုးကိုပေးခြင်း၌လည်း ဤအမိန့်အတိုင်းဖြစ်၏၊ ၎င်း၏အလိုကား တစ်ရက်ထည်းနှင့် တစ်ယောက်ထည်းသောသူဆင်းရဲကို ရိုဇဟ်တစ်ရက်၏ အစားထက် ပိုမိုပေးခြင်း မထိုက်ပေ။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၁။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။မစ္စကီနိသူဆင်းရဲတစ်ဦးဦးကို(ဆွဒကဟ်ဖွစ်တ်ရ်) ပေးရမည်ခန့်ထက် နည်းပြီးပေးလျှင် ကတ်ဖွာရဟ်ပိုင်သည်မဟုတ်။

ဘဲဟ်ရွရ်ရာအစ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၀။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။ရမသွာန် တစ်လထဲ၌ ရှိဇဟ်နှစ်ရက်သုံးရက်ကို ဖျက်လိုက်ခြင်းဖြင့် ကတ်ဖွာရဟ်တစ်ခုတည်းသာပေးရန်ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ဤရှိဇဟ် နှစ်ခုသည် ရမသွာန်တစ်လတည်းကမဟုတ်လျှင် တခြားစီ ကတ်ဖွာရဟ်ပေးရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

**မှတ်ချက်**– အကယ်၍ တစ်ဦးသောသူက သံဝါသမှု သို့မဟုတ် အခြားကတ်ဖွာရဟ်ထိုက် စေသောအချက်ကိုပြု၍ ကတ်ဖွာရဟ်ပေးပြီး တဖန်ထပ်၍ ကျူးလွန်သော် ရမသွာန်တစ်လတည်းမှာပင်ဖြစ်စေ၊ထပ်၍ကတ်ဖွာရဟ်ပေးရမည်၊ ဆိုသော် ပထမကျူးလွန်ခဲ့သော ကတ်ဖွာရဟ် မပေးရသေးမီ ကျူးလွန်ပြန်ပါက ရမသွာန်နှစ်ခုကဖြစ်စေ၊ ကတ်ဖွာရဟ်တစ်ခုတည်းဖြင့်လုံလောက်၏၊ ၎င်း အကယ်၍ ကတ်ဖွာရဟ်မှာ သံဝါသမှုကြောင့်ဖြစ်သော်ရမသွာန်တစ်လနှင့် တစ်လမရောရ၊ သီးခြားကတ်ဖွာရဟ် ပေးဆောင်ရမည်။

# ရှိဇဟ်ဥပုသ် ဖျက်ပိုင်သည့် အရာများအကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ရှိဇဟ်ကိုမဖျက်လိုက်လျှင်အသက်ကို ဥပဒ်ပေးလောက်အောင်ဖြစ်သောရောဂါတစ်ခုခုရုတ်တရက်စွဲကပ်လာမည်ဖြစ်စေ၊ အဖျား တိုးတက်လာမည်ဖြစ်စေ ထိုအခါရှိဇဟ်ကို ဖျက်လိုက်ရန်ထိုက်၏၊ ဥပမာ.... ရုတ်တရက်ဝမ်း ထဲကမခံနိုင်လောက်အောင် မေ့သွားလောက်အောင် လေဆိုးလာသည်ဖြစ်စေ သို့မဟုတ် မြွေကိုက်သည်ဖြစ်စေ ထိုအခါဆေးရှာသောက်လိုက်ပြီး ရှိဇဟ်ကိုလည်းဖျက်ထိုက်၏၊ ဤသို့ပင် ရေငတ်မွတ်ခြင်း၊ အစာငတ်ခြင်းဖြင့် သေမည်ကိုစိုးရိမ်ရလျှင်ဖျက်ပိုင်၏။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၁။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ကိုယ်ဝန်ရှိသောမိန်းမမှာ မိမိအသက်ကိုဖြစ်စေ၊ ကလေး၏အသက်ကိုဖြစ်စေ အကယ်၍ စိုးရိမ်ရလောက်အောင် ဥပဒ်တစ်ခုခုထိုက်လာသော အခါ၌လည်း ရှိဇဟ်ကိုဖျက်လိုက်ခြင်းပိုင်၏။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၂။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ ထမင်းချက်ပြုတ်နေရခြင်းဖြင့် မခံနိုင်လောက် အောင် အင်မတန်မှရေငတ်လာပြီး အသက်ကိုဥပဒ်ပေးမည်ကို စိုးရိမ်ရသောအခါ ရှိဇဟ် ကိုဖျက်လိုက်ခြင်းပိုင်၏၊ သို့သော် ထိုသူသည်ယခုကဲ့သို့ဖြစ်လာလောက်အောင် အလုပ်များ ကို တမင်တကာသိပါလျက် လုပ်ကိုင်လျှင် ထိုအခါအပြစ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၉။

မှတ်ချက်။ ။သို့သော် ရှိဇဟ်ကို ၎င်းအခါ၌လည်း ဖျက်ထိုက်၏။

# ရိုဇဟ်များ မ ထား ပိုင် သော အ ကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။ရိုဇဟ်ထားလျှင်ရောဂါအတွက်ဥပဒ်ရောက်လာမည်ဖြစ်သော်လည်းကောင်း၊ ရောဂါတိုးတက်လာမည်ဖြစ်သော်လည်းကောင်း၊ သို့မဟုတ် ကာလကြာမှ ကောင်းမွန်လာမည်ဖြစ်သော်လည်းကောင်း၊ သို့မဟုတ် အသက်သေဆုံးမည်ကိုစိုးရိမ်ရသော်လည်းကောင်း၊ ထိုအခါ ရိုဇဟ်မထားရ၊ ကျန်းမာလာသောအခါမှကသ္ဓာ အစားဖြည့်ရမည်၊ သို့ရာတွင်မိမိစိတ်ထင်ဖြင့်ယင်းသို့စိုးရိမ်ပြီး ရိုဇဟ်ကိုလွှတ်ခြင်းမသင့်ပေ၊ တတ်ကျွမ်းနားလည်သော ဘာသာရေးလေးစားသူ မွတ်စလင်မ်ဆေးဆရာ, ဆရာဝန်က ရိုဇဟ်ထားလျှင် ဥပဒ်ရောက်မည်ဟုမပြောသမျှကာလပတ်လုံး ထိုရိုဇဟ်ကို မလွှတ်ထိုက်ပေ၊ ၎င်းကပြောမှသာလွှတ်ရမည်။ ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁။ စာမျက်နှာ-၁၅၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ဆေးဆရာနှင့် ဒေါက်တာဆရာဝန်တို့သည် ဘာသာခြားဖြစ်၍သော် လည်းကောင်း၊ ရှရီအတ်တရားတော်ကို စောင့်ထိန်းသူ လေးစားသောသူ မဟုတ်၍သော်လည်းကောင်း၊ ရိုဇဟ်ကိုမစောင့်နှင့်ဟုပြောလျှင် ၎င်းတို့ စကားကိုလက်မခံရ။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၉။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ဆေးဆရာကဘာမျှမပြောဆို၊ သို့ရာတွင်မိမိကိုယ်တိုင် လက်တွေ့အားဖြင့် ရိုဇဟ်ထားလျှင် ဥပဒ်ပေးလိမ့်မည်ဟု တစ်စုံတစ်ခုသော အထိမ်းအမှတ်လက္ခဏာအားဖြင့်သိရသော် ထိုအခါ၌ရိုဇဟ်မထားရ၊ အကယ်၍ ကိုယ်တိုင်လည်း လက်တွေ့အားဖြင့်မသိရ၊ ရောဂါသဘောတရားကိုလည်း မသိလျှင် ထိုအခါ အထင်အား သက်သက်ဖြင့်ယူဆခြင်းကိုအရေးမယူရ၊ အကယ်၍ ဘာသာရေးလေးစားသောဆေးဆရာ၏ ညွှန်ကြားမှုလည်းမရှိ၊ ကိုယ်တိုင်လက်တွေ့လည်းအသိမရှိဘဲ အထင်အားဖြင့်သာ ရမသွာန်လ၏ရိုဇဟ်ကိုဖျက်လိုက်လျှင်ထိုအခါ ကတ်ဖွာရဟ်ပေးရမည်၊ ၎င်းအပြင် အကယ်၍ရိုဇဟ် မထားလျှင် အပြစ်ဖြစ်၏။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ရောဂါမှာ ပျောက်ကင်းသွားသော်လည်း ယခုတိုင်အောင် အားအင်နည်းပါးနေသေးသဖြင့် ရိုဇဟ်ထားလိုက်လျှင် ပြန်ပြီး ရောဂါထလာမည်ကိုစိုးရိမ်ရသော် ထိုအခါတွင်လည်း ရိုဇဟ်မထားခြင်းပိုင်၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၉။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ခရီးသွားနေစဉ်အခိုက်၌လည်း ရိုဇဟ်မထားဘဲ နေပိုင်၏၊ နောက်မှအစားကသ္ဓာကိုထားရမည်၊ ခရီးသွားနေစဉ်ဟူသော အကြောင်းမှာ ဤကျမ်း၏ဒုတိယတွဲ၌ပါရှိသော နမာဇ်၏အကြောင်းတွင်ဖော်ပြပြီးဖြစ်ရာသုံး(မန်ဇင်လ်) ခန့်သောခရီးကိုသွားရန် ရည်ရွယ်ခြင်းကိုဆိုလိုသည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၁။

၆။ မတ်စ်အလတ် ပြဿနာ။ ။ခရီး၌အကယ်၍ ရှိဇဟ်ထားခြင်းအားဖြင့်ဘာမျှ ဒုက္ခမဖြစ်လျှင်ဥပမာ.... မီးရထားစီးသွား၍ ညနေထိအိမ်သို့ပြန်ရောက်လိမ့်မည်ဟု ထင်မှတ်သောအခါဖြစ်စေ၊ သို့မဟုတ် မိမိနှင့်အတူအားလုံးသော သက်သာချောင်ချိမှု တန်ဆာပလာများ ပါရှိလျှင်ဖြစ်စေ၊ ဤသို့သောအချိန်၌ လမ်းခရီး၌လည်း ရှိဇဟ်ဥပုသ် စောင့်ထိန်းခြင်းပြုလျှင် သာ၍ကောင်း၏၊ အကယ်၍ လမ်းခရီး၌မထားဘဲ နောက်မှငင်းအစားကသွာထားလျှင်လည်း အပြစ်မရှိပေ၊ သို့သော် ရမသွာန်လမြတ်ရှိဇဟ်၏ ထွတ်မြတ်သောအကျိုးနှင့် ကင်းမဲ့ခြင်းဖြစ်မည်၊ အကယ်၍ လမ်းခရီး၌ ရှိဇဟ်ထားခြင်းဖြင့် အတိဒုက္ခရောက်ရှိမည်ဖြစ်လျှင် ထိုအခါရှိဇဟ်မထားဘဲနေခြင်းက သာ၍ကောင်း၏။

ရှရိဟ္ဗလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၀။

၇။ မတ်စ်အလတ် ပြဿနာ။ ။ရောဂါတစ်စုံတစ်ခုစွဲကပ်နေ၍မပျောက်ကင်းသေးမီအလျှင်သေဆုံးသွားသည်ဖြစ်စေ၊ သို့မဟုတ်အိမ်သို့မရောက်သေးမီ လမ်းခရီး၌ပင်သေဆုံးသွားသည်ဖြစ်စေ၊ ထိုအခါငင်းနေမကောင်းစဉ်အတွင်းနှင့် ခရီးသွားနေစဉ်အတွင်းမထားခဲ့ရသောရှိဇဟ်များအတွက် နောင်အာခေရတ်၌ ခံရလိမ့်မည်မဟုတ် အဘယ့်ကြောင့်ဟူမူ ထိုသူ၌ကသွာထားရန် အချိန်မရသောကြောင့်ဖြစ်လေသည်။

ရှရိဟ္ဗတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၃။

၈။ မတ်စ်အလတ် ပြဿနာ။ ။နာဖျားနေခြင်းဖြင့် ရှိဇဟ်၁၀-ရက်ခန့်မျှ ပျက်ကွက်ပြီးနောက်၅-ရက်ခန့်ပျောက်ကင်းနေပြန်၏။ သို့သော်လည်းထို၅ရက်ခန့်အတွင်းကသွာမထားဘဲနေ၏၊ ထိုအခါ၅-ရက်တွက်သာ ချမ်းသာရလိမ့်မည်။ ကျန်၅-ရက်တွက် ရှိဇဟ်အစား၊ ကသွာမထားလိုက်သဖြင့် နောင်အာခေရတ်၌ခံရပေလိမ့်မည်၊ ဆယ်ရက်လုံးကျန်းမာပျောက်ကင်းနေပြီး၊ ကသွာမထားလျှင် ဆယ်ရက်လုံးအတွက်ခံရမည်ဖြစ်၏။ ထိုအတွက်ကြောင့် ဤကဲ့သို့အကြောင်းဆိုက်ရောက်လာ၍ ဥစ္စာကြေးငွေ တတ်ကုန်လုံလောက်ရတတ်သော် မသေမီက ထိုခံရမည်ဖြစ်သောရှိဇဟ်နှင့်အမျှ (ဖွစ်ဒ်ယဟ်)ပေးစေရန် မှာကြားပြီး သေဆုံးထိုက်၏ (ဖွစ်ဒ်ယဟ်) အကြောင်း ရှေ့တွင်လာပေမည်။

ရှရိဟ္ဗတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၃။

၉။ မတ်စ်အလတ် ပြဿနာ။ ။ထိုနည်းပင် လမ်းခရီး၌ ရှိဇဟ်ကိုပျက်ကွက်ခဲ့၍ အိမ်သို့ရောက်ပြီးမှ သေဆုံးမှုထိုအခါလည်း အိမ်၌နေသမျှ ရက်အတွက်သာ နောင်အာခေရတ်၌ခံရမည်ဖြစ်၏။ ငင်းအတွက်လည်း ဖွစ်ဒ်ယဟ်ပေးရန် မှာကြားခဲ့ရမည်၊ အကယ်၍ ငင်းထက်ပင်များသော ရှိဇဟ်ပျက်ခဲ့သော် အရေးယူခြင်းမခံရပေ။

ရှရိဟ္ဗလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၂။

၁၀။ မတ်စ်အလတ် ပြဿနာ။ ။အကယ်၍ လမ်းခရီး၌ ၁၅-ရက်မျှတည်းခိုနေထိုင်မည်ဟူသော နီယတ်ရည်ရွယ်ချက်ဖြင့် နေထိုင်သော် ထိုအခါ၌လည်း လမ်းခရီးတွင်

ရိုဇဟ်ကို စွန့်လွှတ်ရန်မထိုက်ပေ။ အဘယ့်ကြောင့်ဆိုသော် ရှရီအတ်တရားတော်၌ ယခု ထိုသူကို ခရီးသည်ဟူ၍မခေါ်နိုင်ပေ။ သို့သော် ၁၅-ရက်ထက် နည်းပြီးနေမည်ဟု ရည် ရွယ်ချက်ပြုလျှင် ရိုဇဟ်မထားဘဲနေခြင်းပိုင်၏။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၄။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။ကိုယ်ဝန်ရှိသောမိန်းမနှင့် (နို့စို့ကလေးကို) နို့တိုက်သောမိန်းမတို့မှာ မိမိအသက်ကိုသော်လည်းကောင်း၊ ကလေး၏အသက်ကိုသော် လည်းကောင်း၊ စိုးရိမ်မကင်းရှိသော် ရိုဇဟ်မထားရ၊ နောက်မှကသွာထားရမည်၊ သို့ရာ တွင် အကယ်၍ မိမိခင်ပွန်းထင်သည်၊ နို့ထိန်းထား၍ ကလေးကိုတိုက်ကျွေးနိုင်လောက် အောင် ကြေးငွေကြွယ်ဝ၍ တိုက်ကျွေးစေလျှင် မိခင်ဖြစ်သူသည်၊ ရိုဇဟ်ကိုမလွှတ်သင့်ပေ သို့ပေမယ့်၊ ၎င်းကလေးသည်အမိဖြစ်သူ၏နို့မှတပါးအခြားနို့ကိုမစို့လျှင်ထိုအခါ၊ အမိ ဖြစ်သူမှာ ရိုဇဟ်မထားလျှင်လည်းပိုင်၏။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။နို့ထိန်းသည်မတစ်ယောက်သည် နို့တိုက်ရန် အငှါးပြုလုပ်နေစဉ်အခိုက် ရမသွာန်လ ကျရောက်လာ၏။ အကယ်၍ ရိုဇဟ်ထားလျှင် ကလေးအသက်ကို အန္တရာယ်ပေးမည်ဟု စိုးရိမ်ရသော် ထိုအခါ နို့ထိန်းသည်မှာလည်း ရိုဇဟ်မထားဘဲနေပိုင်၏။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်မိန်းမတစ်ယောက်သည် ဓမ္မတာရာသီ လာနေ၏ သို့မဟုတ် ကလေးမွေးဖွားနေသဖြင့် သွေးကျဆင်းနေ၏။ ထိုသို့သောအခါ ၎င်းဓမ္မတာရာသီသွေးလာနေခိုက်နှင့် သားဖွား၍ သွေးကျဆင်းနေခိုက် ရက်များအတွင်း ရိုဇဟ်မထားထိုက်ချေ။ ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၇။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ညအချိန်တွင် သန့်ရှင်းသွားလျှင် ထိုအခါ နံနက်တွင် ရိုဇဟ်ကိုမလွှတ်နှင့် အကယ်၍ ညကရေမချိုးလိုက်ရသော်လည်း ရိုဇဟ် ကိုထားလိုက်၍ နံနက်ကျမှရေချိုးရမည်၊ အကယ်၍ နံနက်ရောင်ဖြူထွက်လာပြီးနောက်မှ သန့်ရှင်းသွားလျှင် ယခုသန့်ရှင်းပြီးနောက်မှ ရိုဇဟ်နိယတ်ပြုခြင်းမထိုက်တော့ပေ၊ သို့သော် အစာအဟာရကိုလည်း မစားထိုက်သည်သာမက ရိုဇဟ်ရှိသောသူများကဲ့သို့ပင်နေရမည်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၇။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။ဤကဲ့သို့ပင် တစ်ဦးတစ်ယောက်သောဘာသာ ခြားမိန်းမသည် နေ့အချိန်တွင်မွတ်စလင်မ်ဖြစ်လာသော်လည်းကောင်း၊ သို့မဟုတ် တစ်ဦး တစ်ယောက်သော မိန်းကလေးသည် နေ့အချိန်ကို အရွယ်ရောက်လာသော်လည်းကောင်း၊ ယခု၎င်းတို့မှာ တစ်နေ့လုံးတစ်စုံတစ်ရာစားသောက်ခြင်းငှါမထိုက်၊ အကယ်၍စားသောက် မိသျှင်လည်း ထိုမွတ်စလင်မ်အမျိုးသမီးသစ်နှင့် အရွယ်ရောက်လာသော မိန်းကလေးတို့ အပေါ်၌ ရိုဇဟ်ကသွာထားရန် ဝါဂျစ်ဗ်တာဝန်မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

၁၆။ မတ်စ်အလဟ်ပြဿနာ။ လမ်းခရီး၌ ရိုဇဟ် မထားပါ ဟူ၍ ရည်ရွယ်လိုက်၏၊ သို့ရာတွင် နေမွန်းမတည့်မီ ၁-နာရီစော၍ မိမိအိမ်သို့ပြန်ရောက်သောအခါဖြစ်စေ သို့မဟုတ် တစ်နေနေရာ၌ ၁၅-ရက်ခန့်မျှ တည်းခိုနေထိုင်မည်ဟူသော နိယတ်နှင့် ခရီးသွားပြီး တည်းခိုနေထိုင်ရ၍ ဘာမျှ မစားသောက်ဘဲနေသောအခါဖြစ်စေ၊ ထိုအခါတို့တွင် ရိုဇဟ်နိယတ် ပြုလုပ်လိုက်၍ ထားလိုက်ရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

# ဖွစ်ဒ်ယဟ်၏ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရှရီအတ် တရားတော်၌(ဖွစ်ဒ်ယဟ်)ဆိုသည်ကား အလွန်တစ်ရာမှ အိုမင်းမစွမ်းဖြစ်၍ ရိုဇဟ်(ဥပုသ်)စောင့်ထိန်းနိုင်ရန် အားအင် ဗလ မရှိသော သူ/မ ဖြစ်လျှင်သော်လည်းကောင်း၊ ရိုဇဟ် ထားနိုင်ရန် ပြန်ကျန်းမာလာလိမ့်မည်ဟုလည်း မျှော်လင့်စရာ မရှိလောက်အောင် ရောဂါဖိစီးနေသော်လည်းကောင်း ထိုအခါ ၎င်းတို့အဖို့ တရားတော်အမိန့်ပညတ်တော်ကား ရိုဇဟ်မထားဘဲနှင့် ရိုဇဟ်တစ်ရက်တွက်၏အစား မစ္စကီန် သူဆင်းရဲတစ်ယောက်ကို (ဆွဒကအေ့ဖွစ်တ်ရ်) ပေးရသည်ခန့်ကို ကောက်ပဲသီးနှံ(စပါး-ဆန်-ဂျုံစေ့)ပေးလိုက်ရမည်၊ သို့မဟုတ် နံနက်နှင့်ည နှစ်နပ်စလုံး ထမင်းဝမ်းဝအောင်ကျွေးမွေးလိုက်ရမည်၊တရားတော်၌ယင်းသို့ပြုလုပ်ခြင်းကို'ဖွစ်ဒ်ယဟ်' ဟု ခေါ်လေသည်၊ အကယ်၍ ထိုသို့ မပေးမကျွေးဘဲ ၎င်း၏အစား တန်ဘိုးကိုပေးလှူလိုက်လျှင်လည်းပိုင်၏။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၃။

၂။ မတ်စ်အလဟ်ပြဿနာ။ ထိုဖွစ်ဒ်ယဟ်ပေးရန်ထားသောဂျုံစေ့(ဆန်စပါး)ကို အနည်းငယ်မျှစီ ပြုလုပ်ပြီး (မစ္စကီန်) သူဆင်းရဲ မြောက်မြားစွာတို့ကို ခွဲဝေပေးလျှင်လည်း ပိုင်၏။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၃။

၃။ မတ်စ်အလဟ်ပြဿနာ။ နောက်မှ အကယ်၍ အင်အားဗလ ရှိလာသောအခါဖြစ်စေ၊ ရောဂါပျောက်ကင်းရှင်းလင်းသွား၍ ပြန်ကျန်းမာလာသောအခါဖြစ်စေ အားလုံး လွတ်နေရစ်ခဲ့သမျှသော ရိုဇဟ်များ အစား ကဇွာ ထားရမည်၊ ဖွစ်ဒ်ယဟ် ပေးခဲ့ရသောအတွက် အကျိုးသဝါဗ် သီးခြားရပေမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၅။

၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောမိန်းမသည်မိမိအပေါ်၌ မြောက်မြားစွာသော (ကဇွာရိုဇဟ်) ထားရန် တာဝန် တင်ရှိ၍ ၎င်းရိုဇဟ်များအစား (ဖွစ်ဒ်ယဟ်)ပေးရန် မသေဆုံးမီက မှာတမ်းစကားပြောကြားခဲ့လေ၏၊ ထိုအခါ၎င်းမိန်းမ ကျန်ရစ်ခဲ့သော ဥစ္စာပစ္စည်းများအနက်မှ ဆိုင်သူ အုပ်ထိန်းသူက (ဖွစ်ဒ်ယဟ်) ပေးလိုက်ရမည်။

ပေးရမည့်နည်းကား....ပဲထမင်းမိန်းမ၏ရျာပနကိစ္စများနှင့်ကျွေးမြီများကိုပေးဆပ် ကျေပွန်စေပြီးနောက်ကျန်ရှိသောပစ္စည်းများအနက် သုံးပုံတစ်ပုံကို အကုန် ဖွစ်ဒ်ယဟ်အတွက် လုံလောက်လျှင် ပေးရခြင်း ဝါဂျစ်ဗ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၆၁။

၅။ မတ်စ်အလဟ် ပြဿနာ။ မှာတမ်းစကား(ဝစ္စိယတ်)မပြောကြားခဲ့ဘဲနှင့်(ဝလီ)ခေါ် အုပ်ထိန်းသူက မိမိဥစ္စာကြေးငွေထဲမှ ဖွစ်ဒ်ယဟ် ပေးလိုက်သော် ထိုအခါ အသျှင်မြတ်သဘောတူ လက်ခံပါစေဟုသာ မျှော်လင့်စရာရှိ၏၊ ၎င်းရိုဇဟ်များအစားနောင်အခါခေရတ်၌ မခံရပါစေနှင့်ဟုသာ မျှော်လင့်ရပေသည်။

မှာတမ်းစကား မပြောခဲ့ဘဲ သေသူ၏ပစ္စည်းများမှ ဖွစ်ဒ်ယဟ်ပေးခြင်း မထိုက်၊ ထိုနည်းတူ ကျန်ရစ်ခဲ့သောပစ္စည်းများထဲမှ သုံးပုံတစ်ပုံထက်များပြီး မှာတမ်းစကားပြောကြားခဲ့သော်လည်း အမွေခံ-ဆိုင်သူ-ပိုင်သူ(ဝါရစ်)များ သဘောတူညီမှုမရှိဘဲ မပေးထိုက်ပေ၊ အကယ်၍ ပိုင်ဆိုင်ကြသော(ဝါရစ်)အားလုံးတို့က စိတ်ထားကြည်ရွှင်သဘောတူညီမှု ရှိခဲ့ကြလျှင် ထိုအခါ နှစ်မျိုးစလုံး၌ ဖွစ်ဒ်ယဟ် ပေးထိုက်လေသည်၊ သို့ရာတွင် အရွယ်မရောက်သေးသော ပိုင်ဆိုင်သူ၏ အခွင့်ပေးခြင်းကို တရားတော်၌ အရေးမယူရသည့်ပြင် တရားလည်းမဝင်ပေ၊ အရွယ်ရောက်ပြီးဖြစ်သော ပိုင်ဆိုင်သူက မိမိပိုင်ဆိုင်သမျှ ဝေပုံစုအတွင်းမှ တစ်ခြား ခွဲခြမ်းယူပြီး ပေးလျှင်လည်း ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

၆။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ ၏ နမာဇ်များကဿာဖြစ်သွား၍ ၎င်းကဿာနမာဇ်များအစား ဖွစ်ဒ်ယဟ်ပေးရန် မှာတမ်းစကားပြောကြားခဲ့ပြီးနောက် ၎င်း သူ/မ ကွယ်လွန် သေဆုံးသွားသော် ထိုအခါလည်း တရားတော်ပညတ်အမိန့်ကား ဤနည်းတူပင်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၃။

၇။ မတ်စ်အလဟ် ပြဿနာ။ ရိုဇဟ် တစ်ရက်တွက်အစား (ဖွစ်ဒ်ယဟ်) ပေးရသည်ခန့်ပင် နမာဇ်တစ်ကြိမ်အတွက် ပေးရမည်။

ဥပမာ.... နေ့နှင့်ည၏ နမာဇ် ၅-ကြိမ်၊ ဖွရ်သုနှင့်ဝစ်တ်ရ် အချိန်ပေါင်း ၆-ချိန်သော နမာဇ်များအစား (ဂျုံ တစ်ခွဲ- တစ်ပြည်- တစ်ခွက်- တစ်လမြူ) ပေးရလိမ့်မည်၊ သို့ရာတွင် ဂျုံ ၉-ပြည် ပေးခြင်း သာကောင်းလေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၂၀၃။

၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်က မိမိတာဝန်၌ (ဇကာတ်) ပေးရန်ကျန်ရှိခဲ့သဖြင့် အကယ်၍မှာတမ်းစကားပြောကြားခဲ့သော် ကျန်ရစ်သော(ဝါရစ်) ပိုင်ဆိုင်သူအမွေခံတို့အပေါ်၌ ထိုမှာတမ်းစကားအတိုင်းအတည်ပြုလုပ်ရန် ဝါဂျစ်ဗ်ဖြစ်၏၊ ထိုသို့ မှာတမ်းစကား မပြောကြားခဲ့ဘဲ အမွေခံများက မိမိတို့သဘောအလျောက်ပေး၍ အတည်ပြုသော် ဇကာတ်တာဝန်မကျပေ။

**မှတ်ချက်။** သို့သော် ရဒ်ဒွလ်မွခ်တာရ်ကျမ်းရှင်က မှာကြားခြင်း မရှိဘဲ နှင့် အမွေဆိုင်များက ပေးလိုက်လျှင် တာဝန်ကျသည်ဟု ရေးသား ထားလေသည်။ အတ်စ်စေရာဂျလ်ဝဟ်ဟာဂျ်ကျမ်း။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ (ဝလီ)ပိုင်ရှင်က သေသူဘက်မှ ကဿာ ရိုဇဟ်များထားပေးသော်ဖြစ်စေ၊ သို့မဟုတ် ထိုသေသူဘက်မှ ကဿာနမာဇ်များ ဖတ်ပေး သည်ဖြစ်စေ ဤသို့မပြုထိုက်၊ အဓိပ္ပါယ်မှာ.... ထိုသေသူ၏ တာဝန်မျှသာဖြစ်၍ တာဝန် မကျပေ။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကြောင်းမဲ့ ရမသွာန်လ၏ရိုဇဟ်များကိုမလွှတ် ထိုက်ပေ၊ သာမက ကြီးလေးသောအပြစ်ဖြစ်၏၊ တစ်ရက်ပျက်လျှင် ၎င်းတစ်ရက်အစား ကဿာရိုဇဟ်ထားလိုက်တာပေါ့ ဟူ၍လည်း သဘောမထားရ၊ အဘယ့်ကြောင့် ဆိုသော် ဟာဒီးသ်တော်၌လာရှိသည်မှာ-ရမသွာန်လမြတ် တစ်ရက်တွက်အစား တစ်နှစ်ပတ်လုံးမပျက် မကွက်ထားသော်လည်း ထိုရမသွာန်တစ်ရက်ထားသော ရိုဇဟ်အကျိုးနှင့်ပင် မညီမျှပေ။ တင်ရ်မေသီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၀။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တပ်က်ဒီးရ်ဆိုးသဖြင့် အခြားသူများ ကဲ့သို့ ရိုဇဟ်ဥပုသ်မဆောက်တည်သော အကြင်သူသည် လူအများရှေ့၌ပင်မျက်နှာပြောင် တိုက်ပြီး စားသောက်ခြင်းမပြုလုပ်ရ၊ သာမက မိမိရိုဇဟ်မထားကြောင်းကိုလည်း ထုတ် ဖော်၍ မပြောရ၊ အဘယ့်ကြောင့်ဟူသော် ကိုယ်လုပ်သည့်အပြစ်ကို ကိုယ်ထုတ်ဖော်ပြော ဆိုခြင်းလည်း အပြစ်ဖြစ်၏၊ အကယ်၍ လူအများကို ပြောကြားလျှင် ဆထက်ထမ်းပိုး တိုး၍ အပြစ်ဖြစ်လေ၏၊ တစ်ခုက ရိုဇဟ်မထားခြင်း၊ ဒုတိယအပြစ်က အပြစ်လုပ်ခြင်းကို ဖော်ထုတ်ခြင်းဖြစ်၏၊ အလ္လာဟ်အမိန့်တော်မှမလိုက်နာဘဲ လူလူချင်း မကြောက်တော့ပါ ဆိုသော အသိပညာမဲ့သူတို့၏ စကားသည် မှားယွင်းလှသော စကားဖြစ်၏၊ အကြောင်း တစ်ခုခုဖြင့် မထားနိုင်လျှင် အများသူတကာတို့ရှေ့၌လည်း မစားသောက်ဘဲနေခြင်းကား သင့်လျော်လှပေသည်။ မွတ်စလင်မ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၁၂။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ယောကျ်ားကလေးဖြစ်စေ၊ မိန်းကလေးဖြစ်စေ ရိုဇဟ်ထားနိုင်သော အားအင်ရှိလာလျှင် ရိုဇဟ်ထားရန် ခိုင်းရမည်၊ ၁၀-နှစ် သားသမီး အရွယ်သို့ရောက်သောအခါကျမှ ရိုဇဟ်မထားလျှင် ရိုက်နှက်ပြီးထားစေရမည်၊ အကယ်၍ တစ်လလုံးမထားနိုင်ခဲ့သော် ထားနိုင်သမျှ ထားစေရမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၁။

၁၃။ မတ်စ်အလဟ် ပြဿနာ။ အရွယ် မရောက်သေးသော ယောကျ်ားကလေး ဖြစ်စေ၊မိန်းကလေးဖြစ်စေ ရိုဇဟ်ထားပြီးမှပြန်ဖျက်လိုက်လျှင် ၎င်းအစား ကဿာထားရန် မခိုင်းနှင့်၊ သို့သော် နမာဇ်ဖတ်ရန် နိယတ်ပြုပြီးမှ ပြန်ဖျက်လိုက်လျှင် ထိုအခါ ပြန်ဖတ် စေရမည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၇။

# အွဲ့တေကားဖွင် ၏ အကြောင်း

ရမသွာန်လ အရက်နှစ်ဆယ်နေ့မကုန်သေးမီ အနည်းငယ်မျှအချိန် အလျင်ကစပြီး ၎င်းလ ၂၉-ရက်၊ သို့မဟုတ် ၃၀-ရက် (အီးဒ်)လမြင်သည့်နေ့ နေဝင်သွားသည့် အချိန်ထိ မိမိအိမ်၌ နမာဇ်ဖတ်ရန် သီးသန့်ခြားနားထားသောနေရာတွင် စည်းစောင့်၍ မြဲမြဲစွဲစွဲ ထိုင်နေခြင်းကို(အွဲ့တေကားဖွင်)ဟု ခေါ်လေသည်၊ ထိုသို့ထိုင်ခြင်းသည် အကျိုးများစွာ ရလေသည်။ (မှတ်ချက်။ ယောကျ်ားများမှာ ၅-ကြိမ်အမြဲဖတ်သောဗလီ၌ ထိုင်ရမည်။)

အဲ့တေကားဖွင်ထိုင်စပြုသောအခါကျင်ကြီးကျင်ငယ်စွန့်ခြင်းကိစ္စနှင့်စားသောက်ခြင်း ကိစ္စအတွက်သာ ၎င်းနေရာကထထိုက်၏၊ အကယ်၍ အစားအသောက်ကို ပေးသူ ပို့သူရှိလျှင် ထိုနေရာက မထဘဲ စွဲမြဲစွာထိုင်ရမည်၊ ထိုနေရာ၌ပင် အိပ်စက်ခြင်း ပြုရမည်။

သာ၍ ကောင်းသည်မှာ သက်သက်ထိုင်မနေဘဲ ကုရ်အာန် ကျမ်းမြတ်ကို ဖြစ်စေ၊ နဖွဲလ်နမာဇ်များကိုဖြစ်စေ၊ သစ်က်ရ်၊ တတ်စ်ဗီးဟ် ဘာဝနာများကိုဖြစ်စေ၊ တတ်အားသမျှ ဖတ်ရွတ်စီးဖြန်းလျက်နေရမည်၊ အကယ်၍ ဓမ္မတာ ရာသီသွေး လာနေလျှင်ဖြစ်စေ၊ သားဖွားမြင်၍သွေးကျဆင်းနေသည်ဖြစ်စေ ထိုအခါ အဲ့တေကားဖွင်ကိုလွတ်လိုက်ရမည်၊ ဤကဲ့သို့ဖြစ်လာလျှင် မထိုင်ထိုက်ပါ၊ အဲ့တေကားဖွင်ထိုင်နေစဉ် မိမိခင်ပွန်းလင်နှင့်လည်း တစ်အိပ်ရာထည်းအတူတူပင် ကပ်ဖက်မအိပ်ရ၊ ကိုယ်လက်နှီးနှောခြင်းလည်း မပိုင်ချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၇။

# ဇကာတ် ဆင်းရဲသား ဒါနကြေး ၏ အကြောင်း

အကြင် သူ/မ တို့၌ ဥစ္စာပစ္စည်းကြွယ်ဝချမ်းသာပါလျက် ထိုပစ္စည်းများမှဇကာတ် ဆင်းရဲသား ဒါနကြေး မထုတ်လျှင် ထို သူ/မ သည် အလ္လာဟ်အသျှင်မြတ် ထံတော်၌ ကြီးသော အပြစ်ရှိသူဖြစ်လေသည်၊ ကမ္ဘာ့တရားစီရင်မည့်နေ့၌ ထို သူ/မ သည် အလွန် တစ်ရာမှပင် ပြင်းထန်သောအပြစ်ဒဏ်ကို ခံရပေမည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မိန့်တော်မူသည်၊ အကြင် သူ/မ ထံတွင် ရွှေ နှင့် ငွေ ရှိပါလျက် ၎င်း ပစ္စည်းများအနက်မှ (အချိုးကျ) ဇကာတ် မထုတ်လှူလျှင် ကမ္ဘာ့တရားစီရင်မည့်နေ့၌ ထို သူ/မ အတွက် မီးပြားများ ပြုလုပ်စေ၍ ၎င်းမီး၌ ရဲရဲ တောက်စေပြီးလျှင် ထို သူ/မ နံဘေးနှစ်ဘက်ကိုငင်း နဖူးကိုငင်း ကျောကိုငင်း ကပ်စေ တော်မူအံ့၊ ၎င်းရွှေပြားငွေပြားများအေးသွားလျှင် တဖန် ပူစေ၍ ကပ်ခြင်းပြုစေအံ့။

ထို့ပြင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်တော်မူသည်မှာ... အကြင် သူ/မအား အလ္လာဟ်အသျှင်မြတ်က ဥစ္စာကြေးငွေပေးသနားထားတော်မူပါလျက် ၎င်း၏ ဇကာတ်ကို မပေးလှူလျှင် နောင်အာခေရတ်၌ ၎င်း သူ/မ ၏ ဥစ္စာ ကြေးငွေ တို့သည်

ပေးရန် ဝါဂျစ်ဗ်ဖြစ်သွား၏၊ နှစ်၏အလယ်ပိုင်းတွင် ရက်အနည်းငယ်၌ လျော့သွားရုံဖြင့် ချမ်းသာခွင့်ရလိမ့်မည် မဟုတ်ပေ။ သို့သော် အားလုံးဥစ္စာပစ္စည်းများ လျော့သွား၍ နောက်ကိုပြန်ရှိလာသောအခါ ရှိလာသည့်နေ့ကစပြီး နှစ်ကိုတွက်ရပေမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၆။

၃။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မ၌ ရွှေရှစ်တိုလာကိုးတိုလာသာရှိပြီးမှ နှစ်မလည်သေးမီအလျှင် ဆုံးပါးသွား၏၊ ထိုအခါ တစ်နှစ်လုံးလုံး မပြည့်သေးသဖြင့် ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၃။

၄။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မ၌ငွေဒင်္ဂါးနှစ်ရာတော့ရှိ၏၊ သို့သော်သူတပါးအကြွေးကလည်းနှစ်ရာတဲ့ရှိ၏၊ ထိုအခါတနှစ်ပြည့်မြောက်သည်ဖြစ်စေ၊ မပြည့်သည်ဖြစ်စေ ၎င်းသူ/မအပေါ်၌ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ကြွေးနှစ်ရာမရှိဘဲ ၁၅၀-လောက်သာရှိလျှင်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အဘယ့်ကြောင့်ဆိုသော် ၁၅၀-အကြွေးရှိလျှင် ငွေ၅၀-သာကျန်တော့၏၊ ငွေ၅၀-၌ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။ ကို့ဒူရီကျမ်း စာမျက်နှာ-၃၇။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ငွေ၂၀၀ိ-ရှိသဖြင့်ငွေ၁၀၀ိ-သူတပါးကြွေးရှိလျှင် ထိုအခါ ငွေ၁၀၀ိ-အတွက် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၃၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ရွှေငွေဖြင့်ပြုလုပ်ထားသော လက်ဝတ်လက်စား ဘယက်တန်ဆာ အိုးပန်းကန်ခွက်ယောက်နှင့် ရွှေနား(ဇာ)များပေါ်၌လည်း ဝတ်ဆင်ထားသည်ဖြစ်စေတစ်ခါတစ်ရံမှမဝတ်ဆင်ဘဲသိမ်းဆည်းထားသည်ဖြစ်စေဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ အလိုကား.... ရွှေငွေနှင့်လုပ်ထားသမျှသောအရာဝတ္ထုအားလုံးတို့အပေါ်တွင် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ သို့သော် အထက်ကဖော်ပြခဲ့သည့် အလေးချိန်ထက်နည်းလျှင် ဝါဂျစ်ဗ်မဟုတ်ပေ။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၁။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ရွှေငွေသည် အစစ်မဟုတ်ဘဲ ခဲ့ဘော် လည်းရောနှောနေလျှင် ဥပမာ.... ငွေနှင့်ရောနှောနေ၏၊ ထိုကား ငွေနှင့်ခဲအဘယ်ပစ္စည်းကများသည်ကို ကြည့်ရှုစမ်းသပ်ရပေလိမ့်မည်။

အကယ်၍ ငွေများနေလျှင် ငွေ၌ရှိသော အမိန့်ပညတ်ကဲ့သို့ဖြစ်လေသည်၊ တချို့မှာ ၎င်းသည်အထက်ကဖော်ပြခဲ့သော အချိန်မျှရှိလျှင် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ ခဲကများနေလျှင် ၎င်းဝတ္ထုကို ငွေဟူ၍မခေါ်နိုင်သဖြင့် ခဲဟူ၍သာခေါ်ပေလိမ့်မည်၊ ထိုအခါ ရှေ့တွင်ရေးသားဖော်ပြမည်ဖြစ်သော ကြေးနီ၊ ကြေးဝါ၊ သွပ်၊ သံ၊ ခဲ စသည်တို့၌ရှိသော အမိန့်ပညတ်အတိုင်းပင်ဖြစ်ပေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၀။

ဆုံပင်မရှိသော ခေါင်းပြောင်မဲ့ အဆိပ်ပြင်းထန်သော မြွေကြီးဖြစ်စေ၍ ထိုသူ/မ၏ လည်ပင်းကို ရစ်ပတ်စေ၍ ပါးသွယ်မေးရိုးနှစ်ခုကို ပေါက်စေလိမ့်မည်၊ ထို့နောက်၊ ၎င်းမြွေကြီးကပြောမည်မှာ ငါသည်သင်တို့၏ ပစ္စည်းဥစ္စာများမှ ဖြစ်လာသည့်ငါသည်ပင် သင်တို့၏ ဘဏ္ဍာတိုက်ဖြစ်သည်ဟုပြောအံ့။

(အလ္လာဟ်အသျှင်မြတ် စောင်မတော်မူပါ) အို... လူသားတို့ ဤမျှပင်ထိတ်လန့်ကြောက်ရွံ့ဖွယ် ကောင်းလှသော အပြစ်ဒဏ်ရဲဘေးဒုက္ခများကို အဘယ်နည်းခံနိုင်ပါအံ့နည်း၊ ဤသခါရလောကတွင် ခေတ္တမျှသာနေကြရမည်ဖြစ်သော အနိစ္စဖြစ်သောပစ္စည်းဥစ္စာရတနာနှင့် ကိုယ်ကာယသည် အဘယ်မျှပင် ရွှင်ဖွေစုဆောင်း ထားသော်လည်း ဤအနည်းငယ်မျှသော တတ်မက်ခြင်း၏လောဘအစား ဤမျှသောပြစ်ဒဏ်ကိုခံရအောင်ပြုခြင်းကား အလွန်တရာ အသိဉာဏ်ကင်းမဲ့ခြင်း ဖြစ်လေသည်၊ အလ္လာဟ်အသျှင်မြတ်ပေးကမ်းထောက်မ သနားတော်မူထားသော ဥစ္စာကြေးငွေ ရတနာအပေါင်းတို့ကို ထိုအသျှင်၏လမ်း၌ပင် လှူဒါန်းပေးကမ်း စွန့်ကြဲခြင်းမပြုသည်မှာ အဘယ်မျှအလိုက်မသိမတရားဖြစ်ပေသနည်း။

၁။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူ၌ ငွေငါးဆယ် နှစ်တိုလာခဲ့(မြန်မာအလေးချိန် ကျပ်လေးဆယ်) အင်္ဂလိပ်ကျပ်သုံး ဒင်္ဂါးအားဖြင့် ငါးဆယ့်လေးကျပ်၊ ဆယ့်သုံးပဲ သုံးရွေးသော်လည်းကောင်း၊ ရွှေခုနစ်တိုလာခဲ့ (မြန်မာအလေးချိန် ၅ ဝိ-၁၀-ပဲသား)အင်္ဂလိပ်ကျပ်သုံးဒင်္ဂါးအားဖြင့် ခုနစ်ကျပ်၊ဆယ့်သုံးပဲ၊နှစ်ရွေးသားသာသာ သော်လည်းကောင်း ရှိလျှင် ၎င်းတို့ကို တရားတော်အားဖြင့် ဥစ္စာရှင်၊ ဓနရှင်၊ ကြွယ်ဝချမ်းသာသောသူ အာရဗီစကားအားဖြင့် (နေစွာဗ်)ရှင်ဟူ၍ ခေါ်ဝေါ်သုံးစွဲလေသည်။

ယင်းသို့ပိုင်ဆိုင်ချမ်းသာသော သူတို့အပေါ်၌ ပိုင်ဆိုင်နေခြင်းသည် တနှစ်အထိရှိသွား၍ နှစ်ကုန်လွန်သွားသောအခါ ထိုမျှပိုင်ဆိုင်သောဥစ္စာမှာလေးဆယ့်တပုံ ၄ဝ-မှာ တပုံ၊ အလိုကား အပုံလေးဆယ်အနက်က တပုံကို ဇကာတ်ထုတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ ၎င်းထက်နည်းလျှင် ဇကာတ်ထုတ်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ ၎င်းထက်များ၍ ရှိလျှင်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏။

ဒုရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၄။
ဟေဒါယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ တစ်ဦးတစ်ယောက်သော သူ/မထံ၌ ရွှေ(၇) တိုလာ လေးလထိသော်လည်းကောင်း၊ ခြောက်လထိသော်လည်းကောင်း ရှိပြီးနောက်မှ လျော့သွား၍ နှစ်လ၊ သုံးလနေပြီး တစ်ခါပြန်ရလာပြန်လျှင် ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ အလိုကား နှစ်၏အလယ်ပိုင်း၌ အနည်းငယ်မျှသော ရက်များတွင် လျော့နည်းသွားသော်လည်း နှစ်၏အစပိုင်းနှင့် အဆုံးပိုင်းတွင် (နေစွာဗ်)ရှင်ဖြစ်လျှင် ဇကာတ်

၇။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မ၌ ဇကာတ်ပေး ထိုက်သောအချိန်မျှရွှေလည်းမရှိ၊ ငွေလည်းမရှိ၊သို့သော်ရွှေနှင့်ငွေအနည်းငယ်မျှစီတော့ရှိ၏ နှစ်မျိုးစလုံး၏တန်ဘိုးကို အကယ်၍ပေါင်းကြည့်မည်ဆိုသော် (မြန်မာသုံး)ကျပ်လေးဆယ် ငွေနှင့်တူမျှသည်ဖြစ်လျှင်သော်လည်းကောင်း၊ ရွှေ၅-ကျပ် ၁၀-ပဲသားနှင့် တူမျှသည်ဖြစ် လျှင်သော်လည်းကောင်း၊ ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်၊ အကယ်၍ အနည်းငယ်မျှစီရှိသော ရွှေနှင့်ငွေတန်ဘိုးသည် ပေါင်းကြည့်သောအခါအထက်ကဖော်ပြ သောအလေးချိန်ခန့်မျှမရှိလျှင် ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ ရွှေနှင့်ငွေနှစ်မျိုးစလုံး ထိုအချိန်ခန့်မျှလောက်ပင်ရှိလျှင် ထိုအခါ တန်ဘိုးပြဋ္ဌာန်းစရာမလို တော့ချေ။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၆။

**မှတ်ချက်—** ရွှေ၏ဇကာတ်ကို ၎င်း၏ပေးရသမျှအချိန်အတိုင်း မှန်ကန်စွာတွက် ချက်၍ပေးရမည်၊ ငွေ၏ဇကာတ်ကိုလည်းထိုနည်းတူတွက်ချက်ပေးရ မည်၊ အကယ်တန်မူ အဖိုးထားပေးလိုလျှင်လည်း သူဆင်းရဲများ အကျိုးကိုမျှော်ထောက်၍ အကျိုးဖြစ်အောင် တွက်ချက်ပေးရမည်၊ ရှုတ်ထွေးနေမည်ကို စိုးရိမ်လျှင် တခြားစီသာ တွက်ချက်ပေးခြင်း ပို၍ကောင်းလေသည်။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ဥပမာ.... အခါတပါး၌ ငွေအစိတ် ၂၅ိ-နှင့်ရွှေ တတိုလာဝယ်လျှင်ရခဲ့ဘူး၏၊ ၎င်းပြင် ငွေ၁-ကျပ်နှင့် ငွေသားတတိုလာခွဲသား ရခဲ့ဘူး၏၊ တစ်ဦးတစ်ယောက်၌ ထိုအခါရွှေနှစ်တိုလာနှင့်ငွေ၅ိ-ငါးကျပ်၊အသုံးဝင်ပစ္စည်းများထက် အပိုတန်နှစ်တိုင်တိုင်ရှိလျှင်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်၊ အဘယ့်ကြောင့် ဆိုသော် ရွှေနှစ်တိုလာက ငွေ၅ဝိ-ဖြစ်၏၊ ငွေ၅ဝိ-ဖိုး၏ငွေက ၇၅-တိုလာဖြစ်လာ၏၊ ထို အခါ ရွှေနှစ်တိုလာဖြင့် အကယ်၍ ရွှေကိုဝယ်လျှင် ၇၅-တိုလာရပေမည်၊ နောက်ငွေ ၅ိ-ကလည်း အပိုရှိသေးပြန်၏၊ ယခုဤတွက်ရေးဖြင့် ဇကာတ်ပေးရန် ထိုက်သည်ခန့်မျှ အချိန်ထက်ပင် အလွန်များပြားနေ၏။ ဟုတ်ပါ၏၊ အကယ်၍ရွှေနှစ်တိုလာမှတပါးအခြား ငွေသား ငွေလုံးလုံးမရှိလျှင် ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၆။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ငွေ၁-ကျပ်ဘိုးဝယ်လျှင်ငွေသားနှစ်တိုလာရ၏၊ တစ်ဦးတစ်ယောက်၌ ငွေ၃၀-သာရှိလျှင် ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ငွေ၃၀-ဘိုးဝယ်လျှင်ငွေသားခြောက်ဆယ်တိုလာ ရမည်ဟူ၍ တွက်ချက်ရန် မလိုတော့ပေ၊ အဘယ့်ကြောင့်ဆိုသော် ငွေစ့သည်လည်း ငွေသားပင်ဖြစ်ပေ၏၊ ငွေသားသတ်သတ် သို့မဟုတ် ရွှေသားသတ်သတ်ရှိသောအခါ အလေးချိန်ကိုသာ ယူရလေသည်၊ တန်ဘိုးကို မယူရချေ။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၄။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မ၌ မိမိသုံးစွဲလိုရာထက် ငွေတရာအပိုရှိ၏၊ နောက်တနှစ်မလည်ပ် မပြည့်သေးမီတနေရာရာက ငွေ၅၀-ရလာပြန်၏၊ ထိုအခါ ၎င်းရသောငွေ၅၀-ကို တခြားသတ်သတ်မတွက်လေနှင့်၊ ထိုငွေတရာထဲမှာပင် ရောထည့်ထားသဖြင့် တနှစ်လုံးလုံးပြည့်သောအခါမှ အားလုံး ၁၅၀-ငွေအတွက်ကို တွက်ချက်၍ ဇကာတ်ပေးလိုက်ရမည်၊ အလိုကား ငွေ၁၅၀-အပေါ်၌ နှစ်လည်သွားသည်၊ ပြည့်သွားသည်ဟူ၍ယူရမည်။

ကို့ဒုရီကျမ်း စာမျက်နှာ-၄၀။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မ၌ငွေသား တိုလာ၁၀၀-ရှိ၏၊ နှစ်မလည်ခင်အလျှင် တနေနေရာက ရွှေနှစ်တိုလာ၊ လေးတိုလာ ရပြန်၏၊ သို့မဟုတ် ရွှေကိုးတိုလာ၊ ဆယ်တိုလာ ရလာ၏၊ ထိုအခါလည်း ၎င်းရသောရွှေကို တခြားသတ်သတ်တွက်ချက်မပေးဘဲ ထိုအလျှင်က ရှိထားသောငွေနှင့် ရောထည့်ပြီးနှစ်လည်သောအခါ အားလုံးအတွက် တွက်ချက်၍ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်။

ကို့ဒုရီကျမ်း စာမျက်နှာ-၄၀။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။ရွှေနှင့်ငွေအပြင်အခြားသောပစ္စည်းပရိဘောဂများ၊ ဥပမာ...သံ,သွပ်,ကြေးနီ,ကြေဝါ,ခဲ,အစရှိသော ပစ္စည်းတို့နှင့် အဝတ်အထည် ဖိနပ်နှင့် အခြားသော ပရိဘောဂပစ္စည်းများ အားလုံးတို့အပေါ်၌ရှိသော အမိန့်ကား အကယ်၍ ၎င်းပစ္စည်းများသည် ကူးသန်းရောင်းဝယ်ဖေါက်ကားသော ပစ္စည်းများဖြစ်လျှင် ထိုအခါ ၎င်းပစ္စည်းများ အဘယ်မျှရှိသည်ကို ကြည့်ရှုရပေလိမ့်မည်။ အကယ်၍ ၎င်းပစ္စည်းများ တန်ဖိုးမှာ ငွေ၂၅-တိုလာခွဲနှင့် ညီမျှသောအခါ ဖြစ်လျှင်သော်လည်းကောင်း၊ ရွှေ၇-တိုလာခွဲ (၅°-၁၀-ပဲ)သားနှင့် ညီမျှသောအခါ ဖြစ်လျှင်သော်လည်းကောင်း ထိုအခါ တနှစ်ပြည့်မြောက် သွားလျှင်ပင် ၎င်းရောင်းဝယ်သော ပစ္စည်းများအပေါ်၌ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်။

၎င်းပစ္စည်းများ တန်ဖိုးသည်ဇကာတ်ပေးထိုက်လောက်အောင်မရှိလျှင်ထိုအခါ ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍၎င်းပစ္စည်းများသည်ကူးသန်းရောင်းဝယ်ဖေါက်ကားသော ပစ္စည်းများမဟုတ်လျှင် အဘယ်မျှပင် ထောင်သောင်းမက အဖိုးတန်ပစ္စည်းများဖြစ်သော်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ကို့ဒုရီကျမ်း စာမျက်နှာ-၄၁။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၅။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အိမ်သုံးပရိဘောဂပစ္စည်းများဥပမာ...ကြေးခွက်,ဒန်ခွက်,ကြေးအိုးငယ်,ကြေးအိုးကြီး,လင်ပန်း,ဇွန်း,၎င်းပြင်ထမင်းစားပန်းကန်ပြားဟင်းပန်းကန်လုံး,ရေခွက်များ၊ ၎င်းပြင်နေထိုင်ရန်အိမ်အခန်း၊ ဝတ်ဆင်ရန်အဝတ်အထည် ပုလဲပုတီးကုန်း အစရှိသော ပစ္စည်းများအပေါ်၌ မည်မျှခန့်ပင်ရှိသော်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ နေ့စဉ်အသုံးဝင်နေသည်ဖြစ်စေ၊ မဝင်သည်ဖြစ်စေ၊ မည်သို့ပင်ဖြစ်ဖြစ် ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ ၎င်းပစ္စည်းများသည်

ရောင်းဝယ်ဖေါက်ကားရန်ပစ္စည်းများဖြစ်ခဲ့လျှင် ထိုအခါဇကာတ်ပေးရန်ဝါဂျစ်ဗ်ဖြစ်ပေသည်၊ အလိုကား....ရွှေငွေမှတစ်ပါး အကယ်၍အခြားပစ္စည်းများသည်ရောင်းဝယ်ဖေါက်ကားသောပစ္စည်းများဖြစ်လျှင် ဇကာတ်ပေးရန်ဝါဂျစ်ဗ်ဖြစ်ပေသည်၊ ရောင်းဝယ်ဖေါက်ကားသော ပစ္စည်းများမဟုတ်လျှင် ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၆၆။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၁။

၁၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ အိမ်လေး-ငါးဆယ်လုံးရှိ၍ ၎င်းအိမ်များကို အငှါးချထား၏၊ ထိုအခါ ၎င်းအိမ်များသည် မည်မျှပင်တန်ဘိုးရှိသော်လည်း ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ဤကဲ့သို့ပင်အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မသည် ငွေ၂၀၀ိ၊၃၀၀ိ-ဘိုး အိုးအင်-ပန်းကန်-ခွက်ယောက် ဝယ်ယူထားပြီး အခနှင့်ငှါးရမ်းနေလျှင် ထိုအခါလည်း ၎င်းပန်းကန်-ခွက်ယောက် အပေါ်၌ ဇကာတ် ဝါဂျစ်ဗ် မဟုတ်၊ အလိုကား.... အခနှင့် ငှါးရမ်းနေသော ဥစ္စာပစ္စည်းများအပေါ်၌ ဇကာတ်ဝါဂျစ်ဗ်မဟုတ်ပေ။ ခါနေယဟ်ကျမ်းအတွဲ-၁၊စာမျက်နှာ-၁၁၇။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ရွှေချည်ငွေချည်ထိုးထားသော အဝတ်အထည်များ အဘယ်မျှပင်အဖိုးတန်သော်လည်း ၎င်းတို့အပေါ်၌ ဇကာတ် ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။ သို့သော် အကယ်၍ ရွှေစစ်ငွေစစ်ဖြစ်၍ ဖြုတ်ကြည့်မည်ဆိုသော် ငွေချည်မှာ ၂၅- တိုလာခွဲ ၃၉ ိ၊ ၃-မူးသား ထွက်လျှင်ဖြစ်စေ၊ သို့မဟုတ် ၎င်းထက် ပိုမိုထွက်လျှင်ဖြစ်စေ ထိုအခါ ၎င်းငွေချည်အပေါ်၌ ဇကာတ်ဝါဂျစ်ဗ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၁။

၁၇။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ ရွှေဖြစ်စေ၊ ငွေဖြစ်စေ အနည်းငယ်မျှရှိ၏၊ နောက်ရောင်းစရာကုန်လည်း အနည်းငယ်မျှရှိ၏၊ ထိုအခါအားလုံးကို စုဆောင်း၍ကြည့်သောအခါ အကယ်၍ ၃၉ ိ၊ ၃-မူးသား ငွေအမျှဖြစ်ကသို့မဟုတ် ၅ ိ၊ ၁၀-ပဲသား ရွှေနှင့် ညီမျှစွာရှိလျှင် ဇကာတ်ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ထိုမျှခန့်မရှိလျှင် ဝါဂျစ်ဗ်မဟုတ်ချေ။ ကို့ဒူရီကျမ်း စာမျက်နှာ-၄၁။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ကူးသန်းရောင်းဝယ်ဖေါက်ကားသော ပစ္စည်းဆိုသည်မှာ.... ကူးသန်း ရောင်းဝယ်ရန် နီယတ်ဖြင့် ဝယ်ယူထားသော ပစ္စည်းများကို ဆိုလိုသည်။

ထိုသို့ဖြစ်လျှင်အကယ်၍ တစ်ဦးတစ်ယောက်သည် မိမိအိမ်၌သုံးစွဲရန်ဖြစ်စေ၊ သို့မဟုတ် ထိမ်းမြားမင်္ဂလာစသည်တို့၌သုံးစွဲရန်ဖြစ်စေ၊ ဆန်များဝယ်ယူထား၏၊ ထိုသို့ဝယ်ယူလာပြီးနောက်မှတဖန် အကြံဖြစ်လာသည်မှာ ဤဆန်ကို အရောင်းအဝယ်ဘဲပြုလုပ်လိုက်တော့မည်

ဟုဆိုပြီးရောင်းချလိုက်၏၊ ထိုအခါ၌ငင်းကို ရောင်းဝယ်ဖေါက်ကားသောပစ္စည်းဟု မခေါ်ပါ၊ ထို့ကြောင့် ငင်းပစ္စည်းပေါ်၌ ဇကာတ်လည်း ဝါဂျစ်ဗ်မဟုတ်ပေ။

ဖွတာ၁ဝါဟင်နိဒီယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၇၇။

၁၉။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူထံ၌ အကြွေး ရစရာရှိ၏၊ ထိုသို့ရစရာရှိသောအကြွေးအပေါ်၌လည်းဇကာတ်ထုတ်ရန်ဝါဂျစ်ဗ်ဖြစ်၏၊ သို့သော် အကြွေးဟူသည်မှာ- သုံးမျိုး သုံးစား ရှိလေသည်။

(၁)ငွေစကိုဖြစ်စေ၊ သို့မဟုတ် ရွှေနှင့်ငွေသားကိုဖြစ်စေ တစ်ဦးတစ်ယောက်ကိုအကြွေးပေးလိုက်၏၊ သို့မဟုတ် ကူးသန်းရောင်းဝယ်သောကုန်ကိုရောင်းချလိုက်ခြင်းဖြင့် အကြွေးကျန်နေခလေ၏၊ နောက် တစ်နှစ်၊နှစ်နှစ်၊သုံးနှစ် ရှိပြီးမှ ရ၏၊ ထိုအခါ အကယ်၍ ရရှိလာသော ဗ်စ္စည်းသည် ဇကာတ်ပေးရန် ထိုက်လာသည်ခန့်မျှ ရှိလျှင် အားလုံးနှစ်များအတွက်ကို ဇကာတ်ပေးရန်ဝါဂျစ်ဗ်ဖြစ်သွား၏။

အကယ်၍ တစ်လုံးတည်းအကြွေးကိုမရရှိဘဲ အနည်းငယ်မျှစီသာရရှိနေသောအခါ ဥပမာ.... ငင်းရှိသည့် အကြွေးများအနက်က တစ်ဆယ်နှင့်တစ်ကျပ်အထိရလျှင် ငင်းငွေ ၁၁-ကျပ်ကိုဘဲ ကျသမျှတွက်ချက်၍ ဇကာတ်ထုတ်ပေးရန်ဝါဂျစ်ဗ်ဖြစ်၏၊ ငင်းထက်နည်းရလျှင် ဝါဂျစ်ဗ်မဟုတ်ပေ၊ နောက်တစ်ခါ ၁၁-ကျပ်ဘဲရပြန်လျှင် တစ်ခါဇကာတ်ပေးရမည်၊ ထိုနည်းတူ ရတိုင်း ရတိုင်းပေးသွားရမည်၊ ပေးသောအခါ အားလုံးနှစ်များအတွက်ကို ပေးရပေမည်၊အကယ်၍ငင်းထက်ကြွေးငွေနည်းလျှင် ဇကာတ်ပေးရန်ဝါဂျစ်ဗ်မဟုတ်၊ သို့သော် ငင်းထံ ထို့အပြင်လည်း အခြားပစ္စည်းများ ရှိသေး၍ နှစ်ခုကိုပေါင်းကြည့်လျှင် ဇကာတ်ပေးထိုက်သော အခန့်မျှရှိသော် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၆။

၂၀။ မတ်စ်အလဟ်ပြဿနာ။ (၂) အကယ်၍ ငွေစ ရွှေစ ငွေသားကိုတော့ အကြွေးမပေးလိုက်ရ၊ ကူးသန်းရောင်းဝယ်နေသောကုန်ကိုလည်း အကြွေးမရောင်းလိုက်ရ၊ သို့သော် ကူးသန်းရောင်းဝယ်နေသည့်ကုန်မဟုတ်သော ပစ္စည်းတစ်ခုခုကိုရောင်းလိုက်ရ၏၊ ဥပမာ.... အဝတ်အစားကိုရောင်းလိုက်၏၊ သို့မဟုတ် အိမ်ထောင်ပရိဘောဂ တစ်ခုခုကိုဘဲ ရောင်းလိုက်၏၊ သို့သော် အဖိုးမရသေးဘဲ ကျန်နေ၏၊ ငင်းကျန်နေသော အဖိုးသည် ဇကာတ်ပေးထိုက်သည်မျှခန့်ဖြစ်၍ နှစ်ရှည်လများကျမှ ပြန်ရ၏၊ ထိုအခါ အားလုံး နှစ်များအတွက်ကို ဇကာတ်ပေးရန်ဝါဂျစ်ဗ်ဖြစ်ပေသည်၊ အကယ်၍ တစ်လုံးတည်းကိုတစ်ခါတည်းမရဘဲ အနည်းငယ်မျှခန့်မျှစီရနေလျှင် ထိုအခါ ၅၄ ိ၊ ၁၃-ပဲ (မြန်မာသုံး ၄၀) မရသမျှကာလပတ်လုံး ဇကာတ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ၅၄ ိ၊၁၃-ပဲရလျှင် အားလုံးနှစ်အတွက် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၆။

၂၁။ **မတ်စ်အလတ်ပြဿနာ။** (၃)တတိယအကြွေးကား မိမိလင်သားအပေါ်၌ မဟာရိုင်ငွေရစရာရှိ၏၊ သို့သော် နှစ်အတော်အတန်ကြာမှရ၏၊ ထိုအခါ ၎င်းဇကာတ်မှာ ရသည့်နေ့ကမှစ၍တွက်ရပေလိမ့်မည်၊ လွန်ခဲ့သောနှစ်များအတွက်ဇကာတ်ပေးရန်ဝါဂျစ်ဗ် မဟုတ်ပေ၊ ယခု သူမသည်မိမိ လက်တွင် သိမ်းထား၏၊ နောက်နှစ်လည်သွားသောအခါ ၎င်းဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်ပေသည်၊ နှစ်မလည်သေးလျှင် ဝါဂျစ်ဗ်မဟုတ်။

ဒုရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၆။

၂၂။ **မတ်စ်အလတ်ပြဿနာ။** ဥစ္စာခုနကြွယ်ဝချမ်းသာ၍ ဇကာတ်ထိုက်သော သူတစ်ယောက်သည် နှစ်မလည် မပြည့်သေးမီအလျင်ကပင် နှစ်ကုန်လွန်အောင် မစောင့် ဆိုင်းတော့ဘဲ ဇကာတ်ထုတ်ပေးလျှင်၊ ထိုအခါလည်း ပိုင်သွား၍ အတည်ဖြစ်၏။

ကြွယ်ဝသူမဟုတ် သို့သော် တစ်နေရာကဥစ္စာကြွေးငွေရလိမ့်မည်ကို မျှော်လင့်နေ၏၊ ထိုမျှော်လင့်ချက် အားကိုးပြီး ကြွေးငွေ လက်တွင်းသို့ မရောက်သေးမီအလျင် ဇကာတ် ထုတ်ပေးလိုက်၏၊ ထိုအခါ ၎င်းဇကာတ်သည်အတည်မဖြစ်ချေ၊ ဥစ္စာကြွေးငွေရပြီးနောက် နှစ်လည်၍ ကုန်လွန်သွားမှ ဇကာတ်ပေးရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၄။

၂၃။ **မတ်စ်အလတ်ပြဿနာ။** ဥစ္စာခုန ကြွယ်ဝချမ်းသာသောသူ တစ်ဦး တစ်ယောက်က အကယ်၍ များစွာသောနှစ်များအတွက် အလျင်ကပင် တင်ကူးပေးထားလျှင် လည်းပိုင်၏၊ သို့သော် တစ်နှစ်နှစ်မှာလာပြီး ဥစ္စာတိုးတက်လာပြန်လျှင် ထိုအခါ ယင်း တိုးတက်လာသည့် ဥစ္စာ ကြွေးငွေအတွက်ကို ထပ်ပြီး ကျသမျှ ဇကာတ်ကို ရေတွက်ပြီး ပေးရမည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၇၄။

၂၄။ **မတ်စ်အလတ်ပြဿနာ။** တစ်ဦးတစ်ယောက်သော သူ/မ၌ မိမိသုံးစွဲမှုကိစ္စ များထက် အပိုငွေတစ်ရာရှိ၏၊ နောက်ငွေတစ်ရာအခြားတစ်ပါးမှရစရာကိုလည်းမျှော်လင့် ၏၊ ယခုနှစ်မကုန်မီအလျင် ငွေနှစ်ရာလုံးအတွက်ကို တင်ကြိုပြီးဇကာတ်ပေးလိုက်လျှင် ပိုင် သွား၏၊ သို့ရာတွင် နှစ်ကုန်ဆုံးသောအချိန်၌(နေစ္စာဗ်)ထိုက်သည်ထက် ငွေက လျော့နည်း သွားခဲ့လျှင် ဇကာတ်ပေးရန်ကိုခွင့်လွှတ်၏၊ ပေးပြီးသောအရာကို(ဆွဒကအေ နာဖွေလဟ်) ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၆။

၂၅။ **မတ်စ်အလတ်ပြဿနာ။** တစ်ဦးတစ်ယောက်၏ကြွေးငွေအပေါ်၌ ၁-နှစ် ပြည့်မြောက်ကုန်လွန်သွား၏၊ သို့သော် ယခုဇကာတ်မထုတ်ရသေးမီ အားလုံးသော ဥစ္စာ ကြွေးငွေကို သူခိုး-ဓါးပြ လုယူတိုက်ခိုက် ခိုးယူသွားကုန်၏၊ သို့မဟုတ် တစ်စုံတစ်ခုသော အကြောင်းဖြင့် ဆုံးပါးကုန်၏၊ ထိုအခါ ဇကာတ် ပေးရန်ကိုလည်း ချမ်းသာပေး၏၊ အကယ်၍ တမင် မိမိဥစ္စာကြွေးငွေကို သူတစ်ပါးအား ကိုယ်တိုင်ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် တစ်နည်းနည်းဖြင့် တမင်ဆုံးပါးစေသည်ဖြစ်စေ ထိုအခါ ထိုက်သမျှဇကာတ်ကို ချမ်းသာခွင့် ရလိမ့်မည်မဟုတ် သာမက ပေးရပေမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၇၃။

၂၆။ မတ်စ်အလက် ပြဿနာ။ နှစ်ကုန်လွန်သွားပြီးမှ တစ်ဦးတစ်ယောက်သော သူ/မက မိမိပိုင် ဥစ္စာပစ္စည်းအကုန်ကို လှူဒါန်းလိုက်လျှင် ထိုအခါ ဇကာတ်ထုတ်ရခြင်းမှ ချမ်းသာရလေသည်။ ဟေဒါယာကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၆၀။

၂၇။ မတ်စ်အလက် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ ငွေ- ၂၀၀ိ တော့ရှိ၏၊ သို့သော် ၁-နှစ် ပြည့်ပြီးနောက် ၎င်းငွေ၂၀၀ိ ထည်းမှ ငွေ၁၀၀ိ ကို သူခိုး ခိုးခံရ၏၊ သို့မဟုတ်ငွေ ၁၀၀ိ ကို လှူဒါန်းစွန့်ကြဲပေးကမ်းလိုက်၏၊ ထိုအခါ ငွေ ၁၀၀ိ တွက်သာ ဇကာတ်ပေးရမည်၊ ၁၀၀ိ-တွက်မှာ ချမ်းသာခွင့်ရမည် ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၂။

# ဇကာတ် ပေးလှူရခြင်း အကြောင်း

၁။ မတ်စ်အလက် ပြဿနာ။ အကြင်အခါပစ္စည်းဥစ္စာသည် ၁-နှစ်ပြည့်သွားလျှင် ချက်ချင်း ဇကာတ်ကို ပေးလှူရမည်၊ အဘယ့်ကြောင့်ဆိုသော် ကောင်းမှုကုသိုလ်ရေး၌ ဆိုင်းငံ့ကြာမြင့်စေခြင်းသည် မကောင်းပေ၊ ရုတ်တရက် မရဏသေခြင်းဘေး ဆိုက်ရောက် လာ၍ ယင်းတာဝန်သည် ခေါင်းပေါ်က မကျဘဲ သေရာထိပါသွားမည်ကို စိုးရိမ်ကြရန် ထိုက်၏။

အကယ်၍ နှစ်ကုန်လွန်သွားသည့် တိုင်အောင် ဇကာတ်ကို မထုတ်-မပေး-မလှူဘဲ ဒုတိယနှစ်ရောက်လာပြီး ကုန်လွန်သွားသည့်တိုင် မပေးသေးဘဲနေလျှင် ထိုအခါ အပြစ် ဖြစ်၏၊ ယခု တောင်ဗဟ် သတိ သံဝေဂရပြီး ၂-နှစ်စလုံး အတွက်ကို ပေးလိုက်ရမည်၊ အလိုကား.... တစ်သက်တာလုံးတွင် မည်သည့်အခါဖြစ်စေ မုချဆက်ဆက် ပေးလှူရမည်၊ အကြွေးမထားစကောင်း ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၂။ မတ်စ်အလက် ပြဿနာ။ ဥစ္စာကြေးငွေရှိသမျှ၏ အပုံလေးဆယ်ပုံ တစ်ပုံကို ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ ဥပမာ.... ငွေ၁၀၀ိ လျှင် ၂°-၅၀ပြားကျ၊ ငွေ ၄၀ိ တွင် တစ်ကျပ်ကျပေးရမည်။ မစ်ရှိကာတ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၉။

၃။ မတ်စ်အလက် ပြဿနာ။ ဇကာတ်ငွေကို သူဆင်းရဲ တစ်ဦးတစ်ယောက်သို့ ပေးသောအခါ မိမိစိတ်တွင်းမှ ငါသည် ဇကာတ်ငွေကို ပေးသည်ဟု ရည်စူးလိုက်ရမည်၊ ထိုကဲ့သို့ မရည်စူးဘဲဖြင့် ပေးလိုက်လျှင် ဇကာတ်အတည်မဖြစ်ချေ၊ နောက်ကို ထပ်ပေး ရချိမ့်ဦးမည်၊ ထိုမရည်စူးဘဲဖြင့်ပေးလိုက်သောငွေများအကျိုးမှာ တစ်ခြားသီးသန့် ရလိမ့် မည် ဖြစ်၏။ ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၄။ မတ်စ်အလက် ပြဿနာ။ အကယ်၍ ဖွကီရ် သူဆင်းရဲကိုပေးလိုက်စဉ်အခါက မရည်စူးဘဲဖြစ်လျှင် ပေးလိုက်သည့် အတိုင်း ၎င်းသူဆင်းရဲ လက်တွင် ထိုဥစ္စာ ကြေးငွေ

ရှိနေသမျှအတွင်း မိမိစိတ်မှ ရည်စူးလိုက်လျှင်လည်း ပိုင်သွား၏၊ ထိုသို့ ရည်စူးခြင်းဖြင့် ဇကာတ်အတည်ဖြစ်သွားပေမည်၊ သို့သော် ယင်းသူဆင်းရဲက မိမိလက်တွင်မထားဘဲ သုံးစွဲလိုက်သော် ထိုအခါ နိယတ်ပြုလျှင်မရပေ၊ ပြန်ပြီးဇကာတ်ပေးရမည်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မသည်ဇကာတ်၏ ရည်စူးချက်ဖြင့် ငွေ၂၀-ကိုထုတ်ပြီးလျှင် တခြားသီးသန့်ထား၏၊ အကယ်၍ ယူထိုက်သူ တစ်ဦးတစ်ယောက်ပေါ်လာ၍ တွေ့ကြုံလျှင်ပေးလိုက်မည်ဆိုပြီး သိမ်းဆည်းထား၏၊ ထို့နောက် ဖွကီရ်သူဆင်းရဲကိုပေးသောအခါ ရည်စူးရမည်ကို မေ့သွားသော်လည်း ဇကာတ် အတည်ဖြစ်သွား၏၊ အကယ်၍ ထိုသို့ထုတ်ပြီး သိမ်းထားစဉ်က ဇကာတ်၏ ရည်စူးချက် မပြုလျှင် ဇကာတ်အတည်မဖြစ်ချေ။ ကို့ဒူရီကျမ်း စာမျက်နှာ-၃၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူ/မသည် ဥပမာ.... ဇကာတ်ငွေကိုထုတ်လေသည်၊ ထိုအနက် တစ်ဦးတည်းသောသူကို အကုန်ပေးသည်ဖြစ်စေ၊ သို့မဟုတ် အနည်းငယ်စီခွဲ၍ များစွာသော သူဆင်းရဲများကို ပေးသည်ဖြစ်စေ၊ တရက်ထည်းမှာပင် အကုန်ပေးသည်ဖြစ်စေ၊ လပေါင်းများစွာ နည်းနည်းခြင်းပေးသည်ဖြစ်စေ ပေးနိုင်ခွင့်ရှိပေသည်။ ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၀။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကောင်းဆုံးနည်းမှာသူဆင်းရဲတစ်ယောက်ကို အနည်းဆုံး တစ်နေ့တွက်ဖူလုံပြီး တခြားသူထံသွား၍ မတောင်းရလောက်အောင်ပေးလိုက်ခြင်းဖြစ်လေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၂။

၈။ မတ်စ်အလဟ် ပြဿနာ။ ။ဖွကီရ်သူဆင်းရဲတစ်ယောက်ထည်းကို ၎င်းသူက ပြန်၍ ဇကာတ် ပေးထိုက်လာလောက်အောင်ပေးခြင်း မတ်က်ရူးဟ်ဖြစ်၏။

သို့ရာတွင် ပေးပြီးဖြစ်နေသော် ဇကာတ်မှာအတည်ဖြစ်သွား၏၊ ၎င်းထက်နည်း၍ ပေးခြင်းပိုင်သည်၊ မတ်က်ရူဟ်လည်းမဖြစ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၇။

၉။ မတ်စ်အလဟ် ပြဿနာ။ ။တစ်ဦးတစ်ယောက်သောမိန်းမသည်ကြွေးတောင်းလာ၏၊ သို့သော် ၎င်းကြွေးယူထားသောမိန်းမမှာ ဘယ်သောအခါမှ ဆပ်နိုင်လိမ့်မည် မဟုတ်လောက်အောင် ဆင်းရဲနွမ်းပါးနေမှန်းသိ၏၊ သို့မဟုတ် သူတစ်ပါးထံမှကြွေးယူပြီး မဆပ်ချင်တတ်သောမိန်းမညစ်တစ်ဦးဖြစ်၏၊ ထိုအခါမိမိစိတ်၌ဇကာတ်၏ရည်ရွယ်ချက်ဖြင့် ၎င်းကြွေးအမည်နှင့် ဇကာတ်ဘဲပေးလိုက်တော့မည်ဟုဆိုပြီး ပေးလိုက်လျှင်လည်း ဇကာတ် အတည်ဖြစ်သွားလေသည်၊ အကယ်၍ ပင်ထိုမိန်းမက ငါ့ကိုအကြွေးပေးတာဟူ၍ထင်သော်လည်း ဇကာတ်မှာ အတည်ဖြစ်သွားသည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ တစ်ဦးတစ်ယောက်အား မိမိစိတ်၌ ဇကာတ်ပေးသည်ဟု ရည်ရွယ်ခြင်းသဘောထားဖြင့်ဆုပေးလိုက်၏၊ ထိုအခါလည်းဇကာတ် အတည်ဖြစ်သွား၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။ဆင်းရဲသောသူတစ်ဦးတစ်ယောက်ထံ၌ အကြွေးငွေ၁၀-ရစရာရှိ၏၊ ၎င်းပစ္စည်းမှာလည်း ငွေ၁၀- သို့မဟုတ် ၎င်းထက်များပြီး ဇကာတ်ထုတ်ထိုက်၏၊ ၎င်းသူထံမှ ကြွေးမယူတော့ပါ ,မိမိအကြွေးကို ဇကာတ်နိယတ်ဖြင့် မယူတော့ဟုဆိုပြီး ချမ်းသာခွင့်ပေးလိုက်လျှင် ထိုအခါဇကာတ်အတည်မဖြစ်ပေ၊ အကယ်၍ ၎င်းသူကို ဇကာတ် နိယတ်သဘောဖြင့် ငွေ၁၀-ပေးလိုက်၍ ၎င်းပေးလိုက်သောငွေ ၁၀-ကိုဘဲ မိမိအကြွေးအစား သူ့ထံမှပြန်တောင်းလျှင် ထိုအခါပိုင်၏၊ ဇကာတ်လည်း အတည်ဖြစ်သွား၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၀။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူ/မထံ၌တွက်ကြည့်သောအခါ ဇကာတ်၏ ငွေ၃၀-သား ထွက်လောက်အောင်မျှခန့် လက်ဝတ်လက်စား ဘယက်တန်ဆာငွေသားရှိ၏၊ ဈေး၌ငွေသားအချိန် ၃၀-သားလျှင် ငွေ၂၀-နှင့် ရောင်းချနေ၏၊ ထိုအခါ ဇကာတ်၌ ငွေ၂၀ထည်းပေးလျှင် မထိုက်ပေ၊ အဘယ့်ကြောင့်ဆိုသော် ငွေဒင်္ဂါးနှစ်ကျပ်ကို ချိန်ကြည့်သော် သုံးကျပ်သားမရှိပေ၊ ငွေ၏ဇကာတ်ငွေကိုဘဲပေးလျှင် အချိန်ကိုယူရမည်၊ အဖိုးကိုမယူရဖြစ်လေသည်၊ ဤအချက်၌ ထိုငွေ၂၀-နှင့် ရွှေကိုဝယ်ပေးလျှင်ဖြစ်စေ၊ သို့မဟုတ် ငွေ၂၀-ဖိုးပိုက်ဆံဖြစ်စေ၊ အဝတ်ဖြစ်စေ၊ သို့မဟုတ်တစ်စုံတစ်ခုသောပစ္စည်းဖြစ်စေ၊ သို့မဟုတ် ငွေသား၃၀-ကိုပင် ပေးလိုက်လျှင် ထိုအခါပိုင်သွား၏။ ဇကာတ်လည်း အတည်ဖြစ်သွားလေသည်။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၁။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။ ဇကာတ်၏ငွေကို မိမိကိုယ်တိုင် မပေးလှူဘဲ သူတထူးအားပေးပြီး အသင်/မက တစ်ဦးဦးကိုပေးလိုက်ပါဟု ပြောဆိုစေခိုင်းပေးလျှင်လည်းပိုင်၏၊ ထိုသူ/မသည် တစ်ဦးဦးကိုပေးသောအခါ ဇကာတ်၏နိယတ်ကို မပြုသော်လည်းကိစ္စမရှိပေ၊ ဇကာတ် အတည်ဖြစ်သွားလေသည်။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။ဆင်းရဲသောသူတစ်ဦးတစ်ယောက်ကိုပေးလိုက်ရန် သူ/မက ငွေနှစ်ကျပ် တစ်ဦးတစ်ယောက်ကိုပေးလိုက်၏၊ သို့သော်ထိုသူမသည် သူ/မပေးလိုက်သောငွေနှစ်ကျပ်အတိုင်းကိုမပေးဘဲနှင့် ၎င်းငွေနှစ်ကျပ်ကိုသူယူလိုက်မည်ဟုဆိုပြီး မိမိထံအခြားငွေ၂၀-ယူပြီး သူဆင်းရဲကိုပေးလိုက်၏၊ ထိုအခါလည်း ဇကာတ်အတည်ဖြစ်သွား၏၊ သို့သော် သူ/မပေးလိုက်သောငွေ သူ့ထံရှိနေမှ ဤနည်းဖြင့်ပိုင်ပေမည်၊ ယခု ၎င်းသူမသည် မိမိငွေ၂၀-အစား သူ/မထံက ယူထားသောငွေကို ယူလိုက်ရမည်၊ အကယ်၍ သူ/မက ပေးလိုက်သော ငွေ၂၀-ကို ပထမသုံးလိုက်ပြီး နောက်မှမိမိငွေ ၂၀-သူဆင်းရဲကို ပေးလျှင် ထိုအခါ ဇကာတ် အတည်မဖြစ်ပေ၊ သို့မဟုတ် သူ/မ

က ငွေ၂၀-ကိုမသုံးလိုက်ဘဲ သူ့ထံမှာပင်ရှိ၍၊ သို့သော် မိမိငွေပေးသောအခါ ဝါထိုငွေကို ယူလိုက်မည်ဟူ၍ နိယတ်မပြုလိုက်မိသော် ထိုအခါလည်း ဇကာတ်အတည်မဖြစ်ပေ။ ယခု ထိုငွေ၂၀-ကို ပြန်ပြီးလျှင် ဇကာတ်၌ပေးလိုက်ရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူ/မအား ငွေမပေးဘဲ ကျွန်ုပ်ဘက်မှ ဇကာတ်ပေးလိုက်ပါဟု ပြောဆိုလိုက်သောအခါ အကယ်၍ ထိုသူ/မက ၎င်းဘက်မှ ဇကာတ်ကို ပေးလိုက်ပြီဟုပြောလျှင် ဇကာတ်(အဒါ) တာဝန်ကျသွား၏၊ ယခု၎င်းထံမှ ပေးလိုက်သမျှကို ထိုသူ/မ ယူလိုက်လျှင်ပိုင်၏။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ။အသင်က မပြောဆိုမစေခိုင်းဘဲနှင့် တစ်ဦးတစ်ယောက်က အသင့်ဘက်မှ ဇကာတ်ပေးလျှင် ၎င်းဇကာတ်သည် အတည်ဖြစ်လိမ့်မည်မဟုတ်၊ ပိုင်လည်းမပိုင်ပေ၊ နောက်မှ အသင်ကသဘောတူသည့်တိုင်အောင်လည်း မပိုင်ပေ ထိုသူကလည်း သူပေးလိုက်သမျှကို အသင့်ထံကယူရန်လည်း အခွင့်မရှိပေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၄။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ။အသင်က တစ်ဦးတစ်ယောက်အား မိမိဘက်မှ ဇကာတ်ပေးလိုက်ရန် ငွေ၂၀-ပေးလိုက်၏၊ ထိုအခါ ၎င်းသူ/မက တဖန် ကိုယ်တိုင်ပင် ယူထိုက်သူ ဆင်းရဲသားတစ်ဦးဦးအား ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် သူတစ်ဦးဦးအား ၎င်းငွေကို ဇကာတ်အဖြစ်နှင့် ပေးလိုက်ပါဆိုပြီး စေခိုင်းလိုက်သည်ဖြစ်စေ နှစ်မျိုးစလုံး ပိုင်၏၊ မည်သူမည်ဝါဘက်မှ ပေးလိုက်ပါဟူ၍ အမည်ကို ထုတ်ဖော်ပြောရန် မလိုပေ၊ ထို့နောက် ၎င်းသူ/မကလည်း ၎င်းငွေကို အကယ်၍မိမိနှင့်တော်စပ်သူဆွေမျိုးဆင်းရဲသား တစ်ဦးတစ်ယောက်ကိုဖြစ်စေ၊ မိမိ၏ဆင်းရဲသောမိဘကိုဖြစ်စေကြည့်ရှုလိုက်သော်ပိုင်သွား၏ သို့သော် ထိုသူ/မသည် ကိုယ်တိုင်ဆင်းရဲသူဖြင့် ယူလိုက်လျှင်မပိုင်ပေ၊ အကယ်၍ ပေးခိုင်းသောသူက ပေးစဉ်အခိုက် အဘယ်သူ့ကိုပေးပေး ဘာဘဲလုပ်လုပ်ဟုဆိုပြီး ပေးလိုက်ပါမှ ကိုယ်တိုင်လည်းဆင်းရဲလျှင် ယူထိုက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၀။

# ကောက်ပဲသီးနှံ၏ ဇကာတ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။အကြင် မြို့-ရွာဒေသသည် ကာဖွင်ရ်တို့၏ လက်တွင်း၌ရှိ၍ ၎င်းတို့ပင် ထိုမြို့၌နေထိုင်လုပ်ကိုင်စားသောက်ကြ၏၊ ထို့နောက် မွတ်စလင်မ်များချီတက်တိုက်ခိုက်၍ ထိုမြို့ကို သိမ်းယူပြီးနောက် ထိုမြို့၌ အစ္စလာမ်သာသနာတော်ကို ပြန့်ချီ၏၊ မွတ်စလင်မ် ဘုရင်က မြေကိုနိုင်ငံတော်ပိုင် သိမ်း၍ ဆင်းရဲသော မွတ်စလင်မ်

လူထုကိုမြေယာဝေငှခြင်းပြု၏၊ ဤသို့သော ဝေငှရရှိသည့်မြေကို (အွတ်ရ်ှရီ)ဟု ရှရီအတ် တရားတော်၌ခေါ်ဝေါ်၏၊ အကယ်၍ ထိုမြို့တွင် နေထိုင်သော သူများသည် အားလုံး မိမိတို့သဘောဆန္ဒအလျောက်မွတ်စလင်မ်ဖြစ်လာကြလျှင်တိုက်ခိုက်ရန်မလိုချေ၊ သို့ပေမယ့် ထိုမြို့၏အားလုံးသောမြေယာများကို (အွတ်ရ်ှရီ)မြေဟူ၍ ပင်ခေါ်လေသည်၊ အာရေဗျ နိုင်ငံရှိမြေယာအားလုံးတို့ကို (အွတ်ရ်ှရီ) မြေဟုခေါ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍တစ်ဦးတစ်ယောက်သောသူကဘ,ဘိုး ဘေးများကပင် ဤကဲ့သို့သော အွတ်ရ်ှရီ မြေယာများကို စိုးပိုင်ပြီး ဆင်းသက်လာသည် ဖြစ်စေ၊သို့မဟုတ်ဤကဲ့သို့ဖြင့်စိုးပိုင်ဆင်းသက်လာသောမွတ်စလင်မ်တစ်ဦးတစ်ယောက်ထံမှ ဝယ်ယူလိုက်သည်ဖြစ်စေ၊ ထိုအခါ ဤကဲ့သို့သော မြေယာမျိုးမှ ထွက်သော အသီးအနှံ များအပေါ်၌ ဇကာတ်ပေး ရန်ဝါဂျစ်ဗ်ဖြစ်၏။

ထိုသို့သော မြေမျိုးမှထွက်သော အသီးအနှံများကို ထုတ်ပေးရသော ဇကာတ် နည်းကား အကယ်၍ လယ်မြေသည်ရေလောင်းမစိုက်ဘဲနှင့် မိုးရေဖြင့်သာပေါက်ပွားသည် သည်ဖြစ်စေ၊ သို့မဟုတ် မြစ်,ချောင်းနံဘေးများ၏ စိုစွတ်နေသော နုံးမြေ, ကိုင်းမြေ များ၌တစ်စုံတစ်ခုကိုစိုက်ပျိုးသည်ဖြစ်စေ၊ သို့မဟုတ်အလိုအလျောက် စိုက်ဖျိုးပြီးပေါ်ထွက် လာသည်ဖြစ်စေ၊ ထိုအခါ ဤကဲ့သို့သော မြေယာမျိုးမှထွက်သော အသီးအနှံအားလုံး တို့အနက် ဆယ်ပုံတစ်ပုံကို လှူဒါန်းပေးကမ်းစွန့်ကြဲလိုက်ရန် ဝါဂျစ်ဗ်ဖြစ်၏၊ ဥပမာ.... ဆယ်တင်းကိုတတင်း ဆယ်ပိဿာကိုတပိဿာ လှူလိုက်ရမည်ဖြစ်၏။

အကယ်၍ လယ်မြေကို ရေသွင်း၍ သော်လည်းကောင်း၊ ရေစီးဝင်စေ၍သော် လည်းကောင်း၊ ရေသွယ်သွင်း၍ သော်လည်းကောင်း၊ ဆည်မြောင်း တက်သက်၍သော် လည်းကောင်း၊ သို့မဟုတ် တမျိုးတဖုံဖြင့်ရေဝင်ရောက်စေ၍သော်လည်းကောင်း စိုက်ပျိုး သောလယ်ယာမျိုးဖြစ်လျှင် ထိုအခါထွက်သောအသီးအနှံများအပေါ်မှ အပုံနှစ်ဆယ်မှာ တပုံကိုလှူလိုက်ရမည်၊ ဥပမာ.... အတင်းနှစ်ဆယ်ကို တတင်း၊ ပိဿာနှစ်ဆယ်မှ တပိဿာ လှူလိုက်ရမည်၊ ထိုနည်းတူ ဥယျာဉ်များမှာလည်း အထက်ကဖေါ်ပြခဲ့သော ဥယျာဉ် မြေမျိုးဖြစ်လျှင် အဘယ်မျှပင်ထွက်သော်လည်း ဤကဲ့သို့လှူရန် ဝါဂျစ်ဗ်ဖြစ်၏၊ အနည်း အများမခြားနားပေ။　　ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၃၉။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ကောက်ပဲသီးနှံဆန်စပါး၊ဂျုံ၊ပဲ၊ပြောင်း၊လူး၊ ဆပ်၊နှမ်းစသည်တို့နှင့် အသီးအနှံ၊အပွင့်အရွက်၊ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံအားလုံး တို့အပေါ်၌အမိန့်အတူတူပင်ဖြစ်၏။　　အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၃။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အွတ်ရ်ှရီမြေယာမှသော်လည်းကောင်း၊ တောမှ သော်လည်းကောင်း၊ တောင်မှသော်လည်းကောင်း ပျားရည်ထွက်လျှင် ထိုအခါလည်း အထက်ပါအတိုင်းနည်းဖြင့် လှူဒါန်းရန် ဝါဂျစ်ဗ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၉။

၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သည် မိမိအိမ်ယာ မြေပိုင်၌ အမျိုးမျိုးသော အပင်ကိုစိုက်ပျိုးသည်ဖြစ်စေ၊ ဟင်းသီးဟင်းရွက်ပင်ကိုစိုက်ပျိုးသည်ဖြစ်စေ သို့မဟုတ် အခြားအပင်များကို စိုက်ပျိုးသည်ဖြစ်စေ ထိုအခါ ၎င်းတို့မှထွက်သောအသီး အနှံများအပေါ်၌ ထိုက့်သို့လှူဒါန်းရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၀။

ဖွတာဝါဟင်န်ဒီယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၆။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍'အွတ်ရ်ှရီ'မြေယာကို တစ်ဦးတစ်ယောက်သော 'ကာဖွင်ရ်' ဘာသာခြားက ဝယ်ယူလိုက်လျှင် ထိုအခါ ၎င်းမြေသည်'အွတ်ရ်ှရီ'မြေ မဖြစ်တော့ပေ၊ နောက်တဖန်၎င်းမြေကို မွတ်စလင်မ်တစ်ဦးဦးက ပြန်ဝယ်ယူသည်ဖြစ်စေ သို့မဟုတ် တစ်မျိုးတစ်ဖုံဖြင့်ပြန်ရသော်ဖြစ်စေ မည်သို့မှ အွတ်ရ်ှရီမြေ ပြန်မဖြစ်တော့ချေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၆၃။

၇။ မတ်စ်အလဟ် ပြဿနာ။ ယခု ၎င်းထွက်သော ကောက်ပဲသီးနှံ များမှ ဆယ်ပုံတစ်ပုံသို့မဟုတ် အဖုံနှစ်ဆယ်မှ တစ်ပုံကိုလှူဒါန်းစွန့်ကြဲလိုက်ရန် မည်သူ၏တာဝန်ဖြစ် ကြောင်း မိန့်ဆိုချက်၌ဥပမာ.... မြေ့ရှင်တာဝန်လော၊ စိုက်ပျိုးသောသူ၏တာဝန်လော ဆိုသည့် အကြောင်းအရာ၌ အာလင်မ်ပညာရှင်များ တစ်ပါးနှင့် တစ်ပါး ကွဲလွဲကြ၏၊ သို့သော် (အရ်ှရဖ်အလီထာနဝီ)က လွယ်လင့်တကူဖြစ်စေရန် ထွက်သော ပစ္စည်းများ၏ ဥစ္စာရှင်တာဝန်ဖြစ်ကြောင်းကို ပြောဆို ပြသစမြဲပင် ဖြစ်၏။

ထို့ကြောင့်အကယ်၍ လယ်မြေသည် ငွေနှင့်ဖြစ်စေ၊ ထွက်သောပစ္စည်းဖြင့်ဖြစ်စေ၊ သီးစား ပုတ်ပြတ်ငှါးလိုက်သော လယ်ယာဖြစ်လျှင် ထိုအခါ အငှါးယူလုပ်သော လယ်သမား၏တာဝန်ဖြစ်ပေ၏၊ အကယ်၍ ဖက်စပ်လုပ်သောလယ်မြေဖြစ်လျှင် မြေရှင် လယ်ရှင်ရော အငှါးလုပ်သူ လယ်သမားပါ နှစ်ဦးစလုံးကပင် မိမိတို့ပိုင် ဝေစုဝေပုံ အတွင်းမှ အစုကျ လှူလိုက်ရမည် ဖြစ်ပေကြောင်း။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၃။

# ဇကာတ် စားထိုက်သူများ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူ/မ၏ ထံ၌ ငွေ ၂၅-တိုလာခွဲ (မြန်မာ အလေးချိန် ကျပ်လေးဆယ်) အင်္ဂလိပ်ကျပ် သုံးဒင်္ဂါး အားဖြင့် ၅၄° -၁၃-ပဲ ၃-ရွေး သော်လည်းကောင်း၊ ရွှေ ၇-တိုလာခွဲ (မြန်မာ အလေးချိန် ၅°- ၁၀-ပဲသား) ရှိလျှင် သော်လည်းကောင်း သို့မဟုတ် ထိုမျှခန့်နှင့်ပင် တန်ဘိုးရှိသော ရောင်းဝယ်ဖေါက်ကား သည့်ပစ္စည်းရှိခဲ့သော် ထိုသူ/မကို ရှရီအတ် တရားတော်က ပစ္စည်းရှိသောသူဟု ခေါ်လေ သည်၊ ဤသို့သော သူ/မ ကို ဇကာတ်ငွေပေးလှူခြင်းမပိုင်၊ ၎င်းကလည်း ဇကာတ်ငွေကို ယူခြင်း - စားခြင်းလည်း (ဟလာလ်) မဟုတ်ချေ။

ထိုနည်းပင် အကြင် သူ/မ၌ ထိုတန်ဘိုးခန့်မျှသောပစ္စည်းသည် ရောင်းဝယ်သော ပစ္စည်းတော့မဟုတ် သို့ရာတွင် မှီမိသုံးစွဲရန်ထက် ပို၍မိုနေသော် ထိုသူ/မ သည်လည်း ပစ္စည်းရှိသောသူပင် ဖြစ်လေသည်၊ ဤသို့သော သူကိုလည်း ဇကာတ်ငွေကို ပေးခြင်း မပိုင်၊ အကယ်၍ ထိုကဲ့သို့ပစ္စည်းရှိသောသူသည် ဇကာတ်မစားထိုက်သော်လည်း ၎င်းသူ အပေါ်၌ ဇကာတ်ပေးရန်လည်း ဝါဂျစ်ဗ်မဟုတ်ချေ။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၁။

၂။ မတ်စ်အလဟ်ပြဿနာ။ အကြင် သူ/မ၏ ထံတွင် ထိုမျှခန့် ရွှေငွေ ပစ္စည်း မရှိ ထို့ထက်နည်း၍ရှိ၏၊ သို့မဟုတ် ဘာမျှရွှေငွေပစ္စည်းမရှိ၊ တစ်ရက်စာမျှ ဖူလုံအောင် မရှိလျှင် ၎င်းသူ/မကို (ဖကီဗ်) သူဆင်းရဲဟု ခေါ်လေသည်၊ ထိုသို့သော သူ/မ တို့ကို ဇကာတ်၏ဖိုက်ဆံကိုပေးလှူခြင်းပိုင်၏၊ ၎င်းတို့ကလည်း ယူခြင်းပိုင်၏။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၅။

၃။ မတ်စ်အလဟ်ပြဿနာ။ ကြေးအိုးကြီးများ၊ ကော်ဇောကြီးများ၊ မိုးကာကြီးများ၊ ကန့်လန့်ကာကြီးများ စသည်တစ်နှစ်တစ်ခါလောက်သော အသုံးကျ၍ မင်္ဂလာဆောင်အလှူ စသည်တို့၌သုံးရ၍ နေ့စဉ်သုံးစွဲမှုမပြုရသော် ၎င်းပစ္စည်းများသည် အရေးကြီးသော လူသုံးပစ္စည်း၌ မပါဝင်ချေ။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၈ဝ။

၄။ မတ်စ်အလဟ်ပြဿနာ။ လူနေရန်အိမ်၊ ဝတ်ဆင်ရန်အထည်အဝတ်၊ အလုပ်ခိုင်းစေရန်တပည့် တပန်း၊ အိမ်စေ စသည်တို့သည် အားလုံး အရေးကြီးသော ပစ္စည်း၌ ပါဝင်လေသည်၊ ၎င်းရှိလျှင် မည်မျှပင်အဖိုးတန်သည်ဖြစ်စေ ပစ္စည်းရှိသောသူမဟုတ်ပေ။

ထို့အတွက် ၎င်းသူ/မကို ဇကာတ်ငွေပေးခြင်းပိုင်၏၊ ဤကဲ့သို့ပင် စာတတ်သော သူ/မ၏အဖို့ သူကြည့်ရှု ဖတ်ရှုတ်ရန်ထားသော ကျမ်းစာအုပ်များသည် အရေးကြီးသော ပစ္စည်း၌ပါဝင်လေသည်။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၈၈။

၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ အိမ် ၅-လုံး ဖြစ်စေ၊ ၁ဝ-လုံးဖြစ်စေ ရှိ၏၊ ၎င်းတို့ကို အငှါးချ၍ ရသောလခဖြင့် အသက်မွေးလျက်နေ၏၊ သို့မဟုတ် ရွာတစ်ရွာရှိ၏၊ ၎င်းမှ ဝင်ငွေရှိ၏၊ သို့သော် သားသမီးနှင့် အိမ်သူအိမ်သား စားသူများသဖြင့် ကောင်းစွာမလုံလောက်ဘဲ ကျပ်တည်းမှုဖြစ်ခဲ့သော်သူ၏ထံ၌ အခြား ဇကာတ်ထိုက်လောက်အောင် ပစ္စည်းလည်း မရှိမူ ဤသို့သော သူ/မ ကိုလည်း ဇကာတ်ငွေကို ပေးခြင်းပိုင်၏။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၉။

၆။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ ငွေ စ ချည့် တစ်ထောင်တင်းတင်းရှိ၏၊ သို့ရာတွင် သူတစ်ပါးကြွေးကလည်း တစ်ထောင် သို့မဟုတ် တစ်ထောင်ထက်ပင်ပိုမို၍ တင်ရှိနေသော် ထိုသူ/မကိုလည်း ဇကာတ်ငွေကိုပေးခြင်းပိုင်၏။

အကယ်၍ ငွေတစ်ထောင်ထက် ကြွေးက နည်း၍ ကြွေးဆပ်ပြီးနောက် အဘယ်မျှ ကြွင်းကျန်သည်ကို ကြည့်ရှုရပေမည်၊ အကယ်၍ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်လာလောက် အောင်မျှ ကြွင်းကျန်နေလျှင် ထိုအခါ ၎င်းကို ဇကာတ်ငွေပေးခြင်းမထိုက်ပေ၊ ဇကာတ် ပေးရန် ဝါဂျစ်ဗ်ဖြစ်လာအောင်မျှထက် နည်းပြီး ကျန်နေလျှင် ပေးခြင်းပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၈၅။

၇။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မသည် မိမိအိမ်ရှိရာ ဌာန၌ ကြွယ်ဝချမ်းသာသောသူဖြစ်၏၊ သို့ရာတွင် လမ်းခရီးသွားနေခိုက် ပါသွားသမျှ ပစ္စည်းစုစုအားလုံးကိုပင် သူခိုး-ဓါးပြ အလုခံရသဖြင့် မိမိအိမ်ရှိရာ ဌာနသို့ ပြန်သွားနိုင် လောက်အောင်ခန့်မျှ မကျန်ရစ်ခဲ့ခြင်းအဖြစ်နှင့် ကြုံကြိုက်သော သူ/မ ဖြစ်လျှင် ဖြစ်စေ၊ သို့မဟုတ် တစ်စုံတစ်ခုသော အကြောင်းဖြင့် အိမ်သို့ မပြန်နိုင်လောက်အောင် အဖြစ်နှင့် ကြုံကြိုက်သောသူ/မကိုဖြစ်စေ ဤကဲ့သို့သော သူ/မကို ဇကာတ်ငွေပေးခြင်း ပိုင်၏။

ဤကဲ့သို့ပင် အိမ်၌ချမ်းသာကြွယ်ဝ၍ လမ်းခရီး၌သုံးစွဲရန် ကုန်သွားသော(ဟာဂျီ) ကိုလည်း ဇကာတ်ငွေပေးခြင်း ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၈၆။

၈။ မတ်စ်အလဟ် ပြဿနာ။ ဇကာတ် ငွေကို (ကာဖွင်ရ်) ဘာသာခြားအား ပေးခြင်းမထိုက်၊ မွတ်စလင်မ်ကိုသာ ပေးခြင်းထိုက်၏။

ဇကာတ်ငွေကို အွတ်ရှ်ရီခေါ် လယ်ယာမြေကွက်မှထွက်သောပစ္စည်းများလှူဒါန်း ခြင်း၊ (ဆွဒကဟ်ဖွစ်တ်ရ်) အကိုးဖြေသောပစ္စည်းနှင့် ကတ်ဖွာရဟ်များမှတစ်ပါး အခြား သော အလှူဒါနများမှ ကာဖွင်ရ် ဘာသာခြားကို ပေးခြင်းလည်း ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၈၆။

၉။ ။မတ်စ်အလဟ် ပြဿနာ။ ဇကာတ်ငွေ ပိုက်ဆံဖြင့် ဗလီတည်ဆောက်ခြင်း သို့မဟုတ် ဆွေမျိုးမရှိသော သူသေ၏ ဈာပနကိစ္စအတွက်ပေးခြင်း၊ သို့မဟုတ် သူသေ တစ်ဦးတစ်ယောက်ဘက်မှ ၎င်း၏ ကြွေးမြီကို ပေးဆပ်ပေးခြင်း၊ သို့မဟုတ် တစ်စုံတစ်ခု သော ကုသိုလ်ရေး၌ထည့်လုပ်ခြင်း လုံးဝမထိုက်ပေ၊ ထိုက်သူတစ်ဦးတစ်ယောက်ကို မပေး လိုက်သမျှ ကာလပတ်လုံး ဇကာတ်အတည်မဖြစ်ချေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၈။

၁၀။ မတ်စ်အလဟ် ပြဿနာ မိမိဇကာတ် ပိုက်ဆံကို မိမိ၏ အမိအဘ နှစ်ဘက် စလုံးမှ မိမိ၏ အဘိုး-အဘွားဘေး-ဘီ-ဘင် စသောမိမိ၏ မွေးထုတ်လိုက်သော အထက်မှ သူများကိုပေးခြင်း မပိုင်ချေ၊ ထိုကဲ့သို့ပင် မိမိ၏သားသမီးနှစ်ဘက်စလုံးဘက်က မြေး-မြစ် တီ-တွတ်စသည်အောက်သို့ဆင်းသက်သူများကိုလည်းပေးခြင်းမပိုင်၊ ထိုကဲ့သို့ပင် မယားက မိမိလင်ကိုလည်းကောင်း၊ လင်က မိမိမယားကိုလည်းကောင်း ဇကာတ် ပိုက်ဆံ ပေးခြင်း မပိုင်ချေ ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၈၆။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ထိုကဲ့သို့တော်စပ်သူများမှတစ်ပါး အခြားသော သူများအားလုံးကို ဇကာတ်ပိုက်ဆံကိုပေးခြင်း ပိုင်၏။ ဥပမာ.... အစ်ကို၊ညီ၊အစ်မ၊နှမ၊ အစ်ကို၊ အစ်မ၊နှမ၊ ညီမ၏သမီး၊ အဖေ၏အစ်ကိုနှင့်ညီ၊ အဖေ၏အစ်မ၊ နှမ၊ အမေ၏ အစ်ကိုနှင့်မောင်၊အမေ၏အစ်မနှင့်ညီမ၊မိထွေးပထွေး၊ပထွေး၏အဖေ၊ယောက္ခမ(မိန်းမ)၊ ယောက္ခမ(ယောကျ်ား)စသည်တို့အားလုံးကို ပေးခြင်းပိုင်၏။

တဇ္ဇာဟ်တဇ္ဇာဝီကျမ်း စာမျက်နှာ-၄၁၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အရွယ်မရောက်သေးသော ယောကျ်ားကလေး၏ဖခင်သည် အကယ်၍ ပစ္စည်းဥစ္စာ ကြွယ်ဝသူဖြစ်လျှင် ထိုအခါငင်းကလေးကို ဇကာတ် ပိုက်ဆံပေးခြင်းမပိုင်ချေ။

အကယ်၍ ယောကျ်ားကလေးနှင့် မိန်းကလေးတို့သည် အရွယ်ရောက်ပြီးသား ဖြစ် ကြ၏၊ သို့သော် ထိုကလေးများကိုယ်တိုင် ဥစ္စာပစ္စည်းကြွယ်ဝခြင်းမရှိ၊ ငင်းကလေးများ၏ ဖခင်ဖြစ်သူသည် ကြွယ်ဝချမ်းသာသောသူဖြစ်လျှင် ငင်းကလေးများကို ဇကာတ် ပိုက်ဆံ ပေးခြင်းထိုက်၏။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၇၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကလေး၏ ဖခင်သည် ချမ်းသာ ကြွယ်ဝသူမဟုတ်ဘဲ မိခင်ဖြစ်သူသာလျှင် ချမ်းသာကြွယ်ဝသူဖြစ်လျှင် ထိုအခါ ငင်း က လေးငယ်ကို ဇကာတ် ပိုက်ဆံပေးခြင်းပိုင်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၄၁။

၁၄။ မတ်စ်အလဟ်ပြဿနာ။ စိုင်ယစ်ဒ်များ (ဖွာတွေမဟ်သခင်မ၏ သားစဉ် မြေးဆက်များ)၊ အလဝီများ၊ (အလီသခင်၏ အခြားကြင်ရာများ၏ သားစဉ်မြေးဆက် များ)။

ထိုနည်းပင် အဗ်ဗားစ်သခင်(ကိုယ်တော်မြတ် ခမည်းတော်၏ညီတော်)၏ သားစဉ် မြေးဆက်များ၊ ဂျအ်ဖွာရ်သခင် (ကိုယ်တော်မြတ် ခမည်းတော်၏ ညီတော်)၏ သားစဉ် မြေးဆက်များ၊ အကီလ်သခင်(အဗ်ဒွလ်မွတ်တွလစ်ဗ်၏ အဆက်)၊ (ဟာရစ်ဗင်န် အဗ်ဒွလ် မွတ်တွလစ်ဗ်သခင်၏ သားစဉ်မြေးဆက်များ) အထက်အမည်ပါပုဂ္ဂိုလ်များမှ ဆင်းသက် ပေါက်ဖွားနေသော သားစဉ်မြေးဆက်အားလုံးတို့ကိုဇကာတ်ငွေကိုပေးလှူခြင်းမပိုင်ချေ။

ထိုကဲ့သို့ပင် လှူဒါန်းစွန့်ကြဲလိုက်ရန် ရှရီအတ်တရားတော်ဖြင့် ဝါဂျစ်ဗ်ဖြစ်သော အလှူပစ္စည်းများကိုလည်း ငင်းအထက်ပါ သားစဉ်မြေးဆက် တို့ကို ပေးခြင်း မပိုင်ချေ၊ ဥပမာ.... အကိုးဖြေသောပစ္စည်းများ၊ ကတ်ဖွာရဟ်ပစ္စည်းများ၊ အွတ်ရှ်ရီ လယ်ယာမြေမှ တရားတော်အမိန့်အတိုင်းလှူသောပစ္စည်းများ၊ဆဒ္ဒကဟ်ဖွိစ်တ်ရ်များ အားလုံးတို့ဖြစ်လေ သည်၊ ငင်းတို့မှတစ်ပါး အခြားသောအလှူပစ္စည်းများပေးခြင်း ပိုင်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၁။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၇၉။

၁၅။ မတ်စ်အလဟ် ပြဿနာ။ အိမ်ရှိအဒေါ်ခေါ်များပြုစုသောသူများ ထမင်းဟင်းချက်သောမိန်းမများ၊ ယောကျ်ားများ၊ နို့ထိန်းကလေးထိန်းသူမများ၊ ဝမ်းဆွဲဆရာမများ စသည်တို့ကို ဇကာတ်ပိုက်ဆံကိုပေးခြင်းပိုင်၏။ သို့ရာတွင် သူတို့၏ လခအစားဟူ၍ မပေးရ၊ သူတို့လခများအပြည့်ပေးဆပ်ပြီးမှ ဆုကဲ့သို့အပိုပေးလိုက်၍ မိမိစိတ်၌ဇကာတ်၏ နိယတ်ကိုပြုလိုက်လျှင် ပိုင်သွားလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၀။

၁၆။ မတ်စ်အလဟ် ပြဿနာ။ အသင်မကနို့တိုက်ခဲ့ဘူးသောအကြင်ယောကျ်ားကလေး၊ မိန်းကလေးတို့ကိုလည်းကောင်း၊ အသင်မကို ငယ်စဉ်ကနို့တိုက်ကျွေးခဲ့ဘူးသော မိန်းမကိုလည်းကောင်း ဇကာတ်ပိုက်ဆံပေးခြင်း ပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၀။

၁၇။ မတ်စ်အလဟ် ပြဿနာ။ မိန်းမတစ်ယောက်၏(မဟ်ရ်)မှာ ငွေတစ်ထောင်ဖြစ်၍ ၎င်းမိန်းမ၏ခင်ပွန်းလင်မှာ အလွန်ဆင်းရဲသဖြင့် မပေးနိုင်ဖြစ်နေ၏၊ ထိုသို့သော မိန်းမကိုလည်း ဇကာတ်ပိုက်ဆံပေးခြင်း ပိုင်၏။

အကယ်၍ ခင်ပွန်းလင်သည် ကြွယ်ဝသူဖြစ်သဖြင့် တမင်မပေးဘဲ နေလျှင်ဖြစ်စေ သို့မဟုတ် မိမိ'မဟ်ရ်'ကို မယူဘဲနှင့် ချမ်းသာခွင့် ပေးလိုက်လျှင်ဖြစ်စေ ထိုအခါလည်း ၎င်းကဲ့သို့သောမိန်းမကို ဇကာတ်ပိုက်ဆံကို ပေးပိုင်၏။

အကယ်၍ မိမိ'မဟ်ရ်'ကို တောင်းဆိုသောအခါ မဆိုင်းငံ့ဘဲဖြင့် ပေးလိမ့်မည်ဟု မျှော်လင့်စရာရှိလျှင် ထိုအခါ၌ကဲ့သို့သောမိန်းမကို ဇကာတ်ပိုက်ဆံပေးခြင်းမပိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၂။

၁၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက်သော သူကို ထိုက်သူဟု အောက်မေ့ပြီး ဇကာတ်ပိုက်ဆံပေးလိုက်၏၊ ထို့နောက်မှထိုသူသည်ပစ္စည်းဥစ္စာကြွယ်ဝသူ သို့မဟုတ် စိုင်ယစ်ဒ်ဖြစ်ကြောင်းသိရှိရလေသည်၊ သို့မဟုတ် မှောင်မိုက်သောညဉ့်တစ်ညဉ့်၌ တစ်ဦးတစ်ယောက်ကိုပေးမိ၏၊ နောက်မှမိမိ၏မိခင် သို့မဟုတ် သမီး၊ သို့မဟုတ် ဇကာတ်ငွေမပေးထိုက်သော တော်စပ်သူဆွေမျိုးရင်းချာ တစ်ဦးတစ်ယောက်ဖြစ်နေကြောင်း သိရ၏၊ ထိုအခါ ဇကာတ်အတည်ဖြစ်သွား၏၊ ထပ်မံ၍ပေးရန် ဝါဂျစ်ဗ်မဟုတ်တော့ချေ။

သို့ရာတွင် ယူသူက ဇကာတ်ငွေမှန်းသိလျှင် ငါသည်ကား ဇကာတ်ငွေ မယူမစားထိုက်သောသူဖြစ်၏ဟုဆိုပြီး မယူဘဲနေရမည်၊ အကယ်၍ ယူမိသော် ပြန်ပေးလိုက်ရမည်၊ အကယ်၍ ဇကာတ်ငွေပေးလိုက်ပြီးမှ ၎င်းသူသည်(ကာဖွင်ရ်)ဘာသာခြားဖြစ်နေကြောင်း သိရှိရသော် ထိုအခါ ဇကာတ်အတည်မဖြစ်ပေ၊ ပြန်၍ပေးရဦးမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အ-တွဲ၁၊ စာမျက်နှာ-၁၄၁။

၁၉။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူအား ကြွယ်ဝချမ်းသာသူလော၊ ဆင်းရဲနွမ်းပါးသူလော ခွဲခြားမသိရဘဲ ဒီဟာဖြစ်သော် စူးစမ်း၍သေချာစွာမသိသမျှ ၎င်းသူကို ဇကာတ်ငွေမပေးရချေ။

အကယ်၍ မစုံစမ်းဘဲပေးမိသော် ထိုအခါမိမိစိတ်နှလုံး အဘယ်ဘက်သို့ ထက်သန်ယုံကြည်သနည်းဟု ကြည့်ရှုရပေလိမ့်မည်၊ အကယ်၍ စိတ်က ထိုသူသည် ဆင်းရဲသားဟု ထောက်ခံလျှင် ဇကာတ်အတည်ဖြစ်၏၊ အကယ်၍ စိတ်က ချမ်းသာသူဟု ထောက်ခံလျှင် ဇကာတ်အတည်မဖြစ်၊ ထပ်မံပေးရမည်။

သို့သော် ပေးပြီးနောက်မှ ထိုသူ၏ဆင်းရဲနွမ်းပါးကြောင်းကို သိရှိရသော် ထိုအခါ ထပ်မံမပေးရတော့ပေ၊ ဇကာတ်အတည်ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၀။

၂၀။ မတ်စ်အလဟ်ပြဿနာ။ ဇကာတ်ငွေကို ပေးလှူခြင်းနှင့် ဇကာတ်မှအပ ဖြစ်သော အခြား ဆဒကဟ်ခိုင်ရာတ်ပေးလှူခြင်းများ၌ မိမိဆွေမျိုးသားချင်းကို ပိုမိုသတိပြုရမည်၊ ပထမ ထိုသူတို့အားပေးလှူခြင်းပြုရမည်၊ သို့ရာတွင် ၎င်းတို့အား ဆဒကဟ်ပစ္စည်းဟူ၍ စိတ်မကောင်းဖြစ်ရန် မပြောလေနှင့်၊ အဘယ်ကြောင့်ဟူမူ ဟဒီးသ်ဩဝါဒတော်၌ လာရှိသည်မှာ....ဆွေမျိုးနီးစပ်ရင်းချာသူတို့အား လှူဒါန်းပေးကမ်းခြင်း၌ အကျိုးနှစ်ဆ ရရှိအံ့၊ တစ်ခုမှာ လှူဒါန်းခြင်း၏ကုသိုလ်အကျိုးဖြစ်၍ အခြားတစ်ခုမှာ မိမိတို့၏ဆွေမျိုးသားချင်း မိတ်သင်္ဂဟတို့အား ကြည့်ရှုခြင်းအကျိုးကုသိုလ်ကို ရရှိမည်ဖြစ်လေသည်။

ထို့နောက် ကြွင်းကျန်သောငွေကျမှ တစ်ခြားသူတို့အား ပေးလှူရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၇။

၂၁။ မတ်စ်အလဟ်ပြဿနာ။ တစ်မြို့က ထုတ်သော ဇကာတ်ငွေကို အခြားတစ်မြို့သို့ ပို့ခြင်းသည် မတ်က်ရူးဟ် ဖြစ်လေသည်။

အကယ်၍ တစ်ခြားမြို့ရွာ၌ သူ၏ဆွေမျိုးသားချင်းတို့နေထိုင်လျှင် ၎င်းမြို့သို့ပေးပို့ခြင်း သော်လည်းကောင်း၊ သို့မဟုတ် ဤမြို့ရွာ၌ နေထိုင်သောသူများထက် ထိုမြို့ရွာတွင်နေထိုင်သော သူများက ပိုပြီး ဆင်ရဲကြလျှင်သော်လည်းကောင်း၊ သို့မဟုတ် ထိုသူတို့က သာသနာရေးတွင် ပိုမိုချောင်ကြည်နေကြသော ပုဂ္ဂိုလ်များ ရှိနေလျှင်သော်လည်းကောင်း ထိုအခါ ၎င်းသူတို့ရှိရာဌာနသို့ ပေးပို့ခြင်း မတ်က်ရူးဟ်မဟုတ်ပေ၊ ဆင်းရဲသည့် ဘာသာရေး ပညာကို သင်ကြားနေသော ကျောင်းသားများ နှင့် ဆင်းရဲသော ဘာသာရေးပညာရှိအာလင်မ်များအား ဇကာတ်ငွေပေးလှူခြင်းသည် ကြီးသောအကျိုးရရှိအံ့။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၇။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၇၅။

# ဆွဒကအော့ ဖွစ်တ်ရ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင် မွတ်စလင်မ် တစ်ဦး တစ်ယောက်သည် ဇကာတ်ပေးရန် ဝါဂျစ်ဗ်ဖြစ်လာအောင် ကြွယ်ဝချမ်းသာလာလျှင်သော်လည်းကောင်း၊ သို့မဟုတ် ၎င်းသူ/မအပေါ်၌ ဇကာတ်တော့ ဝါဂျစ်ဗ်မဟုတ်ပေ၊ သို့သော် မိမိအသုံးချရန် ပစ္စည်းများမှ တစ်ပါး ဇကာတ်ပေးရန် ဝါဂျစ်ဗ် ထိုက်လာလောက်အောင် တန်ဘိုးမျှ အခြားပစ္စည်းများရှိလျှင်သော်လည်းကောင်း၊ ထိုအခါ၎င်းမွတ်စလင်မ်အပေါ်၌ထိုပစ္စည်းများသည် ရောင်းဝယ်ဖေါက်ကားသောပစ္စည်းများ ဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်ဖြစ်စေ နှစ်ကုန်လွန်သွားသည့်ဖြစ်စေ၊ မကုန်လွန်သေးသည့်ဖြစ်စေ အီးဒ်နေ့၌ ဆွဒကဟ်-ဖွစ်တ်ရ် ပေးရန် ဝါဂျစ်ဗ်ဖြစ်၏။

ထိုကဲ့သို့ပေးသော ဆွဒကဟ်ကို ရှရီအတ် တရားတော်၌ (ဆွဒကအော့-ဖွစ်တ်ရ်) ခေါ်၏။ နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၁၆၁။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၌ မိမိကိုယ်တိုင် နေထိုင်သော အိမ်တစ်ဆောင် ကြီးမားစွာဖြင့်ရှိ၏၊ အကယ်၍ ၎င်းအိမ်ကို ရောင်းချမည်ဆိုသော် ငါးရာ-တစ်ထောင်နီးပါးရနိုင်မည်ဖြစ်၏၊ သို့မဟုတ် ရွှေချည်ထိုး ငွေချည်ထိုး ရွှေချည်နား ငွေချည်နား မပါသောအဖိုးတန်အဝတ်အစားများရှိ၏၊ သို့မဟုတ် ပြုစုကြည့်ရှုစေခိုင်းရန် အစေခံ သုံးလေးယောက်ရှိ၏၊ အိမ်၌ လက်ဝတ်လက်စား ဘယက်တန်ဆာ မဟုတ်သော အခြားပစ္စည်း တန်ဆာပလာများ ငါးရာ-တစ်ထောင်ဖိုးခန့် ရှိ၏၊ ၎င်းပစ္စည်းများသည် အသုံးဝင်နေသောပစ္စည်းများပင်ဖြစ်၏၊ သို့မဟုတ် မိမိအသုံးဝင် ပစ္စည်းပစ္စယများအပြင် အပိုဖြစ်သော အချို့ပစ္စည်းများလည်း ရှိ၏၊ ၎င်းပြင် ရွှေချည်ငွေချည်များနှင့် ဘယက် တန်ဆာ လက်ဝတ်လက်စားအချို့လည်းရှိ၏၊ သို့သော် ဇကာတ်ပေးရန် ဝါဂျစ်ဗ် ထိုက်လာလောက်အောင်မျှလည်းမဟုတ်ချေ၊ ထိုအခါ ထိုသို့သော သူ/မ အပေါ်၌ ဆွဒကဟ် ပေးရန် ဝါဂျစ်ဗ်မဟုတ်ချေ။ နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၁၆၁။

၃။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ/မ၌ အိမ်နှစ်လုံးရှိ၏၊ တစ်လုံးက ကိုယ်တိုင်နေ၏၊ တစ်လုံးကအငှါးမရှိဘဲဖြင့်ရှိ၏၊ သို့မဟုတ် အငှါးချထား၏၊ ထိုအခါ ဤဒုတိယအိမ်သည် အသုံးစင်နေသောပစ္စည်းတွင်အပိုဖြစ်ပေ၏၊ ဤဒုတိယအိမ်၏ အဖိုးမှာလည်း ဇကာတ်ပေးထိုက်လာလောက်အောင်မျှပင်ဖြစ်၏၊ ထိုအခါ ၎င်း သူ/မ အပေါ်၌ ဆွဒကဟ်-ဖွစ်တ်ရ် ဝါဂျစ်ဗ်ဖြစ်၏၊ ဤကဲ့သို့သော သူ/မကို ဇကာတ် ပိုက်ဆံ ပေးခြင်းလည်း မပိုင်ချေ။

အကယ်၍ ၎င်းအိမ်နှစ်လုံးမှရသောလခဖြင့် သူ/မသည် အသက်မွေးဝမ်းကြောင်း ပြုရသော် ထိုအခါ ဒုတိယအိမ်သည်လည်း အသုံးဝင် ပစ္စည်းများတွင် ပါဝင်လေသည်၊ ထိုအခါ ဆွဒကဟ်-ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ဇကာတ်ငွေကို ယူခြင်း-ပေးခြင်း နှစ်ခုစလုံးပိုင်၏။

အချုပ်မှာ.... အကြင် သူ/မသည် ဇကာတ်နှင့် ဆွဒကဟ်၏ပိုက်ဆံကို ယူခြင်းထိုက်သော် ထိုသူ/မအပေါ်၌ ဆွဒကဟ်-ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကြင် သူ/မအပေါ်၌ ဆွဒကဟ်နှင့်ဇကာတ်ယူခြင်း မပိုင်သော် ထိုသူ/မအပေါ်၌ ဆွဒကဟ်-ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ် ဖြစ်လေသည်။ ခါနေယဟ်ကျမ်း စာမျက်နှာ-၂၆၆။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ၌ အသုံးဝင်ရန် အရေးကြီးသောပစ္စည်းများအပြင် အပိုအခြားပစ္စည်းများလည်းရှိ၏၊ သို့သော် သူ/မသည် သူတစ်ပါး၏ကြွေးမြီလည်းတင်ရှိနေသူဖြစ်၏။ ထိုအခါကြွေးမြီကိုကျေပွန်စေပြီးနောက် အဘယ်မျှ ကျန်ရှိသေးသည်ကို ကြည့်ရမည်၊ အကယ်၍ ဇကာတ်ပေးရန် ဝါဂျစ်ဗ်ထိုက်လာလောက်အောင် တန်ဘိုးမျှ ပစ္စည်းကျန်သေးလျှင် ထိုအခါ ဆွဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ ထို့ထက်နည်းကျန်လျှင် ဝါဂျစ်ဗ်မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၀။

၅။ မတ်စ်အလဟ် ပြဿနာ။ အီးဒ်နေ့ နံနက် အရုဏ်တက်ချိန်ကစ ဆွဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်ဖြစ်လေသည်၊ ထို့ကြောင့် အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မသည် ဖွဂျ်ရ်အရုဏ်တက်ချိန်မကျရောက်သေးမီအလျင် သေဆုံးသွားမူ ထိုအခါ ၎င်းသူ/မအပေါ်၌ ဆွဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ ထိုသူ/မ၏ ပစ္စည်းထဲမှလည်း မပေးရချေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၂။

၆။ မတ်စ်အလဟ် ပြဿနာ။ အကောင်းဆုံးနည်းမှာယောကျ်ားများအီးဒ်ဂါဟ်ကွင်းပြင်သို့ နမာဇ်ဖတ်ကြရန် မသွားကြသေးမီအလျင် ဆွဒကဟ်ဖွစ်တ်ရ်ကို ပေးလှူခြင်းဖြစ်လေသည်၊ အကယ်၍ အလျင်မပေးခဲ့မိသော် ကိစ္စမရှိချေ၊ နောက်မှလည်း ပေးနိုင်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၂။

၇။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက်သော သူ/မသည် အီးဒ်နေ့ မကျရောက်သေးမီ အလျင် ရမဇွာန်လအတွင်း၌ဆွဒကဟ်ဖွစ်တ်ရ်ကိုပေးလှူလိုက်သျှင်လည်း အတည်ဖြစ်သွား၏၊ ယခုတဖန်ထပ်၍ပေးရန် ဝါဂျစ်ဗ်မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၁။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မသည် အီးဒ်နေ့တွင်ဆွဒကဟ်ဖွစ်တ်ရ်မပေးခဲ့သော် ခွင့်လွှတ်ချမ်းသာမှုမရချေ၊ ယခုတစ်ရက်ရက်၌မှာပင် ပေးလိုက်ရမည်။ ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၉၁။

၉။ မတ်စ်အလဟ် ပြဿနာ။ ဆွဒကဟ်ဖွစ်တ်ရ်ကို အမျိုးသမီးသည် မိမိအတွက်သာပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ အခြားတစ်ဦးတစ်ယောက်အတွက်ပေးရန် ဝါဂျစ်ဗ်မဟုတ်၊ ကလေးများ၊ မိဘများ၊ လင်နှင့် အခြား တစ်ဦးတစ်ယောက်အတွက်မှပေးရန် ဝါဂျစ်ဗ် မဟုတ်ချေ။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၀၁။

မှတ်ချက်။ ယောကျ်ားများမှာကား အရွယ်မရောက်သေးသောသားသမီးများ အတွက်ပါ ပေးဆောင်ရမည်၊ အရွယ်ရောက်ပြီးသားသမီးနှင့် ပစ္စည်းရှိသောကလေးများ အတွက် ဖခင်ကပေးရန်မလို၊ သို့သော် ရူးသွပ်သော သားကြီး-သမီးကြီးအတွက် ဖခင်က ပေးရမည်။

၁၀။ မတ်စ်အာလဟ် ပြဿနာ။ အကယ်၍ ငယ်ရွယ်သောကလေးတစ်ယောက်၌ ဆဒကဟ်ဖွစ်တ်ရ်ပေးရန်ဝါဂျစ်ဗ်ထိုက်လာလောက်အောင်မျှ ဥစ္စာကြေးငွေရှိသော် ဥပမာ-ငင်းကလေးနှင့်သက်ဆိုင်ရင်းချာသူတစ်ယောက် သေဆုံးသွား၍ ထိုသေသွားသူ၏ ကျန်ရစ်ခဲ့သော ဥစ္စာပစ္စည်းထဲမှ ပိုင်ဆိုင်ခွင့်ရှိသမျှ ထိုက်တန်သလို ဝေပုံစု ရရှိထားသည်ဖြစ်စေ၊ သို့မဟုတ်တစ်စုံတစ်ခုသောအကြောင်းဖြင့်ငင်းကလေးရရှိသည့်ဖြစ်စေထိုအခါ ထိုကလေး၏ ပိုင်ဆိုင်သောပစ္စည်းထဲမှ ဆဒကဟ် ဖွစ်တ်ရ် ပေးရမည်ဖြစ်၏၊ သို့ရာတွင် ထိုကလေးသည် အီးဒ်နေ့ နံနက် ဖဂျ်ရ် အာရုံတက်ပြီးမှ မွေးဖွားသော ကလေးဖြစ်လျှင် ထိုအခါ ငင်းကလေးဘက်မှ ဆဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၂၊၁၉၈။

၁၁။ မတ်စ်အာလဟ် ပြဿနာ။ အကြောင်းတစ်ခုခုဖြင့် ရမသွာန် ရိုဇဟ်မထားမိသော သူ/မ အပေါ်၌လည်း ဆဒကဟ်ဖွစ်တ်ရ်ကိုပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ ရမသွာန် ရိုဇဟ်ထားသော သူ/မ အပေါ်၌လည်း ဆဒကဟ်ဖွစ်တ်ရ်ကို ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ ရိုဇဟ်ထားသည်ဖြစ်စေ၊ မထားသည်ဖြစ်စေ ဘာမျှခြားနားမှုမရှိချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၂။

၁၂။ မတ်စ်အာလဟ် ပြဿနာ။ ဆဒကဟ်ဖွစ်တ်ရ်ပေးခြင်း၌ အကယ်၍ ဂျုံစေ့ သို့မဟုတ် ဂျုံမှုန့်၊ သို့မဟုတ် ဂျုံစေ့လှော်ကိုပေးလျှင် တစ်ပိဿာ ၅-ကျပ် ပေးရမည်၊ ဒ်ိဟမကင်းမဖြစ်စေရအောင် တစ်ပိဿာလေးဆယ်သားတိတိဖြစ်စေ၊ သို့မဟုတ် ငင်းထက်ပိုပြီးဖြစ်စေပေးလိုက်လျှင် သာ၍ကောင်း၏၊ အဘယ်ကြောင့်ဟူမူ ပိုမိုပေးခြင်း၌ မည်ကဲ့သို့မျှ ကြောင့်ကျစိုးရိမ်စရာမရှိသည့်ပြင် သာ၍ပင်ကောင်း၏။

အကယ်၍ ဂျောင်ခေါ် မြင်းစားဂျုံကိုဖြစ်စေ၊ ငင်းအမှုန့်ကိုဖြစ်စေ ပေးလိုလျှင် ဂျုံ၏နှစ်ဆပေးရမည်၊ အလိုကား နှစ်ပိဿာ ၁၀-သား ပေးရမည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၂။

၁၃။ မတ်စ်အာလဟ် ပြဿနာ။ ဂျုံစေ့နှင့် မြင်းစားဂျုံမှတစ်ပါး အခြားသော အစေ့များကို ပေးလိုလျှင် ဥပမာ...ကုလားပဲစေ့၊ ပြောင်းဆန်၊ ဆန်-စပါး စသည်တို့ကို ပေးလိုမူ ထိုအခါ အထက်က ဂျုံနှင့်ဂျောင်၌ ဖေါ်ပြခဲ့သမျှ၏ တန်ဘိုးနှင့်အမျှထား၍ သော်လည်းကောင်း၊ ဝယ်၍သော်လည်းကောင်း ပေးရမည်။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဂျုံစေ့ နှင့် မြင်းစားဂျုံစေ့ကို မပေးမူဘဲ ထိုမျှခန့်သောအချိန်၏ တန်ဘိုးငွေကိုပေးလျှင် ဤသို့ပေးခြင်းသည် အားလုံး ထက်ပိုကောင်း၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၉၂။

၁၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ယောက်တွက် ဖွစ်တ်ရဟ်ကို ဖွကီးရ် သူဆင်းရဲ တစ်ယောက်ထည်းကိုဘဲ ပေးသည်ဖြစ်စေ၊ သို့မဟုတ် အနည်းငယ်မျှစီ လူမြောက်မြားစွာ တို့ကို ပေးသည်ဖြစ်စေ နှစ်မျိုးစလုံးပိုင်၏။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍လူပေါင်းများစွာတို့၏ဆဒကဟ်ဖွစ်တ်ရ် ကို တစ်ယောက်ထည်းသော သူဆင်းရဲကိုပေးလျှင်လည်းပိုင်၏၊ သို့သော် ၎င်းကိုဇကာတ် ထိုက်လာလောက်အောင်မဖြေးထိုက်၊ ပေးလျှင် မတ်ကရူးဟ်ဖြစ်သည်။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ဆဒကဟ်-ဖွစ်တ်ရ် ယူထိုက်သော သူ/မမှာ လည်း ဇကာတ်ငွေကို ယူထိုက်သော သူ/မများပင်ဖြစ်၏၊ အခြားသူများ မယူ-မစား ထိုက်ပေ။ ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၁။

## ကုရ်ဘာနီ၏ အကြောင်း

ကုရ်ဘာနီ ပြုလုပ်ခြင်းသည် အကျိုး (သဝါဗ်) ကြီးမားစွာရရှိ၏၊ ရစူလ်လွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်တော်မူသည်မှာ.... ကုရ်ဘာနီ ပြုရသော နေ့ရက်များ၌ ကုရ်ဘာနီ ပြုလုပ်ခြင်းထက် ပိုမို၍ ဘယ်အရာကိုမျှ အသျှင်မြတ် နှစ်ခြိုက်ခြင်း မရှိချေ၊ ထိုနေ့ရက်များ၌ ဖွရ်သ်ဖြစ်သော ဝတ္တရားများကိုချန်ပြီး ကျန်အားလုံးသော ဝတ္တရား များထက် ၎င်းသည် သာ၍ကောင်းလေသည်။

ထို့ပြင် ကုရ်ဘာနီပြုလုပ်သောအခါ သားကောင်၏ စီးထွက်လာသော သွေးစက် များ မြေပေါ်သို့ မကျသေးမီအလျှင် အသျှင်မြတ် ထံတော်၌ ထိုကောင်းမှုကို လက်ခံ သဘောတူပြီး ဖြစ်လေသည်၊ ထို့ကြောင့် အလွန်တရာ ရွှင်ပျော်အားရစရာဖြစ်၍ စိတ် အား ထက်သန်ကြည်ညိုစွာဖြင့် ကုရ်ဘာနီပြုလုပ်သူဒါန်းကြရမည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မိန့်တော်မူသည်၊ ကုရ်ဘာနီ ပြုလုပ်သော သားကောင်၏ ကိုယ်ပေါ်၌ရှိသော အမွေးနှင့်အမျှ အမွေးတစ်ပင်လျှင် အကျိုးတစ်ခုကျ ရေးစေတော်မူသည်၊ (စွဗ်ဟာနလ္လာဟ်) ဘယ်မျှ အကျိုးများပြားသည်ကို စဉ်းစားဆင်ခြင် ကြပါလော့၊ ကုရ်ဘာနီတစ်ကောင်ပြုလုပ်ပါက သိန်းသောင်းမက မရေမတွက်နိုင်သော အကျိုးကိုရရှိ၏။

သားကောင်၏ ကိုယ်ခန္ဓာ၌ ပေါက်နေသော အမွေးများကို ရေတွက်မည်ဆိုပါက အကယ်၍ နံနက်ချိန်က စတင်ရေတွက်သော်လည်း ညနေချိန်ထိ ရေတွက်ပြီးဆုံးမည်မဟုတ် ပေ၊ ထို့ကြောင့် မည်မျှအကျိုးရရှိမည်ကို စဉ်းစားရန်ဖြစ်သည်။

အလွန် ဘာသာရေးကို ကိုင်းရှိုင်း လေးစားသူတို့၏အဖို့မှာ အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မ အပေါ်၌ ကုရ်ဘာနီပြုလုပ်ခြင်း ဝါဂျစ်ဗ် တာဝန်မဟုတ်သော်ငြားလည်း ထိုမရေတွက်နိုင်သောအကျိုးများကို ထောက်ရှု၍ တောင့်တ လိုလားပြီး ကုရ်ဘာနီပြုလုပ်ကြရန်တိုက်လေသည်၊ ဤနေ့ရက်များ လွန်မြောက်သွားသော် ဤဒါနမှု ထုပ်ငန်းကြီး အဘယ်မှာ ရနိုင်တော့အံ့နည်း၊ ဤမျှခန့်လွယ်လွယ်ဖြင့် ထိုမျှခန့် ကောင်းမှုကုသိုလ်များကို အဘယ်နည်း ရှာရနိုင်အံ့နည်း၊ အကယ်၍ အလ္လာဟ် အသျှင်မြတ်က မိမိအား ပစ္စည်းဥစ္စာကြွယ်ဝသူ ချမ်းသာသူအဖြစ် ပြုထားပါလျှင် သာပို သင့်လျော်သည်မှာ မိမိအတွက် ကုရ်ဘာနီပြုလုပ်ရာတွင် မိမိ၏ဆွေမျိုးသားချင်းဖြစ်ကြသော ကွယ်လွန်ပြီးသူများ ဥပမာ....အမိအတွက်၊ အဖအတွက် စသည်ဖြင့် ၎င်းတို့အတွက်ပါ ပြုလုပ်ပေးသင့်ပေသည်၊ ထိုသို့ ပြုလုပ်ပေးခြင်းဖြင့် ကွယ်လွန်သူများ၏ ဝိညာဉ်သို့ ကြီးမားသော(သဝါဗ်)ရောက်ရှိမည် ဖြစ်လေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ဘက်တော်မှလည်းကောင်း၊ ကိုယ်တော်၏အွမ်မှလ် မုအ်မေနီန် ကြင်ယာတော် သခင်မများဘက်မှ လည်းကောင်း၊ မိမိ၏ ဆရာ မရှာအစ်ခ်သခင်များတို့၏ဘက်မှလည်းကောင်း၊ ကုရ်ဘာနီပြုလုပ်ထိုက်ပေ၏၊ အနည်းဆုံး ကိုယ့်အတွက်ကိုယ်တော့လုပ်လိုက်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဥစ္စာကြေးငွေရှိသော သူများအပေါ်၌ ကုရ်ဘာနီပြုလုပ်ရန် ဝါဂျစ်ဗ်ဖြစ်၏။

ယင်းသို့ ဥစ္စာကြေးငွေ ကုံလုံရတတ် ပြည့်စုံပါလျက် ကုရ်ဘာနီ မပြုဘဲ နေလျှင် ထိုသူ/မထက် အကြောင်းဆိုး တတ်က်ဒီးရ် ဆိုးသူ ရှိပါဦးမည်လော၊ အပြစ်ထိုက်ခြင်းက တစ်ခြားဖြစ်လေသည်၊ အကြင်အခါ ကုရ်ဘာနီပြုရန် တိရစ္ဆာန် သားကောင်ကို ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူကာ လှည့်၍ ပထမ ဤဒိုအာကို ဖတ်ရွတ်ရမည်။

إِنِّيْ وَجَّهْتُ وَجْهِيَ لِلَّذِيْ فَطَرَ السَّمٰوٰتِ وَالْاَرْضَ حَنِيْفًا
وَّمَآ اَنَا مِنَ الْمُشْرِكِيْنَ اِنَّ صَلَاتِيْ وَنُسُكِيْ وَمَحْيَايَ وَمَمَاتِيْ
لِلّٰهِ رَبِّ الْعٰلَمِيْنَ لَا شَرِيْكَ لَهٗ وَبِذٰلِكَ اُمِرْتُ وَاَنَا مِنَ
الْمُسْلِمِيْنَ اَللّٰهُمَّ مِنْكَ وَلَكَ.

(အင်နီ၊ ဝဂ်ျဂျဟ်တု၊ ဝပ်ဂျ်ဟေယ၊ လင်္လလ်လသီ၊ ဖွတရပ်စ်၊ စမာဝါတေဝလ်အရ်သွ၊ ဟနီဖွာန်၊ ဝမာအနာ၊ မေနလ်မွတ်ရှ်ရေကီးန်။

အင်နစ္စလာတီ၊ ဝနိုစိုကီ၊ ဝမဟ်ယာယ၊ ဝမ်မာတီ၊ လစ်လ္လာဟေ၊ ရဗ်ဗင်လ်အာလမီန၊ လာရှရီကလဟူ၊ ဝဗေ ဇာလေကာ၊ အုမစ်ရ်တု၊ ဝအန၊ မေနလ်မွတ်စ်လေမီးန်၊ အလ္လာဟွန်မ၊ မင့်နကာ၊ ဝလက)။

ထို့နောက် (ဗစ်မစ်လ္လာဟ်၊ ဟုစ်လာဟို၊ အတ်က်ဗရ်)ဟု မြွက်ဆိုလျက် (သဗိဟ်) လှီးဖြတ်ခြင်းပြုရမည်၊ (သဗိဟ်)ပြုပြီးနောက် ဤဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ تَقَبَّلْهُ مِنِّىْ كَمَا تَقَبَّلْتَ مِنْ حَبِيْبِكَ اِبْرَاهِيْمَ عَلَيْهِمَا السَّلَامُ

(အလ္လာဟွမ်မ) တကဗ်ဗလ်ဟို (မင်န်နီ) ကမာတကဗ်ဗလ်တ (မင်န်) ဟဗီဗေ့က အစ်ဗ်ရာဟီမ၊ အလိုင်ဟေ့မတ်စ်စလာမ်။

မှတ်ချက်။ အခြားသော တစ်ဦးဦးအတွက်ပြုလုပ်လျှင်(မင်န်နီ)ဟူသော နေရာတွင် (မင်န်....ဟုဆိုပြီးလျှင် ပြုလုပ်သူ၏အမည်)ကို ထည့်ဆိုရမည်။

တင်ရ်ဂီးဗ်ကျမ်းအတွဲ-၂၊ စာမျက်နှာ ၅၁။

မစ်ရှ်ကာတ်ကျမ်းအတွဲ-၁၊ စာမျက်နှာ ၁၂၈။

၁။ မတ်စ်အလဟ် ပြဿနာ။ ဆဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်ဖြစ်သောသူ/မ အပေါ်၌ အီဒွလ်အသွဟာနေ့များတွင် ကုရ်ဘာနီပြုလုပ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏။

စစ္စာကြေးငွေမချမ်းသာ၍ ဆဒကဟ်ဖွစ်တ်ရ်ပေးရန် ဝါဂျစ်ဗ်မထိုက်သော သူ/မ အပေါ်၌ ကုရ်ဘာနီ ပြုလုပ်ရန်လည်း ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ ပြုလုပ်လျှင်လည်း ကြီးသောအကျိုး ရရှိပေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၃၁။

၂။ မတ်စ်အလဟ် ပြဿနာ။ ခရီးသည်အပေါ်၌ ကုရ်ဘာနီပြုလုပ်ရန် ဝါဂျစ်ဗ် မဟုတ်ချေ။ ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၄၂၉။

၃။ မတ်စ်အလဟ် ပြဿနာ။ အီဒွလ်အသွဟာ ဆယ်ရက်နေ့က စ၍ တစ်ဆယ့် နှစ်ရက်နေ့ ညနေအချိန်အထိအတွင်း ကုရ်ဘာနီပြုလုပ်ရန် အချိန်ပိုင်းဖြစ်လေသည်၊ ကြိုက်သော ရက်တွင် ကုရ်ဘာနီပြုလုပ်နိုင်သည်၊ သို့သော် သာ၍ကောင်းမြတ်သောနေ့မှာ ဆယ်ရက်နေ့ ဖြစ်လေသည်၊ ထို့နောက် ဆယ့်တစ်ရက်နေ့၊ ထို့နောက် ဆယ့်နှစ်ရက်နေ့ ဖြစ်လေသည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၈။

၄။ မတ်စ်အလဟ် ပြဿနာ။ မြို့ကြီးရွာကြီးများ၌ အီးဒ်နမာဇ် မဖတ်မီအလျင် ကုရ်ဘာနီမပြုလုပ်ထိုက်ပေ၊ နမာဇ်ဖတ်ပြီးနောက်မှ ပြုလုပ်ရမည်၊ သို့သော် ရွာငယ်များ၌ နေထိုင်ကြသော သူ/မ များမှာ ဖဂျ်ရ် နမာဇ်ချိန် တော်ပြီး နောက်မှ စ၍ ကုရ်ဘာနီ လုပ်ပိုင်၏။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၈။

၅။ မတ်စ်အလဟ် ပြဿနာ။ မြို့၌နေသော သူ/မသည် မိမိကုရ်ဘာနီပြုလုပ်မည် ဖြစ်သော သားကောင်ကို ရွာငယ်တစ်ရွာသို့(မြို့ပြင်သို့)ပို့လိုက်လျှင် ၎င်းကို အီးဒ်နမာဇ် အလျင်လည်း ကုရ်ဘာနီ ပြုလုပ်ထိုက်၏၊ အကယ်၍ မိမိကိုယ်တိုင် မြို့၌ ရှိနေသော်လည်း တောရွာမှာပို့လိုက်သည့်အတွက် ရွာ၌ပင်လုပ်ခြင်းပိုင်၏၊ 'သဗိဟ်' လုပ်ပြီးနောက် အသား ကို မှာယူ စားသောက်နိုင်၏။ အာလမ်ဂီရီကျမ်း အတွဲ-၄၊ စာမျက်နှာ ၄၃။

၆။ မတ်စ်အလဟ်ပြဿနာ။ (သင်လ်ဟဂ္ဂျလ) ၁၂-ရက်နေ့ ညနေ နေမဝင်မီ အချိန်အတွင်းသာ ကုရ်ဘာနီ ပြုလုပ်ပိုင်၏၊ နေဝင်ပြီးနောက်တွင် ပြုလုပ်ခြင်း မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၅၊ ၂၉၆။

၇။ မတ်စ်အလဟ်ပြဿနာ။ ၁၀-ရက်နေ့က၊ ၁၂-ရက်နေ့ အထိ ရက်များ အတွင်း အဘယ်အချိန်မှာမဆို ကြိုက်သောအချိန်၌ နေ့ကိုဖြစ်စေ၊ ညကိုဖြစ်စေ ကုရ်ဘာနီ ပြုလုပ်ပိုင်၏၊ သို့ရာတွင် အချို့သောသေးကြောများမပြတ်ဘဲ ကျန်နေ၍ ကုရ်ဘာနီ မပိုင်မည်ကိုစိုးရသဖြင့် ညအချိန်တွင်ပြုလုပ်ခြင်း မကောင်းချေ။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၅၊ ၂၉၆။

၈။ မတ်စ်အလဟ်ပြဿနာ။ အကြင် သူ/မ-သည် ၁၀-ရက်၊ ၁၁-ရက်၊ ၁၂-ရက်တို့တွင် လမ်းခရီး၌မှာပင် ရှိနေ၍ ၁၂-ရက်နေ့ နေမဝင်ခင် မိမိအိမ်ရှိရာ ဌာနသို့ ပြန်ရောက်လာ၏၊ သို့မဟုတ် တစ်နေနေရာမှာဘဲ ၁၅-ရက် တည်းခိုနေထိုင်မည်ဟု ရည်ရွယ်လျက်၊ နေထိုင်သော် ၎င်းသူ/မအပေါ်၌ ကုရ်ဘာနီပြုလုပ်ရန် ဝါဂျစ်ဗ်ဖြစ်၏။ ထို့နည်းပင် အလျှင်တစ်ခါက ကုရ်ဘာနီပြုထိုက်လောက်အောင် ဥစ္စာကြေးငွေ မရှိခဲ့ပေ၊ ထို့နောက် ၁၂-ရက်နေ့ နေမဝင်မီ အခြားတစ်ပါးက ကြေးငွေရရှိလာလျှင် ချက်ချင်းပင် ၎င်းသူ/မအပေါ်၌ ကုရ်ဘာနီပြုလုပ်ရန် ဝါဂျစ်ဗ်ထိုက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၁၉၆။

၉။ မတ်စ်အလဟ်ပြဿနာ။ မိမိ၏ ကုရ်ဘာနီသားကောင်ကို မိမိ၏ လက်ဖြင့် သဗ်ဟ် ကိုယ်တိုင်ပြုလုပ်ခြင်းကောင်း၏၊ ကိုယ်တိုင်မလုပ်တတ်လျှင် တတ်သောသူတစ်ဦးဦးအား ပြုလုပ်ခိုင်းရမည်၊ ထိုအခါ၎င်းသားကောင်၏ရှေ့က မတ်တပ်ရပ်၍နေရမည်၊ လုပ်သောသူ မိန်းမဖြစ်၍ ပရ်ဒဟ် အကွယ်အကာမရှိခြင်းကြောင့် ၎င်းနေရာမှာ မရပ်နိုင်လျှင် ကိစ္စမရှိပေ၊ ကုရ်ဘာနီ ပိုင်သွား၏။

ရှရ်ဟ္ဗတ်တန်ဝီးရ်ကျမ်း အ-တွဲ၁၊ စာမျက်နှာ-၂၃၄။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ကုရ်ဘာနီ ပြုလုပ်သောအချိန်တွင် နှုတ်လျှာဖြင့် နီယတ်ချည်ခြင်း၊ ဒိုအာဖတ်ရွတ်ခြင်းများသည် အရေးမကြီးပေ၊ အကယ်၍ ကျွန်ုပ်သည် ကုရ်ဘာနီပြုလုပ်ပါသည်ဟု စိတ်မှရည်စူး၍ နှုတ်မှ ဘာမျှမဖတ်ဘဲ(ဗစ်မစ်လ္လာ၊ ဟစ်လာဟို၊ အတ်က်ဗရ်)ဟုရွတ်ဆိုပြီး လှီးလျှင်လည်းကုရ်ဘာနီပိုင်၏၊ အကယ်၍နှုတ်ငုံရနေလျှင်လည်း အထက်မှာဖော်ပြခဲ့သော ဒိုအာကို ဖတ်ရွတ်ခြင်း သာ၍ကောင်း၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၂။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ကုရ်ဘာနီကိုမိမိဘက်ကပြုလုပ်ခြင်းသာ ဝါဂျစ်ဗ် ဖြစ်၏၊ သားမြေးဘက်မှ ပြုလုပ်ခြင်း ဝါဂျစ်ဗ်မဟုတ်ပေ၊ သို့သာမက အရွယ် မရောက် သေးသောသားသမီးများ ကြွယ်ဝချမ်းသာဥစ္စာဓနရှိသော်လည်း ၎င်းတို့ပစ္စည်းဖြင့်ဖြစ်စေ

မိမိပစ္စည်းဖြင့်ဖြစ်စေ ပြုလုပ်ရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ တစ်ဦးတစ်ယောက်က ထိုသူငယ်-သူငယ်မအက်မှ ဆိုပြီး ပြုလုပ်လျှင် ထိုအခါ နဖ်လ်သာဖြစ်မည်၊ သို့သော် မိမိကြေးငွေဖြင့်သာပြုလုပ်ရမည်၊ သူတို့၏ကြေးငွေဖြင့် လုံးဝမလုပ်ရပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ ၂၂၀။
အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၁၉၇။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ဆိတ်ထီး - ဆိတ်မ၊ သိုးထီး - သိုးမ၊ ဒွန်ဘာနွားထီး-နွားမ၊ ကျွဲထီး-ကျွဲမ၊ ကုလားအုတ်ထီး-ကုလားအုတ်မ၊ ဤမျှခန့်သော တိရစ္ဆာန်များကိုသာ ကုရ်ဘာနီ ပြုလုပ်ရန် ပိုင်သည်၊ အခြား အမျိုးအစား တိရစ္ဆာန်များကို ကုရ်ဘာနီ မပြုထိုက်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၉၅။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၄၂၃။

၁၃။ မတ်စ်အလဟ် ပြဿနာ။ နွား, ကျွဲ, ကုလားအုတ် တို့၌ ခုနစ်ဦး ဖက်စပ်၍ ကုရ်ဘာနီပြုလုပ်သော် ပိုင်၏၊ သို့သော် စည်းကမ်းချက်သတ်မှတ်ထားသည်မှာ ထိုခုနစ်ဦးတို့၏ ဝေပုံစု၌ မည်သူ၏ ဝေပုံစုမှ မပိုမလျော့စေရ၊ ညီတူညီမျှဖြစ်စေရမည်၊ အကယ်၍ တစ်ဦးဦး၏ ဝေပုံစုနည်းသွားသည်ရှိသော် ထိုအခါ ညီနေသောဝေပုံကိုဖြစ်စေ၊ လျော့နေသော ဝေပုံဖြစ်စေ မည်သူ၏ ကုရ်ဘာနီမှမပိုင်ချေ၊ အားလုံးသောသူတို့၏ နိယတ်သည် ကုရ်ဘာနီ ပြုလုပ်ရန် သို့မဟုတ် အကီဒဟ်ပြုလုပ်ရန်ဟု ရည်စူးရမည်၊ အသားစားရန်ဟု မဖြစ်စေရ။ အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၉၇။

၁၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ နွား, ကျွဲ, ကုလားအုတ်တို့၌ ခုနစ်ယောက်ထက်နည်းပြီး ဖက်စပ်သော် သို့မဟုတ် ဥပမာ....လူငါးယောက်သာ ဖက်စပ်သော် သို့မဟုတ် ငါးယောက်သာ ဖက်စပ်အမျှဝေစု၌ အညီအမျှပုံယူလျှင်ထို အခါတွင်လည်း အားလုံး၏ကုရ်ဘာနီပိုင်၏၊ အကယ်၍ လူဦးရေ ရှစ်ဦးဖက်စပ်လျှင် မည်သူ၏ကုရ်ဘာနီမှ မပိုင်ပေ၊ မှန်လည်းမမှန်ချေ။ အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၉၇။

၁၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်က ကုရ်ဘာနီပြုရန်အတွက် နွားကိုဝယ်၏၊ ဝယ်သောအခိုက် အကယ်၍ အခြားသောသူတစ်ဦးဦးကို တွေ့ရှိလျှင် ဤနွား၌ ဖက်စပ်စေ၍ ပေါင်းပြီးပြုလုပ်မည်ဟု နိယတ်ပြုလိုက်၏၊ ထို့နောက် ရည်ရွယ်ထားသည့် အတိုင်းပင် လူအချို့တို့သည် အတူဖက်စပ်ကြပြီးပြုလုပ်လျှင် ၎င်းကုရ်ဘာနီပိုင်၏။

အကယ်၍ ဝယ်စဉ်က မည်သူနှင့်မျှဖက်စပ်ပြုလုပ်မည်ဟုရည်ရွယ်ခြင်းမရှိ၊ သာမက နွားတစ်ကောင်လုံးကိုပင်မိမိတစ်ဦးတည်းက ပြုလုပ်မည်ဟုရည်ရွယ်လိုက်၏၊ ယခုတစ်ဦးဦးဝင်ရောက်ဖက်စပ်လာသော် မကောင်းပေ၊ သို့သော်လည်း အကယ်၍ တစ်ဦးဦးကိုဖက်စပ်စေလိုမူ ၎င်းသူသည်ကြွယ်ဝချမ်းသာ၍ ၎င်းကိုယ်တိုင်ဝါဂျစ်ဗ်ဖြစ်သောသူလော၊ သို့မဟုတ် ဆင်းရဲ၍ ၎င်းကိုယ်တိုင်ဝါဂျစ်ဗ်မဟုတ်သောသူလောဟုကြည့်ရမည်၊ အကယ်၍ ကြွယ်ဝသူဖြစ်လျှင် ထိုက်၏၊ ဆင်းရဲသူဖြစ်လျှင် မထိုက်ချေ၊ အကယ်၍ ပြုလုပ်ဖြစ်လျှင်ပိုင်သွား၏၊

သို့သော် မူလန္ဒားရှင် ဆင်းရဲသူက ဖက်စပ်လိုက်သည်၊ အစုကို ၎င်းအတွက် ထပ်မံ၍ ကုရ်ဘာနီပြုရဦးမည်၊ ရက်ကုန်သွားလျှင် ၎င်း၏အဖိုးငွေကို သူဆင်းရဲများအား ပေးရမည်။ ဖွတာ၀ါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၄။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကုရ်ဘာနီပြုရန် ဝယ်ထားသော တိရစ္ဆာန်သည် ပျောက်သွား၍ နောက်တစ်ကောင်ထပ်ဝယ်ပြီးမှ ပထမပျောက်သွားသော တိရစ္ဆာန်ပြန်ရသော် အကယ်၍ ကြွယ်ဝသူဖြစ်လျှင် တစ်ကောင်ထည်းသော တိရစ္ဆာန်ကိုသာ (အဘယ်အကောင်ကိုဖြစ်ဖြစ်) ကုရ်ဘာနီပြုလုပ်ရမည်၊ (သို့သော် ပထမဝယ်သော အကောင်ကို လုပ်လျှင် ကောင်း၏၊ နောက်မှဝယ်သော အကောင်ကို လုပ်လျှင် ပထမ အကောင်ထက်အဖိုးမှာ နည်းသည်လော၊ များသည်လော ကြည့်ရမည်၊ အကယ်၍ နည်းလျှင် နည်းသမျှ ငွေကို ဆင်းရဲသောသူများအား လှူလိုက်ရန် မွတ်စ်တဟာဗ် ဖြစ်၏။) အကယ်၍ ဆင်းရဲသူဖြစ်က နှစ်ကောင်စလုံးကိုပင် ကုရ်ဘာနီပြုလုပ်ရန် ဝါဂျစ်ဗ်ဖြစ်။ ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ ၄၃၂။

၁၇။ မတ်စ်အလဟ်ပြဿနာ။ လူ့ခုနစ်ယောက် ဖက်စပ် ပြုလုပ်ကြသော်အခါ ဝေပုံခွဲရာ၌ခန့် မှန်းပြီးမဝေရ၊ ချိန်ခွင်ဖြင့်မှန်ကန်စွာချိန်တွယ်ပြီး ခွဲဝေရမည်၊ သို့မဟုတ်လျှင် ဝေပုံခွဲရာ၌ သာပို-လျော့နည်းဖြစ်၍ ထိုအခါတွင် (အတိုး)ဖြစ်သွား၍ အပြစ်ဖြစ်မည်၊ သို့သော် အသားနှင့်အတူ ဝေပုံခွဲရာ၌ ခေါင်း, ခြေထောက်, သားရေတို့ကိုလည်း ထည့်စေသော် ထိုအခါ ၎င်းခေါင်း, သားရေ, ခြေထောက် ပါသော ဝေစု၌ မည်မျှပင် အသားနည်းသော်လည်းပိုင်၏၊ အသားများသော်အစု၌ ခေါင်း, ခြေထောက်, သားရေများ ထည့်ဝေသောအခါလည်း အတိုးဖြစ်သွား၍ အပြစ်ဖြစ်ပေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၃၂။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ဆိတ်နှင့်သိုးမှာ ၁-နှစ်သားထက်ငယ်လျှင်မပိုင်၊ ၁-နှစ်တင်းတင်းပြည့်မှ ကုရ်ဘာနီပြုလုပ်ပိုင်၏၊ နွားနှင့်ကျွဲတို့မှာ ၂-နှစ်သားထက်ငယ်လျှင် မပိုင်၊ ၂-နှစ်တင်းတင်းပြည့်မှ ပိုင်၏၊ ကုလားအုတ်မှာ ၅-နှစ်သားထက်ငယ်လျှင် မပိုင်၊ ဒွန်ဘာသည် ၆-လသား အရွယ်ကို ၁-နှစ်သား ရှိသော ဒွန်ဘာအုပ်ထဲသို့ လွှတ်ထား၍ ကြည့်သောအခါ ၁-နှစ်သားမှန်း ၆-လသားမှန်းမခွဲခြားနိုင်၍ ထိုမျှပင်ဝသော ၆-လသား ဒွန်ဘာတို့ကိုလည်း ကုရ်ဘာနီပြုထိုက်၏၊ အကယ်၍ ဤသို့မဟုတ်မူ ၁-နှစ်သားကိုပြုရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၂။

၁၉။ မတ်စ်အလဟ်ပြဿနာ။ အကြင်တိရစ္ဆာန်သည် မျက်စိစုံကန်းနေသည်ဖြစ်စေ၊ သို့မဟုတ်တစ်ဘက်ကန်းနေသည်ဖြစ်စေ၊ သို့မဟုတ် မျက်စိတစ်ဘက်က သုံးပုံတစ်ပုံသော်လည်းကောင်း၊ ထို့ထက်များ၍သော်လည်းကောင်း မမြင်သောအခါဖြစ်စေ၊ သို့မဟုတ် နားရွက်တစ်ဘက် သုံးပုံတစ်ပုံသော်လည်းကောင်း၊ ထို့ထက် များ၍သော်လည်းကောင်း

ပြက်နေသည်ဖြစ်စေ သို့မဟုတ် သုံးပုံတစ်ပုံသော်လည်းကောင်း၊ ထို့ထက် များ၍သော်လည်းကောင်း အမြီးပြတ်နေသည်ဖြစ်စေ ထိုသို့သော တိရစ္ဆာန်မျိုးကို ကုရ်ဘာနီပြုရန်မပိုင်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၆၁။
အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၈။

၂၀။ မတ်စ်အလတ် ပြဿနာ။ အကြင်တိရစ္ဆာန်၏ခြေထောက်သည် သုံးချောင်းဖြင့်သာသွားလာနေ၍ စတုတ္ထခြေထောက်မှာကျိုးနေ၍ လုံးလုံးမချနိုင်သော်လည်းကောင်း သို့မဟုတ် စတုတ္ထခြေထောက်မှာ ၎င်းအောင့်ရှိ၏၊ သို့ရာတွင် လမ်းမသွားနိုင်မှု ထိုအကောင်ကို ကုရ်ဘာနီ မလုပ်ထိုက်ပေ။

သို့သော် သွားသော အခါ၌ ညာထောက်၍ ၎င်းခြေနှင့်လည်း အား ယူ ပြီး ထော့နဲ့ ထော့နဲ့ ကျိုးနင်းကျိုးနင်းသွားနိုင်လျှင် ထိုအခါ ကုရ်ဘာနီပြုထိုက်၏။

၂၁။ မတ်စ်အလတ် ပြဿနာ။ အရိုးတွင် ချဉ်ဆီမရှိလောက်အောင် ပိန်ညှော်သောတိရစ္ဆာန်ကို ကုရ်ဘာနီမပြုထိုက်၊ ထိုမျှခန့်မပိန်လျှင်ပြုထိုက်၏၊ သို့သော် အသားအရေ ဝဖြိုးသန်မာသော တိရစ္ဆာန်ကိုလုပ်လျှင် သာ၍ကောင်း၏။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၉၈။

၂၂။ မတ်စ်အလတ် ပြဿနာ။ သွားလုံးလုံးမရှိသော တိရစ္ဆာန်ကို ကုရ်ဘာနီမလုပ်ပိုင်၊ အကယ်၍အချို့သောသွားများကျိုး၍ ထိုကျိုးသောသွားများထက် မကျိုးဘဲ ကျန်နေသောသွားကများလျှင် ထိုအကောင်ကို ကုရ်ဘာနီပြုလုပ်ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၁။

၂၃။ မတ်စ်အလတ် ပြဿနာ။ မွေးတုန်းကတည်းက နားရွက် မပါလာသော တိရစ္ဆာန်ကို ကုရ်ဘာနီပြုခြင်း မပိုင်၊ နားရွက်သော့ ရှိ၏၊ သို့သော် သေးငယ်နေလျှင် ထိုအကောင်ကို ပြုလုပ်ပိုင်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၃။

၂၄။ မတ်စ်အလတ် ပြဿနာ။ မွေးတုန်းကပင် ဦးချိုမပါသော တိရစ္ဆာန်ဖြစ်စေ၊ သို့မဟုတ် ဦးချိုတော့ပါရှိ၏၊ သို့သော် ကျိုးသွား၏၊ ထိုအခါ ၎င်းကို ကုရ်ဘာနီပြုလုပ်ပိုင်၏၊ သို့ရာတွင် လုံးလုံးအရင်းကကျိုးနေလျှင် ကုရ်ဘာနီမပိုင်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၇။

၂၅။ မတ်စ်အလတ် ပြဿနာ။ သင်းထားသော၊ ကွပ်ထားသော ဆိတ်ထီး သိုးထီးတို့ကို ကုရ်ဘာနီပြုလုပ်ပိုင်၏၊ အနည်းငယ်မျှလောက်သာ ဝဲစွဲနေသော တိရစ္ဆာန်အား ကုရ်ဘာနီပြုပိုင်၏၊ ဝဲစွဲခြင်းကြောင့် အလွန်ပိန်ညှော်နေလျှင် မပိုင်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၄၃၂။

၂၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကုရ်ဘာနီလုပ်ရန် တိရစ္ဆာန်ကို ဝယ်ပြီးမှ ကုရ်ဘာနီမပြုပိုင်သော ချွတ်ယွင်းချက်အနာအဆာများ ဖြစ်ပေါ်လာလျှင် ၎င်း၏အစား အခြားတစ်ကောင်ကိုထပ်ဝယ်၍ ကုရ်ဘာနီပြုလုပ်ရမည်၊ အကယ်၍ ဆင်းရဲသဖြင့် ကုရ်ဘာနီ ပြုလုပ်ရန်မှာ ဝါဂျစ်ဗ် မဟုတ်သော သူ/မဖြစ်မူ ထိုဝယ်ပြီး အကောင်ကိုပင် ကုရ်ဘာနီ ပြုလုပ်ပိုင်၏။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၃။

၂၇။ မတ်စ်အလဟ်ပြဿနာ။ ကုရ်ဘာနီအသားကိုကိုယ်တိုင်လည်းစားထိုက်၏၊ ဆွေမျိုးသားချင်း၊ မိဘ၊ မယား၊ သားသမီး၊ မြေးတို့မှ စ၍ အားလုံးကို ပေးဝေပိုင်၏၊ သူဆင်းရဲများကိုလည်း ပေးကမ်းလှူဒါန်းခြင်းပိုင်၏၊ သုံးပုံတစ်ပုံထက် မလျော့နည်းစေဘဲ လှူလိုက်လျှင် သာ၍ ကောင်း၏၊ သို့သော် အနည်းငယ်မျှလောက်သာ လှူလျှင်လည်း အပြစ်မရှိပေ။ ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ ၄၃၅။

၂၈။ မတ်စ်အလဟ်ပြဿနာ။ ကုရ်ဘာနီသားရေကို သားရေအတိုင်းလှူလိုက်လျှင်လည်း ပိုင်၏၊ သို့မဟုတ် ရောင်း၍ရသောအဖိုးကို လှူလျှင်လည်း ပိုင်၏၊ သို့သော် ဇကာတ်ပိုက်ဆံ ယူထိုက်သော သူများကိုသာ ၎င်းအဖိုးကိုပေးထိုက်၏၊ ရောင်း၍ရသော ပိုက်ဆံအတိုင်းကိုသာ လှူရမည်၊ အကယ်၍ ရောင်းရသောပိုက်ဆံကို မိမိအကြောင်းကိစ္စတစ်ခုခု၌ သုံးစွဲပစ်လိုက်သဖြင့် ကိုယ့်ထံက စိုက်ထုတ်ပြီး ၎င်းသုံးစွဲပစ်လိုက်သလောက်ကို လှူပြန်လျှင် မကောင်းပေ၊ သို့သော် တာဝန်ကျေ၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၄။

၂၉။ မတ်စ်အလဟ်ပြဿနာ။ သားရေ ရောင်းရသော အဖိုးကို ဗလီ ပြုပြင်ဆောက်လုပ်ရန်တွင်သော်လည်းကောင်း၊ အခြား ကောင်းသောလုပ်ငန်းတစ်ခုခုတွင်သော်လည်းကောင်း သုံးစွဲရန်မပိုင်ပေ၊ လှူဒါန်းခြင်းသာလျှင် ပြုလိုက်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၃၄။

၃၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သားရေကိုမရောင်းဘဲ မိမိကိုယ်တိုင် သုံးစွဲလျှင်လည်း သုံးစွဲပိုင်၏၊ ဥပမာ.... ဆန်ကာ သို့မဟုတ် ရေအိတ်ရေပုံး၊ သို့မဟုတ် ဂျာနမာဇ် ပြုလုပ်လိုလျှင် ပြုလုပ်ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၄။

၃၁။ မတ်စ်အလဟ်ပြဿနာ။ အချို့သောအသားကိုဖြစ်စေ၊ အဆီကိုဖြစ်စေ သို့မဟုတ် ဝမ်းတွင်းသားကိုဖြစ်စေ နွားဖျက်သူသို့ အခသဘောမပေးရ၊ အခကိုတစ်ခြားသတ်သတ်စိုက်ထုတ်ပေးရမည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၄။

၃၂။ မတ်စ်အလဟ်ပြဿနာ။ သားကောင်ကို ချည်သော ကြိုး၊ အုပ်သော အထည်များနှင့် အသုံးအဆောင် စသည်များကို လှူလိုက်ရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၀.

၃၃။ မတ်စ်အလဟ်ပြဿနာ။ အကြင် သူ/မ တစ်ဦးတစ်ယောက် အပေါ်၌ ကုရ်ဘာနီပြုလုပ်ရန် ၀ါဂျစ်ဗ်မဟုတ်ဘဲ ထိုသူ/မသည် ကုရ်ဘာနီပြုလုပ်ရန် နိယတ်ဖြင့် တိရစ္ဆာန်ကို၀ယ်ယူခဲ့သော် ထိုသားကောင်ကို ကုရ်ဘာနီပြုရန် ၀ါဂျစ်ဗ်ဖြစ်သွားလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၂။

၃၄။ မတ်စ်အလဟ်ပြဿနာ။ ကုရ်ဘာနီ ပြုရန် ၀ါဂျစ်ဗ် ဖြစ်သော သူ/မ တစ်ယောက်သည် အကြောင်းတစ်ခုခုဖြင့် သုံးရက်စလုံး ကုန်လွန်သွား၍ မပြုလုပ်လိုက်ရသောအခါ ထို သူ/မသည် ဆိတ်တစ်ကောင်ဖိုးကို ဖြစ်စေ၊ သိုးတစ်ကောင်ဖိုးကို ဖြစ်စေ လှူဒါန်းလိုက်ရမည်၊ ၀ယ်ထားသော ဆိတ်၊ သိုး ရှိလျှင်လည်း ၎င်းကို အကောင်လိုက်ပင် လှူလိုက်ရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၀။

၃၅။ မတ်စ်အလဟ်ပြဿနာ။ အလုပ်ကိစ္စ တစ်ခုခုကို အောင်မြင်စေခြင်းငှာ ကုရ်ဘာနီပြုလုပ်ပါမည်ဟု ကိုးလိုက်၍ ၎င်းကိုးထားသောအလုပ်အောင်မြင်လျှင် ကိုးထားသည့်အတိုင်း ဆင်းရဲသော သူ/မဖြစ်စေ၊ ချမ်းသာသော သူ/မဖြစ်စေ ကုရ်ဘာနီပြုလုပ်ရန် ၀ါဂျစ်ဗ်ဖြစ်သွား၏၊ ထိုသို့ ကိုးထားသော ကုရ်ဘာနီ အသားအားလုံးကိုပင် 'ဖွကီးရ်' သူဆင်းရဲများအား လှူဒါန်းပေးကမ်းလိုက်ရမည်၊ ကိုယ်တိုင်လည်းမစားရ၊ သူဌေး-သူကြွယ် တို့ကိုလည်း မပေးရ၊ အကယ်၍ ကိုယ်တိုင် စားမိသည်၊ သူဌေး-သူကြွယ်ကိုလည်း ပေးမိခဲ့မူ ထိုစားသည့်-ပေးသည့် အခန့်ပင် ပြန်၍လှူလိုက်ရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၇၆။

၃၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မိမိစိတ်ဆန္ဒအားဖြင့် သေလွန်ပြီးသူ တစ်ဦးဦးအား သ၀ါဗ်အကျိုးရစေခြင်းငှာရည်ရွယ်လျက် ကုရ်ဘာနီပြုလျှင် ၎င်းအသားကို ကိုယ်တိုင်စားခြင်း၊ တစ်ခြားသူများကိုလည်းဝေငှခြင်းပြုနိုင်သည်၊ ကုရ်ဘာနီ၏ အမိန့်ပညတ်အတိုင်းဖြစ်လေသည်။ ရှာမီကျမ်းအတွဲ-၅၊စာမျက်နှာ-၂၇၅၊၃၂၇။

၃၇။ ။မတ်စ်အလဟ်ပြဿနာ။ သို့ရာတွင် သေလွန်သူတစ်ဦးဦးက အကယ်၍ ငါသေသွားလျှင် ငါ၏ကျန်ရစ်ခဲ့သော ဥစ္စာကြေးငွေအချို့ထဲမှ ငါ့အတွက် ကုရ်ဘာနီ ပြုလုပ်ကြပါဟု မှာထား ပြောဆိုသွားသဖြင့် မှာသည့်အတိုင်း ပြုလုပ်ကြသော အခါ ၎င်းအသားအားလုံးကိုပင် လှူဒါန်းလိုက်ခြင်း ၀ါဂျစ်ဗ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၃၊၂၇၅။

၃၈။ မတ်စ်အလဟ်ပြဿနာ အကယ်၍ အကြင်သူ တစ်ဦးတစ်ယောက်သည် ဤအရပ်၌မရှိ၊ အခြားသောသူတစ်ယောက်က ၎င်းသူအတွက် ထိုသူ၏ အမိန့်မရဘဲ ကုရ်ဘာနီပြုလုပ်ခဲ့သော် ဤကုရ်ဘာနီသည် မပိုင်ချေ။

အကယ်၍ အကြင်တိရစ္ဆာန်၌ အဝေး၌ရောက်နေသူတစ်ဦးဦး၏ ဝေစုကို ထိုသူ၏ အမိန့်မရဘဲပြုလုပ်ခဲ့သော် အခြားဖက်စပ်သူများ၏ ဝေစုပါ မပိုင်ဖြစ်သွားသည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၀၂။

၃၉။ မတ်စ်အလပ် ပြဿနာ။ အကယ်၍ တစ်စုံ တစ်ခုသော တိရစ္ဆာန်သည် တစ်ဦးတစ်ယောက်သောသူအား ဝေစုအဖြစ်ပေးထားသော် ဤအကောင်သည် ထိုမွေးမြူထားသော သူ/မ၏ ပိုင်ဆိုင်မှုမရှိချေ၊ သာမက မူလပိုင်ဆိုင်သူ၏ ပစ္စည်းဖြစ်လေသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သောသူက ထိုမွေးမြူထားသော သူ/မ၏ ထံမှ ဝယ်ယူပြီး ကုရ်ဘာနီပြုလုပ်မူ ကုရ်ဘာနီမပိုင်ချေ၊ အကယ်၍ ဤသို့သော တိရစ္ဆာန်ကို ဝယ်ယူလိုလျှင် မူလပိုင်ဆိုင်သူထံမှ ဝယ်ယူရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၁။

၄၀။ မတ်စ်အလပ် ပြဿနာ။ အကယ်၍ တိရစ္ဆာန် တစ်ကောင်၌ လူပေါင်းများစွာဖက်စပ်ပါဝင်ကြ၏၊ ထိုပါဝင်သူများအားလုံးတို့သည်အသားကိုဝေပုံကျခွဲယူခြင်း မပြုကြဘဲ တစ်နေရာထည်းမှာဘဲ သူဆင်းရဲများ၊ မိတ်ဆွေ သင်္ဂဟများကို ဝေငှခြင်းပြု၏၊ သို့မဟုတ် ဟင်းချက်၍ထမင်းဖြင့်ကျွေးမွေးခြင်းပြုလျှင်လည်း ပိုင်၏၊ အကယ်၍ ခွဲဝေခြင်း ပြုလျှင် ညီမျှအောင်ချိန်တွယ်ရန် အရေးကြီး၏။ ရှာမီကျမ်း။

၄၁။ မတ်စ်အလပ် ပြဿနာ။ ကုရ်ဘာနီ သားရေ ရောင်းရသော အဖိုးငွေကို တစ်စုံတစ်ယောက်သောသူအားလုပ်ခအဖြစ်ပေးခြင်းမပိုင်ချေ၊ အဘယ့်ကြောင့်ဟူမူ ၎င်းရောင်းရသော အဖိုးငွေကို လှူဒါန်းလိုက်ရမည် ဖြစ်လေသည်။

ဂျောင်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၅။

၄၂။ မတ်စ်အလပ် ပြဿနာ။ ကုရ်ဘာနီ အသားကို ကာဖွင်ရ် ဘာသာခြားများအား ပေးခြင်းလည်း ပိုင်၏၊ သို့သော် အဖိုးအခအနေနှင့်ပေးခြင်း မဖြစ်စေရ။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၀၀။

၄၃။ မတ်စ်အလပ် ပြဿနာ။ အကယ်၍ဇီးရှိသောတိရစ္ဆာန်အမကို ကုရ်ဘာနီပြုလျှင်ပိုင်၏၊ အကယ်၍ သားငယ်သည် အရှင်ဖြစ်မူ ၎င်းကိုလည်း သဗိဟ်ပြုလိုက်ရမည်။

ဂျောင်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၃။

# အကီကဟ်၏ အကြောင်း

၁။ မတ်စ်အလပ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၌ ယောကျ်ားကလေး ဖြစ်စေ၊ မိန်းကလေးဖြစ်စေ၊ မွေးဖွားသောအခါ ကောင်းမြတ်သောနည်းမှာ (၇)ရက်မြောက်သောနေ့၌ ထိုကလေးအား နာမည်ပေးရမည်၊ ထို့နောက် ယင်းကလေးအတွက် အကီကဟ်ပြုလုပ်ရမည်၊ အကီကဟ်လုပ်ခြင်းအားဖြင့် ကလေး၏ဘေးဥပဒ်အန္တရာယ်များ ကင်းဝေးသွားလေသည်။

အဘူဒါဝူးဒ်ကျမ်းအတွဲ-၂၊စာမျက်နှာ ၃၆။

၂။ မတ်စ်အလဟ်ပြဿနာ။ အကီကဟ် ပြုလုပ်နည်းမှာ.... အကယ်၍ သား ယောကျ်ားကလေး ဖွားမြင်မူ ဆိတ်နှစ်ကောင်၊ သို့မဟုတ် သိုးနှစ်ကောင်၊ သမီး မိန်းကလေးဖွားမြင်မူ ဆိတ်တစ်ကောင်၊ သို့မဟုတ် သိုးတစ်ကောင်ကို သဗိဟ်ပြုလုပ်လိုက်ရမည်။

သို့မဟုတ် ကုရ်ဘာနီနွားး၌ သားယောကျ်ားကလေးအတွက်နှစ်ပုံ၊ သမီးမိန်းကလေး အတွက် တစ်ပုံထားပြီး လုပ်ရမည်၊ ထို့နောက် ကလေး၏ ဦးခေါင်းမှ ငယ်ဆံကို ရိတ်၍ ရွှေနှင့်ဖြစ်စေ၊ ငွေနှင့်ဖြစ်စေ အတူချိန်စက်၍ လှူဒါန်းခြင်းပြုရမည်၊ အကယ်၍ ကလေး၏ ဦးခေါင်း၌ ခေါင်းရိတ်ပြီး ကုံကုမ်လူးလိုလျှင် လူးပေးလိုက်ရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၃။
အဘူဒါဝူးဒ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၆။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ခုနစ်ရက်မြောက်သောနေ့တွင် အကီကဟ် မလုပ်မိလျှင် လုပ်လိုသောအခါ ခုနစ်ရက်ဖြစ်သည့်နေ့ကို သတိပြု၍လုပ်လျှင် သာပို ကောင်း၏၊ ၎င်း၏နည်းလမ်းမှာ.... ကလေးဖွားမြင်သော နေ့ရက်၏ အလျင် တစ်ရက်ကို အကီကဟ်ပြုရမည်၊ ဥပမာ....သောကြာနေ့ဖွားမြင်သောကလေးဖြစ်လျှင် ကြာသပတေး နေ့၌ အကီကဟ် ပြုလုပ်ရမည်၊ အကယ်၍ ကြာသပတေးနေ့တွင်ဖွားမြင်လျှင် ဗုဒ္ဓဟူးနေ့၌ အကီကဟ်ပြုလုပ်ရမည်၊ ထိုကဲ့သို့ပင် အဘယ်သောအခါကိုဘဲလုပ်သည်ဖြစ်စေ ဤနည်းဖြင့် လုပ်လျှင် ခုနစ်ရက်နေ့ပင်ကျ၏။

၄။ မတ်စ်အလဟ်ပြဿနာ။ ကလေး၏ဦးခေါင်းပေါ်၌ဆတ္တာသည်က သင်ဓုန်း မွါးတင်၍ ရိတ်စပြုသည်နှင့်တစ်ပြိုင်နက် ဆိတ်ကိုလှီးလိုက်ရမည်ဟူ၍ ရိုးရာကျော်ကြားနေ ခြင်း ဝေါဟာရစကားသည် အခြေအမြစ်မရှိသော စကားဖြစ်လေသည်၊ ရှရီအတ်တရား တော်၌ ကလေး ဦးခေါင်းကို ရိတ်ပြီးမှ လှီးသည်ဖြစ်စေ၊ ဆိတ်ကို လှီးပြီးမှ ဦးခေါင်းကို ရိတ်သည်ဖြစ်စေ အားလုံးပြုလုပ်ထိုက်၏၊ အကြောင်းမဲ့ ဤကဲ့သို့သော ထွင်လုံးများမှာ မကောင်းပေ။

၅။ မတ်စ်အလဟ်ပြဿနာ။ အကြင် တိရစ္ဆာန်ကို ကုရ်ဘာနီပြုလုပ်ရန် မပိုင် လျှင် ထိုတိရစ္ဆာန်ကို အကီကဟ်လုပ်ရန်လည်း မပိုင်ချေ၊ အကြင် တိရစ္ဆာန်ကို ကုရ်ဘာနီ ပြုလုပ်ရန်ပိုင်လျှင် ထိုတိရစ္ဆာန်ကို အကီကဟ်ပြုလုပ်ရန်သည်း ပိုင်၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၉၃။

၆။ မတ်စ်အလဟ်ပြဿနာ။ အကီကဟ်ပြုလုပ်သောအသားကို အစိမ်းအတိုင်း ကိုသော် လည်းကောင်း၊ ချက်ပြီးသားကိုသော် လည်းကောင်း ပေးကမ်း ဝေငှပိုင်၏၊ သို့မဟုတ် ချက်ပြီး အိမ်မှာဖိတ်ခေါ်ကျွေးမွေးခြင်းလည်း ပြုပိုင်၏။

၇။ မတ်စ်အလဟ်ပြဿနာ။ အကီကဟ် ပြုလုပ်သော အသားကို အမိ-အဘ၊ ဘိုး-ဘွား စသည်တို့အားလုံးကို ကျွေးပိုင် စားပိုင်၏။ မာလာဘွဒ်ကျမ်း။

၈။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူ/မသည် မတတ်နိုင်သဖြင့် ယောကျ်ား ကလေးအတွက် ဆိတ်တစ်ကောင်တည်းကိုသာလုပ်လျှင်လည်းပိုင်၏၊ အကယ်၍ အကီကဟ် လုံးဝမလုပ်ဘဲနေလျှင်လည်း ကိစ္စမရှိပေ။

မွတ်စလင်မ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၇။

# ဟဂ်ျ၏ အကြောင်း

ဟဂ်ျဟူသည်ကား မွတ်စလင်မ်အမျိုးသား-အမျိုးသမီးများအနက် ကြေးငွေ ဥစ္စာ ကြွယ်ဝ ချမ်းသာသောသူများ အပေါ်၌ တစ်သက်တစ်ခါ မတ်က်ကဟ် မြို့တော်ရှိ 'ကအ်ဗဟ်' ကျောင်းတော်သို့ ဖူးမြော်ရန် သွားရောက်ခြင်းကိုခေါ်၏၊ ဟဂ်ျပြုခြင်းသည် အစ္စလာမ်၏ ပဉ္စမ မဏ္ဍိုင်ကြီးဖြစ်လေသည်။

မိမိသုံးစွဲလိုရာပစ္စည်းများအပြင် လမ်းခရီး၌ အလတ်စားခန့် သုံးစွဲသွားပြီး တဖန် ပြီးစီးသောအခါ မိမိအိမ်ရှိရာ နေရာဌာနသို့ ပြန်လာနိုင်သည်ခန့်မျှ အပိုဥစ္စာခနေရှိသော သူ/မအပေါ်၌ ဟဂ်ျပြုသွားရန်(ဖွရ်သွ်)မသွားမနေရ တာဝန်ကြီးတစ်ရပ်ဖြစ်လေသည်။

ဟဂ်ျပြုသွားခြင်းသည် အလွန်ထွတ်မြတ် ကြီးကျယ်ခြင်းဖြစ်ကြောင်း လာရှိလေသည်၊ အဘာယ် ကြောင့်ဟူမူ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မြတ် မိန့်တော်မူသည်မှာ.... မကောင်းသော အပြစ်ဒုစရိုက်တို့မှကင်း၍ သန့်ရှင်းစင်ကြယ်သော ဟဂ်ျပြုလုပ်ခြင်း၏အစား ဂျန္နတ်အမတသုခဘုံမှတစ်ပါး အခြားမရှိချေ၊ ဤသို့ကဲ့သို့ပင် (အွမ်ရဟ်) ပြုခြင်းအပေါ်၌လည်း ကြီးကျယ်သော သဝါဗ်အကျိုးရရှိလိမ့်မည်ဟု ကြွေငြာထားတော်မူလေသည်။

အဘာယ် ကြောင့်ဆိုသော် တမန်တော်မြတ်မိန့်တော်မူသည်မှာ.... ဟဂ်ျနှင့် အွမ်ရဟ် နှစ်ခုစလုံးသည် ပန်းဘဲဖိုမှ သံချေးများကို စင်ကြယ်ဝေးကွာစေသကဲ့သို့ ဂိုနာဟ် အပြစ် ဒုစရိုက်တို့ကိုလည်း ဝေးကွာစေ၏၊ အကြင် သူ/မ၏ အပေါ်၌ ဟဂ်ျပြုလုပ်ရန် ဖွရ်သွ် ဝတ္တရား ဖြစ်ပါလျက်နှင့် မပြုလုပ်လျှင် ထိုသူ/မအား ကြောက်မက်ဖွယ်ကောင်းသော ခြိမ်းခြောက်ချက် လာရှိ၏၊ အဘာယ်ကြောင့်ဟူမူ ရစူလ်ကိုယ်တော်မြတ် မိန့်တော်မူခဲ့ သည်မှာ အကြင်သူ/မ၏ထံ၌ စားသောက်သွားရန်နှင့် စီးနင်းသွားနိုင်လောက်အောင်မျှ ပစ္စည်းဥစ္စာများပြည့်စုံ၍ ဗိုင်တွလ္လာဟ် ကျောင်းတော်သို့ သွားနိုင်ပါလျက်နှင့် မသွား မရောက်သော် ထိုသူ/မ သည် ယဟူဒီ ဖြစ်၍သော်လည်းကောင်း၊ နတ်စရာနီဖြစ်၍သော် လည်းကောင်း သေဆုံးသွားမည်ကို အသျှင်မြတ်က ထိုသူ/မအား အရေးစိုက်တော်မူမည် မဟုတ်၊ လျစ်လျူရှုတော်မူအံ့၊ (အဓိပ္ပါယ်မှာ.... အလ္လာဟ်အသျှင်မြတ်က စောင့်ရှောက် လိုမှ စောင့်ရှောက်တော်မူမည်ဟူ၏) ဤသို့လည်းမိန့်တော်မူသည်- ဟဂ်ျကို စွန့်လွှတ်ခြင်း သည် အစ္စလာမ်သာသနာတော်၏ နည်းလမ်းမဟုတ် ဟူ၏။

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်သက်တွင် တစ်ခါ ဟဂ်ျပြုလုပ်ခြင်း ဖွရ်သွ် မှုချတာ ပန်ဖြစ်လေသည်၊ အကယ်၍ အကြိမ်ပေါင်းများစွာပြုလုပ်သော်လည်း တစ်ကြိမ်သာလျှင် ဖွရ်သွ်ဖြစ်၍ ကျန်အကြိမ်များမှာ နဖွ်လ်ဖြစ်လေသည်၊ ထိုနဖွ်လ်များမှာလည်း အကျိုးကုသိုလ် များစွာရရှိလေသည်။

ဖွတာဝါ ဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၅။

၂။ မတ်စ်အလဟ် ပြဿနာ။ အရွယ် မရောက်သေးမီ ကလေးအရွယ်က ဟဂ်ျပြုလုပ်ခဲ့လျှင် ၎င်းသည်တရားဝင်မဟုတ်ပေ၊ ကုသိုလ်တော့ရ၏၊ အကယ်၍ ဥစ္စာရှိသူဖြစ်လျှင် အရွယ်ရောက်ပြီးနောက် တစ်ခါပြန်၍ ဟဂ်ျပြုလုပ်ရန် ဖွရ်သွ်ဖြစ်၏၊ ငယ်ရွယ်စဉ်ကလေးဘဝကပြုခဲ့သော ဟဂ်ျသည် နဖွ်လ်ဖြစ်သွားလေသည်။

ဖွတာဝါ ဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၁၅။

၃။ မတ်စ်အလဟ် ပြဿနာ။ အဘယ်မျှပင် ဥစ္စာဓနကြွယ်ဝချမ်းသာသော်လည်း မျက်စိမမြင်သော ယောကျ်ား-မိန်းမတို့အပေါ်၌ ဟဂ်ျပြုခြင်း ဖွရ်သွ် မဟုတ်ချေ။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၅၃။

၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်အပေါ်၌ဟဂ်ျပြုလုပ်ရန် ဖွရ်သွ် ထိုက်လာလျှင် ချက်ချင်းပင် ထိုနှစ်၌ ဟဂ်ျပြုရန် ဝါဂျစ်ဗ် ထိုက်လေသည်၊ အကြောင်းကြီးငယ် မရှိဘဲ ဆိုင်းငံ့နေခြင်းနှင့် ယခု နှစ်တွေရှိသေးသားဘဲ နောက်တစ်နှစ်နှစ်တော့ သွားတာပေါ့ဟုဆိုပြီး သဘောထားခြင်း လုံးဝမထိုက်၊ နောက်သုံးလေးနှစ်နေမှ ဟဂ်ျပြုလုပ်လျှင် တာဝန်ကျသွား၏၊ သို့သော် အပြစ်ပကင်းပေ။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၃။

၅။ မတ်စ်အလဟ် ပြဿနာ။ ဟဂ်ျပြုရန် သွားရာတွင် လမ်းခရီး၌ မိမိလင်သားဖြစ်စေ၊ သို့မဟုတ် အရင်းအချာတစ်ဦးတစ်ယောက်ဖြစ်စေ အတူလိုက်ပါလာရန် အရေးကြီး၏၊ ၎င်းတို့အနက်မှ တစ်ဦးတစ်ယောက်မျှမပါဘဲ သွားခြင်း မထိုက်ပေ၊ သို့သော် မတ်က်ကဟ်ရွှေ့မှသော်မှ မိမိအိမ်သိုးမန်ဇင်လ်ခန့်မျှဝေးကွာသောနေရာတွင်နေထိုင်သောသူမဖြစ်လျှင် ထိုအခါ လင်သားနှင့် မိပိရင်းချာသောသူ တစ်ဦးတစ်ယောက်မျှမပါဘဲနှင့်လည်း သွားခြင်းပိုင်၏။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ-၁၅၄။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ထိုသွေးနီးစပ်သူ(မဟ်ရမ်)သည်အရွယ်မရောက်သေးသောသူဖြစ်လျှင်ဖြစ်စေ၊ သို့မဟုတ်အရွယ်ရောက်ပြီးသူတော့ဖြစ်၏၊ သို့ရာတွင် ဆိုးယုတ်သော သူတစ်ယောက်ဖြစ်၍ အဖိ,နှမ,တို့မှစ၍ သူ့အား ယုံကြည် အားထားစိတ်ချလောက်စရာ မဟုတ်သောသူဖြစ်လျှင်ဖြစ်စေ ထိုအခါ ၎င်းနှင့် အတူ သွားခြင်း မသိုက်ပေ၊ (မဟ်ရမ်)ဆိုသည်ကား မိမိနှင့် နေကာဟ်ထိမ်းမြားခြင်းပြုလုပ်ရန် 'ဟရာမ်' ဖြစ်သော သွေးနီးစပ်သူ ဆွေမျိုးရင်းချာကို ခေါ်၏။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ ၂၃၁။

၇။ မတ်စ်အလဟ် ပြဿနာ။ စိတ်ချယုံကြည် အားထားလောက်သော ဆွေမျိုးရင်းချာသွေးနီးစပ်သူတစ်ဦးတစ်ယောက်မိမိနှင့်အတူလိုက်ပါသွားရန် တွေ့ဆုံကြုံကြိုက်လျှင် ထိုအခါ လင်သားဖြစ်သူက ကန့်ကွက်တားမြစ်ခြင်းငှာ မထိုက်၊ အကယ်၍ လင်ဖြစ်သူက တားမြစ်သော်လည်း နားမထောင်ဘဲ ထွက်သွားထိုက်လေသည်။

ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်းအတွဲ ၁၊ စာမျက်နှာ၁၁၅၄။

၈။ မတ်စ်အလဟ် ပြဿနာ။ အကြွင်မိန်းကလေးတစ်ယောက်သည် ယခုအရွယ် မရောက်သေးချေ၊ သို့သော် အရွယ်ရောက်လုနီးနေပြီဖြစ်သော် ထိုမိန်းကလေးသည်လည်း တရားတော်ကခွင့်ပြုသော ဆွေမျိုးရင်းချာ အတူမပါဘဲနှင့် မသွားထိုက်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၁၃။

၉။ မတ်စ်အလဟ် ပြဿနာ။ ဟဂျ်ပြုလုပ်စေရန်အတွက် ပါသွားသောအကြွင် ဆွေမျိုးရင်းချာ(မဟ်ရမ်)၏ စရိတ်စကအားလုံး ကုန်ကျသမျှကို ခေါ်သွားသောမိန်းမ အပေါ်၌ အကုန်အကျ တာဝန်ယူရန် ဝါဂျစ်ဗ်ဖြစ်ပေ၏၊ လိုသမျှစရိတ်ကို ပေးရမည်။

ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၁၄။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်သက်လုံးပင် အတူသွားရန်(မဟ်ရမ်)တစ်ဦးတစ်ဦးတစ်ယောက်မျှမတွေ့မဆုံမကြုံခဲ့လျှင် ရင်းမိန်းမအပေါ်၌ ဟဂျ်မပြုလုပ်သဖြင့် အပြစ်မဖြစ်ချေ၊ သို့သော်ထိုကဲ့သို့သောမိန်းမများမှာမသေခင်က ငါသေဆုံးသွားလျှင်ငါ့ဘက်မှ ဟဂျ်ပြုလုပ်ခိုင်းကြစေရန်ကို မှာတမ်းစကားပြောကြားသွားရန် ဝါဂျစ်ဗ်ဖြစ်၏။

ရင်းမိန်းမသေဆုံးသွားပြီးနောက် အမွေစားများက ရင်းပိုင်ပစ္စည်းအနက်မှ တစ်ဦးတစ်ယောက်သော သူအား စရိတ်စက ပေး၍ သေဆုံးသွားသော သူ့ဘက်က သွား၍ ဟဂျ်ပြုလုပ်ပေးရန် စေခိုင်းရမည်၊ ထိုအခါ ရင်း၏အတွက် ဟဂျ်ပြုလုပ်ရန် မှာထားသော ကျန်ရစ်ခဲ့သောတာဝန်မှာ ကျသွား၏၊ ဤကဲ့သို့ သောတစ်ဦးတစ်ယောက်ဘက်မှ ပြုလုပ်သော ဟဂျ်မျိုးကို(ဟဂျ်ဂျေ့ဗဒလ်)ဟုခေါ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်အပေါ်၌ ဟဂျ် ပြုလုပ်ရန် ဖွရ်သွ်တာဝန်ရှိ၏၊ သို့သော် ပေါ့လျော့သဖြင့် မသွားမိဘဲကြံ့ကြာနေလေ၏၊ ထိုအတွင်း မှာပင် မကြာမီ မျက်စိကွယ်သွား၍သော်လည်းကောင်း၊ သို့မဟုတ် ရောဂါဝေဒနာတစ်ခုခု စွဲကပ် သဖြင့် ခရီး မသွားနိုင်လောက်အောင် ဖြစ်သော် လည်းကောင်း ထိုအခါလည်း ဟဂျ်ဂျေ့ဗဒလ်ပြုလုပ်စေရန် မှာတမ်းစကား ပြောကြားခဲ့ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၃။

၁၂။ မတ်စ်အလဟ် ပြဿနာ။ **အကယ်၍ ထိုသူ/မသည်** ကြွေးမြီ စသည်တို့ကို ပေးဆပ် ကျေပွန်ပြီးနောက် ကျန်ပစ္စည်း၏ သုံးပုံတစ်ပုံနှင့် ဟဂျ်ဂျေ့ဗဒလ် ပြုလုပ်စေနိုင်

လောက်အောင်မျှ ကြေးငွေဥစ္စာ ချန်ထားခဲ့၍ သေဆုံးသွားသော် ထိုအခါ ပိုင်ဆိုင်သူ အမွေဆက်ခံသူများ အပေါ်၌ မှာတမ်းစကား ပြောကြားခဲ့သည်နှင့်အညီ အတည်ပြုလုပ်ရမည်၊ အလိုကား ထိုအခါ ဟဂျ်ဗဒလ်ပြုလုပ်ပေးခြင်း ဝါဂျစ်ဗ်ဖြစ်၏။

အကယ်၍ကျန်ရစ်ခဲ့သော ဥစ္စာသည် နည်းပါးသဖြင့် ဟဂျ်ဗဒလ် မပြုလုပ်စေနိုင်သော် ထိုအခါ(ဝလီ)အုပ်ထိမ်းသူက ဟဂျ်အသွားမခိုင်းရ၊ အကယ်၍ သေဆုံးသူ ပစ္စည်းမှ သုံးပုံတစ်ပုံနှင့် ကျန်လိုသမျှ ကိုယ်ဘက်က စိုက်ထုတ်ဖြည့်စွက်ပေးနိုင်လျှင် ထိုအခါ မုချ ဟဂျ်ဗဒလ်ပြုလုပ်ပေးနိုင်ပါ၏၊ အကြောင်းရင်းမှာ သေဆုံးသွားသူ ပစ္စည်းထဲမှ သုံးပုံတစ်ပုံထက်ပိုမယူရပေ၊ အကယ်၍ အမွေခံအမွေစားများ အားလုံးတို့က ကျေနပ် သဘောတူစွာဖြင့် မိမိတို့ပိုင်ဆိုင်သောအစုကို မယူကြဘဲ ဟဂျ်ဗဒလ်ပြုလုပ်ပေးလိုလျှင် ထိုအခါသုံးပုံတစ်ပုံထက်ပိုပြီးယူပေးခြင်းထိုက်၏၊ သို့သော်အရွယ်မရောက်သေးသော အမွေခံအမွေစားများ၏ ခွင့်ပြုချက်မှာ ရှရီအတ်တွင် တရားဝင်မဟုတ်သဖြင့် ၎င်းတို့၏ဝေစုထဲမှ လုံးဝမနှုတ်ယူထိုက်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၆၅။

ဂျောပ်ဟရတ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၄။

၁၃။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောမိန်းမသည် ဟဂျ်ဗဒလ် ပြုလုပ်ရန် မှာတမ်းစကား ပြောကြားခဲ့၍ ကွယ်လွန်သွားလေသည်၊ သို့ရာတွင် ပစ္စည်းများမှာနည်းပါး၍ သုံးပုံတစ်ပုံထဲနှင့်ပင်ပြုလုပ်နိုင်ရန်မလုံလောက်ဖြစ်၏၊ သုံးပုံတစ်ပုံထက်လည်း ပိုယူခြင်းကို အမွေခံ အမွေစားတို့က သဘောမတူကြချေ၊ ထိုသို့ဖြစ်သော ကြောင့် ဟဂျ် မပြုလုပ်နိုင်းရသော် ထိုအခါ ၎င်းမိန်းမ အပေါ်၌ မည်သို့မျှ အပြစ်မဖြစ်ချေ။ ဂျောပ်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၃၄၆၊ ၃၅၅။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အားလုံးသော သေတမ်း စကား မှာကြားခဲ့ခြင်းများ၌ဤကဲ့သို့ပင်အမိန့်ဖြစ်၏၊ ထိုသို့ဖြစ်သော် ဥပမာ....အကယ်၍တစ်ဦးတစ်ယောက် တာဝန်၌ ရိုဇာဟ်များ၊ သို့မဟုတ် နမာဇ်များ ‘ကဇ္ဇာ’ပြုလုပ်ရန် ကျန်ခဲ့ခြင်းဖြင့်ဖြစ်စေ၊ သို့မဟုတ် ဇကာတ် ပေးရန် ကျန်ခဲ့ခြင်းဖြင့် ဖြစ်စေ ၎င်းတို့ကို အတည် ပြုလိုက်စေရန် မှာတမ်းစကား ပြောကြားခဲ့ပြီး သေဆုံးသွားလေ၏၊ ထိုအခါ ကျန်ရစ်ခဲ့သော ဥစ္စာ ပစ္စည်း၏သုံးပုံတစ်ပုံထဲမှ ပြုလုပ်ရပေမည်၊ သုံးပုံတစ်ပုံထက်ပိုပြီး အမွေဆိုင်များ သဘော မတူကြလျှင် ပြုလုပ်ခြင်းမထိုက်၊ ဤအကြောင်းကို အထက်ကလည်း ဖော်ပြ ရေးသား ခဲ့လေပြီဖြစ်၏။ ဂျောပ်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၃၄၆၊ ၃၅၅။

၁၅။ မတ်စ်အလဟ်ပြဿနာ။ သေတမ်းစကားမှာကြားခဲ့ခြင်းမရှိဘဲ သူ၏ဥစ္စာ ပစ္စည်းထဲမှ ယူ၍ ဟဂျ်ဗဒလ် ပြုပေးခြင်း မပိုင်ချေ၊ အကယ်၍ အမွေခံ အမွေစား အားလုံးတို့က သဘောတူကြည်ဖြူစွာခွင့်ပြုလျှင် ထိုအခါပိုင်၏၊ သို့ရာတွင် အရွယ်မရောက် သေးသော အမွေခံများက ခွင့်ပြုခြင်းမှာ တရားတော်အရ အတည်မဖြစ်ချေ၊ သို့သော် ဤနေရာ၌ ၎င်းသူ/မ၏ တာဝန်သည် အလ္လာဟ်အသျှင်မြတ် အလိုတော်ရှိလျှင် ဖွရ်ဇ် တာဝန်ကကျသွားပေမည်။ ရှာမီကျမ်းအတွဲ-၂၊ စာမျက်နှာ ၃၃၄။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ဤမိန်းမသည်(အစ်ဒတ်)ရက်အတွင်း၌ မှာပင်ဖြစ်လျှင် ထိုအခါ(အစ်ဒတ်)ကိုလွှတ်၍ ဟဂ်ျပြုရန်သွားခြင်းမထိုက်ချေ။
ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၄။

၁၇။ မတ်စ်အလဟ်ပြဿနာ။ အကြင် သူ/မ၌ မတ်က်ကဟ် ရွှေမြို့တော်အထိ အသွားအပြန် အတွက် ခရီးစရိတ်ရှိ၍ မဒီနာရွှေမြို့တော်သို့ ဆက်လက် သွားလာနိုင်ရန် စရိတ်စက မလုံလောက်ပါက ထို သူ/မ အပေါ်၌ ဟဂ်ျပြုရန် ဖွရ်သွ် တာဝန်ဖြစ်၏၊ အချို့သောသူတို့က အောက်မေ့ကြသည်မှာ- မဒီနာ ရွှေမြို့တော်အထိမှ မသွားရောက်နိုင်က ဟဂ်ျပြုသွားရန် ဖွရ်သွ်မဟုတ်ဟု ပြောဆိုကြလေသည်၊ ဤသို့ထင်မှတ်ခြင်း လုံးဝမှားလေသည်။ ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အ-တွဲ၂၊ စာမျက်နှာ-၁၅၉။

၁၈။ မတ်စ်အလဟ်ပြဿနာ။ (အဲဟ်ရာမ်)ဝတ်ဆင်သောအခါ မိန်းမတို့သည် မျက်နှာဖုံးခြင်း၌ အဝတ်ကို မျက်နှာနှင့် ထိထားခြင်းမထိုက်ပေ၊ ယခုအခါ သမယတွင် ဤအတွက်ဇာမျက်နှာဖုံးများယက်ပြီးရောင်းကြ၏၊ ၎င်းကို မျက်စိနှင့်ဇာပေါက်တည့်တည့် ထား၍စီးပြီးနောက်မှ အပေါ်က ဗွရ်ကဟ်ခေါ် ခြုံထည်ကိုခြုံလျှင်ပိုင်၏။
ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၆။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ကြွင်းသောဟဂ်ျ၏ ပြဿနာများကို မိမိကိုယ် တိုင် ဟဂ်ျမလုပ်ရသေးမီ လွယ်လင့်တကူဖြင့်သိနိုင်ကြလိမ့်မည်မဟုတ်၊ မှတ်သားထားလို့ လည်းမရနိုင်ပေ၊ ဟဂ်ျပြုရန်သွားသောအခါ မိုအလ်လင်မ်ခေါ် ရှေ့ဆောင်ခရီးလမ်းပြ ဆရာများက အားလုံးကို ပြသ,သင်ကြားပေးသည်ဖြစ်သောကြောင့် ရေးသားဖေါ်ပြရန် လည်း မလိုပေ၊ ထိုနည်းတူ အွမ်ရဟ်နှင့်သက်ဆိုင်သမျှ ကျင့်ဝတ်လုပ်ငန်းများကိုလည်း ထိုနေရာသို့သွားရောက်မှပင် လွယ်လင့်တကူ သိနိုင်ကြလိမ့်မည်ဖြစ်ကြောင်း။

(ဟဂ်ျနှင့် ပတ်သက်သော အကြောင်းအရာများချည့် ထုတ်ဝေထားသော ဟဂ်ျ လမ်းစဉ်ကျမ်းနှင့်ဖွသွာအေ့လေ့ဟဂ်ျကျမ်းကိုကြည့်ပါ)။ (မူစာ)

# မဒီနာ ရွှေမြို့တော်သို့ သွားရောက်၍ ဇေယာရတ် ပြုခြင်း အကြောင်း

အကယ်၍တတ်နိုင်လျှင် ဟဂ်ျပြုပြီးနောက်ဖြစ်စေ၊ သို့မဟုတ် ဟဂ်ျမပြုသေးမီအလျှင် ဖြစ်စေ မဒီနာရွှေမြို့တော်သို့ သွားရောက်၍ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ 'ရောင်သွာ့' သင်္ချိုင်းတော်နှင့် (မတ်စ်ဂျေ့ဒေ့နဗဝီ)ခေါ် ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဗလီတော်သို့ သွားရောက်ဇေယာရတ်ပြု၍ (ဗရိကတ်)တိုးပွားခြင်းမင်္ဂလာကို ရယူထိုက်လေသည်။

**ထိုအကြောင်းနှင့်ပတ်သက်၍** ရစူလ့လ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်တော်မူခဲ့သည်မှာ.... အကြင် သူ/မသည် ငါကိုယ်တော်'ဝဖွာတ်'ဖြစ်တော်မူပြီးနောက် ငါ့အား ဇေယာရတ်ပြုမူ ထိုသူ/မသည် ငါရစူလ်ကိုယ်တော်ရှင်နေတော်မူစဉ် ဇေယာရတ်ပြုရသူကဲ့သို့ပင် 'ဗရ်ကတ်' တိုးပွားမင်္ဂလာ ပြည့်စုံရရှိအံ့။

ထို့ပြင် မိန့်တော်မူခဲ့သည်မှာ.... အကြင် သူ/မသည် ဟဂ်ျကိုသာပြုလုပ်၍ ငါ့အား ဇေယာရတ်ပြုရန် မလာမရောက်လျှင် ထိုသူ/မသည် ငါ့အား အလွန်တစ်ရာ ရိုင်းပြစွာ ဆက်ဆံသူဖြစ်လေသည်။

နဗဝီ ဗလီတော်နှင့် ပတ်သက်၍ မိန့်တော်မူသည်မှာ.... အကြင်သူသည် ထိုဗလီတော်၌ နမာဇ်တစ်ကြိမ်ဖတ်လျှင် ၎င်းနမာဇ်တစ်ကြိမ်အစား နမာဇ်အကြိမ်ငါးသောင်းမျှဖတ်သောအကျိုးနှင့် တူမျှသော အကျိုးကို ရရှိအံ့၊ မြင့်မြတ်တော်မူလှသော အလ္လာဟ်အသျှင်မြတ်သည် ကျွန်တော်မျိုးတို့ အားလုံးကိုလည်း ဤမွန်မြတ်သော အကျိုးကျေးဇူးများရရှိခံစားနိုင်ကြရန် တတ်က်ဒီးရ်၌ ပါနိုင်သောအင်အားနှင့် ကောင်းမြတ်သောအလုပ်များကို ကျင့်သုံးနိုင်ရန် စွမ်းအား သနားတော်မူပါစေသတည်း။

အာမီန်....ယာရဗ်ဗလ်....အာလမီန်။

နူရွလ်အီသွားဟ်ကျမ်း စာမျက်နှာ-၁၇၇။
အစ်ဖ်နို့မာဂျဟ်ကျမ်း စာမျက်နှာ-၁၀၃။

# နသရ် ကိုးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်စုံတစ်ခုသော အလုပ်ကိစ္စ အပေါ်၌ အေဗ်ာဒတ် ခ ဝပ်မူတစ်ခုခုလုပ်ပါမည်ဟူ၍ နသရ်ကိုးလိုက်ပြီးနောက် မျှားမကြာမီပင် ထိုအလုပ်အောင်မြင်သွားသော် ထိုအခါ နသရ်ကိုးလိုက်သည့်အတိုင်း ပြုလုပ်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ အကယ်၍ ၎င်းအတိုင်းမပြုလုပ်လျှင်အပြစ်ထိုက်၏၊ သို့ရာတွင် အဓိပ္ပါယ်မရှိသောတရားနှင့် မသက်ဆိုင်သည့် ကိုးခြင်းများ၏ အကိုးဖြစ်လျှင် ၎င်းနှင့်လျော်ညီစွာ ပြုလုပ်လိုက်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ၎င်းမပြုအပ်သော နသရ်အကြောင်းကို ရှေ့တွင် ဖေါ်ပြရေးသားမည် ဖြစ်၏။

ဂျောင်ဟာရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၅၃။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မသည် အို- အသျှင်မြတ်၊ အကယ်၍ ကျွန်တော်မျိုး/မ၏ မည်သည့်အလုပ် အောင်မြင်သွားပါလျှင် ရိုဇဟ် ဥပုသ် ငါးရက် စောင့်ထိန်းပါမည်ဟု နသရ်ပြုလိုက်၏၊ အလုပ်အောင်မြင်လျှင် ထိုအခါ ရိုဇဟ် ငါးရက် စောင့်ထိန်းရပေမည်၊ အကယ်၍ အလုပ် မအောင်မြင်လျှင် မထားဘဲ နေနိုင်၏။

အကယ်၍ ရိုဇဟ်ငါးရက်ထားပါမည်ဟုသာ ပြောဆိုနသရ်ပြုလိုက်လျှင် ထိုအခါ ငါးရက်လုံး တစ်ဆက်ထည်းထားသွားလိုလျှင်ထားနိုင်၏၊ သို့မဟုတ် တစ်ရက်စီ၊နှစ်ရက်စီ ငါးရက်ပြည့်အောင်ထားသွားလိုလျှင် ထားနိုင်၏၊ နှစ်မျိုးစလုံးပင်ပိုင်၏။

အကယ်၍ ကိုးလိုက်စဉ်အခါက ငါးရက်လုံး တစ်ဆက်ထည်းထားသွားပါမည်ဟု ပြောဆိုလိုက်လျှင် သော်လည်းကောင်း၊ သို့မဟုတ် စိတ်ထဲ၌ ရည်ရွယ်လိုက်လျှင် သော်လည်းကောင်း ထိုအခါ အားလုံးကို တစ်ဆက်ထည်း ထားသွားရပေမည်၊ အကယ်၍ အလယ်၌ တစ်ရက်,နှစ်ရက်မျှ ပျက်သွားသော် ထိုအခါ အစကပြန်၍ထားရမည်ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၀၇။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၉၄။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ သောကြာနေ့တွင် ရိုဇဟ်ဥပုသ်စောင့်ထိန်းပါမည်ဟု ပြောလိုက်သည်ဖြစ်စေ၊ သို့မဟုတ် မိုဟရ်ရမ် လဆန်းတစ်ရက်နေ့က စပြီး ဆယ်ရက်နေ့အထိ ရိုဇဟ်စောင့်ထိန်းပါမည်ဟုပြောလိုက်သည်ဖြစ်စေ ထိုအခါ သောကြာနေ့ကိုကွက်၍ အထူးသဖြင့် ရိုဇဟ်ထားခြင်း ဝါဂျစ်ဗ်မဟုတ်ပေ၊ ထိုနည်း မိုဟရ်ရမ်လ၌ ၎င်းရက်များ၌ ထားခြင်း ဝါဂျစ်ဗ်မဟုတ်ပေ၊ အဘယ်အခါမဆို ထိုဆယ်ရက်ရိုဇဟ်ကို ထားနိုင်လေသည်၊ သို့သော် ထားသောအခါ ဆယ်ရက်စလုံးကို တစ်ဆက်ထည်းထားသွား ရပေလိမ့်မည်၊ မိုဟရ်ရမ်လအတွင်းမှာပင် ထားလိုလျှင်ထား၍ သို့မဟုတ် အခြားသော တစ်လလအတွင်းမှာ ထားလိုလျှင် ထားနိုင်သည်၊ အားလုံးပိုင်၏။

ထိုနည်းတူပင် အကယ်၍ တစ်ဦးတစ်ယောက်က ယနေ့ကျွန်တော်,ကျွန်မ အလုပ်အထမြောက် အောင်မြင်သွားလျှင် နက်ဖြန် ရိုဇဟ်ထားမည်ဟု ပြောဆိုလိုက်လျှင်လည်း ထားလိုသောအခါမှ ထားနိုင်လေသည်၊ သို့သော် တစ်ရက်ရက်၌ မုချထားရပေမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၅။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ/မက နသရ်ပြုစဉ်အခါက မိုဟရ်ရမ်လ၏ ရိုဇဟ်ကို ထားပါမည်ဟု ပြောဆိုလိုက်လျှင် မိုဟရ်ရမ်လ တစ်လလုံး၏ ရိုဇဟ်ကိုတစ်ဆက်ထည်းအပြည့်ထားရပေမည်၊အကယ်၍အကြောင်းတစ်ခုခုဖြင့် ကြားရက်များ၌ ရက်အနည်းငယ် ပျက်ကွက်သွားလျှင် ပျက်ကွက်သမျှကိုသာ ပြန်၍ ထားလိုက်ရမည်၊ အစကပြန်ထားရန် မလိုချေ၊ အကယ်၍ မိုဟရ်ရမ်လတွင် မထားလိုဘဲ အခြားလတွင်ထားလိုလျှင်လည်း ထားနိုင်၏၊ သို့ရာတွင် ရက်ဆက်ထားသွားရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၅။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်သောသူ/မက ပျောက်ဆုံးသွားသောပစ္စည်း ပြန်ရလျှင် နမာဇ်ရှစ်ရကအတ်ဖတ်ပါမည်ဟု နသရ်ပြု၍ ကိုးလိုက်လျှင် ပြန်ရလာသော် နမာဇ် ရှစ်ရကအတ်ကို ဖတ်ရပေမည်၊ ရှစ်ရကအတ်လုံး အတွက် တစ်ကြိမ်ထည်းပင် နီယတ်ပြုပြု၊သို့မဟုတ် လေးရကအတ်တစ်ခါနီယတ်ပြုပြု၊သို့မဟုတ် နှစ်ရကအတ်တစ်ခါ နီယတ်ပြုပြု မိမိသဘောနှစ်ခြိုက်သလိုပြုလုပ်ပြီး ဖတ်နိုင်လေသည်။

အကယ်၍ လေးရကအတ်ဖတ်ရန် နသရ် ပြုခဲ့သော် လေးရကအတ် နီယတ်ပြု၍ စလာမ်တစ်ကြိမ်တည်းဖြင့်ဖတ်ရမည်၊ နှစ်ရကအတ်စီခွဲ၍မဖတ်ရ၊ ဖတ်လျှင် အကိုးအတွက် တာဝန်မကျချေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၄၈။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူ/မ က တစ်ရကအတ်ဖတ်ပါမည်ဟု နသရ် ပြုလိုက်သော် ထိုအခါ နှစ်ရကအတ်တိတိဖတ်ရမည်၊ အကယ်၍ သုံးရကအတ်ဖတ်ပါမည်ဟု နသရ်ပြုမိလျှင် လေးရကအတ်ပြည့်အောင် ဖတ်ရမည်၊ အကယ်၍ ငါးရကအတ် ပြုမိလျှင်လည်း ခြောက်ရကအတ် အပြည့် ဖတ်ရမည်၊ ဤနည်းအတိုင်း ရှေ့သို့လည်း ဤအမိန့်ပင်ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၁၄။

၇။ မတ်စ်အလဟ် ပြဿနာ။ ငွေတစ်ဆယ် ပေးလှူမည်ဟူ၍သော်လည်းကောင်း သို့မဟုတ် ငွေတစ်ကျပ်ပေးမည်ဟူ၍သော်လည်းကောင်း နသရ် ပြုလိုက်လျှင် ပြုထားသည့် အတိုင်း လှူလိုက်ရမည်။

အကယ်၍ ငွေငါးဆယ်လှူမည်ဟု နသရ်ပြုလိုက်၏၊ ထိုသို့ပြုပြီးနောက် သူ/မ၏ထံ၌ ထိုအချိန်တွင် ငွေတစ်ဆယ်သာ လက်ကျန်ရှိမူ တစ်ဆယ်ကိုသာ လှူလိုက်ရမည်၊ သို့သော် အကယ်၍ငွေတစ်ဆယ်၏အပြင် အခြားဝတ္ထုပစ္စည်းရှိသေးလျှင် ထိုအခါ၌ငင်းပစ္စည်းများကို တန်ဘိုးထားရပေမည်၊ ဥပမာ....ငွေအနေဖြင့်တစ်ဆယ်သတ်သတ်ရှိ၍ ဝတ္ထုပစ္စည်းများ၏ တန်ဘိုးမှာ ၁၅-ကျပ်ခန့်တန်ဘိုးရှိလျှင် အားလုံးကိုပေါင်းလိုက်သော် ၂၅-ကျပ်ဖြစ်၏၊ ထိုအခါ ၎င်း၂၅-ကျပ်ကိုသာလျှင်လှူလိုက်ခြင်း ဝါဂျစ်ဗ်ဖြစ်၏၊ ၎င်းထက်ပိုပြီးလှူခြင်း ဝါဂျစ်ဗ်မဟုတ်ချေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၅။
ရှရ်ဟွတ်တန်ဗ်ီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၉၅။

၈။ မတ်စ်အလဟ် ပြဿနာ။ မစ်စကီန် သူဆင်းရဲ ဆယ်ယောက်ကို ကျွေးမွေးပါမည်ဟုကိုးလိုက်၏၊ အကယ်၍စိတ်၌တစ်ကြိမ်တစ်ခါ၊ သို့မဟုတ်နှစ်ကြိမ်နှစ်ခါကျွေးပါမည်ဟု ကြံရွယ်ထားလျှင် ထားသည့်အတိုင်းကို ကျွေးမွေးလိုက်ရမည်၊ အကယ်၍ စိတ်၌ အဘယ်ကဲ့သို့မျှ ကြံရွယ်မထားလျှင် မစ်စကီန် ဆယ်ယောက်ကို နှစ်နပ်၊ နှစ်ကြိမ်နှစ်ခါ ကျွေးမွေးလိုက်ရမည်။

အကယ်၍ ဆန်စိမ်း၊ စပါးစေ့၊ ဂျုံစေ့ကို ပေးလိုလျှင်လည်း ထိုနည်းတူပင် ဖြစ်၏၊ အကယ်၍စိတ်၌ တစ်ယောက်တစ်ယောက်ကို ဤမျှခန့်ဤမျှခန့်ပေးမည်ဟု ကြံရွယ်ထားလျှင် ကြံရွယ်ထားသည့်ခန့်ကိုပင် တစ်ယောက်တစ်ယောက်ကို ပေးရမည်၊ စိတ်၌ အဘယ်ကဲ့သို့မျှ မကြံရွယ်ခဲ့သော် တစ်ယောက်တစ်ယောက်ကို ဆဒကဟ် ဖွစ်တ်ရ်၌ ပြဆိုခဲ့သည့်မျှခန့်ကို ပေးရမည်ဖြစ်၏။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၆၃။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်က ငွေတစ်ကျပ်ဖိုး မုန့်ဝယ်ပြီးလျှင် ဖွကီရ်သူဆင်းရဲများကိုဝေငှလိုက်မည်ဟုနသရ်ပြုလျှင် ထိုအခါငွေတစ်ကျပ်ဖိုး မုန့်ကိုဝယ်ပေးသည်ဖြစ်စေ၊သို့မဟုတ် ငွေတစ်ကျပ်ဖိုး အခြားပစ္စည်းတစ်ခုခုကိုဝယ်ပေးသည်ဖြစ်စေ၊ သို့မဟုတ် ငွေတစ်ကျပ်ကိုဘဲပေးလိုက်သည်ဖြစ်စေ အားလုံးပင် ပိုင်၏။

ရှာမီကျမ်းအတွဲ-၂၊ စာမျက်နှာ-၉၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မက ငွေတစ်ဆယ် လှူဒန်းမည်ဟု နသရ်ပြုလိုက်၏၊ ၎င်းငွေတစ်ဆယ်ကိုလည်း နသရ်ပြုစဉ်အခါက ဖွကီရ် သူဆင်းရဲတစ်ယောက်လျှင်တစ်ကျပ်ကျစီပေးမည်ဟုရည်စူးခဲ့၏၊နောက်၎င်းငွေတစ်ဆယ်ကို ဖွကီရ်တစ်ဦးတည်းကိုပင်ပေးလိုက်၏၊ ထိုအခါလည်းပိုင်၏၊ ဖွကီရ်တစ်ယောက်ကိုတစ်ကျပ် ကျစီပေးသွားရန် ဝါဂျစ်ဗ်မဟုတ်ပေ။

အကယ်၍ ၎င်းငွေတစ်ဆယ်ကို ဖွကီရ်အယောက် ၂၀-အားပေးဝေလိုက်လျှင်လည်း ပိုင်၏၊ အကယ်၍ ငွေတစ်ဆယ်ကို ဖွကီရ်ဆယ်ယောက်တို့အား ပေးပါမည်ဟု နသရ်ပြုခဲ့ လျှင် ထိုအခါလည်း ဆယ်ယောက်စလုံးကိုပင်ပေးသည်ဖြစ်စေ၊ ထို့ထက် နည်းများ၍ပင် ပေးသည်ဖြစ်စေ အားလုံးပိုင်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၆၊၉၇။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သော သူ/မက နမာဇီ ဆယ်ယောက်ကို ထမင်းကျွေးပါမည်ဟု နသရ် ပြု လိုက် သော် လည်း ကောင်း၊ ဟာဖွစ် ဆယ်ယောက်ကို ကျွေးပါမည်ဟု နသရ် ပြုလိုက်သော် လည်းကောင်း၊ ထိုအခါ ဆင်းရဲသော နမာဇီနှင့်ဟာဖွစ်ဖြစ်စေ၊ ၎င်းတို့မဟုတ်ဘဲ အခြားသော သူဆင်းရဲ ဆယ် ယောက်ကိုပင် ကျွေးလိုက်သည်ဖြစ်စေ ပိုင်၏။ (ငွေကြေးတတ်ကုန်နိုင်သူများ မစားရ။)

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၆၊၉၇။

၁၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မက မတ်က်ကဟ် ရွှေမြို့တော်၌ငွေတစ်ဆယ်လှူပါမည်ဟု နသရ်ပြုလိုက်လျှင် ထိုအခါ မတ်က်ကဟ်ရွှေမြို့တော် မှာမှလှူရန် ဝါဂျစ်ဗ်မဟုတ်၊ အဘယ်မှာပင်ဖြစ်စေ လှူနိုင်လေသည်။

သို့မဟုတ် သောကြာနေ့မှာလှူမည်၊ မည်သည့် ဖွကီရ်ကိုလှူမည်ဟု နသရ်ပြုလိုက် သော အခါလည်း သောကြာနေ့တွင်မှ လှူခြင်း နှင့် ၎င်း ဖွကီရ်ကိုမှ ပေးရန် အရေး မကြီးပေ။

ထိုနည်းတူပင် ငွေကို ကန့်သတ်ပြီး ဤငွေကိုမှ အသျှင်မြတ်လမ်းတွင် လှူဒါန်းမည်ဟု နသရ်ပြုလိုက်သောအခါလည်း ၎င်းငွေကိုမှ လှူလိုက်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ထိုငွေကို ပေးလိုကပေးနိုင်သည်၊ အခြားငွေကို ပေးလိုကလည်း ပေးလှူနိုင်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၆၊၉၇။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ထိုကဲ့သို့ပင် သောကြာ နမာဇ်ဖတ်သောဗလီမှာ နမာဇ်ဖတ်ပါမည်၊ သို့မဟုတ် မတ်က်ကဟ်မြို့မှာ နမာဇ်ဖတ်ပါမည်ဟု အဓိဋ္ဌာန်ပြုမိသော် အဘယ်မှာဘဲ ဖတ်သည်ဖြစ်စေ ဖတ်နိုင်လေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၆၊၉၇။

၁၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မ က အကယ်၍ အစ်ကို, မောင်, ညီဖြစ်သူ ရောဂါ ပျောက်ကင်းပါလျှင် ဆိတ်တစ်ကောင် 'သဗ်တ်'လှီးပါမည်၊ သို့မဟုတ် ဆိတ်တစ်ကောင်အသားကို လှူလိုက်ပါမည်ဟု ပြောဆိုရည်ရွယ်လိုက်လျှင်ဘဲ နသရ်ပြုခြင်း ဖြစ်သွား၏။

အကယ်၍ ကုရ်ဘာနီ ပြုပါမည်ဟု ပြောဆို ရည်ရွယ်လိုက်လျှင် ကုရ်ဘာနီပြုလုပ်သော နေ့ရက်များ၌ ကုရ်ဘာနီပြုလုပ်ရပေမည်၊ ၎င်းနှစ်မျိုးစလုံးမှာပင် ဖွကီရ်သူဆင်းရဲများမှတစ်ပါး အခြားသူများကိုပေးခြင်းနှင့် ကိုယ်တိုင်စားခြင်း မထိုက်ပေ၊ အကယ်၍ ကိုယ်တိုင် စားမိသော်ဖြစ်စေ၊ ကြွယ်ဝသောသူများကို ပေးမိသော်ဖြစ်စေ ၎င်းအစား ပေးမိသည်ခန့်မျှကို ပြန်လှူလိုက်ရမည်။

ရှာမီကျမ်းအတွဲ-၃၊ စာမျက်နှာ-၁၀၄၊

၁၅။ မတ်စ်အလဟ်ပြဿနာ။ နွားတစ်ကောင် ကုရ်ဘာနီ ပြုလုပ်ပါမည်ဟု နသရ်ပြုပြီးနောက် နွားကိုမရခဲ့လျှင် ဆိတ်ခုနစ်ကောင်ကို ကုရ်ဘာနီပြုလုပ်ရမည်။

ရှာမီကျမ်းအတွဲ-၃၊ စာမျက်နှာ-၃၉၆။

အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၄၃။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အစ်ကို, သို့မဟုတ် မောင်, ညီ, လာခဲ့လျှင်ငွေတစ်ဆယ်ပေးလှူပါမည်ဟု နသရ်ပြုလိုက်ရာ လာနေသည့်သတင်းကိုကြား၍ မရောက်မှီ သူ့အားဒါကပင် ငွေတစ်ဆယ်ကိုလှူလိုက်၏၊ ထိုအခါ နသရ်၏ဖြေခြင်း မပြောက်သဖြင့် ရောက်လာသောအခါမှ တဖန်ပြန်၍ ပေးရဦးမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၀၃။

၁၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍အလုပ်တစ်ခုခုကိုအောင်မြင်သမြောက်ရန် အတွက် နသရ် ပြုလိုက်၏၊ ဥပမာ.... နေကောင်းသွားလျှင် ဤသို့ ပြုလုပ်ပါမည်၊

အကယ်၍ အစ်ကို, မောင်, ညီ ကျန်းမာ ချမ်းသာစွာ ပြန်ရောက်လာလျှင် ဤကဲ့သို့ ပြုလုပ်ပါမည်၊ သို့မဟုတ် အဖေအမှုပြီးလျှင်၊ သို့မဟုတ် အလုပ်ရလျှင် ဤကဲ့သို့ ပြုလုပ်ပါမည်ဟု အသီးသီးပြောဆို နသရ်ပြု၍ ကိုးလိုက်သောအခါ အောင်မြင်အထမြောက်လာလျှင် ကိုးလိုက်သည့်အတိုင်း ပြုလုပ်ရလေသည်။

အကယ်၍ အသင်နှင့် စကားပြောခဲ့လျှင် ရိုဇဟ်နှစ်ရက်စောင့်ပါမည်ဟု ပြောဆိုလိုက်၏၊ သို့မဟုတ် အကယ်၍ ယနေ့နမာဇ်မဖတ်မိလျှင် ငွေတစ်ကျပ်လှူလိုက်မည်ဟု ပြောဆိုလိုက်၏၊ နောက်ပြောဆိုလိုက်လျှင်ဖြစ်စေ၊ နမာဇ်ဖတ်လိုက်လျှင်ဖြစ်စေ ထိုအခါ ကျိန်ဆိုခြင်း၏ ကတ်ဖွာရဟ်ကိုဘဲပေးသည်ဖြစ်စေ၊ ရိုဇဟ်နှစ်ရက်ဘဲထားသည်ဖြစ်စေ ငွေတစ်ကျပ်ကိုဘဲလှူလိုက်သည်ဖြစ်စေ မိမိသဘောနှစ်ခြိုက်ရာကိုပြုထိုက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၉၄။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ဒရှူးဒ်အကြိမ်ပေါင်းတစ်ထောင်ဖတ်ရွတ်ပါမည်၊ သို့မဟုတ် အခေါက်ပေါင်းတစ်ထောင် 'ကလေ့မဟ်' ဖတ်ရွတ်ပါမည်ဟုပြောဆို၍ နသရ်ပြုလိုက်လျှင် မြောက်သွား၏၊ ထိုအခါဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်သွား၏။

အကယ်၍ အခေါက်ပေါင်းတစ်ထောင်(စွဗ်ဟာနလ္လာဟ်)ဖတ်ပါမည်၊ သို့မဟုတ် (လာဟောင်လ) အကြိမ်တစ်ထောင်ဖတ်ပါမည်ဟု ပြောဆိုလိုက်လျှင် ထိုအခါ ကိုးခြင်းမဖြစ်ပေ၊ ဖတ်ရန်လည်း ဝါဂျစ်ဗ်မဟုတ်ပေ။

ရှာမီကျမ်းအတွဲ-၃၊ စာမျက်နှာ ၉၄။

၁၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ်ကို အစအဆုံး ဆယ်ကြိမ်ဖတ်ပါမည်၊ သို့မဟုတ် တစ်စောင်တည်းဖတ်ပါမည်ဟု ကိုးလိုက်လျှင် ကိုးခြင်းမြောက်သွားလေသည်။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၉၄။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မည်သည့် အလုပ် အောင်မြင်လျှင် 'မောင်လူးဒ်' ဖတ်ရွတ်ခိုင်းပါမည်ဟု နသရ်ပြုလျှင် အမိဋ္ဌာန် မမြောက်ပေ၊ သို့မဟုတ် မည်သည့်ကိစ္စ အောင်မြင်လျှင် မည်သည့် သင်္ချိုင်းပေါ်၌ အဝတ်အထည် အုပ်ပါမည်ဟု နသရ်ပြုလျှင်လည်း နသရ် မမြောက်ပေ။

သို့မဟုတ် ရှာဟ်အဗ်ဒွလ်ဟတ်က်သခင်ကြီး၏ (တိုရှာ)မုန့်ပွဲ ပို့ပါမည်၊ သို့မဟုတ် (စေပနီ....စိုင်ယက်ဒ်ကဗီရ်(သခင်တစ်ပါးပါး)၏ နွားအစ်ကျောင် လုပ်ပါမည်၊ သို့မဟုတ် ဗလီသို့ မုန့်လုံးဆီကြော်ပို့ပါမည်၊ သို့မဟုတ် အလ္လာဟ်အသျှင်မြတ်၏ မုခ်ပေါက်ကို ဖြည့်ပါမည်၊ သို့မဟုတ် ပီရ်သခင်ကြီး၏ ဂယာရဝင်(၁၁)ရက် မောင်လူးဒ်ကို ဖတ်ပါမည်

စသဖြင့် ကိုးခြင်း၊ နသရ် ပြုခြင်းတို့သည် မပိုင်သည့်ပြင် ၎င်းကို တာဝန်ချခြင်းလည်း ဝါဂျစ်ဗ်မဟုတ်ချေ။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၁၇၅။

၂၁။ မဇ်စ်အလဟ် ပြဿနာ။ မည်သည့်သခင်အား အခက်အခဲတို့ကိုပပျောက်ကင်းရှင်းစေနိုင်သည်ဟု ယူ၍ ၎င်းအတွက် ရှိဇဟ်ထားခြင်း၊ အားစ်ဘီဘီအတွက် ရှိဇဟ်ထားခြင်း စသည်တို့သည် အလဟာဿအဟော့သိကဖြစ်သည့်ပြင် ဤကဲ့သို့ ရှိဇဟ်ဥပုသ်သည် (ရှစ်ရိက်)အသျှင်မြတ်အား တုဘက်နိုင်းယှဉ်ခြင်းနှင့်တူသည်။

ရှာမီကျမ်းအတွဲ-၃၊ စာမျက်နှာ ၁၇၅။

၂၂။ မဇ်စ်အလဟ် ပြဿနာ။ မည်သည့်ပျက်စီးယိုယွင်းနေသောဇလီကို ပြုပြင်လိုက်ပါမည်၊ သို့မဟုတ် မည်သည့် ပျက်စီး ချွတ်ယွင်းနေသော တံတားကို ပြင်လိုက်မည်ဟု ကိုးခြင်းလည်းမပိုင်ပေ၊ သာမက ပြုပြင်ရန် ဝါဂျစ်ဗ်လည်းမဟုတ်ပေ။

ဒွုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၄။

၂၃။ မဇ်စ်အလဟ် ပြဿနာ။ အကယ်၍ အစ်ကို၊ သို့မဟုတ် မောင်နှမ ကျန်းမာလာလျှင် ပွဲခံမည်၊ သို့မဟုတ် ဘာဂျာတီးပါမည်ဟုကိုးလိုက်လျှင် ၎င်းသည် မပိုင်သည့်ပြင် ဤသို့ကိုးခြင်း အပြစ်ဖြစ်၏၊ ကျန်းမာလာလျှင် ဤသို့ အကိုးဖြေခြင်း မထိုက်ချေ။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၉၄။

၂၄။ မဇ်စ်အလဟ် ပြဿနာ။ အလ္လာဟ်အသျှင်မြတ်မှတစ်ပါး အခြားတစ်ဦးတစ်ယောက်အား ကိုးခြင်း၊ ဥပမာ.... အို....ပီရ်သခင်ကြီး အကယ်၍ အလုပ် အောင်မြင်ခဲ့ပါလျှင် သခင် အမိန့်အတိုင်း ဆောင်ရွက်ပါမည်၊ သို့မဟုတ် သုဿာန် သင်္ချိုင်းများ ရှိရာသွားခြင်း၊ သို့မဟုတ် 'ဂျင်န်'သတ္တဝါများရှိရာသို့သွားခြင်း စသဖြင့် အားလုံးတို့သည် ဟာရာမ်နှင့် ရှစ်ရိက်ဖြစ်၏၊ သာမက ထိုသို့ကိုးသောအတွက် ကျွေးမွေးသော ပစ္စည်းများကို စားသောက်ခြင်းလည်း ဟာရာမ်ဖြစ်၏၊ ထို့ပြင် သုဿာန်သို့ မိန်းမများ သွားခြင်းသည် ဟဒီးသ်ဩဝါဒတော်၌ ပိတ်ပင်ကြောင်းလာရှိ၏၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ဤသို့သောမိန်းမများအပေါ်သို့ 'လအ်နတ်' ကျိန်ဆဲခဲ့လေသည်။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ ၁၇၅။

နသရ်အတွက် ကျွေးမွေးရာတွင် သူဆင်းရဲများကိုသာ ကျွေးမွေးရမည်။

## ကျိန်ဆိုခြင်း အကြောင်း

၁။ မဘ်စ်အလဟ် ပြဿနာ။ အကြောင်းကြီးငယ်မရှိဘဲ စကားပြောတိုင်း ကျိန်တွယ်ပြောဆိုခြင်းသည် မကောင်းပေ၊ ယင်းသို့ ကျိန်တွယ်ခြင်းသည် မြင့်မြတ်တော်မူလှ

သော အလ္လာဟ်အသျှင်မြတ်၏ နာမံတော်ကို မရိုမသေမလေးစားရာကျသည့်ပြင် မလေး မခန့်ပြုရာကျလေသည်၊ မှန်သောစကားပြောဆိုရာ၌ပင် တတ်နိုင်သမျှကျိန်ဆိုပြောခြင်းကို ရှောင်ရမည်။

ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၅၇၊ ၂၅၀။

၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် အလ္လာဟ်အသျှင်မြတ်အား ကျိန်ဆိုလေ၏၊ ဥပမာ....အလ္လာဟ်အသျှင်မြတ်သိစေရဲ့၊ သို့မဟုတ် ခိုဒါအသျှင်မြတ် သိရစေရဲ့ သို့မဟုတ် အသျှင်မြတ်၏ ဂုဏ်တန်ခိုးနှင့်ကြီးကျယ်ခြင်းအား ကျိန်ဆိုပါသည်၊ သို့မဟုတ် အသျှင်မြတ်၏ ဘုန်းတန်ခိုးအာနုဘော်ကို ကျိန်ဆိုပါသည်ဟူ၍ အသီးသီးတို့ဖြင့် ကျိန်ဆိုလျှင် ၎င်းသည် ကျိန်ဆိုခြင်းဖြစ်သွား၏၊ ယခု ထိုသို့ကျိန်ဆိုခြင်းနှင့် ဆန့်ကျင်ဘက်ပြုလုပ်ခြင်း မထိုက်။

အလ္လာဟ်အသျှင်မြတ်၏နာမံတော်ကိုမယူဘဲ ကျိန်ဆိုပါသည်ဟူ၍ မည်သည့်အလုပ်ကို မလုပ်တော့ပါဘူးဟု ဆိုလိုက်လျှင်လည်း ကျိန်ဆိုခြင်းဖြစ်သွား၏။

ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၇၊ ၂၅၀။

၃။ မတ်စ်အလဟ်ပြဿနာ။ အလ္လာဟ် အသျှင်မြတ် သက်သေ ဖြစ်သည်၊ အသျှင်မြတ်ကို သက်သေထား၍ ပြောမည်၊ အသျှင်မြတ်ကို ရှေ့ထားပြီး ပြောပါမည်ဟု ဆိုလျှင်လည်း ကျိန်ဆိုခြင်းဖြစ်သွားလေသည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၉။

၄။ မတ်စ်အလဟ်ပြဿနာ။ ကုရ်အာန်ကျမ်းတော်မြတ်ကို ကျိန်ဆိုပါ၏၊ ကုရ်အာန် စူးရပါစေရဲ့၊ အသျှင်မြတ်၏ကလာမ်တော်စူးရပါစေရဲ့၊ မြင့်မြတ်သောကုရ်အာန်ကျမ်းတော်ကို ကျိန်ဆိုပြီး စကားတစ်ခုခုပြောဆိုလျှင် ကျိန်ဆိုခြင်း ဖြစ်သွားလေသည်၊ အကယ်၍ ကုရ်အာန်ကျမ်းတော်ကို လက်တွင်ကိုင်၍သော်လည်းကောင်း၊ လက်တင်၍သော်လည်းကောင်း စကားတစ်ခုခုကို မကျိန်ဆိုဘဲပြောဆိုလျှင် ထိုအခါ ကျိန်ဆိုခြင်းမဖြစ်ပေ။

သို့ရာတွင် ဖွေကဟ် ကျမ်းရှင် များက အလ္လာဟ် အသျှင်မြတ်၏ နာမံတော် ၎င်းဂုဏ်တော်များမှတစ်ပါး ကျိန်ဆိုခြင်းမပြုရဟု တားမြစ်ထားကြလေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၁။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မည်သည့်အလုပ်ကိုလုပ်လျှင် အီမာန်မပါဘဲ သေရပါစေရဲ့ ဟူ၍သော်လည်းကောင်း၊ သေသောအခါ အီမာန်မပါဘဲသေရပါစေရဲ့သော်လည်းကောင်း၊ သို့မဟုတ် မည်သည့် အလုပ်ကို လုပ်လျှင် မွတ်စလင်မ် အဖြစ်နှင့်ကင်းဝေးရပါစေရဲ့ ဟူ၍သော်လည်းကောင်း ပြောဆိုပြီး ကျိန်တွယ်လျှင် ၎င်းသည် ကျိန်ဆိုခြင်း ဖြစ်သွားလေသည်။

ထိုသို့ ကျိန်တွယ်ပြီးနောက် ၎င်း၏ ဆန့်ကျင်ဘက် ပြုလုပ်ခြင်းဖြင့် ကတ်ဖွာရဟ်ပေးရပေမည်၊ အီမာန်ကား ကင်းမဲ့သွားလိမ့်မည် မဟုတ်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၁။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မည်သည့်အလုပ်ကိုလုပ်လျှင် လက်ကျိုးသွားပါစေ၊ မျက်စိပေါက်သွားပါစေ၊ နူပါစေ၊ (ကာလနာနှင့်သေပါစေ၊ တိုက်ပြိုကျ၍ သေပါစေ) ကိုယ်က ပေါက်ထွက်ပါစေ၊ အသျှင်မြတ်အပြစ်ဒဏ် ငရဲကျပါစေ၊ မိုးကြိုးကျပါစေ၊ ဆန်တစ်စေ့ကိုပင် လိုလား တောင့်တရသောအဖြစ်သို့ ရောက်ပါစေ၊ အသျှင်မြတ်၏ 'ဂဇဗ်' ကျပါစေ၊ အသျှင်မြတ်၏ ပြစ်ဒဏ် ခံရပါစေ စသည်တို့ ပြောဆိုခြင်း။

အကယ်၍ မည်သည့်အလုပ်ကိုလုပ်ခဲ့သော် ဝက်သားစားသူဖြစ်ရပါစေရဲ့၊ သေသော အချိန်တွင် ကလေမဟ် မဖတ်နိုင်သောအဖြစ် ရောက်ရပါစေရဲ့၊ ကေယာမတ်နေ့၌ ခိုဒါနှင့် ရစူလ်ရှေ့တော်တွင် မျက်နှာပျက်ခြင်းဖြစ်ရပါစေရဲ့ စသော စကား အသုံးအနှုန်းတို့ကို ပြောဆိုခြင်းဖြင့် ကျိန်ခြင်းမဖြစ်ပေ၊ ၎င်းတို့၏ ဆန့်ကျင်ဘက်ပြုလုပ်ခြင်းဖြင့်လည်း ကတ်ဖွာရဟ်ပေးရန် မလိုပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၂။

**မှတ်ချက်။** အချို့သောဒေသတွင် (သေသောအချိန်တွင် ကလေမဟ်မဖတ်နိုင်သော အဖြစ်နှင့် သေရပါစေရဲ့)ဟု ကျိန်ဆိုခြင်းတွင် အီမာန်မပါဘဲ သေရပါစေရဲ့ဟု ယူဆလျှင် ကာဖမ်ဖြစ်သည်၊ ကွဲလွဲမှုပြုခြင်းဖြင့် ကတ်ဖွာရဟ်ပေးရမည်။

၇။ မတ်စ်အလဟ် ပြဿနာ။ အလ္လာဟ် အသျှင်မြတ်မှ တစ်ပါး အခြားသော တခ်စုံတစ်ယောက် အရာတစ်ခုခုအားကျိန်ဆိုခြင်းဖြင့် ကျိန်ဆိုခြင်းမဖြစ်ချေ၊ ဥပမာ...ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကိုကျိန်ခြင်း၊ ကအ်ဗဟ်ကိုကျိန်ဆိုခြင်း၊ မိမိမျက်စိကိုကျိန်ဆိုခြင်း၊ မိမိ၏ပျိုရွယ်ခြင်းကိုကျိန်ဆိုခြင်း၊ မိမိ၏ခြေလက်များကိုကျိန်ဆိုခြင်း၊ မိမိ၏ဖခင်ကိုကျိန်ဆိုခြင်း၊ မိမိ၏သားသမီးကိုကျိန်ဆိုခြင်း၊ မိမိ၏ချစ်ခင်သူကိုကျိန်ဆိုခြင်း၊ မိမိဦးခေါင်းကိုကျိန်ဆိုခြင်း၊ မိမိ၏အသက်ကိုကျိန်ဆိုခြင်း၊ မိမိကိုယ်ကိုကျိန်ဆိုခြင်း စသည်တို့ကိုကျိန်ဆိုပြီး နောက် ၎င်းတို့၏ ဆန့်ကျင်ဘက် ပြုလုပ်ခြင်းဖြင့် ကတ်ဖွာရဟ် ပေးခြင်း ပြုရမည် မဟုတ်ချေ။

သို့သော် အလ္လာဟ်အသျှင်မြတ်မှတစ်ပါး အခြားအရာများကို ကျိန်ဆိုခြင်းသည် ကြီးသောအပြစ်ဖြစ်လေသည်၊ ဟဒီးသ်တော်၌ ဤကဲ့သို့ ကျိန်ဆိုခြင်းများကို တားမြစ်ထား၏၊ အသျှင်မြတ်ကိုလွှတ်၍ အခြားအရာများကို ကျိန်ဆိုခြင်းသည် အသျှင်မြတ်ကို ရှစ်ရိက် အပေါ်စား တုဖက်နှိုင်းယှဉ်ခြင်း၏ စကားရပ်ဖြစ်လေသည်၊ ထိုသို့သော စကားကို လွန်စွာရှောင်ရန် ထိုက်၏။

ဗျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၅၈။

၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်ကအသင့်အိမ်၌စားသောက်ခြင်း ကျွန်ုပ်အပေါ်၌ 'ဟရာမ်' ဖြစ်သည်ဟု ပြောဆိုလိုက်၏၊ သို့မဟုတ် မည်သည့် ပစ္စည်းကို ကျွန်ုပ်သည် မိမိအပေါ်၌ ဟရာမ်ပြုလိုက်ပြီဟု ပြောဆိုလိုက်၏၊ ယင်းသို့ ပြောဆိုရုံဖြင့် ထိုအရာသည် ဟရာမ်ဖြစ်မသွားချေ၊ သို့သော် ကျိန်ဆိုခြင်းဖြစ်သွားလေသည်၊ ထိုအရာကို အကယ်၍ ယခုစားမိလျှင် ကတ်ဖ္ဖာရဟ်ပေးရမည်။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ ၈၆။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၉၅။

၉။ မတ်စ်အလဟ် ပြဿနာ။ သူတစ်ပါးက ကျိန်ဆိုစေခြင်းဖြင့် ကျိန်ဆိုခြင်း မဖြစ်ပေ၊ ဥပမာ....တစ်ဦးတစ်ယောက်က အသင့်အား အသင့်ခိုဒါအသျှင်မြတ်ကို ကျိန်ဆို၍ပြောပါသည်၊ ဤအလုပ်ကိုလုပ်ဖြစ်အောင်လုပ်ပါဟူ၍ ပြောဆိုခြင်းသည် ကျိန်ဆိုခြင်း မဖြစ်ပေ၊ ၎င်းနှင့်ဆန့်ကျင်ဘက် ပြုလုပ်နိုင်၏။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၁၉၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ကျိန်ဆိုပြီးနောက်တစ်ဆက်တည်း အသျှင်မြတ် အလိုတော်ရှိလျှင်ဟူသော စာလုံးကို ဆက်၍ပြောဆိုလျှင် ဥပမာ.... တစ်ဦးတစ်ယောက်က အသျှင်မြတ်သိရစေရဲ့၊ မည်သည့်အလုပ်ကို 'အင်ရှာအလ္လာဟ်' မလုပ်တော့ဘူးဟူ၍ ကျိန်ဆိုလျှင် ၎င်းသည် ကျိန်ဆိုခြင်းမဖြစ်ပေ၊

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၁။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ကုန်လွန် ပြီးမြောက် ပြီးသော စကားတစ်ခုခု အပေါ်၌ လိမ်ပြီးကျိန်ဆိုခြင်းမှာ အလွန်အပြစ်ကြီး၏၊ ဥပမာ....တစ်ဦးတစ်ယောက်သော သူ/မသည် နမာဇ်မဖတ်ဘဲ နေလေ၏၊ နောက် တစ်ဦးဦးက မေးမြန်းသောအခါ ခိုဒါ အသျှင်မြတ်သိရစေရဲ့၊ နမာဇ်ဖတ်ပြီးခဲ့လေပြီဟူ၍ လိမ်ပြီးကျိန်ခြင်း၊ သို့မဟုတ် တစ်ဦး တစ်ယောက်ကြောင့် ဖန်ခွက်ကွဲသွား၍ မေးသောအခါ အသျှင်မြတ်သိရစေရဲ့၊ ကျွန်ုပ် မခွဲပါဘူးဟု ပြန်ပြော၍ သိပါလျက်နှင့် လိမ်လည်ပြီးကျိန်ဆိုလျှင် ထိုအပြစ်သည် မရေ တွက်နိုင်လောက်အောင်ဖြစ်ပေ၏၊ ၎င်းအစား ကတ်ဖ္ဖာရဟ်လည်းမရှိပေ၊ ထိုသို့ဖြစ်သော အခါ နေ့-ည အလ္လာဟ်အသျှင်မြတ်ထံတော်၌ သံဝေဂရပြီးလျှင် (အစ်တစ်ဂ်ဖ္ဖာရ်)ဖတ် ရွတ်၍ မိမိအပြစ်အား ချမ်းသာခွင့်တောင်းဆိုခြင်းမှတစ်ပါး အခြား မဖြစ်နိုင်တော့ပေ။

အကယ်၍ မှားယွင်းပြီးလျှင် သူတစ်ပါး၏အလုည့်စားခံရ၍ကျိန်မိသော် ဥပမာ.... အသျှင်မြတ်သိရပါစေရဲ့၊ ယခု မည်သူဟာ မလာသေးပါဟူ၍ ကျိန်ပြီးပြောဆိုလိုက်၏၊ မိမိ၏ စိတ်နှလုံး၌လည်း မုချ မလာသေး ဟူ၍ အမှန်ကျိန်သည်ဟုလည်း အောက်မေ့ယုံ

ကြည်လေ၏၊ နောက်မှ ၎င်းသူရောက်နေမှန်းသိရလေ၏၊ ထိုသို့ မှားယွင်းပြီး ကျိန်ဆိုမိခြင်းသည် ချမ်းသာခွင့်ရ၏၊ အပြစ်ငရဲလည်းမရှိပေ၊ ကတ်ဖွာရဟ်လည်းမရှိပေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၈၊ ၁၉၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ယခုမဖြစ်သေးဘဲ ရှေ့၌ဖြစ်အံ့သော အရာကိစ္စတစ်ခုခုအပေါ်၌ ကျိန်ဆိုလျှင် ဥပမာ....တစ်ဦးတစ်ယောက်က ခိုဒါအသျှင်မြတ်သိရစေရဲ့ ယနေ့မိုးရွာလိမ့်မည်ဟုကျိန်ဆိုလိုက်၏၊ နောက် မိုးလည်းမရွာချေ၊ သို့မဟုတ် အသျှင်မြတ်သိရပါစေရဲ့၊ ယနေ့ အစ်ကို သို့မဟုတ် မောင် ညီ ဖြစ်သူ လာလိမ့်မည်ဟူ၍ ကျိန်လိုက်၏၊ နောက် လာလည်းမလာ ထိုအခါ ကတ်ဖွာရဟ် ပေးရပေမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၈၊ ၁၉၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်ကအလ္လာဟ်အသျှင်မြတ်သိရပါစေရဲ့၊ ယနေ့ ကုရ်အာန်ကျမ်းတော်မြတ်ကို ဆက်ဆက်ဖတ်ဖို့ပါမည်ဟူ၍ ကျိန်လိုက်သော် ယခု ကုရ်အာန်ဖတ်ခြင်း ဝါဂျစ်ဗ်ဖြစ်သွားသည်၊ မဖတ်လျှင် အပြစ်ဖြစ်မည်၊ သာမက ကတ်ဖွာရဟ်လည်း ပေးရမည်။

အကယ်၍တစ်ဦးတစ်ယောက်က အသျှင်မြတ်သိရပါစေရဲ့၊ ယနေ့မည်သည့်အလုပ်ကို မလုပ်တော့ပါဘူးဟူ၍ ကျိန်ဆိုလိုက်သော် ယခု ထိုအလုပ်ကိုမလုပ်ဘဲနေထိုက်၏၊ လုပ်ခဲ့ပါမူ ကျိန်ဆိုထားခြင်းကို ဖျက်လိုက်ခြင်းဖြင့် ကတ်ဖွာရဟ်ပေးရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၈၊ ၁၉၉။

၁၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် အပြစ်တစ်ခုခုကို လုပ်ခြင်း၌ ကျိန်ဆိုလေ၏၊ ဥပမာ....အသျှင်မြတ်သိရပါစေရဲ့၊ မည်သူ့ပစ္စည်းကို ခိုးယူလာမည်၊ သို့မဟုတ် အသျှင်မြတ်သိရစေရဲ့၊ ယနေ့ နမာဇ်မဖတ်တော့ဘူး၊ သို့မဟုတ် အသျှင်မြတ် သိရစေရဲ့၊ ကျွန်ုပ်၏မိဘများနှင့် ဘယ်တော့မှ စကားမပြောတော့ပါဘူးဟူသော ကျိန်ဆိုခြင်းများ၌ ကျိန်ထားခြင်းကို ဖျက်ပစ်လိုက်ရန် ဝါဂျစ်ဗ် ဖြစ်၏၊ ၎င်းဖျက်လိုက်သောအစား ကတ်ဖွာရဟ်ပေးရမည်၊ မပေးလျှင် အပြစ်ဖြစ်၏။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၄၆၂။

၁၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦး ကစ်ယောက်သော သူ/မ သည် ယနေ့ ကျွန်ုပ်မည်သည့်ပစ္စည်းကို မစားတော့ပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ နောက် ကျိန်ဆိုထားသည်ကို သတိမရသဖြင့်မေ့လျော့ပြီးစားမိလေသည်၊ သို့မဟုတ်တစ်ဦးဦးက အတင်းအဓမ္မပါးစပ်ကိုဖြဲ၍ ထည့်ကျွေးလိုက်၏၊ ထိုအခါလည်း ကတ်ဖွာရဟ် ပေးရမည်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၅၇။

၁၆။ မတ်စ်အလဟ်ပြဿနာ။ စိတ်ဆိုးပြီးလျှင် နင့်ကိုငါဘယ်တော့မှ တစ်ချေးတစ်ခြမ်းတောင်မပေးတော့ဘူးဟူ၍ကျိန်ဆိုလိုက်၏၊ ထို့နောက်ပိုက်ဆံတစ်ပြား သို့မဟုတ်

ငွေတစ်ကျပ်ပေးလိုက်၏၊ ထိုအခါလည်း ကျိန်ဆိုထားခြင်းပျက်သွား၍ ကတ်ဖွာရဟ်ပေး ရမည်။ ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၅၇။

# ကျိန်ဆိုခြင်း၏ ကတ်ဖွာရဟ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သောသူသည် မိမိ ကျိန်ဆိုထားခြင်းကိုဖျက်လိုက်သော် ၎င်းအစားကတ်ဖွာရဟ်ပေးရမည်မှာ ဆင်းရဲနွမ်းပါး သော သူဆယ်ယောက်ကို နံနက်စာနှင့်ညစာထမင်းနှစ်နပ်ကျွေးမွေးလိုက်ရမည်၊ သို့မဟုတ် ဆန်စိမ်း၊ ဂျုံစေ့ စသည်ကိုလည်း ပေးနိုင်၏၊ အကယ်၍ ဂျုံစေ့ကို ပေးလိုက်သော် ဆင်းရဲသား တစ်ယောက်လျှင် အင်္ဂလိပ်ကျပ်ချိန်နှင့် တစ်ပိဿာနှင့် လေးဆယ်သား ပေး ရမည်၊ ၎င်းသည် မြန်မာမှုမှန် တစ်ပြီဆယ်ကျပ်သားရှိ၏။

အကယ်၍ ဆန်စပါးကိုပေးလိုသော် တစ်ယောက်လျှင် အင်္ဂလိပ်ကျပ်ချိန်နှင့် နှစ် ပိဿာနှင့်ရှစ်ဆယ်သားပေးရမည်၊ ၎င်းသည် မြန်မာမှုမှန် နှစ်ပြီနှစ်ဆယ်ကျပ်သားရှိ၏။

အကယ်၍ မုယောစပါးကိုပေးလိုသော် ဆန်စပါးများကဲ့သို့ ဂျုံ၏နှစ်ဆ ပေးရ မည်၊ သူဆင်းရဲကို ကျွေးမွေးခြင်း၏ ပညတ်ချက်များမှာ ရိုဇဟ်ဥပုသ်၏ ကတ်ဖွာရဟ် အကြောင်း၌ ဖော်ပြ ရေးသားခဲ့သည့်အတိုင်းပင် ဖြစ်လေသည်။

သို့မဟုတ် ဖကီရ် သူဆင်းရဲဆယ်ယောက်တို့ကို အဝတ်ဝယ်၍ ဆင်မြန်းပေးလိုက် ရမည်၊ ထိုသို့ပြုလုပ်လိုသောအခါ သူဆင်းရဲတစ်ယောက်လျှင် အများအားဖြင့် ၎င်းသူ၏ ကိုယ်အင်္ဂါလုံခြုံသွားနိုင်လောက်အောင်ခန့်မျှ အဝတ်ကိုပေးရမည်၊ ဥပမာ.... ခြုံသော အဝတ် သို့မဟုတ် ရှည်လျားသောအင်္ကျီ ပေးလိုက်လျှင် ကတ်ဖွာရဟ် တာဝန်ကျသွား သည်၊ သို့သော် အလွန်ဟောင်းနွမ်းနေသောအဝတ် မဖြစ်စေရ၊

အကယ်၍သူဆင်းရဲတိုင်းကို လုံချည်တစ်ထည်စီသို့မဟုတ် ဘောင်းဘီတစ်ထည်စီပေး လိုက်သော် ကတ်ဖွာရဟ်တာဝန်မကျပေ၊ ၎င်းလုံချည်နှင့်တကွ သို့မဟုတ် ဘောင်းဘီနှင့် တကွ အင်္ကျီရှည်တစ်ထည်စီပါအတူပေးလိုက်လျှင် ထိုအခါ ပိုင်သွား၍ အတည်ဖြစ်သွား ပေသည်။

အထက်က ဖော်ပြခဲ့သည့်အတိုင်း အဝတ်အစားကိုဘဲ ပေးလိုလျှင်ပေး၊ ထမင်း ဟင်းဘဲ ကျွေးလိုလျှင် ကျွေးနိုင်သည်၊ မိမိနှစ်ခြိုက်သလို ပြုလုပ်နိုင်လေသည်၊ အဘယ် နည်းဖြင့်ဖြစ်စေ ကတ်ဖွာရဟ် တာဝန်ကျသွားလေသည်။

အထက်က ဖော်ပြခဲ့သော အဝတ်အထည် ပေးထိုက်ကြောင်းသည် ယောကျ်ား ဆင်းရဲသားကို ပေးသောအခါမှဖြစ်ပေ၏၊ အကယ်၍ မိန်းမဆင်းရဲသူမများကို ပေးလို

လျှင် တစ်ယောက်ကို တစ်ကိုယ်လုံး ဖုံးအုပ်နိုင်လောက်အောင်မျှသော အဝတ်အထည်ကို ပေးရမည်၊ ထိုအဝတ်ဖြင့် နမာဇ်ဖတ်နိုင်စေလောက်အောင်ရှိရမည်၊ ၎င်းထက် နည်းပေးလျှင် ကတ်ဖွာရဟ် အတည်မဖြစ်ချေ။

ဂျော်ဟရယ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၅၉၊ ၂၆၀။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သော သူသည် အလွန် ဆင်းရဲ၍ ထမင်းလည်းမကျွေးနိုင်၊ အထည်အဝတ်လည်းမပေးနိုင်ခဲ့သော် နေ့စဉ်ရက်ဆက် သုံးရက်မျှရိုဇဟ်ဥပုသ်စောင့်ထိန်းရမည်၊ တစ်ရက်စီခြားပြီး သုံးရက်ကိုဖြည့်သော် ကတ်ဖွာရဟ်အတည်မဖြစ်ချေ၊ တဖန်ထပ်၍ သုံးရက်ထားရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၀။

၃။ မတ်စ်အလဟ် ပြဿနာ။ ကျိန်ဆိုထားခြင်းကိုမဖျက်သေးမီ အလျင်တင်ကူး၍ ကတ်ဖွာရဟ်ပေးထားပြီးမှ ကျိန်တွယ်ခြင်းကိုဖျက်လိုက်သော် ပေးထားသော ကတ်ဖွာရဟ်သည် မပိုင်ချေ၊ ယခု တဖန် ထပ်ပေးရဦးမည်၊ ဆင်းရဲသားများအား ပေးပြီးသော ပစ္စည်းကို ပြန်ယူခြင်းလည်း မထိုက်ပေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၀။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ/မသည် အကြိမ်များစွာ ကျိန်ဆို၏၊ ဥပမာ....အသျှင်မြတ်သိရစေရဲ့၊ မည်သည့်အလုပ်ကို မလုပ်တော့ပါဘူးဟု တစ်ခါကျိန်တွယ်လိုက်၏၊ ထို့နောက် အသျှင်မြတ်သိရပါစေရဲ့၊ မည်သည့်အလုပ်ကိုမလုပ်တော့ပါဘူး ဟူ၍ ကျိန်တွယ်လိုက်ပြန်၏၊ ထို့နောက် ထိုနေ့၌ပင် သော်လည်းကောင်း သို့မဟုတ် နှစ်ရက်သုံးရက်နေပြီးမှသော်လည်းကောင်း ဤနည်းတူ အကြိမ်ပေါင်းများစွာ ကျိန်တွယ်လေ၏၊ သို့မဟုတ်အသျှင်မြတ်သိရစေရဲ့၊ အလ္လာဟ်သိရစေရဲ့၊ အသျှင်မြတ်၏ ကလာမ်တော်စူးရစေရဲ့ဆို၍ ကျိန်တွယ်ပြီး မည်သည့်အလုပ်ကို မုချမလုပ်တော့ပါဘူးဟူ၍ ပြောဆိုလေ၏၊ နောက် ကျိန်တွယ်ထားခြင်းကို ဖျက်လိုက်၏၊ ထိုအခါ အားလုံးသော ကျိန်တွယ်ခြင်းများအတွက် တစ်ခါသာ ကတ်ဖွာရဟ်ပေးရမည်ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၉။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၉၁။

၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၌ မြောက်မြားစွာသော ကျိန်တွယ်ခြင်းများအတွက် တာဝန်တင်ရှိ၍ ကတ်ဖွာရဟ်များ စုပေါင်းလျက်ရှိမှု ကျော်ကြားသောအမိန့်အရဆိုမူ အားလုံးအတွက် တစ်ခြားစီ သီးခြား ကတ်ဖွာရဟ်ပေးရမည်၊ ရှင်နေစဉ် မပေးမိခဲ့သော် သေဆုံးခါနီးသောအခါ မှာတမ်းစကား ပြောကြားသွားခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၉။

၆။ မတ်စ်အလဟ် ပြဿနာ။ ကတ်ဖွဲ့ရာတွင် ဇကာတ် ပိုက်ဆံပေးထိုက်သော သူဆင်းရဲဖွဲ့ကီရိမစ်ကီန်များကိုသာ အဝတ်အထည်သော်လည်းကောင်း၊ အစားအသောက် သော်လည်းကောင်း ပေးကမ်းကျွေးမွေးရမည်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၁။

# အိမ်၌ သွားခြင်း၏ ကျိန်တွယ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်ကသင့်အိမ်သို့ကျွန်ုပ်ဘယ်တော့မှ မလာဘူးဟူ၍ ကျိန်တွယ်လိုက်၏၊ ထို့နောက် ထိုသူ/မ၏ အိမ်၏တံခါးပေါက်အဝ၌ ရပ်နေလေ၏၊ သို့မဟုတ် တံခါး ဆင်ဝင်မုခ်အောက်၌ ရပ်နေလေ၏၊ အိမ်အတွင်းသို့မူ မဝင်ချေ၊ ထိုအခါ ကျိန်ဆိုထားခြင်းသည် မပျက်သေးပေ၊ အကယ်၍ တံခါးအတွင်းသို့ ဝင်သွားသော် ထိုအခါ မိမိကျိန်ဆိုထားခြင်းသည် ပျက်သွားပေမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၉၆။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူ၏အိမ်သို့မသွားပါဘူး ဟူ၍ ကျိန်ဆိုလိုက်၏၊ ထို့နောက် ၎င်းအိမ် ပြိုကျ၍ လုံးလုံးပျက်စီးသွား၏၊ ထိုအခါ ၎င်းအိမ်သို့သွားသော် ကျိန်တွယ်ထားခြင်းပျက်သွား၏၊ အကယ်၍ လုံးလုံး၎င်းအိမ်နေရာ၌ ကွင်းပြင်ဖြစ်သွား၍ မြေကြီးညီညာနေပြီး အိမ်၏ လက္ခဏာ မရှိတော့ဘဲ ၎င်းနေရာတွင် လယ်ယာမြေဖြစ်စေ၊ ဗလီကျောင်းဖြစ်စေ၊ ဥယျာဉ်ဖြစ်စေ ပြုပြင်ဆောက်လုပ်ထားသော အခါမှ သွားလျှင် ထိုအခါ ကျိန်တွယ်ထားခြင်းသည် မပျက်ပေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၁။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အ-တွဲ၂၊ စာမျက်နှာ-၂၉၆။

၃။ မတ်စ်အလဟ် ပြဿနာ။ ဤအိမ်ကိုမသွားပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ ထိုအိမ်သည် ၎င်းနောက်ပြိုကျသွားသဖြင့် ပြန်အသစ်ပြုပြင်ဆောက်လုပ်ပြီး နောက်မှ သွား၏၊ ထိုအခါ ကျိန်တွယ်ထားခြင်း ပျက်သွားလေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၁။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၆။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်က အသင်မ၏အိမ်သို့မသွားပါဘူးဟူ၍ ကျိန်ဆိုလိုက်ပြီးနောက် ကျော်ခုန်တက်ပြီး အမိုးပေါ်၌ရပ်နေလေ၏၊ ထိုအခါ အကယ်၍ပင် အောက်သို့ဆင်းမလာသော်ငြားလည်း ကျိန်ဆိုထားခြင်းပျက်သွား၏။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၆၃။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၉၃။

၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မသည် အိမ်၌ထိုင်နေ၍ ယခုဤနေရာသို့ဘယ်တော့မှမလာပါဘူးဟူ၍ကျိန်ဆိုလိုက်၏၊ နောက်အနည်းငယ်မျှအချိန်ထိ ၎င်းနေရာ၌ ထိုင်နေလေ၏၊ ထိုအခါ မည်မျှနေ့ရက်ပင် ထိုင်နေသော်လည်း ကျိန်တွယ်ထားခြင်း မပျက်သေးချေ၊ အပြင်သို့ထွက်သွားပြီး နောက်မှပြန်လာလျှင် ပျက်သွား၏။

အကယ်၍ ဤအင်္ကျီကို မဝတ်တော့ပါဘူးဟု ကျိန်ဆိုလိုက်၍ ချက်ချင်းပင် ချွတ်ပစ်လိုက်၏၊ ထိုအခါ ကျိန်ဆိုခြင်းမပျက်ပေ၊ အကယ်၍ ချက်ချင်းမချွတ်ဘဲ အနည်းငယ်ကြာနေလျှင် ကျိန်ဆိုခြင်း ပျက်သွား၏။

ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၄။

၆။ မတ်စ်အလဟ်ပြဿနာ။ ဤအိမ်၌ မနေတော့ပါဘူးဟူ၍ ကျိန်ဆိုပြီး ချက်ချင်း ထိုအိမ်တွင်းမှ ပစ္စည်းဝတ္ထုများကို သယ်ယူခြင်းပြုရန်စီမံ၏၊ ထိုအခါ ကျိန်ဆိုထားခြင်း ပျက်မသွားပေ၊ အကယ်၍ ချက်ချင်း သယ်ယူခြင်း မပြုလျှင် ကျိန်ဆိုခြင်း ပျက်သွား၏။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၁၀၄။

၇။ မတ်စ်အလဟ်ပြဿနာ။ ယခု သင်၏အိမ်တွင် ခြေထောက်မချတော့ပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ အလိုမှာ.... မလာတော့ပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ ထို့နောက် ထမ်းစင်ပေါ် ထိုင်စီး၍ လာ၏၊ ထိုအခါတွင် ယင်းထမ်းစင်ပေါ်၌သာ ထိုင်နေလျက် မြေကြီးပေါ်သို့ ခြေထောက်မချဘဲနေသော်ငြားလည်း ကျိန်ဆိုထားခြင်း ပျက်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၉၈။

၈။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်သော သူ/မက အသင့်အိမ်သို့ တစ်ခါခါတော့ မုချလာရောက်ပါမည်ဟူ၍ ကျိန်ဆိုပြောလိုက်၏၊ ထို့နောက် လာရန် မကြုံကြိုက်သဖြင့် နေလေ၏၊ ထိုအခါရှင်နေသမျှ ကာလပတ်လုံး ကျိန်ထားခြင်း မပျက်ပေ၊ သို့သော် သေသွားလျှင် ပျက်သွားအံ့၊ ထိုသို့ဆုံဆည်းသောအခါ သေခါနီးအချိန်တွင် မိမိဥစ္စာပစ္စည်း ကြေးငွေထဲမှ ကျိန်ခြင်း၏ ကတ်ဖွာရဟ်ကို ပေးလိုက်ကြစေရန် မှာတမ်းစကား ပြောကြားသွားရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၄။

၉။ မတ်စ်အလဟ်ပြဿနာ။ မည်သူ၏ အိမ်ကို မသွားတော့ပါဘူးဟူ၍ ကျိန်ဆိုလိုက်သောအခါ ၎င်းသူ/မနေသော အိမ်ကိုသာ မသွားရဖြစ်လေသည်၊ ၎င်းအိမ်သည် ထိုသူ/မ၏ ကိုယ်ပိုင်အိမ်ဖြစ်စေ၊ ငှားနေသောအိမ်ဖြစ်စေ၊ ခေတ္တတောင်းယူ၍ နေသော အိမ်ဖြစ်စေ၊ အခမဲ့နေရသောအိမ်ဖြစ်စေ အတူတူပင်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၉၈။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အသင်/မထံသို့ ဘယ်တော့မှ မလာပါဘူး ဟူ၍ ကျိန်ဆိုလိုက်၏၊ ထို့နောက်တစ်ဦးတစ်ယောက်သောသူ/မအား ကျွန်ုပ်ကိုပွေ့ချီ၍ ၎င်းနေရာသို့ ပို့ပေးပါဟု ပြောဆိုလေ၏၊ ထိုသို့ ပြောဆိုသည့်အတိုင်းပင် ထိုသူ/မကလည်း ပွေ့ချီ၍ပို့လိုက်၏၊ ထိုအခါလည်း ကျိန်ထားခြင်း ပျက်သွား၏။

အကယ်၍ မပြောဆိုမစေခိုင်းဘဲဖြင့် တစ်ဦးတစ်ယောက်သောသူ/မက ပွေ့ပိုက်မ, ယူပြီးလျှင် ထိုနေရာသို့ပို့သော် ထိုအခါကျိန်ထားခြင်း မပျက်ချေ။

ထိုနည်းတူ ဤအိမ်က ဘယ်တော့မှ မထွက်တော့ပါဘူးဟု ပြောဆိုပြီး ကျိန်ဆိုလိုက်၏၊ ထို့နောက် အခြားတစ်ဦးတစ်ယောက်သောသူ/မအား အသင်သည် ကျွန်ုပ်အား ပွေ့ယူပြီးထွက်သွားပါဟု စေခိုင်းလေ၏၊ ထိုအခါ အကယ်၍စေခိုင်းသည့်အတိုင်းယူသွားလျှင် ကျိန်ဆိုခြင်းပျက်၏၊ အကယ်၍ မပြောဆို မစေခိုင်းဘဲဖြင့် ပွေ့ယူသွားလျှင် ကျိန်ဆိုထားခြင်း မပျက်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၉၇။

# စားသောက်ခြင်း နှင့် ဆိုင်ရာ ကျိန်တွယ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ဤနို့ကို မစားပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ ထို့နောက် ၎င်းနို့ကိုပင်ခဲ၍ ဒိန်ခဲလုပ်လိုက်၏၊ ထိုအခါ ၎င်းကိုစားခြင်းဖြင့် ကျိန်တွယ်ထားခြင်းသည် ပျက်မသွားချေ။

ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ- ၂၆၆။

၂။ မတ်စ်အလဟ် ပြဿနာ။ မွေးထားသော ဆိတ်ငယ်ကလေးတစ်ကောင်ရှိရာ ထိုဆိတ်ငယ်ကလေး၏အသားကို ကျွန်ုပ် မစားပါဘူးဟူ၍ ကျိန်ဆိုလိုက်၏၊ ထို့နောက် ယင်းဆိတ်ကလေးသည်ကြီးပြင်းလာ၍ ဆိတ်ကြီးဖြစ်လာသောအခါအသားကိုစားလေ၏၊ ထိုအခါတွင်လည်း ကျိန်ဆိုခြင်း ပျက်သွား၏။

ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၆။

၃။ မတ်စ်အလဟ် ပြဿနာ။ အသားကို မစားတော့ပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် ငါးကိုဖြစ်စေ၊ အသည်းအဆုတ်ကိုဖြစ်စေ၊ ဝမ်းတွင်းသားကိုဖြစ်စေ စားလျှင် ကျိန်ဆိုထားခြင်း မပျက်ပေ၊ သို့သော် အချို့သော နေရာဒေသ၌ ဤအရာအားလုံးကို အသားဟုပင် ခေါ်ဝေါ်သုံးနှုန်းလျှင် ကျိန်ဆိုခြင်း ပျက်သွားပေမည်။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၁၂၅။

၄။ မှတ်စ်အလယ်ပြဿနာ။ ဤဂျုံကို မစားပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက်၎င်းဂျုံစေ့ကိုဘဲကြိတ်စေ၊ ထောင်းစေ၍ မုန့်လုပ်စား၏၊သို့မဟုတ်၎င်းဂျုံစေ့ကို လှော်၍ စား၏၊ ထိုအခါ ၎င်းကျိန်ဆိုထားခြင်း မပျက်ချေ၊ အကယ်၍ ၎င်းဂျုံအတိုင်းကိုပင် အစေ့ မပျက် ပြုတ်စားသည်ဖြစ်စေ၊ လှော်စားသည်ဖြစ်စေ ထိုအခါ ကျိန်ဆိုထားခြင်းပျက်သွား၏၊ အကယ်၍ထိုသို့ပြောဆိုလိုက်သဖြင့် ၎င်း၏အမှုန့်နှင့်လုပ်ထားသမျှပစ္စည်းတိုင်းကို မစားပါဘူးဟု ယူဆထားသော် ထိုအခါ လုပ်ထားသမျှ ပစ္စည်းတိုင်းကို စားခြင်းဖြင့် ကျိန်ဆိုထားခြင်း ပျက်သွားပေမည်။

ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၈။

၅။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ ဂျုံမှုန့်ကို မစားပါဘူးဟု ကျိန်ဆိုပြီးနောက် ၎င်းဂျုံမှုန့်နှင့်ပင် လုပ်ထားသောမုန့်ကိုစားခြင်းဖြင့် ကျိန်ဆိုထားခြင်း ပျက်သွားပေမည်၊ အကယ်၍၎င်းနှင့်လုပ်ထားသောမုန့်ချို၊ သို့မဟုတ် တစ်ခုခုကိုစားလိုက်လျှင်လည်း ကျိန်တွယ်ထားခြင်းပျက်၏၊ သို့မဟုတ်တစ်ခုခုလုပ်စားလေ၏၊ ထိုအခါလည်းပျက်သွား၏၊ အကယ်၍ အစိမ်းအတိုင်း အမှုန့်ကိုပင် ပါးစပ်အတွင်းသို့ ပစ်ထည့်မျိုလိုက်သော် ထိုအခါ ကျိန်ဆိုထားခြင်း မပျက်ပေ။

ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၆၈။

၆။ မတ်စ်အလယ်ပြဿနာ။ မုန့်မစားပါဘူးဟု ပြောပြီး ကျိန်တွယ်လိုက်၏၊ ထိုအခါ ဤမြို့ဒေသ၌စားလေ့ စားထရှိကြသောမုန့်ကို မစားလေနှင့်၊ အကယ်၍စားလိုက်လျှင် ကျိန်ထားခြင်း ပျက်သွားပေမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၂။

၇။ မတ်စ်အလယ်ပြဿနာ။ ခေါင်းသားမစားတော့ဘူးဟုကျိန်လိုက်၏၊ ထို့နောက် ကြက်ခေါင်း၊ စာကလေးခေါင်း၊ ခါခေါင်း စသော ငှက်ခေါင်းသားများကို စားလိုက်ခြင်းအားဖြင့် ကျိန်ဆိုထားခြင်းမပျက်ပေ၊ အကယ်၍ ဆိတ်ခေါင်းသား၊ နွားခေါင်းသားများကို စားလိုက်လျှင် ထိုအခါ ကျိန်ဆိုထားခြင်း ပျက်၏။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၈၃။

၈။ မတ်စ်အလယ်ပြဿနာ။ သစ်သီးကို မစားပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် သလဲသီး၊ ပန်းသီး၊ သမျှစ်သီး၊ စွန်ပလွံသီးခြောက်၊ ဗာဒံသီး၊ သစ်ကြားသီး၊ သပျစ်သီးခြောက် စသည်စားလိုက်ခြင်းဖြင့်ကျိန်ဆိုထားခြင်းပျက်သွားပေသည်၊အကယ်၍ ဖရဲသီး၊ သခွါးသီးစိမ်း၊ သခွါးချို၊ ကျောက်သခွါး၊ သရက်သီး စသည်တို့ကို စားလိုက်လျှင် ထိုအခါ မပျက်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၇၀။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၈။
ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၆၆။

## စကားမပြောပါဟု ကျိန်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလတ်ပြဿနာ။ မည်သူနှင့် စကားမပြောပါဘူးဟု ပြောဆိုပြီး ကျိန်တွယ်လိုက်၏၊ ထို့နောက် ၎င်းသူအိပ်နေစဉ်အခါ သွား၍ တစ်စုံတစ်ခုပြောလိုက်၏၊ ထိုသို့ပြောလိုက်သောအသံဖြင့် ၎င်းအိပ်နေသောသူသည် နိုးသွားလျှင် ကျိန်ဆိုထားခြင်း ပျက်သွား၏။

ဂျောင်ဟရပ်နိုင်ယေရပ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၀။

၂။ မတ်စ်အလတ်ပြဿနာ။ အမေ၏ အမိန့်အခွင့် မရှိဘဲ အဖွားနှင့် စကားမပြောတော့ပါဟုကျိန်တွယ်လိုက်၏၊ ထို့နောက် မိခင်ဖြစ်သူက အခွင့်ပြုလိုက်၏၊ သို့သော် အမေဖြစ်သူက အခွင့်ပြုခြင်းကို ယခုတိုင်သတင်းမရရှိသေးဘဲဖြင့် အလျင်သွား၍ စကားပြောလိုက်၏၊ ပြောဆိုပြီးနောက်မှ အခွင့်ရပြီးသားဖြစ်ကြောင်း သိရှိရ၏၊ ထိုအခါလည်း ကျိန်ဆိုထားခြင်း ပျက်သွား၏။

ဂျောင်ဟရပ်နိုင်ယေရပ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၆၉။

၃။ မတ်စ်အလတ်ပြဿနာ။ ဤသူ/မကလေးနှင့် ဘယ်တော့မှ စကားမပြောတော့ပါဘူးဟု ကျိန်တွယ်လိုက်၏ ထို့နောက် ၎င်းသူ/မကလေး ပျိုရွယ်လာသောအခါ သော်လည်းကောင်း၊ အိုမင်းမစွမ်း ဖြစ်သွားသော အခါ သော်လည်းကောင်း ပြောဆိုလိုက်၏၊ ထိုအခါလည်း ကျိန်ဆိုခြင်း ပျက်သွား၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၂၀၁။

၄။ မတ်စ်အလတ်ပြဿနာ။ ဘယ်သော အခါမှ သင်၏မျက်နှာကို မကြည့်တော့ဘူး၊ သင်၏ ရုပ်ကို မကြည့်တော့ဘူးဟု ဆိုလိုက်၏၊ အလိုကား.... သင်နှင့် မတွေ့ဆုံတော့ဘူး၊ ရောနှောဆက်ဆံမှု မပြုတော့ဘူးဟု ဆိုလိုက်ခြင်းဖြစ်၏၊ အကယ်၍ အဝေးက ပင် ရုပ်ဆင်းကို ကြည့်လိုက်သည်ဖြစ်သော် ကျိန်ဆိုထားခြင်း ပျက်သွားပေသည်။

ဖွတာ၁၀ါဟင်နိဒိယာဘ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၄၅။

## အရောင်းအဝယ်နှင့် ဆိုင်ရာ ကျိန်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလတ်ပြဿနာ။ မည်သည့်ပစ္စည်းကိုမဝယ်တော့ပါဘူးဟု ကျိန်တွယ်လိုက်၏၊ ထို့နောက် တစ်ဦးတစ်ယောက်အား ဝယ်ပေးပါဟု ပြောဆိုစေခိုင်းလိုက်သဖြင့် ၎င်းက ဝယ်ယူပေးသော် ကျိန်ဆိုထားခြင်း ပျက်မသွားပေ။

ထိုနည်းတူ မည်သည့် ပစ္စည်းကို မရောင်းချတော့ပါဟု ကျိန်ဆိုလိုက်ပြီး နောက် ကိုယ်တိုင်မရောင်းဘဲ တစ်ဦးတစ်ယောက်အား ရောင်းပေးပါဟုပြောဆိုစေခိုင်းလိုက်သဖြင့် ၎င်းက ရောင်းချပေးသော် ထိုအခါလည်း ကျိန်ဆိုထားခြင်း မပျက်ပေ။

အခအားဖြင့် ယူသော ပစ္စည်းများ၏ အမိန့်မှာလည်း ဤနည်းတူပင် ဖြစ်၏၊ ဥပမာ....ဤအိမ်ကို အခနှင့်မယူပါဘူးဟု ကျိန်တွယ်လိုက်ပြီးနောက် တစ်ဦးတစ်ယောက်အားဖြင့် ၎င်းအိမ်ကို အခနှင့်ယူခိုင်းသော် ကျိန်ဆိုထားခြင်း မပျက်ပေ။

ဟုတ်ပါ၏၊ အကယ်၍ ကျိန်ဆိုလိုက်ခြင်း၏ သဘောမှာ.... ကိုယ်တိုင်လည်းမလုပ်မယူမဝယ်သည့်ပြင်သူတစ်ပါးအားဖြင့်လည်းမလုပ်၊ မယူ၊ မဝယ်ပါဘူးဟုဖြစ်လျှင် ထိုအခါ သူတစ်ပါးအား စေခိုင်း၍ပြုလုပ်ခြင်းဖြင့်လည်း ပျက်သွားပေသည်၊ အလိုမှာ ကျိန်ဆိုသူ သဘောကိုလိုက်၍ ကျိန်ဆိုလိုက်သလိုအတိုင်းပင် အမိန့်ပေးရပေမည်ဖြစ်၏။

သို့မဟုတ် ကျိန်သော သူ/မသည် အကယ်၍ ပရ်ဒဟ်အတွင်းမှာပင် နေထိုင်သော မိန်းမဖြစ်သဖြင့်သော်လည်းကောင်း၊ သူဌေး-သူကြွယ်သမီးဖြစ်သဖြင့်သော်လည်းကောင်း ကိုယ်တိုင်လည်း မဝယ်မရောင်းသောမိန်းမတစ်ယောက်ဖြစ်လျှင် ထိုအခါလည်း အကယ်၍ ကိုယ်တိုင်မပြုမလုပ်ဘဲဖြင့် သူတစ်ပါးအားလုပ်စေမှု ကျိန်တွယ်ထားခြင်းပျက်သွားသေ၏။

ကို ဒူရီကျမ်း စာမျက်နှာ-၂၀၃။
ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၈၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ကျွန်ုပ်သည် မိမိ၏ကလေးကို မရိုက်ပုတ်တော့ပါဘူးဟုကျိန်ဆိုလိုက်ပြီးနောက် သူတစ်ပါးအားဖြင့် ရိုက်ပုတ်စေလျှင် ထိုအခါ ကျိန်ဆိုထားခြင်း မပျက်ပေ။

ဂျောဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၅၉၊၂၇၀။

## ရိုဇဟ် နမာဇ် နှင့်ဆိုင်ရာ ကျိန်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် အသိမရှိခြင်းဖြင့် ရိုဇဟ်မထားတော့ပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် ရိုဇဟ်၏နိယတ် ပြုလုပ်လေ၏၊ ထိုအခါအနည်းငယ်မျှအချိန်လွန်သွားခြင်းဖြင့်လည်း ကျိန်ဆိုထားခြင်းပျက်သွားလိမ့်မည်၊ တစ်နေ့ ကုန်လွန်သွားအောင်တောင် မဆိုင်းတော့ပါ၊ အကယ်၍ အနည်းငယ် အချိန်ကြာပြီးနောက် ဖျက်ပစ်လိုက်သော်လည်း ကျိန်ဆိုထားခြင်းကို ဖျက်လိုက်သည့် အတွက် 'ကဆမ်'၏ ကတ်ဖွာရဟ် ပေးရမည်။

အကယ်၍ ရိုဇဟ်တစ်ရက်မျှ မထားပါဘူးဟု ကျိန်ဆိုလိုက်သော် ထိုအခါ ရိုဇဟ်ကုန်ခါနီးအချိန်ကျမှ ကျိန်ဆိုထားခြင်းပျက်သွားမည်၊ တစ်နေ့လုံးကုန်လွန်သွား၍ ရိုဇဟ်လွှတ်ချိန် မရောက်သမျှ ကာလပတ်လုံး ကျိန်ဆိုထားခြင်းမပျက်ပေ၊ အကယ်၍ အချိန်မကုန်သေးမီ အလျှင်ဖျက်ပစ်လိုက်သော် ထိုအခါ မပျက်ပေ။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၀၂။

၂။ မတ်စ်အလဟ်ပြဿနာ။ နမာဇ် မဖတ်တော့ဘူးဟု ကျိန် ဆို လိုက် ၏၊ ထို့နောက် နောင်တရ၍ နမာဇ်ဖတ်ရွတ်ရန်ရပ်၏၊ ပုထမရကာအတ်၏ စစ်ဂျဒဟ် ပြုလိုက်သည်နှင့်တစ်ပြိုင်နက် ကျိန်ဆိုထားခြင်း ပျက်သွားလေသည်၊ စစ်ဂျဒဟ် မပြုလုပ်သေးသမျှကာလပတ်လုံး မပျက်သေးချေ၊ အကယ်၍ တစ်ရကာအတ်မျှ ဖတ်ပြီးနောက် နမာဇ်ကို ဖျက်ပစ်လိုက်သော် ထိုအခါ၌လည်း ကျိန်ဆိုခြင်း ပျက်သွားလေသည်။

သတိ ပြုကြရမည်မှာ.... ဤကဲ့သို့ ကျိန်ဆိုခြင်းများသည် အလွန် အပြစ်ကြီး၏၊ ထို့ကြောင့် အကယ်၍ အသိကင်းမဲ့၍ ကျိန်မိခဲ့သော် ချက်ချင်းပင်လျှင် ဖျက်ပစ်လိုက်၍ ၎င်းအစား ကတ်ဖွာရဟ် ပေးလိုက်ရမည်။

ဖွတာဝါ ါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၂၃။

# အဝတ်အထည်နှင့် ဆိုင်ရာ ကျိန်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဤကော်ဇောပေါ်၌ မလျှောင်းလဲပါဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် ၎င်းကော်ဇောကိုခင်း၍ ၎င်းအပေါ်တွင် စောင်တစ်ထည်အုပ်ခင်း၍ အပေါ်မှာ လျှောင်းလဲသော် ကျိန်ဆိုထားခြင်းပျက်သွား၏၊ အကယ်၍ ထိုကော်ဇောပေါ်တွင်ထပ်ပြီးလျှင် အခြားကော်ဇောတစ်ချပ်ကိုဖြစ်စေ၊ သို့မဟုတ် စစ်တရန်ဇီ ထူသောအဝတ်ဖြစ်စေ ခင်း၍ ၎င်းအပေါ်၌ လှဲသော် ထိုအခါ ကျိန်ဆိုခြင်းမပျက်ချေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ- ၂၇၁။

၂။ မတ်စ်အလဟ်ပြဿနာ။ မြေကြီးပေါ်တွင် မထိုင်တော့ပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် မြေကြီးပေါ်တွင် ဂုန်နီအိတ်ကိုဖြစ်စေ၊ ဖျာကိုဖြစ်စေ၊ သင်ဖြူးကိုဖြစ်စေ တစ်ခုခုခင်း၍ထိုင်လျှင် ကျိန်ဆိုထားခြင်းမပျက်ချေ၊ အကယ်၍ မိမိခေါင်းခြုံအထည်ကိုခြုံထားလျက် တစ်ဖက်သောအစကို ခင်းထိုင်လိုက်လျှင် ကျိန်ဆိုခြင်းပျက်သွားလေသည်၊ သို့သော်မိမိခေါင်းပေါ်မှယူ၍ခြုံထည်ကိုခင်းထိုင်သော် ကျိန်ဆိုခြင်းမပျက်ပေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၂၇၁။

၃။ မတ်စ်အလဟ်ပြဿနာ။ ဤခုတင်သို့မဟုတ် ခုံပေါ်၌ မထိုင်တော့ပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက်၎င်းအပေါ်သို့ ကော်ဇောဖြစ်စေ၊ စစ်တရန်ဇီ ထူသောအဝတ်ဖြစ်စေ ခင်း၍ထိုင်လိုက်လျှင် ကျိန်ဆိုထားခြင်း ပျက်သွားလေသည်။

အကယ်၍၎င်းခုတင်ပေါ်၌အခြားသောခုတင်တစ်ခုဆင့်ခင်း၍သော်လည်းကောင်း ၎င်းခုံပေါ်၌ အခြား ခုံတစ်ခုံ ဆင့်ခင်း၍ဖသော်လည်းကောင်း ထိုင်လိုက်သော် ထိုအခါ ကျိန်ဆိုထားခြင်း မပျက်ပေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၁။

၄။ မတ်စ်အလယ်ပြဿနာ။ မည်သူ့ကို ဘယ်တော့မှ ရေချိုးမပေးတော့ပါဘူးဟု ကျိန်ဆိုလိုက်၏၊ ထို့နောက် ၎င်းသူ/မ သေဆုံးသောအခါတွင် ရေချိုးပေးလျှင် ကျိန်ဆိုခြင်း ပျက်သွား၏။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၆၉။

၅။ မတ်စ်အလယ်ပြဿနာ။ သင်မကို ဘယ်တော့မှ မရိုက်ပါဘူးဟု လင်ဖြစ်သူက ကျိန်ဆိုလိုက်၏၊ ထို့နောက် ဒေါသဖြစ်ပြီးလျှင် ဆံပင်ကို ဒရွတ်ဆွဲသည်ဖြစ်စေ၊ လည်ပင်းညှစ်သည်ဖြစ်စေ၊ တစ်အားကိုက်သည်ဖြစ်စေ ထိုအခါ ကျိန်ဆိုထားခြင်းပျက်၏၊ အကယ်၍ ကစားကျီစယ်သောသဘောဖြင့် ကိုက်ခဲ့လျှင် ကျိန်ဆိုခြင်း မပျက်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၇၃၂။

၆။ မတ်စ်အလယ်ပြဿနာ။ မည်သူ့ကို မှချရိုက်မည်ဟုကျိန်ဆိုလိုက်၏၊ ထိုသူ/မသည် ယင်းသို့ မပြောမီအလျှင် သေဆုံးပြီး ဖြစ်နေသည်၊ ထိုအခါ အကယ်၍ သေပြီးကြောင်း မသိသဖြင့် ကျိန်ဆိုလိုက်ခြင်း ဖြစ်လျှင် ကျိန်ဆိုခြင်း မပျက်ချေ၊ အကယ်၍ သိပါလျက်နှင့်ကျိန်ဆိုမူ ကျိန်လျှင် ကျိန်ခြင်းပင် ပျက်လေသည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၃၅။

၇။ မတ်စ်အလယ်ပြဿနာ။ တစ်ဦး တစ်ယောက်သော သူ/မသည် စကား တစ်ခုခုကိုပြောခြင်းအကြောင်းနှင့်ကျိန်ဆို၏၊ ဥပမာ....အသျှင်မြတ်သိစေရဲ့၊ သလဲသီးကို အမှန် စားမည်ဟု ကျိန်လိုက်၏၊ ထိုအခါ တစ်သက်မျှအတွင်း တစ်ခါ စားလိုက်ခြင်း လုံလောက်သွားလေသည်။

တစ်စုံတစ်ရာစကားကို မပြောခြင်းအကြောင်းနှင့်ပတ်သက်၍ ကျိန်၏၊ ဥပမာ.... အသျှင်မြတ်သိစေရဲ့၊ သလဲသီးမစားတော့ပါဘူးဟု ပြောဆိုကျိန်လိုက်၏၊ ထိုအခါ အမြဲ မစားဘဲ နေရပေလိမ့်မည်၊ အဘယ်အခါဘဲစားစား၊ စားမိလျှင် ကျိန်ထားခြင်း ပျက်သွား၏။

အကယ်၍ တစ်နေရာရာကသလဲသီး၊ သပျစ်သီး စသော အသီးအနှံများ အိမ်သို့ ရောက်လာ၍ ၎င်းသလဲသီးများကို သတ်သတ် မစားပါဘူးဟု ကျိန်ဆိုသော် ထိုအခါ ၎င်းသလဲသီးများကိုသာ မစားဘဲနေ၍ အခြားသော သလဲသီးများကို တောင်းယူ ဝယ် စားလျှင် ကိစ္စမရှိပေ။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၇၅။

## ဘာသာ ပျက်သွားခြင်း အကြောင်း

၁။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ မတော်တဆ တစ်ဦးတစ်ယောက်သော သူ/မသည် မိမိယုံကြည် ကိုးကွယ်သော အစ္စလာမ်ဘာသာမှ ထွက်သွားသော် ထိုအခါ

သုံးရက်မျှ စဉ်းစားခွင့်ပေးရပေမည်၊ သူ/မ စိတ်မကျေနပ်၍ ဇဝေဇဝါဖြစ်နေသော ပြဿနာရပ်များကိုဖြေဆိုပေးရမည်၊ ၎င်းအတောအတွင်းမှာပင် ပြန်၍ အစ္စလာမ်ဘာသာ အယူဝါဒကိုယူပြီး မွတ်စလင်မ်ဖြစ်သွားသော် ကောင်းပေ၏၊ သို့မဟုတ်လျှင် အမြဲအကျဉ်း ချထားရပေမည်ဖြစ်၏၊ နောက် သတိသံဝေဂရ၍ (တောင်ဗဟ်) ဝန်ချ တောင်းပန်ခြင်း ပြုမှသာလျှင် လွှတ်ရမည်။

**မှတ်ချက်။** ဤကား မိန်းမများအတွက်ဖြစ်၏၊ ယောကျ်ားဖြစ်မူ အစ္စလာမ် ဘာသာသို့ ပြန်မဝင်လျှင်း သုံးရက်နေပြီးနောက် သတ်ပစ်လိုက် ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၇၆။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၇၇၇။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူသည် မိမိနှုတ်ပါးစပ်မှ ကာဖွင်ရ်ဖြစ်စေတတ်သော စကားတစ်ခွန်းခွန်းကို ထွက်သွားသော် ထိုအခါ အီမာန်တည်း ဟူသော ယုံကြည်မှုသည် ပျက်သွား၏၊ ထို့ပြင် ၎င်းပြုကျင့် ဆောက်တည်ခဲ့သမျှသော ကောင်းမှုကုသိုလ်အပေါင်းသည် အဟောသိကဖြစ်သွား၏၊ နေကာဟ် ထိမ်းမြားမှုလည်း ပျက်သွား၏၊အကယ်၍ ဖွရ်သွ ဖြစ်သော ဟဂျ်တာဝန်ကိုချပြီးဖြစ်သော်လည်းပျက်သွား၏၊ အကယ်၍ ၎င်းသူသည် ယခု တောင်ဗဟ်ဖတ်၍ ပြန်ပြီးမွတ်စလင်မ်လုပ်လျှင် နေကာဟ် ထပ်မံ၍ ပြုရမည်၊ ၎င်းနောက် ပစ္စည်းရှိက ဟဂျ်ကို ထပ်မံပြုလုပ်ရမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၉၊၃၆၀။

၃။ မတ်စ်အလဟ် ပြဿနာ။ ထိုနည်းပင် အကယ်၍ တစ်ဦးတစ်ယောက်၏ လင် ယောကျ်ားသည် မတော်တဆ ဘာသာပျက်သွားသော် နေကာဟ် ထိမ်းမြားမှုလည်း ပျက်သွားလေသည်၊ ယခု ပြန်၍ နောင်တ, သတိသံဝေဂရပြီး တောင်ဗဟ် ကလေမဟ် ဖတ်၍ တောင်းပန်ဝန်ချမှုပြု၍ နေကာဟ်မပြုသမျှ ထိုသူနှင့်ဘာမျှစပ်ရှက်မှုမပြုရ၊အကယ်၍ လင်မယား ဘာသာဘာဝ အကြောင်းအရာ တစ်စုံတစ်ခုကို ၎င်းအတွင်းမှာ ပြုလုပ်မိလျှင် မိန်းမအပေါ်၌လည်း အပြစ်ဖြစ်သည်၊ အကယ်၍ ထိုသူက အတင်းအဓမ္မ ပြုလုပ်သော် အများသူတို့ကို အဖြစ်အပျက် အကြောင်းအရာ အားလုံး ထုတ်ဖေါ်ပြောလိုက်ရမည်၊ မရှက်လေနှင့်၊ ဘာသာရေးမှုကိစ္စများ တရားစကားများကို ထုတ်ဖေါ်မေးမြန်းပြောဆို ရာ၌ အရှက်မထားကြရပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၉၊၃၆၀။

၄။ မတ်စ်အလဟ် ပြဿနာ။ မိမိနှုတ်မှ 'ကာဖွင်ရ်' ဖြစ်သွားစေတတ်သော စကားတစ်ခွန်းခွန်းကိုပြောဆိုလိုက်သောအခါ အီမာန်ပျက်ပြားဆုံးပါးသွား၏၊အကယ်၍ မည်သို့မျှပင် စိတ်ကမပါဘဲနှင့် ရယ်မောသရော် ချွတ်ချော်ပြောင်လှောင်သော သဘော ဖြင့် ယင်းသို့ မိစ္ဆာစကားကိုပြောလိုက်လျှင် ထိုအခါလည်း ထိုနည်းတူပင် အမိန့်ပညတ် ဖြစ်လေသည်။ ဥပမာ - မည်သည့်အလုပ်ကို လုပ်စေရန် အလ္လာဟ်အသျှင်မြတ်က မတတ်

စွမ်းနိုင်တော့ဘူးလားဟူ၍ တစ်ဦးတစ်ယောက်က ပြောသောအခါ ဟုတ်တယ် မတတ် စွမ်းနိုင်ဘူးဟု ဖြေဆိုလိုက်ရာ ပြောသူက 'ကာဖွင်ရ်' ဖြစ်သွားတော့၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၅။

၅။ မတ်စ်အလဟ် ပြဿနာ။ ထ,၍ နမာဇ်ဖတ်ပါဟူ၍ တစ်ဦးတစ်ယောက်က ပြောသောအခါ ဘယ်သူ့ထ,ချည် ထိုင်,ချည် လုပ်မှာတုံးဟု ဖြေဆိုပြောလိုက်သောအခါ ဖြစ်စေ၊ သို့မဟုတ် ရိုဇဟ်ဥပုသ်စောင့်ပါဟူ၍ တစ်ဦးတစ်ယောက်က ပြောသောအခါ ဘယ်သူ အငတ်ခံ၍ သေရမှာတုံးဟု ဖြေဆိုပြောလိုက်သည်ဖြစ်စေ၊ ကိုယ့်အိမ်မှာ ဆန်မရှိ သော့သူသာ ရိုဇဟ်ထားသည်ဟု ဖြေဆို ပြောလိုက်သည်ဖြစ်စေ ထိုသို့ ပြောဆိုလိုက်ခြင်း အားဖြင့် အားလုံး 'ကာဖွင်ရ်' ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၀။

၆။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သောသူအား အပြစ် ဒုစရိုက် အကုသိုလ်တစ်ခုခုပြုလုပ်နေသည်ကို သူတစ်ပါးက မြင်သဖြင့်၊ အသင်- အသျှင်မြတ်ကို မကြောက်ဘူးလားဟူ၍ ပြောသောအခါ ဟုတ်ကဲ့မကြောက်ဘူးဟု ဖြေဆိုပြောလိုက်လျှင် 'ကာဖွင်ရ်'ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၅။

၇။ မတ်စ်အလဟ် ပြဿနာ။ သူတစ်ပါးအား မကောင်းသော အလုပ်တစ်ခုခု လုပ်နေသည်ကိုမြင်သဖြင့် မွတ်စလင်မ် မဟုတ်ဘူးလား ဟူ၍ ပြောသောအခါ ဟုတ်ကဲ့ မွတ်စလင်မ် မဟုတ်ဘူး ဟူ၍ ပြောဆိုလိုက်လျှင် 'ကာဖွင်ရ်'ဖြစ်သွားတော့၏၊ ရယ်စရာ သဘောဖြင့် ပြောသည်ဖြစ်စေ ထိုနည်းတူ အမိန့်ပညတ်ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၇။

၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သည် နမာဇ်ဖတ်စ ပြုနေစဉ် တစ်စုံတစ်ခုသောဘေးဒုက္ခတွေ့ကြုံဆုံဆည်းလာသဖြင့် ဤဒုက္ခအားလုံးသည် နမာဇ်ကြောင့်သာ ဖြစ်ရသည်ဟူ၍ ပြောဆိုလိုက်လျှင် 'ကာဖွင်ရ်' ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း-အတွဲ-၂၊ စာမျက်နှာ-၂၆၀။

၉။ မတ်စ်အလဟ် ပြဿနာ။ ကာဖွင်ရ်တစ်ဦးတစ်ယောက်၏ စကားတစ်ခုခုကို နားထောင်၍ ကောင်းလှသည်ဆိုလိုက်ပြီး ထို့ကြောင့် ကျွန်ုပ်လည်း ကာဖွင့်ရ်ဖြစ်ပါက ဤကဲ့သို့ပင် ပြုလုပ်ရလျှင်ကောင်းလေစွဟု တောင့်တလျှင် 'ကာဖွင်ရ်'ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၇၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက်သော သူ/မ ၏ ကလေး သေဆုံးသဖြင့် အို .... အသျှင်မြတ်၊ ကျွန်တော် မျိုး/မ အပေါ်၌ ဤညှင်းပန်း နှိပ်

စက်မှုကို အဘယ်ကြောင့် ပြုတော်မူပါသနည်း ကျွန်တော်မျိုး/မအား အဘယ်ကြောင့် နှိပ်စက်တော်မူပါသနည်းဟု ပြောဆိုရေရွတ်ခြင်းဖြင့် ကာဖွင်ရ် အဖြစ်သို့ရောက်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၅၉။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သော သူသည် အကယ်၍ အလ္လာဟ်အသျှင်မြတ် ကိုယ်တိုင်တော်က လာပြောတောင် ဤအလုပ်ကို မလုပ်ဘူးဟု ဆိုသည်ဖြစ်စေ၊ သို့မဟုတ် ဂျစ်ဗ်ရာအီလ် သခင်ကြီးဆင်းလာပြီးပြောတောင်နားမထောင်ပါဘူးဟု ပြောလိုက်လျှင်ဖြစ်စေ၊ ကာဖွင်ရ် ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၂၆၆။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦး တစ်ယောက်သော သူက ဤသို့သော အလုပ်ကို ပြုလုပ်ပါသည်၊ ၎င်းကို ခိုဒါ အသျှင်မြတ်တောင် မသိပါဟုပြောဆိုလိုက်သော် ထိုအခါ ကာဖွင်ရ် ဖြစ်သွားလေသည်။

အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၂၅၀။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။အလ္လာဟ်အသျှင်မြတ်ကိုဖြစ်စေ၊ အသျှင်မြတ်၏ တမန်တော် ရစူလ်တစ်ပါးပါးကိုဖြစ်စေ၊ သိမ်ငယ်စေသော စကားကိုဆိုခြင်း၊ သို့မဟုတ် ရှရီအတ်တရားတော်ကို မကောင်းထင်မှတ်၍ အပြစ်အနာအဆာရှာပြီး ကာဖွင်ရ်ဝါဒကို နှစ်သက်ခြင်း စသည်အပေါင်းသည် အီမာန်ယုံကြည်ချက်ကိုပျက်သွားစေသည်။

အီမာန်ပျက်၍ ကာဖွင်ရ် ဖြစ်စေတတ်သော အကြောင်းများကို ကျွန်ုပ်သည် ပထမတွဲ၌ အကီဒဟ် စွဲယူယုံကြည်မှုအကြောင်းတွင် ဖော်ပြခဲ့လေပြီ၊အလိုရှိသော်ပထမတွဲ ထိုအခန်းကို ပြန်၍ကြည့်ကြပါကုန်။

မိမိတို့၏ အီမာန်အယူဝါဒကိုစောင့်ရှောက်ထိမ်းသိမ်းကြရန် အလွန်ပင်သတိပြုကြရပေမည်၊ အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်တို့အားလုံးတို့၏ အီမာန်ကို မှန်ကန်စွာထားတော်မူ၍ အီမာန်နှင့်ပင် သေဆုံးကြစေရန် စွမ်းအား ပေးတော်မူပါစေသော်ဝ်။

(အာမီန်၊ ယာရဗ်ဗလ်၊ အာလမီန်။)

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၃၉၂။

## သဗ်ဟ် ခေါ် တိရစ္ဆာန်များကို တရားနှင့်အညီ လှီးခြင်း အကြောင်း

၁၊ မတ်စ်အလဟ်ပြဿနာ။ အစ္စလာမ် သာသနာတော်၌ သဗ်ဟ် ပြုလုပ်ရသည့် နည်းမှာ.... တိရစ္ဆာန်၏မျက်နှာကို ကစ်ဗ်လဟ်ဘက်သို့ လှည့်ထား၍ခေါင်းထက်ထက် ကိုလက်ဝယ်ယူ၍....

بِسْمِ اللّٰهِ اَللّٰهُ اَكْبَرْ

(ဗစ်မစ်လ္လာ၊ ဟစ်လာဟို၊ အတ်က်ဗရ်) အကြီးကျယ် အမြင့်မြတ်ဆုံးသော အလ္လာဟ်အသျှင်မြတ်၏ နာမတော်ကို (တ,သ ရွတ်ဆိုခြင်း)ဖြင့် (သဗ်ဟ်) ပြုပါ၏ဟုဆို၍ လည်ပင်း၌ရှိသော အကြောလေးကြော ပြတ်သွားအောင် လှီးလိုက်ရမည်၊ ၎င်းအကြော လေးကြောကား....။

၁။ အသက်ရှူရှိုက်သောအကြော။
၂။ အစာရေစာဝင်သောအကြော။
၃။ ဘေးကသွေးကြောနှစ်ကြော။
၄။ ထိုအကြောနှစ်ခုသည် အသက်ရှူကြော၏ လက်ယာလက်စဲ၌ရှိ၏။

ဤအထက်အမည်ပါ အကြော လေးကြောအနက်က သုံးကြောသာ ပြတ်သွားလျှင်လည်း သဗ်ဟ် ပိုင်၏၊ ၎င်းအကောင်ကို စားပိုင်၏၊ အကယ်၍ နှစ်ကြောတည်းသာ ပြတ်မူ ၎င်းအကောင်သည် အသေကောင်ကဲ့သို့ ဖြစ်သွား၍ ၎င်းကိုမစားထိုက်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၄၂၁။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂၈။

၂။ မတ်စ်အလဟ် ပြဿနာ။ ။သဗ်ဟ် ပြုသောအချိန်တွင် (ဗစ်မစ်လ္လာဟ်)တို တမင်မဖတ်ဘဲနှင့် လှီးလျှင် အသေကောင်ကဲ့သို့မခြား ဖြစ်သွားလေသည်၊ ၎င်းကိုစားခြင်း 'ဟရာမ်' မစားအပ်ချေ၊ အကယ်၍ မေ့လျော့၍ မဆိုမိမူ ထိုအခါစားခြင်းပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂၈။

၃။ မတ်စ်အလဟ် ပြဿနာ။ ။တုံးသောဓါးဖြင့် သဗ်ဟ် လှီးခြင်းမတ်က်ရူးဟ် ဖြစ်လေသည်၊ ထိုသို့လည်း မပြုလုပ်ရချေ၊ အဘယ်ကြောင့်ဟူမူ ထိုသို့ပြုလုပ်ခြင်းဖြင့် တိရစ္ဆာန်၌ များစွာဒုက္ခခံစားရမည်ဖြစ်လေသည်၊ ထိုနည်းပင် ကိုယ်ငွေ့ မအေးသေးမီ အလျှင် အရေဆုတ်ခြင်း၊ ခြေလက်ကို ချိုးဖွဲ့ခြင်း၊ ဖြတ်ခြင်း၊ အကြောလေးကြောပြတ် သွားပြီးနောက် လည်ပင်းကို တမင်ဖြတ်ခြင်းတို့သည် မတ်က်ရူးဟ် ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂၇-၂၂၈။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ကြက်ကို သဗ်ဟ် ပြုလုပ်ခြင်း၌ လည်ပင်းလုံးလုံး ပြတ်သွားသောအခါ စားပိုင်၏၊ မတ်က်ရူးဟ် မဟုတ်ပေ၊ ဤမျှခန့် လှီးခြင်းသာလျှင် မတ်က်ရူးဟ် ဖြစ်လေသည်၊ ကြက်မှာ မတ်က်ရူးဟ် ဖြစ်မသွားချေ။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၉၆။

၅။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမ (သဗ်ဟ်) လှီးသည်ဖြစ်စေ၊ ယောကျ်ားလှီးသည်ဖြစ်စေ၊ မွတ်စလင်မ်တို့ လှီးသောအသားကို စားပိုင်၏၊ သန့်ရှင်းသည်ဖြစ်စေ၊ မသန့်သည်ဖြစ်စေ၊ ဘယ်အဖြစ်၌မဆို သဗ်ဟ် ပြုထားသောအကောင်ကို စားခြင်း (ဟလာလ်) စားသုံးပိုင်လေသည်၊ ကာဖွင်ရ်များ လှီးသောသားကောင်မှာ မစားပိုင် (ဟရာမ်) ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂၀။

၆။ မတ်စ်အလဟ် ပြဿနာ။ ။အသွားထက်သောအရာဝတ္ထုဥပမာ....ကျောက်ပြား၊ ဝါးခြမ်းပြား၊ ကြံခွံပြားတို့ဖြင့် လှီးခြင်းပိုင်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂၇။

# စားပိုင် မစားပိုင်သော တိရစ္ဆာန်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။ခုတ်ဖြတ်လုယက်စားသောက်တတ်၍ကြမ်းကြုတ်ခက်ထန်သော တိရစ္ဆာန်သားကောင် ငှက်သတ္တဝါကိုဖြစ်စေ၊ မသန့်အညစ်အကြေးတို့ကို စားသောက်တတ်သော တိရစ္ဆာန်ကိုဖြစ်စေ စားခြင်းမပိုင်ပေ၊ ဥပမာ ကျား၊ ဝံပုလွေ့၊ ဝက်၊ ဝက်ဝံ၊ ခွေး၊ ခွေးအ၊ ကြောင်၊ မျောက်၊ လင်းတ၊ လင်းယုံ၊ သိမ်းငှက် စသည်တို့ ဖြစ်လေသည်။

ဤကဲ့သို့မဟုတ်သော တိရစ္ဆာန်များမှာ ဥပမာ.... ကြက်တူရွေး၊ သာလိကာ၊ ချိုးစာကလေး၊ ခါ၊ ရေကြက်၊ ဆိတ်၊ တောနွား သမင်၊ ဝံမ်းဘဲ၊ ယုန် စသည်တို့မှာ အားလုံးပိုင်လေသည်။

ဂျော်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၄၉။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ဗစ်ဂျ်ဂျူ (သင်္ချိုင်းမှ ကလေးများကို ဖော်စားသော သစ်ပုလွေ့နှင့် တူသောအကောင်) ဖွတ်၊ လိပ်၊ နကျယ်ကောင်၊ ပထုတ်ပနီကောင်၊ မြည်း၊ လားတို့၏ အသားကို စားခြင်းနှင့် မြည်းနို့ကိုသောက်ခြင်းမပိုင်၊ မြင်းသားကိုမူ စားပိုင်၏၊ သို့သော်မကောင်းပေ၊ ရေသတ္တဝါများအနက် ငါးတစ်မျိုးသာလျှင် ဟလာလ် စားသုံးပိုင်၏၊ ကျန်အားလုံး ဟရာမ်ဖြစ်သည်။

ဂျော်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ၂၊ စာမျက် ၂၄၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ငါးနှင့်နှံကောင်တို့ကို သဗ်ဟ်မလှီးဘဲဖြင့်စားသုံးပိုင်၏၊ ထိုနှစ်ကောင်အပြင် မည်သည့်သက်ရှိသတ္တဝါကိုမျှ သဗ်ဟ်မပြုဘဲ မစားအပ်၊ အလိုအလျောက် သေသွားသောအကောင်သည် ဟရာမ် ဖြစ်၏။

ဂျော်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၅၁။

၄။ မတ်စ်အလဟ်ပြဿနာ။ ။သေချ်ရေပေါ်၌ ပက်လက်လန်၍ပေါ်နေသော ငါးများကို မစားထိုက်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၀။

၅။ မတ်စ်အလဟ်ပြဿနာ။ ။အှုစလီ ခေါ် ဝမ်းတွင်း သားကို စားခြင်း ဟလာလ် ဖြစ်၏၊ ဟရာမ်လည်းမဟုတ် မက်က်ရူးဟ်လည်း မဟုတ်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၉။

၆။ မတ်စ်အလဟ်ပြဿနာ။ ။ပစ္စည်း တစ်ခုခုထဲ၌ ပုရွက်ဆိတ်များ ကျသေနေလျှင် မဆယ်ဘဲရင်းပစ္စည်းကို မစားထိုက်၊ တစ်ကောင်တစ်လေ လည်ချောင်းထဲသို့ ဝင်သွားသော် ထိုအခါ အသေကောင် အသေသားစားသကဲ့သို့ အပြစ်ဖြစ်၏၊ အချို့သူတို့သည် ရေသဖန်းသီးကိုပိုးများ ပုရွက်ဆိတ်များပါတပါးတည်းစား၍(ရေကူးတတ်သည်) မျက်စိမနာဘူးဟု ပြောကြ၏၊ ထိုသို့စားခြင်းသည် ဟရာမ် ဖြစ်ရုံမက အသေကောင်အသေသားကို စားသကဲ့သို့ အပြစ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၆၇။

၇။ မတ်စ်အလဟ်ပြဿနာ။ ။ဘာသာခြားတစ်ဦးတစ်ယောက်က ဥပမာ-ဟိန္ဒူလူမျိုးတစ်ယောက်က (ဗမာဗုဒ္ဓဘာသာ တစ်ယောက်က) ကျွန်တော်သည် မွတ်စလင်မ်ကို လှီးခိုင်း၍ ရောင်းချပါသည်ဟုဆိုပြီး-ရောင်းသောအသားကို ဝယ်စားခြင်း မထိုက်ပေ။

သို့သော မွတ်စလင်မ် တစ်ဦးတစ်ယောက် သဗ်ဟ် ပြုလုပ်သောအခါတွင် အခြားမွတ်စလင်မ်တစ်ဦးသည် ထိုင်၍ ကြည့်နေပြီး ထိုသူထသွားသောအခါ အခြားတစ်ယောက် ထိုသူ့အစား ရင်းနေရာမှ ပင်ထိုင်၍ ကြည့်နေသည့်အခါဖြစ်လျှင်ဆက်တိုက် မွတ်စလင်မ် ထံမှ ဝယ်သွားသည်ကိုမြင်နေမှ ထိုအခါစားထိုက်၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၀၁။

၈။ မတ်စ်အလဟ်ပြဿနာ။ ။မသန့်သောအညစ်အကြေးတို့ကို လှည့်လည် စားသောတတ်နေသောကြက်ကို သုံးရက်မျှချည်ထားပြီး (ဆန်စပါးအသစ်ကိုကျွေး၍) နောက်မှ သဗ်ဟ် ပြုရမည်၊ ထိုသို့မပြုလုပ်လျှင် မတ်က်ရူးဟ် ဖြစ်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၆။

## မူးယစ်စေတတ်သော ပစ္စည်းများအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ရှိသမျှ အရက် အားလုံးတို့သည် မသန့်ဖြစ်၍ ဟရာမ် ဖြစ်လေသည်။ ထန်းရည်သည်လည်း ထိုအမိန့်အတိုင်း ဖြစ်လေသည်၊ ဆေးဝါး အဖြစ် စားသုံးခြင်းလည်း မပိုင်သာမက အကြင်ဆေးဝါး၌ အရက်ပါလျှင် လိမ်းဆေး အဖြစ် လိမ်းရန်ပင်မပိုင်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၀။

၂။ မတ်စ်အလုပ်ပြဿနာ။ အရက်မှတ်စပါး အခြားသောမူးယစ်စေတတ်သည့် ပစ္စည်းများ ဥပမာ ....ဘိန်း၊ ဇာတိပ္ပိုလ်၊ ကိုကိုမ် စသော ပစ္စည်းများ၏ အမိန့်ကား ဆေးဝါးအဖြစ်နှင့် မမူးမယစ်နိုင်ရုံခန့်မျှ စားသုံးခြင်းပိုင်၏၊ ထိုမျှခန့် ဆေးဘက်ပါဝင်သော လိမ်ဆေးကိုလည်းလိမ်းနိုင်၏၊ မူးယစ်လာလောက်အောင် အချိန်ခန့်မျှပါဝင်လျှင် ၎င်းတို့လည်း 'ဟရာမ်'ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၄၀၄။

၃။ မတ်စ်အလဟ်ပြဿနာ။ ထန်းရည် အရက်တို့ဖြင့် ပြုလုပ်သော (စရိကဟ်) ရည်ကို စားသုံးပိုင်၏။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၄၁။

၄။ မတ်စ်အလဟ်ပြဿနာ။ အချို့သော မိန်းမများသည် မိမိတို့ကလေးကို မငိုကြွေးစေရန် မူးယစ်၍နေအောင် ဘိန်းခွံ့ပြီး သိပ်ထားလေ့ရှိကြရာ ထိုသို့ပြုလုပ်ခြင်း 'ဟရာမ်'ဖြစ်လေသည်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၄၁။

# ရွှေ-ငွေဖြင့် ပြုလုပ်ထားသော
## အိုး, ပန်းကန်, ခွက်ယောက်, များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရွှေ,ငွေ,ဖြင့်ပြုလုပ်ထားသော အိုးအင် ပန်းကန် ခွက်ယောက်၌ စားသောက်ခြင်း မပြုထိုက်၊ သာမက ထိုပစ္စည်းများကို အဘယ်နည်းနှင့်မျှ သုံးစွဲခြင်းပြုရန်မထိုက်၊ ဥပမာ.... ရွှေဇွန်းငွေဇွန်းဖြင့်စားသောက်ခြင်း၊ ရွှေငွေ သွားကြားထိုးတန်ဖြင့် သွားကြားထိုးခြင်း၊ ရွှေငွေဖြင့် ပြုလုပ်ထားသော နှင်းရည်ဘူးဖြင့် နှင်းရည် ပက်ဖြန်းခြင်း၊ ရွှေငွေအတန်ဖြင့် မျက်စိသားခြင်း၊ ရွှေငွေနံ့သာဘူးမှ အမွှေးလိမ်းခြင်း၊ ရွှေကွမ်းအစ် ငွေကွမ်းအစ်ဖြင့် ကွမ်းထည့်စားခြင်း၊ ရွှေခွက် ငွေခွက်ဖြင့် ဆီထည့်လိမ်းခြင်း၊ ခုတင်ခြေထောက်တွင် ရွှေငွေကွပ်ထားသော အပေါ်၌ ထိုင်ခြင်း၊ အိပ်ခြင်း၊ ရွှေဇငွ ဘောင်ကွပ်ထားသောမှန်တွင် မှန်ကြည့်ခြင်း စသည် အားလုံးတို့သည် 'ဟရာမ်'ဖြစ်လေသည်။

သို့သော် မှန်တွင် လှပတင့်တယ်စေရန် ရွှေငွေကွပ်၍ ဆွဲချိတ်ထားခြင်း ပိုင်၏၊ သို့သော် မျက်နှာကိုမကြည့်ရ၊ အလိုကား.... ရွှေငွေဖြင့်ပြုလုပ်ထားသော တန်ဆာပလာများကို အဘယ်နည်းနှင့်မျှ အသုံးပြုခြင်း မပိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၆။

# အဝတ်အစား နှင့် ပရ်ဒဟ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ယောကျ်ားကလေးများကို လက်ကောက်၊ လည်ကပ်၊ နားတောင်း၊ နားသံသီး စသော ဘယက်တန်ဆာများနှင့် ပိုးထည်များဝတ်ဆင်ပေးခြင်း၊ ပိုးကတ္တီပါထည်များဝတ်ဆင်ပေးခြင်းမသိုက်၊ ထိုနည်းတူ ပိုးထည်နှင့်ရွှေငွေဖြင့် ပြုလုပ်ထားသော တအ်စီးသွင် ဒိုအာဘူးများ ပြုလုပ်ပြီး ဆွဲပေးခြင်း၊ ဆူးပန်း၊ ကုံကုမံတို့ဖြင့် ဆိုးထားသော အဝါများကို ဝတ်ဆင်ပေးခြင်းလည်း မထိုက်၊ အလိုကား ယောကျ်ားကြီးများတို့ အတွက် ဟရာမ်ဖြစ်သော ပစ္စည်းများကို ယောကျ်ားကလေးများအား ဝတ်ဆင်ပေးခြင်းလည်း မပိုင်ဖြစ်လေသည်။

သို့သော် ချည်ဖြင့်ဖေါက်၍ ပိုးဖြင့်တိုင်သောအထည်ဖြစ်လျှင် ယောကျ်ားကလေးများကိုလည်း ဝတ်ဆင်ပေးနိုင်၏၊ ထိုနည်းတူ ချည်ကတ္တီပါတွင် ပိုး မပါလျှင်လည်း ဝတ်ဆင်ပေးနိုင်၏၊ ယောကျ်ားကြီးများအတွက်လည်း ပိုင်၏။

ရွှေနား ငွေနား တပ်ထားသော အဝတ် အထည်များကိုလည်း ဝတ်ဆင်နိုင်၏၊ သို့ရာတွင် လက်လေးလုံးထက်ပို့ပြီး မကျယ်ပြန့်စေရ။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ ၂၃၉။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၇၊ ၂၃၉၊ ၂၄၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ရွှေစစ် ငွေစစ်ဖြင့် ပြုလုပ် ထားသော ဦးထုပ်သို့မဟုတ် ရွှေချည်စစ် ငွေချည်စစ်ပါသောအဝတ်များကို ရွှေချည်များများပါလျှင် ဝတ်ဆင်နိုင်၏၊ အဝေးကကြည့်လျှင် အဝတ်သားကိုမမြင်ရဘဲ ရွှေချည်ငွေချည်ကိုသာ မြင်နေရလောက်အောင် များနေလျှင် ထိုအခါ ၎င်းကို ဝတ်ဆင်ပေးခြင်း မပိုင်၊ ထိုနည်းတူ ပိုးချည်ဖြင့်ယက်လုပ်ထားသော အဝတ်များကိုလည်း မဝတ်ထိုက်ပေ၊ အလိုကား.... ချည်သားကို မမြင်ရဘဲ ပိုးသားသာများနေသည်ဟု အောက်မေ့ရလောက်အောင် ဖြစ်သော အဝတ်များကို အလျှင်း ဝတ်ဆင် မပေးပိုင်ပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၄၀။

၃။ မတ်စ်အလဟ် ပြဿနာ။ အလွန်တစ်ရာ ပါးလွှာလှသော အဝတ်များကို ဝတ်ဆင်ပေးခြင်းလည်း မပိုင်ပေ၊ ဥပမာ.... ပဒ္မာဇာ, ရေစစ်, ခေါင်းပေါင်း, ပါးရှာပန်းထည်(နိုင်လွန်များ) စသည်တို့ကို ဝတ်ဆင်ခြင်းနှင့် ကိုယ်တုံးလုံးနေခြင်း အတူတူပင်ဖြစ်လေသည်။

ဟဒီးသ်ဿဝါဒတော်၌လာရှိသည်မှာ မြောက်မြားစွာသော ပါးလွှာသည့်အဝတ်များကို ဝတ်ဆင်ကြသည့် မိန်းမများသည် ကမ္ဘာပျက်မည့်နေ့၌ ဝတ်လစ်စလစ် ဖြစ်ကြရလိမ့်မည်။

အင်္ကျီရှည်နှင့် ခေါင်းအုပ်-ခေါင်းခြုံ နှစ်ခုစလုံးပင် ပါးလွှာနေသော် သာ၍ပင် ကြောက်စရာကောင်း၏။

၄။ မတ်စ်အလဟ် ပြဿနာ။ ယောကျ်ားစီး ဖိနပ်များကို စီးနင်းခြင်းနှင့် ခုံယောကျ်ားကဲ့သို့ ဝတ်ဆင်ပြီး ယောကျ်ားဟန် ပုံသဏ္ဌာန်ဆောင်ခြင်း လုံးဝ မပြုထိုက်၊ ဤကဲ့သို့ ဝတ်ဆင်သော မိန်းမများအပေါ်၌ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က 'လအ်နတ်' ပြုတော်မူခဲ့၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၇၃။

၅။ မတ်စ်အလဟ် ပြဿနာ။ မိန်းမများ ဘယက်တန်ဆာ လက်ဝတ်လက်စား ဝတ်ဆင်ထိုက်၏၊ သို့ရာတွင်များပြားစွာမဝတ်ခြင်းသည် ပိုမိုကောင်းလေသည်၊ ဤဒွန္နယာလောက၌ မဝတ်မဆင်ဘဲနေသော မိန်းမတို့မှာ နောင်အာခေရတ်၌ များစွာ ဝတ်ဆင်ခြင်း ပြုကြရလိမ့်မည်၊ အသံထွက်မည်သော လက်ဝတ်၊ ခြေကျင်းများကို မဝတ်ထိုက်ပေ၊ ဥပမာ.... အသံမည်သော ရွှေခြေကျင်း၊ငွေခြေကျင်း၊ ရွှေလက်ကောက်၊ငွေလက်ကောက် စသည်ကို ဖြစ်၏၊ အသံမည်သော ဘယက်တန်ဆာ ကိုကို သူငယ်မကလေးများကိုပင် ဝတ်ဆင်မပေးထိုက်ချေ၊ ရွှေငွေနှင့် လုပ်ထားသော တန်ဆာပလာများမှတစ်ပါး အခြားပစ္စည်းများဖြင့် ပြုလုပ်ထားသော ဘယက်တန်ဆာများကို ဝတ်ဆင်ခြင်းထိုက်၏၊ ဥပမာ ကြေးနီ၊ ကြေးဝါ၊ မိုးကြိုး၊ ခဲ၊ ဘော် စသည့်တို့ဖြင့် ပြုလုပ်ထားသော တန်ဆာများဖြစ်၏၊

သို့သော် လက်စွပ်မှာ ရွှေငွေအပြင် အခြားပစ္စည်းများဖြင့်လုပ်ထားသော လက်စွပ်များကို မဝတ်ဆင်ထိုက်ပေ။

မစ်ရှိကာတ်ကျမ်း စာမျက်နှာ-၃၇၉။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၃၅။

၆။ မတ်စ်အလဟ် ပြဿနာ။ မိန်းမများမှာ တစ်ကိုယ်လုံးခေါင်းကခြေထိဖုံးအုပ်ရမည်ဖြစ်ကြောင်း အမိန့်ပညတ်ရှိ၏၊ ကိုယ်နှင့်မဆိုင်မအပ်သော (မဟ်ရမ်) မဟုတ်သူ၏ ရှေ့၌ ထိုသို့ဖုံးအုပ်ထားသည်ကို မဖွင့်ရပေ၊ သို့သော် အိုမင်းသောမိန်းမများမှာ မျက်နှာ လက်ဝါး ခြေမျက်စိ အောက်ပိုင်းကို ဖွင့်ခြင်း ပိုင်လေသည်၊ ကျန် တစ်ကိုယ်လုံးကို ဖွင့်ခြင်းကား အဘယ်နည်းနှင့်မျှ မပိုင်ချေ။

အချို့မိန်းမများမှာ ခေါင်းကို ဖုံးအုပ်ပါသော်လည်း နဖူးဆံစမှ တဖြည်းဖြည်း လျှောကျသွားသဖြင့် ထိုအတိုင်းပင် (မဟ်ရမ်)များ ရှေ့၌ သွားလာခြင်း ပြုလုပ်ကြသေးသည်၊ ဤသို့ပြုလုပ်ခြင်း မထိုက်။

ကိုယ်နှင့်မဆိုင်မအပ်သော သူစိမ်းရှေ့တွင် ဆံတစ်ပင်မျှပင် မဖွင့်ရချေ၊ သာမက ဘီးဖီးသောအခါ ဘီး၌ ညှပ်၍ ပြုတ်သုတ်ပါလာသော ဆံပြုတ်တို့နှင့် ဆံခြည်ထွေးများကို လည်းကောင်း၊ မိမိတို့၏ လက်သည်း-ခြေသည်း ဖြတ်ပြီးများကိုလည်းကောင်း သူစိမ်းများ မမြင်သောနေရာတွင် မြေ၌မြှုပ်နှံလိုက်ရမည်၊ သို့မဟုတ်လျှင် အပြစ်ဖြစ်သည်၊ ထိုနည်းတူ

မိမိ ကိုယ်အင်္ဂါ အဆစ်အပိုင်း တို့ကိုလည်း သူစိမ်းယောကျ်ားတို့နှင့် ထိကပ်ခြင်း မပြုအပ်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။

၇။ မတ်စ်အလဟ် ပြဿနာ။ ပျို့ရွယ်သောမိန်းမများမှာ ယောကျ်ားစိမ်းရှေ့၌ မိမိမျက်နှာကိုဖွင့်ခြင်း မထိုက်ပေ၊ သူတစ်ပါး မြင်နိုင်သော နေရာမှာလည်း မရပ်ရပေ။ ဤပညတ်ချက်ဖြင့် သိရှိရသည်မှာ ယခုအခါသမယ၌ လက်ထပ်မင်္ဂလာပွဲများတွင် ဆွေမျိုးညာတကာ အားလုံးတို့သည် ဝိုင်းအုံလျက် သတို့သမီးမျက်နှာကို ကြည့်ရှုလေ့ရှိကြ၏၊ ထိုသို့ပြုလုပ်ခြင်းသည် လုံးဝ မထိုက်၊ သာမက ကြီးသောအပြစ် ဖြစ်၏။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။

၈။ မတ်စ်အလဟ် ပြဿနာ။ မိမိ၏(မဟ်ရမ်)ခေါ်သော နေကာဟ် မပြုထိုက်သည့် သွေးနီးစပ်သူ ဆွေမျိုးသားချင်းအရင်းအချာ ရှေ့၌ မျက်နှာ,နှာခေါင်း,ရင်,လက်မောင်းနှင့်ခြေသလုံးများ မတော်တဆပွင့်သွားသောအခါ အပြစ်မဖြစ်ပေ၊ သို့သော် ဝမ်း,ကျောနှင့်ပေါင်များကို သူတို့ရှေ့၌လည်း မဖွင့်ထိုက်ချေ။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၄၁။

၉။ မတ်စ်အလဟ် ပြဿနာ။ ချက်မှ ဒူးဆစ်အောက်ထိကို မိန်းမချင်း ရှေ့မှာလည်း ဖွင့်ခြင်းမထိုက်ပေ၊ အချို့မိန်းမများသည် မိန်းမချင်းရှေ့၌လည်း ဝတ်လစ်စလစ် ကိုယ်တုံးလုံး ရေချိုးကြလေသည်၊ ထိုသို့ ချိုးခြင်းသည်ကား အရှက် ဣန္ဒြေ ကင်းမဲ့၍ မလိုအပ်သော အလေ့အထ ဖြစ်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အလွန်တရာမှပင် အရေး တကြီး ကြုံကြိုက်လာသော် ထိုအခါ လိုသမျှလောက်ပင် မိမိကိုယ်ကာယကို ဖွင့်ခြင်း ထိုက်၏။ ဥပမာ– ပေါင်၌အနာတစ်လုံးထွက်လာ၏၊ထိုအခါ၎င်းအနာရှိသောနေရာလောက်သာဖွင့်ထိုက်၏၊ ပိုပြီးမဖွင့်ထိုက်ပေ၊ ၎င်း၏နည်းကား ဟောင်းနွမ်းနေသောထမီလုံချည်ဘောင်းဘီတစ်ထည်တည်းကိုသော်လည်းကောင်း၊ အဝတ်အထည်ကိုသော်သည်းကောင်း ဝတ်ဆင်၍ အနာရှိသော နေရာနှင့် တည့်တည့် ဖေါက်ပြီးမှ ဖြစ်စေ၊ ဆုတ်လိုက်ပြီးမှ ဖြစ်စေ အနာဖေါက်ဆရာများကို ၎င်းဖေါက်ထုတ်ထားသောနေရာကိုသာ ပြနိုင်လေသည်။

သို့သော် ထိုအခါ ကြည့်ရှုသော အနာဖေါက်ဆရာမှ တစ်ပါး အခြားသော ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ မည်သူမှ ကြည့်ခြင်းမထိုက်၊ သို့သော် ချက်မှ ဒူးဆစ် အထိအတွင်း ဤသို့မဖြစ်ဘဲ အခြားတစ်နေရာရာ၌မှာဖြစ်လျှင် ထိုအခါ အခြားမိန်းမများကိုလည်း ပြထိုက်၏။

ထိုကဲ့သို့ပင် မေထုန်မှီဝဲ စပ်ယှက်လိုသောအခါလည်း လိုသလောက်ခန့်မျှကိုသာ ကိုယ်အင်္ဂါဖွင့်ထိုက်၏၊ ပိုပြီးမဖွင့်ထိုက်ပေ၊ ထိုကဲ့သို့ပင် ကလေးမွေးဖွား သန့်စင်သောအခါ ဝမ်းဆွဲရှေ့၌ လိုအပ်သမျှကိုသာ ဖွင့်ပေးထိုက်၏၊ ပိုပြီးမဖွင့်ထိုက်ချေ။

ကလေးမွေးဖွား သန့်စင်သောအခါသော်လည်းကောင်း၊ တစ်စုံတစ်ခုသော ဆေးဝါးကို သော်လည်းကောင်း ထည့်လိုသောအခါ လိုသမျှခန့် နေရာ လောက်ကိုသာ ဖွင့်ထိုက်၏၊ လုံးလုံးကြီး ကိုယ်တုံးလုံး ဖြစ်သွားအောင် မဖွင့်ထိုက်ပေ၊ ၎င်း နည်းကား ဟောင်းနွမ်းသော ထမီ၊ လုံချည် တစ်ထည်ထည်ကိုဖြစ်စေ ဝတ်လျက် လိုသမျှခန့်လောက်ကိုသာ ဝမ်းဆွဲရှေ့၌ဖွင့်ရ၏ ပေါင်စသည်တို့ကို မဖွင့်ရချေ၊ ဝမ်းဆွဲမှတစ်ပါး အခြားမည်သူမှ မကြည့်ထိုက်ချေ၊ လုံးဝကိုယ်တုံးလုံးဖြစ်သွားအောင် ပြုခြင်းနှင့် အခြားသောမိန်းမများထိုင်၍ ဝိုင်းကြည့်နေကြခြင်း (ဟရာမ်) စင်စစ်ဖြစ်လေသည်။

ကြည့်သောမိန်းမနှင့် ဖွင့်ပြသော(မိန်း)မိန်းမ နှစ်ဦးစလုံးအပေါ်၌ အသျှင်မြတ်၏ (လအ်နတ်) ရောက်ပါစေသားဟု ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူခဲ့လေသည်၊ ဤကဲ့သို့သောပညတ်ချက်များကို ကောင်းစွာ သတိပြုကြရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။
ဖွတာဝါ ဟင်န်ဒိယာဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၂၀။
မစ်ရှိကာတ်ကျမ်း စာမျက်နှာ ၂၇။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ကိုယ်ဝန်ရှိစဉ်အခိုက် အကယ်၍ ဝမ်းဆွဲဖြင့် ဝမ်းပိုက်ကိုစမ်းသပ်ကြည့်ရှုအနိုပ်ခံလိုသော် ထိုအခါ ချက်အောက်ကိုယ်အင်္ဂါကိုမဖွင့်ရပေ၊ စောင်ဖြစ်စေ၊ အဝတ်အထည်ဖြစ်စေ အုပ်ခြုံထားလိုက်ရမည်၊ အရေးအကြောင်းမရှိဘဲ ဝမ်းဆွဲကိုလည်း မပြထိုက်ပေ။

ဝမ်းကိုနှိပ်ဆွဲသောအခါ ဝမ်းဆွဲရော အိမ်သူ အိမ်သား အမေ, ညီမ, အစ်မ, စသည်တို့ပါ ကြည့်လေ့ကြည့်ထရှိကြလေသည်၊ ထိုသို့အားလုံးဝိုင်းကြည့်ကြခြင်း အလျှင်းမပြုထိုက်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။မကြည့်ထိုက်သမျှ နေရာအားလုံးကိုပင် လက်ဖြင့်လည်း မထိမကိုင်ထိုက်ပေ၊ ထိုကြောင့် ရေချိုးသောအခါ အကယ်၍ ကိုယ်ကာယကို မဖွင့်သော်လည်း ရေချိုးပေးသော မိန်းမများဖြင့် အဝတ်တွင်း၌ လက်ထည့်၍သော်လည်းကောင်း၊ ပေါင်များက ချေးညော်များ ပွတ်တွန်းစေခြင်း မထိုက်ချေ၊ အကယ်၍ လက်ကို အဝတ်တခုခုဖြင့်စွတ်ပြီး အဝတ်တွင်း၌ လက်သွင်း၍ပွတ်လျှင် ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၁။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ။ကာဖွင်ရ်မိန်းမများ ဥပမာ....ကူလီမများ၊ကွမ်းသည်မများ၊ဆီသည်မများ၊ ခဝါသည်မများ၊ ဈေးမစင်ကျုံးသောမိန်းမများ၊ ဖိနပ်ချုပ်သည်မများ၊ စျေးသည်မများ စသည်အိမ်၌ ဝင်ထွက်လေ့ရှိသော မိန်းမများအား မထိုက်တန် မဆိုင်အပ်သော ယောကျ်ားစိမ်း (မဟ်ရမ်)နှင့် ပရ်ဒဟ် ကွယ်ကာထားခြင်း ရှိသကဲ့သို့ ထိုမိန်းမများနှင့်လည်း ကာကွယ်ခြင်း ဝါဂျစ်မဖြစ်၏၊ မျက်နှာနှင့် လက်မှာ လက်ကောက်ဝတ်အထိ ခြေမှာခြေမျက်စိအထိမှတပါး ထိုမိန်းမများရှေ့၌ ဆံတစ်ပင်ခန့်မျှ ဖွင့်လှစ်ခြင်းမထိုက်ချေ၊ ဤပညတ်ချက်ကို ကောင်းစွာသတိပြုကြရပေမည်၊ ခပ်သိမ်းသော မိန်းမများသည် ၎င်းနှင့်ဆန့်ကျင်ဘက် ပြုလုပ်ကြလေသည်။

အလိုဘား....ဦးခေါင်း လက် အားလုံးနှင့် ခြေသလုံးတို့ကို ထိုမိန်းမများရှေ့တွင် မဖွင့်ရ၊ ထိုပြင် သိအပ်သည်မှာ အကယ်၍ ဝမ်းဆွဲမသည် ဟိန္ဒူမသော်သည်းကောင်း အင်္ဂလိပ်မ သော်သည်းကောင်း ဖြစ်လျှင် ကလေးမွေးဖွားသော နေရာလောက်ကိုသာ သူတို့ကို ပြသခြင်းထိုက်၏၊ ဦးခေါင်း အစရှိသော အင်္ဂါအစိတ်အပိုင်းများကို ၎င်းတို့ ရှေ့၌ ဖွင့်ခြင်းမပြုသင့်ချေ။

ဖွတာဝါဟန်ဒိယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ ၂၁၉။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။မိမိခင်ပွန်းလင်နှင့်အဘယ်နေရာမှ (ပရ်ဒဟ်)မရှိ တစ်ဦးက တစ်ဦးရှေ့၌ တကိုယ်လုံးဖွင့်လှစ်ခြင်း ထိုက်၏၊ သို့ရာတွင် အကြောင်း မရှိဘဲ ဤကဲ့သို့ပြုလုပ်ခြင်းမကောင်းပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၁။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၁၉။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။သူတစ်ပါးယောကျ်ားသူစိမ်းများရှေ့၌သွားလာခြင်းနှင့် ကိုယ်အင်္ဂါအဆစ်အပိုင်းတို့ကို ဖွင့်လှစ်ခြင်းမထိုက်သကဲ့သို့ ယောကျ်ားများကို ချောင်းကြည့်ခြင်းလည်းမထိုက်ပေ၊ သူတို့ယောကျ်ားများက တို့ကိုမမြင်ကြဘဲတို့ကကြည့်လျှင် ဘာဖြစ်သလဲ ကိစ္စမရှိပါဟု အချို့မိန်းမများက ပြောဆိုကြသော စကားသည် အဟောသိက အမှားဖြစ်၏၊ အိမ်အပေါ်ထပ်က သော်လည်းကောင်း၊ တိုက်အပေါ်ထပ်က သော်လည်းကောင်း၊ ပြူတင်းပေါက်က သော်လည်းကောင်း၊ ယင်းလိပ်ကြားမှ သော်လည်းကောင်း ယောကျ်ားများကို ကြည့်ခြင်း (နှောင်ရှာ) ခေါ် မင်္ဂလာဆောင်သတို့သားများ လှည့်လည်လာခြင်းကို ချောင်းကြည့်ခြင်း၊ အထင်ခံထွက်ကြည့်ခြင်း သို့မဟုတ် တစ်မျိုးတစ်ဖုံဖြင့်မင်္ဂလာဆောင်သတို့သားကို ချောင်းကြည့်ခြင်း အားလုံးတို့သည် မပိုင်ချေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ။(နာမဟ်ရမ်) မထိုက်အပ်သော သူတစ်ပါး ယောကျ်ား သူစိမ်းနှင့် နှစ်ဦးနှစ်ဝ အရင်းအချာမပါဘဲ တစ်နေရာထည်းတွင် ထိုင်ခြင်း

လျှောင်းလဲခြင်းမပြုထိုက်သာမက နှစ်ဦးစလုံးခပ်လှမ်းလှမ်းက တစ်ခြားစီထိုင်ခြင်းလည်း မထိုက်ချေ။

ဒွရ်ရေ့မွှဲတာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၁။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ။မိမိ ဆရာသခင်ရှေ့၌ လာခြင်း သည်လည်း နာမဟ်ရမ်ခေါ် သူစိမ်းယောကျ်ားရှေ့၌ လာသကဲ့သို့ အမိန့်နှင့်ပင်တည်း၏၊ ထို့ကြောင့် ဤသို့ပြုခြင်း မထိုက်ချေ၊ ထိုနည်းပင် မွေးစားသော ယောကျ်ာကလေး ရှေ့၌လည်း သူတစ်ပါးယောကျ်ားသူစိမ်းနှင့် ဆက်ဆံသော အမိန့်ပညတ်အတိုင်းပင်တည်း၊ မွေးစားရုံမျှနှင့် သားစစ်ဖြစ်မသွားပေ၊ ၎င်းမွေးစားသောသားသည် သူတစိမ်းပင်ဖြစ်လေသည်။

ထိုကဲ့သို့ပင် နာမဟ်ရမ် ခေါ် ဆွေမျိုး ယောကျ်ားစိမ်းတို့နှင့်လည်းဖြစ်၏၊ဥပမာ မတ်၊ ခဲအို၊ ဝမ်းကွဲမောင်ဖါး၊ အစ်ကို စသည်တို့သည်လည်း ရှရီအတ် တရားတော်၌ သူစိမ်းပင် ဖြစ်လေသည်၊ ထို့ကြောင့် ၎င်းသူတို့နှင့်လည်း ကောင်းစွာ ပရ်ဒဟ် ထား ရမည်။

ဒွရ်ရေ့မွှဲတာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၁။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ။ယောကျ်ားရှာ၊ သင်းကွပ်၊ မျက်မမြင် တို့၏ ရှေ့သို့လာခြင်းလည်း မထိုက်ချေ။

ဒွရ်ရေ့မွှဲတာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၂။
မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၆၈။

၁၉ မတ်စ်အလဟ်ပြဿနာ။ ။အချို့အချို့သောမိန်းမများသည်လက်ကောက် ဆောင်းသောသူက လက်ကောက်များကို လက်ဆွဲ၍ ဝတ်ဆင်းပေးသည်ကို ခံကြ၏၊ ဤသို့ ပြုလုပ်ခြင်းသည် အလွန်ရှက်ဖွယ်ကောင်း၏ ၎င်းသူသည် သူစိမ်းပြင်ပြင်သာလျှင်ဖြစ်၏ သာမက အပြင်သို့သွားလာနေသောမိန်းမများကလည်း ဝတ်ဆင်ပေးခြင်းကို အလျှင်း မခံထိုက်ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၄၃။

## အထွေထွေ ပညတ်ချက်များ

၁။ မတ်စ်အလဟ်ပြဿနာ။ ။ရက်သတ္တပတ်လျှင် တစ်ကြိမ်ကျ ချက်အောက်မွေး များနှင့် ချိုင်းမွေး စသည်များကို ရိတ်ပယ်၍ ရေချိုးကာ မိမိကိုယ်ခန္ဓာကို- သန့်ရှင်းစင် ကြယ်စွာနေခြင်း 'မွတ်စ်တဟာဗ်' ဖြစ်လေသည်၊ ဂျူမိုအဟ်နေ့ကိုထား၍ ပြုလုပ်လျှင်သာ မြတ်၏၊ ခုနှစ်ရက်တစ်ပတ်မတတ်နိုင်လျှင် ၁၅-ရက်တခါ အများဆုံး အရက်လေးဆယ် တခါပြုရမည်၊ အရက်လေးဆယ်ထက် ပို၍အခွင့်မရှိ၊ အကယ်၍ အရက်လေးဆယ်ကျော် လွန်၍မှ အမွေးအမျှင်များကို သန့်ရှင်းမှုမပြုလျှင် အပြစ်ဖြစ်၏။

ဒွရ်ရေ့မွှဲတာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၀။

၂။ မတ်စ်အလက် ပြဿနာ။ ။မိမိမွေးသည့် ဖခင်၊ မိခင်နှင့် ခင်ပွန်းလင်စသည်တို့ကို အမည်နာမ ထုတ်ဖော်ပြောဆိုခြင်းကိုတားမြစ်၏၊ မတ်ကရူးဟ်ဖြစ်လေသည်။ ထိုသို့ခေါ်ဆိုခြင်းသည် ရိုသေမှု ကင်းမဲ့ရာကျလေသည်၊ သို့ရာတွင်အရေးကိစ္စ ကြုံကြိုက်လာသောအခါ မိခင်ဖခင်၏ အမည်ကို ထုတ်ဖော်ပြောဆို ခေါ်ဝေါ်နိုင်သကဲ့သို့ ခင်ပွန်းလင်၏ အမည်လည်း ထုတ်ဖော်ပြောဆို ခေါ်ဝေါ်နိုင်လေသည်။

ထိုကဲ့သို့ပင် ထသွားထိုင်လာ စကားမပြည်ပြောဆိုရာတို့မှစ၍ ရိုသေလေးမြတ်ခြင်းထားရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၆၉။

၃။ မဘ်စ်အလက် ပြဿနာ။ ။သက်ရှိသတ္တဝါပိုးမွှားတိရစ္ဆာန်များကိုမီးရှို့ခြင်းမထိုက်၊ ဥပမာ.. နကျယ်ကောင်, ပထုတ်ပနီကောင်, ကြမ်းပိုး စသော ပိုးမွှား များတို့ကိုဖမ်းဆီး၍ မီးထဲ၌ထည့်ခြင်း၊ စသည်တို့ကို မလုပ်ထိုက်ပေ၊ အကယ်၍ ထိုသို့မပြုလုပ်လျှင်ကိစ္စမပြီးမြောက်သော် ပူသောမီးအရှိန်ဖြင့် နကျယ်ကောင်,ပျားပိတုန်းစသည်တို့ အငွေ့လွှတ်၍ အဝေးသို့ သွားစေရာသည်၊ ကြမ်းပိုးအတွက် ခုတင်တွင် ရေနွေးပူလောင်း၍နှိမ်နင်းနိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၅၀။

၄။ မတ်စ်အလက် ပြဿနာ။ ။တစ်စုံတစ်ခုသောကိစ္စအပေါ်၌ အလောင်းအစားပြုလုပ်ခြင်းမထိုက်၊ ဥပမာ....တစ်ဦးတစ်ယောက်အား အကယ်၍ မုန့်ချိုတပိဿာစားသော်သင့်အား ကျွန်ုပ် ငွေတစ်ကျပ်ပေးမည် မစားနိုင်သော် ငွေတစ်ကျပ်ပေးရမည် ဟူသောလောင်းကစားခြင်းတို့ကို ဆိုလို၏။

အလိုကား နှစ်ဦးနှစ်ဘက်ကလောင်းခြင်းမထိုက်ပေ၊ အကယ်၍ တဘက်ဘည်းကသင် နို့ထမင်းငါးမုန်းကန်စားလျှင် ငွေတစ်ဆယ်ပေးမည်ဟု ပြောလျှင်ပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၅၀။

၅။ မတ်စ်အလက် ပြဿနာ။ ။လူနှစ်ဦး တိတ်တဆိတ် တီးတိုးစကားပြောနေသောအခါ အနားသို့ ချဉ်းကပ်မသွားရ၊ ချောင်း၍ နားထောင်ခြင်းသည် အပြစ်ကြီးသည်၊ ဟဒီးသ်ဩဝါဒတော်၌ လာရှိသည်မှာ.... အကြင်သူ အခြားသူတို့ ပြောနေသောစကားကိုနားစွင့်လျှင် ထိုသူကားမနှစ်သက်သော ယင်းနားထောင်သောသူ/မ၏နားတွင်းသို့ ကေယာမတ်နေ့၌ အလွန်တဆု ပူလောင်သော ခဲရည်ကို လောင်း၍ ဒဏ်ပေးခြင်းခံရအံ့။

ဤဩဝါဒအရသိရသည်မှာ ထိမ်းမြားလက်ထပ်ပြီးနောက် မဂ်လာသတို့သားနှင့်သတို့သမီးတို့၏စကားကို ချောင်း၍ နားထောင်ခြင်း၊ ကြည့်ခြင်းတို့သည် အလွန် အပြစ်ကြီးမားလေသည်။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ ၃၅၉။

၆။ မတ်စ်အလဟ် ပြဿနာ။ ။မိမိခင်မွန်းလင်နှင့် ပြောဆိုသောစကားများကိုဖြစ်စေ၊တစ်စုံတစ်ရာ အကြောင်းအရာ လင်မယားအတွင်းရေးကိစ္စကိုဖြစ်စေ၊ သူတစ်ပါးကို ပြောခြင်းသည် ကြီးလေးသော အပြစ်ဖြစ်၏။

ဟဒီးသ် ဩဝါဒတော်၌ ပါရှိသည်မှာ ထိုသို့ဖြစ်ပျက်သော လျှို့ဝှက်ဖွယ်စကားများကို ဖော်ထုတ်ပြောသော သူ/မအပေါ်၌ အားလုံးထက်ပို၍ အသျှင်မြတ်၏အမျက်တော်ရှခြင်း ခံရမည်ဖြစ်လေသည်။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ ၃၅၉။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ထိုနည်းတူ တဘာက်သား မခံချည့် မခံသာ ဖြစ်လောက်အောင် ပြောင်လှောင် ကျီစယ်ခြင်းမပြုထိုက်၊ တဘာက်သား ရယ်ပြုံးလာရုံမျှသာ ကျီစယ်မှုပြုရမည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၃၄။

၈။ မတ်စ်အလဟ် ပြဿနာ။ ။ဘေးဒုက္ခတွေ့ကြုံသော အခါ၌သာ် လည်းကောင်း စိတ်နှလုံး ညစ်ညူးသောအခါ သော်လည်းကောင်း သေခြင်းကို လိုလားတောင်းတခြင်းနှင့် ရင်တီးလက်ခတ်ပြုခြင်း မပြုထိုက်။

ရှရ်ဟ္ဗတ်တန်ဗီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၅၂။

၉။ မတ်စ်အလဟ် ပြဿနာ။ ။ကြွေအံကစားခြင်း၊ ပဆစ်ကွက်ထိုးခြင်း၊ဖဲရိုက်ကစားခြင်း၊ အနီထောင်ထိုးကစားခြင်း၊ ချောက်ချက်ထိုးကစားခြင်း၊ ဖဲသုံးချပ်ကစားခြင်း၊ အန်ခတ်ကစားခြင်း၊ စက်ဝိုင်းပစ်ကစားခြင်း၊ ကွင်းပစ်ကစားခြင်း၊ ကာထိုးကစားခြင်း၊ သုံးပုံဖဲကစားခြင်း၊ သုံးဆယ့်ခြောက်ကောင် ထိုးကစားခြင်း စသော ကစားနည်းဟူဟူသမျှတို့ကို လုံးဝမကစားထိုက်၊ ထိုသို့ကစားခြင်းများ၌ အကယ်၍ လောင်းတန်းဖြစ်လျှင် ဟရာမ် စင်စစ်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၄၇-၁၄၈။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။ယောကျ်ားကလေး နှင့် မိန်းကလေး တို့သည် ဆယ်နှစ်ရွယ်သို့ ရောက်သောအခါ ယောကျ်ား ကလေးများသည် အမေ အစ်မ ညီမ စသည်တို့အနီး၌ လည်းကောင်း၊ မိန်းကလေးမှာအဖေ အစ်ကို မောင် စသည်တို့အနီးမှာ လည်းကောင်း မလျောင်းလဲအပ်၊ သို့သော် ယောကျ်ားကလေးသည် ဖခင်ဖြစ်သူအနီး မိန်းကလေးသည် မိခင်ဖြစ်သူ၏အနီး၌ လျောင်းလဲခြင်းပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၄၄။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်အခါ ချီဆတ်ခြင်းဖြစ်လာမူ....

(အလ်ဟမ်ဒို့၊ လစ်လ္လာဟ်) ဟူ၍ဆိုခြင်းကောင်း၏။

ယင်းသို့ ဆိုသည်ကို ကြားသောသူက....

(ယရ်ဟမိ့၊ ကလ္လာဟ်)ကို ပြန်ကြားခြင်း ဝါဂျစ်ဗ် ဖြစ်လေသည် ပြန်မဆိုလျှင် အပြစ်ဖြစ်၏။

ဤနေရာ၌ သတိထားရမည်မှာ ချီဆတ်သောသူသည် မိန်းမသို့မဟုတ် မိန်းကလေး ဖြစ်လျှင် ထိုအခါ (ကာဖ်)ကို(ဇေရ်)ဖြင့် ဆိုရမည်၊ အကယ်၍ ယောကျ်ားကလေးချီသူ ဖြစ်လျှင်ထိုအခါ (ကာဖ်)ကို (ဇဗရ်) ဖြင့်ဆိုရမည်။

ထို့နောက်ချီဆတ်သူဆိုရမည်မှာ ... (ယတ်ဂ်ဒဖွ့ရှလ်လ္လာဟို့၊လနာ....ဝလ....ကွန်မ်) သို့သော် ဤကဲ့သို့မြွန်ဆိုလိုက်ခြင်းကား ချီဆတ်သူတာဝန်၌ ဝါဂျစ်ဗ်မဟုတ်ပေ၊ ဆိုသော် သာ၍ကောင်း၏။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၁၀။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။ချီဆတ်ပြီးနောက် ချီသူက (အလ်ဟမ်ဒို့ လစ်လ္လာဟ်)ဆိုလိုက်သည်ကို များစွာသောသူများကကြားရသော်လည်း ကြားရသူ အားလုံးတို့က (ယရ်ဟမို့၊ကလ္လာဟ်)ဆိုရန် ဝါဂျစ်ဗ်မဟုတ်ချေ၊ အကယ်၍ထိုလူများအနက်က တစ်ဦးတစ်ယောက်သောသူက ဆိုလိုက်လျှင် အားလုံးအတွက် တာဝန်ကျ၏၊ အကယ်၍ မည်သူကမျှ မပြန်ကြားမဆိုလျှင် အားလုံးအပြစ်ဖြစ်၏။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၆၅။

၁၃။မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ အကြိမ်ပေါင်းများစွာချီ၍ အလ်ဟမ်ဒို့၊လစ်လ္လာဟ်ဆိုမှု သုံးကြိမ်မျှသာ ယရ်ဟမို့ကလ္လာဟ်လိုက်ဆိုခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်၊ထို့ထက်ပိုလျှင် ဝါဂျစ်ဗ် မဟုတ်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၆၅။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ။ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ နာမ တော်ကို တစ်ဦးတစ်ယောက်က ရွတ်ဆိုသောအခါဖြစ်စေ၊ ရွတ်ဆိုသံကြားရသော်အခါ ဖြစ်စေထိုအခါ (စွလ်ဝါတ်)ကို ဖတ်ဆိုရမည်၊ ဝါဂျစ်ဗ် ဖြစ်၏၊ အကယ်၍ မဖတ်သော် အပြစ်ဖြစ်၏၊ သို့ရာတွင် တစ်နေရာတည်း၌ အကြိမ်ပေါင်းများစွာ ဖတ်ဆိုသံကိုကြားလျှင် အကြိမ်တိုင်းပေါ်မှာဖတ်ရန် ဝါဂျစ်ဗ်မဟုတ်၊တကြိမ်ခန့်ဖတ်ဆိုရုံဖြင့်လုံလောက်၏၊အကယ် ၍ နေရာရွှေ့သွားပြီးနောက် ဖတ်ရွတ်ပြန်သောအခါဖြစ်စေ၊ ကြားသောအခါ ဖြစ်စေထို အခါ ပြန်ဖတ်ရွတ်ခြင်းသည် ဝါဂျစ်ဗ် ဖြစ်လေသည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၁၀။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ။ကလေးသူငယ်များကို နားပန်းဆံ၊ ဦးစွန်းပုတ် ဂျပ်ဝိုင်းစသော ဆံဘိုဆံရှည် ထားပေးခြင်းမထိုက်၊ အားလုံးရိတ်ပစ်လိုက ရိတ်သို့မဟုတ် ဆံရှည်အားလိုက ထားရမည်။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၅၉။

၁၆။ မတ်စ်အလယ်ပြဿနာ။ ။နံ့သာဆီ, ကတိုးဆီ စသည့် ဆီမွှေးများကို တရံစာ ယောကျ်ားများရှိရာအရပ်သို့အမွှေးနံ့ ရောက်လောက်အောင် လိမ်းကြံနံ့ဆွတ်ဖြန်းခြင်းမပြုအပ်။

အဘူဒါဝုဒ်ကျမ်း။

၁၇။ မတ်စ်အလယ်ပြဿနာ။ ။မဝတ်ထိုက်သော အဝတ်ကို ချုပ်ပေးခြင်း မထိုက်၊ ဥပမာ .... လင်ယောကျ်ားက တရားတော်၌ မဝတ်ထိုက်သောအဝတ်ကို ချုပ်ခိုင်းလျှင် ငြင်းဆန် ပယ်ရှား လိုက်ရမည်၊ ထိုနည်းတူ စက်ချုပ်စားသော မိန်းမများ ထံ၌လည်း ထိုကဲ့သို့ မဝတ်ထိုက်သော အဝတ်များကို မချုပ်ခိုင်းသင့်ပေ၊ ချုပ်သူကလည်း ချုပ်မပေးထိုက်ချေ။

ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၄၅။

၁၈။ မတ်စ်အလယ်ပြဿနာ။ ။မဟုတ်မမှန်သော ပုံပြင်ဝတ္ထုများ၊ဒဏ္ဍာရီများ အခြေအမြစ်မရှိသော ဟဒီးသ်ဩဝါဒများဟုဆိုကာ ဉာဏ်ပညာကင်းမဲ့သော သူများက အွရ်ဒူဘာသာဖြင့် ရေးသားထားကြလေသည်၊ ထိုသို့ရေးသားချက်များကို ခိုင်မာသော ကျမ်းများ၌ မတွေ့ရချေ။ ဥပမာ ... (နူးရ်နာမဟ်) စသော စာအုပ်များ ဖြစ်လေသည်၊ ထို့ပြင် သမီးရည်းစားအကြောင်း အချစ်ဝတ္ထုများကို ကြည့်ခြင်း ဖတ်ခြင်း အလျှင်း မပြုထိုက်ပေ၊ ထိုနည်းတူ ပျို့ ကဗျာ သီချင်းစာအုပ်များ ယခုခေတ်တွင် ပေါ်ထွက်နေသော ဝတ္ထုဆန်းများ၊ တစ္ဆေဝတ္ထု၊ နတ်ဝတ္ထုနှင့် ယဉ်ကျေးမှုမရှိသော မဂ္ဂဇင်းများကို ဝယ်ယူခြင်းလုံးဝမပြုသင့်၊ မိမိတို့၏သမီးပျိုများထံ၌ တွေ့ရှိက ယူ၍မီးရှို့ ပစ်လိုက်ရမည်။

ဒွုရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၅၃။

၁၉။ မတ်စ်အလယ်ပြဿနာ။ မိန်းမချင်းချင်းတို့တွင်လည်း (စလာမ်) ဆိုခြင်း လက်ဆက်ခြင်း စုန္နတ် ဖြစ်လေသည်၊ ထိုစုန္နတ်ကို မိန်းမချင်းတွေ့ဆုံသောအခါ ဓလေ့ ပြုလုပ်ကြရန်ကောင်းလေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၃၂။

၂၀။ မတ်စ်အလယ်ပြဿနာ။ ။တစ်ဦးတစ်ယောက်အိမ်၌ ဧည့်သည်အဖြစ်နှင့် သွားရောက်သောအခါ 'ဒအ်ဝပ်တ်' စားသောက်သောအခါ ဖွကီးရ်သူဆင်းရဲ တစ်ဦးဦးကို ခေါ်၍ မကျွေးရ၊ အိမ်ရှင်အခွင့်မရှိဘဲ မမေးမြန်းဘဲ ကျွေးခြင်း ပေးခြင်း အပြစ်ဖြစ်လေသည်။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ-၆၊ စာမျက်နှာ ၂၂၆။

# ကောက်ရသော ပစ္စည်းအကြောင်း

၁။ မတ်စ်အလယ်ပြဿနာ။ ။လမ်းကြို, လမ်းကြား, လမ်းမ, လမ်းဆုံ သော်၎င်း လည်းကောင်း၊ မိန်းမများ၏ ပရိသတ် ၌သော်လည်းကောင်း သို့မဟုတ် ကိုယ့်အိမ်၌ ပင် ဖိတ်ကြား၍ ဧည့်ခံသောအခါဖြစ်စေ၊ တရားဓမ္မ ဟောကြားစေသောအခါဖြစ်စေ

အားလုံးသောသူများပြန်သွားကြသောအခါတစ်စုံတစ်ခုကို ကောက်ရ၏၊ သို့မဟုတ်တစ်နေရာရာ၌ ကျနေသောပစ္စည်း တစ်စုံတစ်ခုကောက်ရ၏၊ ၎င်းပစ္စည်းကို ကိုယ်တိုင်ယူခြင်းမထိုက်ဟာရာမ်ဖြစ်၏၊ အကယ်၍ ကောက်ယူမှု ဉစ္စာရှင်ကို စုံစမ်းရှာဖွေ၍ ပြန်ပေးမည် ဟူသောရည်ရွယ်ချက်ဖြင့်သာ ကောက်ယူရမည်။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၉။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်စုံတစ်ခုသောပစ္စည်းကို တွေ့သဖြင့် ကောက်မယူဘဲနေလျှင် အပြစ်မဖြစ်ပေ၊ သို့ရာတွင် အကယ်၍မိမိကောက်မယူလျှင် အခြားသူတစ်ဦးကောက်ယူ၍ ဉစ္စာမှန်အစစ်မှာ ဆုံးရှုံးလိမ့်မည်ဟု စိုးရိမ်ရသော် ၎င်းကိုမိမိကကောက်ယူလိုက်၍ ဉစ္စာရှင်အစစ်ထံ ပို့ပေးခြင်း ဝါဂျစ်ဗ် ဖြစ်လေသည်။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက် ၃၉။

၃။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်သောသူ/မသည် တစ်စုံတစ်ခုသော ပစ္စည်းတစ်ခုခုကို ကောက်ယူလိုက်သောအခါ ယခုဉစ္စာရှင်ကို ရှာဖွေစုံစမ်းပြီးနောက် ပြန်ပေးခြင်း သူ၏တာဝန်ဖြစ်သွားလေသည်။

ကောက်ယူပြီး နောက်မှ ပြန်၍ ကောက်ရသော နေရာတွင် ထားသည် ဖြစ်စေ သို့မဟုတ် မိမိအိမ်သို့ယူဆောင်လာသည် ဖြစ်စေ ဉစ္စာရှင်ကို စုံစမ်းခြင်း မပြုဘဲ နေလျှင် ထိုအခါ အပြစ်ဖြစ်သည်။

အကယ်၍ကောက်ယူရန် သူ၏တာဝန်၌ ဝါဂျစ်ဗ်မဟုတ်သော နေရာကပင်ဖြစ်စေ အပြစ်ဖြစ်သည်၊ အလိုကား ပျက်စီးသွားလိမ့်မည်ဟု စိုးရိမ်ရသော် လုံခြုံသည့်နေရာဖြစ်သော်လည်းကောင်း၊ ကောက်ယူလိုက်ရန် ကိုယ့်တာဝန်၌ ဝါဂျစ်ဗ်ဖြစ်သောနေရာဖြစ်သော်လည်းကောင်း အတူတူပင် အမိန့်ပညတ်ဖြစ်လေသည်။

ကောက်ယူပြီးနောက် ဉစ္စာရှင်ကိုရှာဖွေစုံစမ်း၍ပေးရန် ဝါဂျစ်ဗ်ဖြစ်၏၊ ကောက်ယူပြီးနောက်မှ ပြန်၍ ထိုနေရာ၌ချထားခြင်းမထိုက်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၀၅။

၄။ မတ်စ်အလဟ်ပြဿနာ။ ။လူစုံလူဝေးရှိရာ ယောကျ်ား မိန်းမ ပရိသတ်များ၌ အော်ဟစ်၍ရှာဖွေပေးရမည်၊ ယောကျ်ားများရှိရာသို့ အကယ်၍ကိုယ်တိုင်မသွားနိုင်လျှင် ဖြစ်စေ၊ မအော်ဟစ်နိုင်လျှင်ဖြစ်စေ ထိုအခါ မိမိ လင်ယောကျ်ား ကိုသော်လည်းကောင်း စေခိုင်းပြီး ရှာဖွေစုံစမ်းမေးမြန်းရမည်။

ကျွန်တော်/မ ကောက်ယူရရှိသောပစ္စည်းသည်၊ တစ်ဦးတစ်ယောက်ပိုင်ပစ္စည်းဖြစ်ခဲ့လျှင် ကျွန်တော်/မထံ လာ၍ယူပါဟု၍ ကောင်းမွန်စွာ ကြေငြာပေးရမည်၊ သို့သော် အဘယ်ပစ္စည်းဟူ၍ သေချာစွာ ဖော်ထုတ်မပြောရ၊ အဘယ့်ကြောင့်ဟူမူ တစ်ဦးဦးက ကျွန်တော်/မ့ပစ္စည်းပါဟုပြောဆိုပြီး လိမ်လည်လှည့်ဖြား၍မယူစေရန်ဖြစ်၏။ ဟုတ်ပါ၏၊ လုံးဝထွေးထွေးဖြင့် ပြောလိုက်ရမည်၊ ဥပမာ.... ၎င်းသည် ဘယက်တန်ဆာ

တစ်ခုခုဖြစ်၏၊ သို့မဟုတ် အဝတ်အထည်ဖြစ်၏၊ သို့မဟုတ် ငွေအနည်းငယ်ပါသောအိတ်တစ်လုံးဖြစ်၏။

ထို့နောက် တစ်ဦးဦးလာရောက်၍ သူ၏ပစ္စည်း ဟုတ်မှန်ကြောင်း သေချာခိုင်မာစွာ ပြောနိုင်လျှင် ၎င်းကိုပင် အပ်နှင်းလိုက်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၉၀၅။

၅။ မတ်စ်အလတ် ပြဿနာ။ ကောင်းမွန်စွာ ကြေငြာ သတင်းပေး၍ ရှာဖွေစုံစမ်းမေးမြန်းသောအခါ ၎င်းကောက်ရထားသော ပစ္စည်းရှင် ပိုင်ဆိုင်သူ တစ်ဦး တစ်ယောက်မျှ မပေါ်လာ၍ လုံးဝမျှော်လင့်စရာမရှိသောအခါမှ ထိုပစ္စည်းကို လှူဒါန်း ပေးကမ်းလိုက်ရမည်၊ မိမိထံ၌ မထားရ။

အကယ်၍ကောက်ရသူကိုယ်တိုင် ဆင်းရဲသူတစ်ဦးဖြစ်လျှင် ထိုအခါ ကိုယ်တိုင်လည်း သုံးစွဲပစ်နိုင်လေသည်၊ သို့သော် အကယ်၍ ပေးကမ်းစွန့်ကြဲပြီးနောက်မှ ပိုင်ဆိုင်သူဥစ္စာရှင်တစ်ဦးတစ်ယောက်ပေါ်ပေါက်လာသော် ထိုအခါ ၎င်းပစ္စည်း၏ ထိုက်တန်သမျှအဖိုးကိုပေးထိုက်၏၊ အကယ်၍ အဖိုးကိုမယူတော့ဘဲ လှူဒါန်းပေးကမ်းလိုက်သည်ကိုပင် သဘောတူသွားလျှင် ထိုအခါ ၎င်းသူသည် လှူဒါန်းပေးကမ်းလိုက်ခြင်း အကျိုးရပေမည်။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၄၀။

၆။ မတ်စ်အလတ် ပြဿနာ။ မွေးထားသော ခိုဖြစ်စေ၊ ကြက်တူရွေးဖြစ်စေ၊ သာလိကာဖြစ်စေ၊ သို့မဟုတ် မွေးထားသော ကြက်-ငှက်-တိရစ္ဆာန် တစ်ကောင်ကောင်ဖြစ်စေ ကိုယ့်အိမ်၌ရောက်လာသောအခါ အကယ်၍အိမ်ရှင်ကဖမ်းဆီးယူထားသော် ဥစ္စာရှင်ကို ရှာဖွေစုံစမ်းမေးမြန်း၍ ပို့ပေးလိုက်ခြင်း ဝါဂျစ်ဗ်ဖြစ်သွားလေသည်၊ ကိုယ်ပိုင်ယူခြင်း 'ဟရာမ်'ဖြစ်၏။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၆၆။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၁၀။

၇။ မတ်စ်အလတ် ပြဿနာ။ ဥယျာဉ်တွင်း၌ သရက်သီးသော်လည်းကောင်း၊ မာလကာသီး သော်လည်းကောင်း စသည် ကြွေကျနေလျှင် ထိုအသီးများကို အခွင့်မဲ့ ကောက်ယူခြင်း၊ စားသုံးခြင်း ဟရာမ်ဖြစ်လေသည်၊ အကယ်၍ အလွန်တရာအဖိုးနည်းပါး၍ မည်သူမျှ ရှာဖွေခြင်း မပြုသည့်ပြင် ကောက်ယူ စားလိုက်လျှင်လည်း မည်သူမျှ မကောင်းထင်လိမ့်မည်မဟုတ်သော ပစ္စည်းဖြစ်လျှင် ထိုအခါ ကိုယ်တိုင်အသုံးချလိုက်ခြင်းလည်းပိုင်၏၊ ဥပမာ လမ်းခရီး၌ ဇီးသီးတစ်လုံးကိုသော်လည်းကောင်း၊ သို့မဟုတ် ကုလားပဲတစ်ဆုပ်ကိုသော်လည်းကောင်း ကောက်ရ၍ အသုံးချလျှင် ပိုင်၏။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၄၄၇။

၇။ မတ်စ်အလဟ် ပြဿနာ။ အိမ်တစ်အိမ်၌ ဖြစ်စေ၊ ဇတာတောင်မှာ ဖြစ်စေ တစ်ဦးတစ်ယောက်ထံမှ ကျပျောက်နေခဲ့သော ဥစ္စာကြေးငွေကို တွေ့ကြုံ ကောက်ရသော် ဖြစ်စေ ထိုအခါလည်း ၎င်း၏အမိန့်သည် အခြား ကောက်ရသော ပစ္စည်းများ၌ရှိသော အမိန့်ပညတ်ကဲ့သို့ပင်ဖြစ်၏၊ ကိုယ်တိုင်ယူလိုက်ခြင်းမထိုက်၊ ရှာဖွေစုံစမ်းမေးမြန်းပြီးနောက် အကယ်၍မစ္စည်းရှင်မပေါ်ပေါက်လျှင် ထိုအခါ၎င်းကို စွန့်ကြဲပစ်လိုက်ရမည်။ ဆင်းရဲလျှင် ကိုယ်တိုင်လည်းယူထိုက်၏၊ ဥစ္စာရှင်ပေါ်ခဲ့လျှင် ပြန်ပေးဆပ်ရမည်။

ထ ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၄၇။

# ဝပ်က်ဖ်၏ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မိမိ၏ ကိုယ်ပိုင်ပစ္စည်းဥစ္စာ အရာဝတ္ထုတစ်ခုခုကို ဥပမာ...အိမ်,တိုက်,ဥယျဉ်,ရွာ,လယ်မြေ စသည်ကိုယ်ပိုင်ပစ္စည်း တစ်ခုတစ်ရာကို အလ္လာဟ်အသျှင်မြတ်၏ လမ်း၌ (ဖွကီရ် ဂရီးဗ် မစ္စကီန်)များ အဖို့ လှူထိုက်၏၊ ပမာဆိုသော် ရွာမှရရှိလာသောကြေးငွေအားလုံးကို သူဆင်းရဲတို့အားလှူလိုက်မည်၊ သို့မဟုတ် ဥယျာဉ်မှ ထွက်သမျှအားလုံး အသီးအနှံကို သူဆင်းရဲတို့အား လှူဒါန်းပေးကမ်းလိုက်မည်၊ ဤအိမ်၌ သူဆင်းရဲများသာနေစေ၍ အခြား မည်သည့်လုပ်ငန်းများမှ မလုပ်စေရဟုဆိုပြီး လှူလိုက်လျှင် အလွန်တရာမှပင် အကျိုးများပြားစွာ ရရှိသည်။

ကောင်းမှုကုသိုလ် ဟူဟူသမျှတို့သည် သေလွန်လျှင် ရပ်တန့်သွားသည်၊ သို့ရာတွင် ဝပ်က်ဖ် လှူဒါန်းခြင်းသည် ဤသို့သောကုသိုလ် ဖြစ်လေသည်၊ မိမိလှူဒါန်းထားသော ပစ္စည်းများ တည်တန့် ကျန်ရှိနေသမျှ ကာလပတ်လုံး ကမ္ဘာပျက်မည့်နေ့ အထိ ၎င်း၏ အကျိုးသဝါဗ်ရရှိနေမည်ဖြစ်လေသည်၊ သူဆင်းရဲများတွင် ချမ်းချမ်းသာသာနှင့် အကျိုး ကျေးဇူး ခံစားနေရသည်နှင့်အမျှ ထိုဝပ်က်ဖ် ပြုထားသော ကုသိုလ်ရှင်သည် ကောင်းမှု ကုသိုလ်စာရင်း၌ အကျိုးများ ရေးသားလျက်သာ နေမည်ဖြစ်၏။

ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊စာမျက်နှာ -၁၇။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်က မိမိပိုင်ပစ္စည်း ဥစ္စာတစ်ခုခုကို ဝပ်က်ဖ် ပြုလုပ်လိုသော် ထိုအခါ ယုံကြည် စိတ်ချရသော သမာဓိရှိသူ သူတော်စင် တစ်ဦးတစ်ယောက်အား အပ်နှင်းရမည်၊ ထို့နောက် ၎င်းသူတော်စင်က ထို ဝပ်က်ဖ်အား ကြည့်ရှုထိန်းသိမ်းစောင့်ရှောက်၍ အလှူရှင်အသုံးချစေလိုသော အရာ၌ပင် မပျက်မကွက်သုံးစွဲရမည်၊ အလဟ္ဘဖြစ်စေသောနေရာ၌ မသုံးစွဲရန် ဖြစ်လေသည်။

၃။ မတ်စ်အလဟ် ပြဿနာ။ ဝပ်က်ဖ်ပြုလိုက်သောပစ္စည်းသည် ဝပ်က်ဖ်ပြုလိုက်လျှင်ပြုသော သူ/မ၏ ပိုင်ဆိုင်မှု မရှိတော့ချေ၊ အလ္လာဟ်အသျှင်မြတ်၏ ပိုင်ဆိုင်မှုတွင် ရောက်ရှိ၍ ၎င်းနေရာ အိမ်, ဝတ္ထုပစ္စည်းကို ရောင်းချခြင်း၊ တစ်ဦးတစ်ယောက်အားပေးခြင်း မပိုင်တော့ချေ၊ ယခု ထိုပစ္စည်း၌ မည်သူမျှ ဝင်ရောက်စွက်ဖက်မှု မပြုနိုင်တော့ချေ၊ မည်သည့်ကိစ္စအတွက် ဝပ်က်ဖ်ပြုထား၏၊ ထိုကိစ္စအတွက်သာ ၎င်းကိုအသုံးချခြင်းပြုရာ၏၊ အခြားနေရာ၌ အသုံးမပြုသင့်ချေ။

၄။ မတ်စ်အလဟ် ပြဿနာ။ ဗလီ၏ပစ္စည်း တစ်စုံတစ်ရာကို ဥပမာ.... အုတ်ခဲ, အင်္ဂတေ, ထုံး, သစ်သား, ကျောက် အစရှိသောပစ္စည်းတစ်ခုခုကို အဘယ်မျှပင် ဆွေးမြေ့နေသော်လည်း အသုံးမကျဖြစ်နေသော်လည်း မိမိတို့လုပ်ငန်း၌ သုံးစွဲခြင်း မပြုထိုက်ချေ၊ မိမိတို့အိမ်ရာ၌လည်း မသုံးထိုက်ပေ၊ သို့သော် ယင်းသို့သော ပစ္စည်းများကို ရောင်းချ၍ ထိုဗလီကျောင်း၏ တစ်ခုခုသောနေရာ၌သာ အသုံးချထိုက်၏။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ဝပ်က်ဖ်ပြုလုပ်ခြင်း၌ ဤသို့ စည်းကမ်းသတ်မှတ်ခြင်းလည်းထိုက်၏၊ အသက်နှင့် ရှိနေသမျှကာလပတ်လုံး အတောအတွင်းမှာ ၎င်းပစ္စည်းဖြင့် ဝင်သမျှငွေအားလုံးကိုသော်လည်းကောင်း၊ တစ်ဝက်ကိုသော်လည်းကောင်း၊ သုံးပုံတစ်ပုံကိုသော်လည်းကောင်း မိမိလိုရာ၌အသုံးချလိမ့်မည်၊ ထို့နောက် ကွယ်လွန်သေဆုံးပြီးနောက်မှ မည်သည့် ကောင်းမှု ကုသိုလ်အရေး၌ အသုံးချကြရမည် ဟူ၍ ပြောဆိုပြီး ဝပ်က်ဖ်ပြုလုပ်လျှင်ဒါနီးလိုက်သောအခါ သတ်မှတ်ထားသမျှ အဝင်ငွေကို ယူခြင်းထိုက်၏၊ ဟလာလ် စားသုံးပိုင်သောပစ္စည်း ဖြစ်သွားလေသည်။

ဤသို့ပြောဆိုပြီးပြုလုပ်ခြင်းသည် အလွန်တရာမှပင်ကောင်းသော နည်းလမ်းတစ်ခုဖြစ်လေသည်၊ အဘယ်ကြောင့်ဟူမူ မိမိမှာလည်း မည်သို့မျှပင် အတိဒုက္ခ မဖြစ်သည့်ပြင် ပစ္စည်းဥစ္စာလည်း ဝပ်က်ဖ်အဖြစ်သို့ ရောက်သွားလေသည်။

ဤကဲ့သို့ပင် ပထမ ၎င်းပစ္စည်းဖြင့် ဝင်သောငွေကို သားသမီးများကို မည်ရွေ့မည်မျှ ပေးလိုက်၍ ကျန်သမျှကို မည်သည့်ကုသိုလ်၌ သုံးစွဲခြင်းပြုလုပ်ကြပါ ဟူ၍ ပြောဆိုပြီး သတ်မှတ်စည်းကမ်းချက်ထားပြီး ပြုလုပ်လျှင်လည်းပိုင်၏၊ ထိုသို့ ပြုလုပ်ပြောဆို၍ ဝပ်က်ဖ်လုပ်လိုက်သောအခါ သားသမီးများကို ထိုမျှပင်ပေးနေမည် ဖြစ်၏။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၈၂၊၃၈၃။

# ဤတွင်၍ကား ဘဟာစ်ရှိတီ ဇေဝရ်ကျမ်း

**တတိယတွဲပြီး၏။**

# ဘဟစ်ရှ်တီ ဇျေဝါင်ဟရ်ကျမ်း

# တတိယတွဲ




## ရိုဇဟ်၏ ထွတ်မြတ်ခြင်း အကြောင်း

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရိုဇဟ်စောင့်သူ၏ အိပ်ခြင်းသည် အေဗာဒတ်ဖြစ်လေသည်၊ ၎င်းဆိတ်ဆိတ်နေခြင်းသည် တတ်စ်ဗီးဟ်ဖြစ်လေသည်၊ အဓိပ္ပါယ်မှာ.... ရိုဇဟ် စောင့်သူသည် ဆိတ်ဆိတ် နေ ငြား သော် လည်း (စွဗ်ဟာနလ္လာဟ်)ဖတ်နေသော သဝါဗ်ကုသိုလ်ရပေသည်၊ ထိုရိုဇဟ်စောင့်သူ၏ အမလ် ပြုမှု ဆောက်တည်သော ကုသိုလ်ကို တိုးပွားစေတော်မူသည်၊ အဓိပ္ပါယ်မှာ .... ရိုဇဟ် စောင့်သူ ပြုမှုသော အေဗာဒတ် ကောင်းမှုကုသိုလ်များသည် အခြားလများထက် ဤလမြတ်တွင် ပိုမို၍ရရှိလေသည်၊ ထိုရိုဇဟ်စောင့်သူ၏ ဒိုအာတောင်းဆိုမှုများကို အလ္လာဟ် အသျှင်မြတ်က လက်ခံ သဘောတူတော်မူလေသည်၊ (အဓိပ္ပါယ်မှာ.... ရိုဇဟ်စောင့်လျက် တောင်းဆိုသော ဒိုအာမှာ လက်ခံမှု အပြည့်အဝ ရရှိလေသည်)၊ ထိုရိုဇဟ်စောင့်သူ၏ ဂိုနာဟ်စွဂီရဟ်များကို ပ,လပ် ခွင့်လွှတ် ချမ်းသာပေးတော်မူလေသည်။

ဗိုင်ဟကီကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ....ရိုဇဟ်သည်ဂျဟန္နမ် အပါယ် ငရဲဘုံမှ လွတ်ကင်းရန်အတွက် ဒိုင်းသဖွယ်ဖြစ်သည်၊, ၎င်း ခိုင်မာ တောင့်တင်းသော မြို့ရိုးသဖွယ် ဖြစ်သည်။

ဗိုင်ဟကီကျမ်း။

ဆိုလိုသည်မှာ....ဒိုင်းနှင့်မြှိုရိုးသည် ရန်သူမှ အကာအကွယ်ပေးလေသည်၊ ထို့အတူ ပင်ရိုဇဟ်ဥပုသ်သည် ဂျဟန္နမ်အပါယ်ငရဲဘုံမှ ကာကွယ်ပေးလေသည်၊ လူသား၏ စိတ်တွင်းမှ ဂိုနာဟ် အကုသိုလ် ကျူးလွန်ချင်စိတ် လျော့နည်းသွား၍ ကောင်းမှု ကုသိုလ်ပွားများချင်စိတ် ပိုမိုလာသည်၊ သို့ရှိရာ လူသားသည် ကရုတစ်စိုက် ရိုဇဟ်စောင့်ထိန်း၍ ရိုဇဟ်၏ စည်းကမ်းချက်များကို လိုက်နာပါက ဂိုနာဟ်ကျူးလွန်ချင်စိတ်များ ပပျောက်ကာ ဂျဟန္နမ်အပါယ်ငရဲဘုံမှ လွတ်ကင်းသွားမည် ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အတင်း နောက်ကွယ်နှင့် မုသားပြောဆိုခြင်းဖြင့် မဖျက်ဆီးသမျှကာလပတ်လုံး ရိုဇဟ်သည် ဒိုင်းသဖွယ် ဖြစ်လေသည်။ တွာဗ်ရာနီကျမ်း။

ရိုဇဟ်သည် ဒိုင်းသဖွယ်ဖြစ်သည်ဟူ၍ အထက်တွင်တင်ပြခဲ့ပေပြီ၊ ဂိုနာဟ်အကုသိုလ်မှုများကို ရှောင်ကြဉ်မှသာလျှင် ရိုဇဟ်က အကာအကွယ်ပြုပေးမည်ဖြစ်လေသည်၊ ရိုဇဟ်စောင့်ထိန်းလျက်နှင့် နောက်ကွယ် အတင်းပြောခြင်း၊ မုသားစကားပြောဆိုခြင်း စသည်များ ကျူးလွန်လျှင် ဖွရိသွ်တာဝန်ကား ကျသွားလေသည်၊ သို့သော် ကြီးလေးသော အပြစ်ဒဏ်ကို ခံကြရမည်၊ ရိုဇဟ်၏ ‘ဘရိကတ်’မင်္ဂလာ အာဖြာဖြာမှာလည်း လက်မဲ့ဖြစ်ပေမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင် သူသည် ရိုဇဟ်ထားလျက် ရှောင်ကြဉ်သောအဖြစ်နှင့် နေ့ကိုကုန်လွန်စေလျှင် ထိုသူ့အတွက် ရိုဇဟ်သည် ဂျဟန္နမ် အပါယ် ငရဲဘုံမှ ဒိုင်းသဖွယ် ဖြစ်လေသည်၊ ရိုဇဟ်ထားလျက် မိုက်မဲဆိုးယုတ်သောအမှုများမပြုရ၊ တစ်ဦးတစ်ယောက်က မိုက်မဲစွာဆက်ဆံလျှင်လည်း အစားချေသော အနေဖြင့် ထိုသူ့အား မကောင်းမပြောဆိုရ၊ ရိုင်းပြစွာ မဆက်ဆံရ၊ ကျွန်ုပ်ရိုဇဟ်နှင့်ဟုပြောဆိုလိုက်ရမည်၊ ငါရစူလ်၏အသက်ကိုစိုးပိုင်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ ကဆမ် ရိုဇဟ်စောင့်သူ၏ ပါးစပ် အနံ့သည် အလ္လာဟ်အသျှင်မြတ် ထံတော်၌ ကတိုးအနံ့ထက် ပိုမိုမွှေးကြိုင်လေသည်။ နေစာအီကျမ်း။

ဆိုလိုသည်မှာ.... ရိုဇဟ် စောင့်သဖြင့် ပါးစပ်မှ ထွက်ပေါ်သော အနံ့အသက်ကြောင့် ကေယာမတ်တွင် အနံ့အစား ရိုဇဟ်စောင့်သူ၏ ပါးစပ်သည် ကတိုးထက်ပိုမိုမွှေးကြိုင်ပေမည်၊ ထိုအနံ့ကို အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူလေသည်၊ ယခုအနံ့ဆိုး ပေါ် ထွက် သည် မှာ ကေယာမတ်တွင် မွှေးကြိုင်မည့် အကြောင်းပင် ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရိုဇဟ်စောင့်သူကို အစ်ဖ်တာရ် ဝါဖြေချိန်၌ ဒိုအာတစ်ခုတောင်းဆိုရန် အခွင့်ရှိလေသည်၊ ထိုဒိုအာကိုလက်ခံ ‘ကဘူလ်’ပြုရန် (သီးခြားသော) ကတိပြုချက်ရှိလေသည်။ ဟာကင်မ်ကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ပုဂ္ဂိုလ်နှစ်ဦးအား မိန့်တော်မူသည်မှာ.... ရှိဇဟ်သည် ဂျဟန္နမ် အပါယ် ငရဲဘုံမှ အကာအကွယ် ပြုမည့် ဒိုင်းသဖွယ် ဖြစ်ခြင်းနှင့် လောက၏ ဒုက္ခများမှ လွတ်ကင်းစေမည့် အကြောင်းဖြစ်သောကြောင့် သင်တို့ ရှိဇဟ်ကို စွဲမြဲစွာထားကြကုန်၊ (အစ်ဖ်နိ နက်ဂျ်ဂျာရ်ကျမ်း)ဆိုလိုတော်မူသည်မှာ... ရှိဇဟ်စောင့်ထိန်းခြင်းဖြင့် ဂျဟန္နမ် အပါယ်ငရဲဘုံ၏ ဒုက္ခများနှင့် လောကီဒုက္ခများမှ လွတ်ကင်းမှုရမည် ဖြစ်လေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ဟလာလ် ဖြစ်သော အစားအစာကို စားသောက်သူ (၃)ဦး၏ စားသောက်မှုကို ကောယာမတ်နေ့၌ စာရင်းကောက်ယူတော်မူမည် မဟုတ်ပေ။

(၁) ရှိဇဟ်စောင့်သောသူ။
(၂) စဲဟ်ရီညဉ့်ထမင်းစားသူ။
(၃) အသျှင်မြတ်လမ်းတော်တွင်စောင့်ရှောက်သူ။
(မွတ်စလင်မ်နိုင်ငံ နယ်စပ်တွင် နေ၍ ကာဖွင်ရ်များမှ မွတ်စလင်မ်နိုင်ငံကို ထိန်းသိမ်းစောင့်ရှောက်ရသောသူ)။

တွာဗ်ရာနီကျမ်း။

ဤဟဒီးသ်တော်မြတ်တွင် ရှိဇဟ်စောင့်သူ၊ စဲဟ်ရီညဉ့်ထမင်းစားသူ၊ မွတ်စလင်မ် နိုင်ငံ နယ်စပ်ကို စောင့်ရှောက်သောသူ၏ ထူးကဲ မွန်မြတ်ပုံများကို ပြထားလေသည်၊ ထိုပုဂ္ဂိုလ်များ စားသောက်သော စာရင်းကို မယူတော်မူဘဲ ခွင့်လွှတ်တော်မူလေသည်။

ဤသို့ ခွင့်လွှတ်ထားသည်ကို အခွင့်ကောင်းယူ၍ ရသာစုံ အဖိုးတန် စားသောက်ဖွယ်များကိုချည့် စားသောက်နေရန် မသင့်ပေ၊ အဆင့်အတန်းမြင့်သော စားသောက်ဖွယ်များကို စားသုံးခြင်းဖြင့် အလ္လာဟ်အသျှင်မြတ်ကို မေ့လျော့သွားပေမည်၊ ဂိုနာဟ် အကုသိုလ် ဒုစရိုက်များ ကျူးလွန်ချင်စိတ် ပေါ်ပေါက်လာပေမည်၊ အလ္လာဟ်အသျှင်မြတ်၏ နဲအ်မတ် စည်းစိမ်တော်ကို ဂုဏ်ပြုလေးစားရန်ထိုက်ကြောင်းကို ကောင်းစွာသတိပြုသင့်ကြပေသည်၊ ထိုစည်းစိမ်တော်ကို အမိန့်တော်မြတ်များအား တသဝေ မတိမ်း လိုက်နာဆောက်တည်၍ ကျေးဇူးဆပ်ကြရန် သင့်ပေ၏။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရှိဇဟ် စောင့်သော သူကို အစ်ဖ်တာရ် ဝါလွတ် ကျွေးမွေးလျှင် ရှိဇဟ်စောင့်သူမှာ ကုသိုလ် သဝါဗ် မလျော့ဘဲ ကျွေးသူသည် ရှိဇဟ်စောင့်သူနှင့်အညီအမျှ ကုသိုလ်သဝါဗ်ရမည်ဖြစ်လေသည်၊ (ရှိဇဟ်စောင့်သူ၏ကုသိုလ်သည် လျော့နည်းသွားမည်မဟုတ်ပေ၊ အလ္လာဟ်အသျှင်မြတ်က

မိမိအလိုရှိသနားတော်မြတ်ဖြင့် ကျွေးမွေးသူကို ရှိဇဟ်စောင့်သူနှင့်အမျှ ကုသိုလ် သဝါဗ်ပေးတော်မူမည်ဖြစ်လေသည်၊) ကျွေးမွေးသည်ဆိုရာ၌ ရေတစ်ခွက်ပင်တိုက်လျှင် ကျွေးမွေးရာ ရောက်လေသည်။

အဟ်မဒ်ကျမ်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့် တော် မူ သည် မှာ.... ကေန်မုချ အလ္လာဟ် အသျှင်မြတ်က လူသားတို့၏ ကောင်းမှု ကုသိုလ်ကို (၁၀)ဆမှ အဆပေါင်း (၇၀၀)ထိ တိုးတက် ပေးသနားတော်မူလေသည်၊ ရှိဇဟ် စောင့်သူ၏ အကျိုးအခကို ငါအသျှင်မြတ်ကိုယ်တိုင် ပေးသနားတော်မူမည်ဟု မိန့်ထားလေရာ အဆပေါင်း (၇၀၀) ထက် ပိုမည်ပင် ဖြစ်လေသည်။

ဤဟဒီးသ်တော်မြတ်အရ ရှိဇဟ်၏ တန်ခိုးဂုဏ်ကြီးမြင့်သည်ကို ခန့်မှန်းကြည့်ကြရန် ထိုက်လေသည်၊ သဝါဗ်ကုသိုလ် မည်မျှများပြားသွားမည်ကို တွက်စစ်၍ပင် မရနိုင်ပေ၊ ထို အကျိုးအခကို အလ္လာဟ်အသျှင်မြတ် ကိုယ်တိုင် ပေးသနားတော်မူမည် ဖြစ်လေသည်၊ ဖွရစ်ရှိတဟ်များမှတဆင့် ပေးတော်မူမည်မဟုတ်ပေ၊ စွဗ်ဟာနလ္လာဟ် အနည်းငယ်မျှသော ကြိုးစားခြင်းဖြင့် အလ္လာဟ်အသျှင်မြတ်က အကျိုးအခ မြောက်မြားစွာ ပေးသနားတော်မူလေသည်၊ ရှိဇဟ်၏ 'အာဒါဗ်' လိုက်နာရန်အချက်များကို ကျင့်သုံးဆောက်တည်မှသာ လျှင် ဤမျှ များပြားသော အကျိုးသဝါဗ်များ ရမည်ဖြစ်လေသည်၊ ရှိဇဟ်စောင့်လျှက် မုသားနှင့် နောက်ကွယ်စကားများမှ ရှောင်ကြဉ်ရပေမည်။

အချို့ သူတို့သည် ရမသွာန်လမြတ်၌ ဂရုမစိုက်ဘဲ ဖွဂ်ျရ်နမာဇ်ကို ကသွာပြုလိုက်ကြလေသည်၊ ထိုသူများ ဤသို့သော ဘရ်ကတ်နှင့် အကျိုးသဝါဗ် ရကြမည်မဟုတ်ပေ။

တင်ပြပါဟဒီးသ်တော်မြတ်အရ ရှိဇဟ်သည် နမာဇ်ထက် သာမြတ်သည်ဟု မထင်မှတ်ရာ၊ အဘယ်ကြောင့် ဆိုသော် နမာဇ်သည် အေဗာဒတ်များတွင် အသာအမြတ်ဆုံး ဖြစ်လေသည်၊ ဟဒီးသ်တော်မြတ်၏ သဘောမှာ ရှိဇဟ်သည် အမြတ်ဆုံး ဖြစ်သည် ဟူ၍ မဟုတ်ဘဲ အကျိုး သဝါဗ် ကြီးမား များပြားသည်ဟူ၍ပင် ဖြစ်လေသည်။

ကေန်မုချ ရှိဇဟ်ထားသူအတွက် ပျော်ရွှင်ဖွယ် နှစ်ရပ် ရှိလေသည်၊ အစ်ဖ်တာရ် ဝါလွတ်သော အချိန်နှင့် ကေယာမတ်တွင် (ဒီဒါရ်) တွေ့ဆုံရသောအခါ ဖြစ်လေသည်၊ အချို့ ဟဒီးသ်တော်များ၌ အတိအလင်း လာရှိလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရမသွာန်လတစ်ရက် နေ့၌ မိုးကောင်းကင်၏တံခါးများကို ဖွင့်တော်မူလိုက်သည်၊ ရမသွာန်လ မကုန်ဆုံးမခြင်း မည်သည့် တံခါးကိုမျှ ပိတ်တော်မမူပေ၊ ၎င်း မည်သည့် မွတ်စလင်မ်မဆို ရမသွာန်လ၏ ညများတွင် နမာဇ်ဖတ်လျှင် တစ်ရကအတ်အစား အဆပေါင်း(၂၅၀၀) ကုသိုလ်သဝါဗ် များပေးတော်မူလေသည်၊ ၎င်းအလ္လာဟ်အသျှင်မြတ်က ၎င်းသူအတွက် ဂျန္နတ် ဥယျာဉ်

ဘုံနန်း၌ သန္တာရောင်ပုလဲဖြင့် အစီပြီးသော နန်းတော် တစ်ဆောင် ပေးတော်မူမည်၊ ထိုနန်းတော်တွင် တံခါးပေါက် (၆၀) ရှိသည်၊ တံခါးပေါက်တိုင်းတွင် သန္တာရောင်ပုလဲများ စီ၍ ရွှေနှင့်ဆောက်လုပ်ထားသော ဗိမာန်တစ်ဆောင်စီ ရှိလေသည်။

အကြင်သူသည် ရမသွာန်လ ပထမရက်၏ရိုဇာဟ်ကိုထားလျှင် လွန်ခဲ့သောရမသွာန်မှ (၁-နှစ်အတွင်း)ပြုမူခဲ့သော ဂိုနာဟ်စဂီရဟ်များကို ပလပ်ချမ်းသာခွင့် ပေးတော်မူလေသည်၊ ၎င်းထိုသူအတွက် နေ့စဉ် ဖဂျ်ရ်နမာဇ်ချိန်မှ နေဝင်သည့်အထိ ဖွရစ်ရှ်တဟ်ပေါင်း (၇၀)က မဂ်ဖွေရတ် ချမ်းသာဆု ပေးရန် တောင်းဆိုပေးနေကြလေသည်၊ ၎င်းရမသွာန် လမြတ်၌ နေ့မှာဖြစ်စေ၊ ညမှာဖြစ်စေ နမာဇ်ဖတ်ပါက တစ်ရက်အတ်အစား နှစ်ပေါင်း ၅၂၅-နှစ်မျှ ခရီးသွားရလောက်အောင် ကျယ်ပြန့်သော အရိပ်ရှိသည့် သစ်ပင်တစ်ပင်ကို ဂျန္နတ်ဥယျဉ်ဘုံနန်းတွင် ရရှိမည်ဖြစ်လေသည်။

ဤမျှမြင့်မြတ်ထူးကဲလှသောရမသွာန်လ၏ရိုဇာဟ်ကို မွတ်စလင်မ်တို့သည် လက်လွှတ်ခြင်းနှင့် ကသွာဖြစ်စေကြရန်မထိုက်ပေ၊ တတ်နိုင်လျှင် နဖိလ်ရိုဇာဟ်များလည်း ထားကြကုန်၊ အလ္လာဟ်အသျှင်မြတ်အား တစ်စိတ်တစ်လက်ဖြင့် ချစ်ခင်ကြကုန်၊ အကြင် အသျှင်မြတ်က အနည်းငယ်မျှ မပြောပလောက်သောအကြိုးစားမှုဖြင့် ဤမျှကြီးမားသော အကျိုးသဝါဗ်များကို ပေးတော်မူလေသည်၊ အနည်းဆုံး ဂျန္နတ်ဥယျာဉ်ဘုံနန်းတွင် စည်းစိမ်ကြီးများ ရရှိရန်အလို့ငှာ အလ္လာဟ်အသျှင်မြတ်ကို ချစ်ခင်သမှု ထားကြကုန်လော့။

ရစူလွလ္လာတ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရမသွာန် လမြတ်အတွက် အမှန်မုချ နှစ်အစကတည်းက နှစ်အဆုံးအထိ ဂျန္နတ်ကို ဆင်ယင်သမှုပြုလေသည်၊ ရမသွာန် လမြတ်တွင် ရိုဇာဟ်ထားသူများအတွက် နှစ်အစမှ နှစ်အဆုံးအထိ မျက်လုံးပြူးသော (ဟူရ်)ကညာပျိုများသည် ဖီးလိမ်းကြလေသည်။

ရမသွာန်လမြတ် ကျရောက်လာသောအခါ ဂျန္နတ်ကပြောသည်မှာ အို-အသျှင်မြတ် ရိုဇာဟ်စောင့်သူများကို ကေယာမတ်တွင် ဂျန္နတ်သို့ ပို့ဆောင်ပေးတော်မူပါ၊ မျက်လုံးဝိုင်းကျယ်လှပသော ဟူရ် ကညာပျိုများက ပြောသည်မှာ.... အို-အသျှင်၊ ဤလမြတ်တွင် အသျှင်မြတ်၏ ဗန္ဒဟ်များအနက် ရိုဇာဟ် စောင့်သူများကို ကျွန်မတို့ ခင်ပွန်း လင်အဖြစ် သတ်မှတ် အတည်ပြုပေးတော်မူပါ။

ရမသွာန်လမြတ်တွင်မွတ်စလင်မ်တစ်ဦးတစ်ယောက်အားမတရားမစွပ်စွဲလျှင်၊ သေရည် သေရက် မသောက်စားလျှင် အလ္လာဟ်အသျှင်မြတ်က ၎င်းသူ၏ ဂိုနာဟ်များကို လွတ်ငြိမ်း ချမ်းသာခွင့် ပေးတော်မူလေသည်။

အကြင်သူသည် ရမသွာန်လမြတ်၌ မွတ်စလင်မ်တစ်ဦးတစ်ယောက်ကို မတရားစွပ်စွဲလျှင် သေရည်သေရက်သောက်စားလျှင် အလ္လာဟ်အသျှင်မြတ်က ၎င်းသူ တနှစ်လုံးပြုမူခဲ့သော ကုသိုလ်သဝါဗ်များကို ပယ်ဖျက်တော်မူမည်၊ (ဆိုလိုသည်မှာ.... အပြစ်ကြီးစွာခံရမည်ဖြစ်သည်) အဘယ်ကြောင့်ဆိုသော် မြင့်မြတ်သော ရက်များ၌ ပြုမူဆောက်တည်သော အမလ်များ၏အစား ကုသိုလ် သဝါဗ် ပိုမိုရရှိလေရာ မကောင်းမှု အကုသိုလ်ကျူးလွန်လျှင်လည်း ပိုမို၍ပင် အပြစ်ကြီးလေသည်၊ ဤမိန့်ခွန်းတော်တွင် ပါရှိသော သတိပေးချက်ကို စဉ်းစားဆင်ခြင်သင့်ကြပေသည်။

သို့ရှိရာ ရမသွာန် လမြတ်၌ သတိပြုကြကုန်လော့၊ ထိုလမြတ်သည် အလ္လာဟ်အသျှင်မြတ်၏ သီးခြားသော လဖြစ်သည်၊ ဤလတွင် စားသောက်မှုကို စွန့်လွှတ်၍ အလ္လာဟ်အသျှင်မြတ် ခလေ့တော်အတိုင်း နေကြရမည်၊ အဘယ့်ကြောင့် ဆိုသော် အလ္လာဟ်အသျှင်မြတ်သည် စားသောက်ခြင်းမှ ကင်းစင်တော်မူသည်၊ လအားလုံးကို အလ္လာဟ်အသျှင်မြတ်သာ ပိုင်ဆိုင်တော်မူသော်လည်း ရမသွာန်လကို အလ္လာဟ်အသျှင်မြတ်လ ဟူ၍ဂုဏ်ထူးဝိသေသ တပ်ထားတော်မူသည်၊ သင်တို့စားသောက်ကြရန် အတွက် အလ္လာဟ်အသျှင်မြတ်က ၁၁-လ သတ်မှတ် ထားတော်မူသည်၊ ထိုလများတွင် စားသောက်၍ အရသာခံစားကြကုန်၊ အလ္လာဟ်အသျှင်မြတ်က မိမိအတွက် လတစ်လကို သတ်မှတ်ထားတော်မူသဖြင့် ထိုလမြတ်တွင် စားသောက်ခြင်းမှ တားမြစ် ထားတော်မူလေသည်။

သို့ရှိရာ ရမသွာန်လမြတ်၌ မကောင်းမှုများမှ ရှောင်ရှားကြကုန်လော့၊ အဘယ်ကြောင့်ဆိုသော် ထိုလမြတ်သည် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်၏ လတော်ဖြစ်လေသည်။

သို့ရှိလေရာ ထိုလမြတ်၌ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို တသဝေမတိမ်း လိုက်နာဆောက်တည်ပြုမူကြကုန်၊ ဂိုနာဟ် ဒုစရိုက်မကောင်းမှုများမှ ရှောင်ကြဉ်ကြကုန်လော့၊ အမြဲထာဝရ ဂိုနာဟ်မကောင်းမှုများမှ ရှောင်ကြဉ်ကြရန်ဖြစ်သော်လည်း ထူးမြတ်သောရက်များ မက်ကကဟ် မြို့တော် မဒီနာ မြို့တော်များ၌ ပို၍ပင် ဂရုတစိုက်ရှောင်ကြဉ်ကြရပေမည်၊ သီးခြား၍ ရမသွာန်လမြတ်တွင် ကောင်းမှု ကုသိုလ် အမလ်ပွားများခြင်းနှင့် မကောင်းမှု ဂိုနာဟ်ကျူးလွန်မှုများကို အလေးတယူဂရုတစိုက် သတိမူကြရန်ထိုက်ပေသည်၊ အဘယ်ကြောင့်ဆိုသော် ထူးမြတ်သောလများ၌ ကောင်းမှုပြုလျှင် ကုသိုလ်သဝါဗ် ပိုမိုရရှိ၍၊ မကောင်းမှုပြုလျှင် အပြစ် ဂိုနာဟ် ပိုမိုကြီးလေးသောကြောင့် ဖြစ်လေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... သင်တို့အနက် တစ်ဦးတစ်ယောက်သည် ရိဇဟ် ဝါလွတ်ရန်အတွက် စားသောက်ဖွယ်များ အသင့်ပြင်ပြီးလျှင် ရိဇဟ် မလွတ်မီ ဤဒိုအာကိုဖတ်ဆိုရမည်။

بِسْمِ اللّٰهِ وَالْحَمْدُ لِلّٰهِ اَللّٰهُمَّ لَكَ صُمْتُ وَعَلٰى رِزْقِكَ اَفْطَرْتُ

وَعَلَيْكَ تَوَكَّلْتُ سُبْحَانَكَ وَتَقَبَّلْ مِنِّيْ اِنَّكَ اَنْتَ السَّمِيْعُ الْعَلِيْمُ

ဗစ်မစ်လာဟေ့၊ ဝလ်ဟမ်ဒို လစ်လာဟေ့၊ အလ္လာဟုမ်မ၊ လက၊ စွမ်တို၊ ဝအလာ၊ ရစ်ဇ်ကေ့က၊ အဖ်တွာရ်တို၊ ဝအလိုင်က၊ တဝပ်ကလ်တို၊ စုဗ်ဟာနက၊ ဝဗေ့ဟမ်ဒေ့က၊ ဝတကႃတ်ဗလ်မင်နီ၊ အင်န်နက၊ အန်တပ်စ်စမီအူလ်အလီးမ်။

(ဝဗေ့ဟမ်ဒေ့က၊ ဘလေဇက်ထဲပါမသွားသည်ကို ထည့်ဖတ်ပါ)။

အလ္လာဟ်အသျှင်မြတ်၏ နာမတော်ဖြင့် အဦးအစပြုပါ၏၊ ၎င်းချီးမွမ်းထောပနာ ပြုပြုသမျှအပေါင်းသည် အလ္လာဟ်အသျှင်မြတ် အတွက်သာတည်း၊ အို...အသျှင် ကျွန်တော်မျိုးသည် အသျှင်မြတ်အတွက် ရိုဇဟ်စောင့်ပါသည် ၎င်းအသျှင်မြတ်၏ ရိဇ်ဖြင့် 'အစ်ဖ်တာရ်' ဝါလွှတ်ပါသည်၊ ၎င်းအသျှင်မြတ်အပေါ်တွင် မှီခိုအားထားပါသည်၊ အသျှင်မြတ်သည် သန့်ရှင်းတော်မူပါ၏၊ ၎င်းချီးမွမ်းထောပနာအပေါင်းနှင့် ထိုက်သက်တော်မူပါ၏၊ ကျွန်တော်မျိုး၏ တောင်းဆုများကို လက်ခံတော်မူပါ၊ ဧကန်မုချ ကိုယ်တော် အသျှင်သည် အကြွင်းမဲ့ ကြားသိတော်မူသော အသျှင်သခင် ဖြစ်တော်မူပါ၏။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ .... သင်တို့အနက် မည်သူသည် ရိုဇဟ်လွှတ်လျှင် စွန်ပလွံခြောက်နှင့် လွှတ်ရန်ထိုက်သည် အဘယ့်ကြောင့်ဆိုသော် စွန်ပလွံခြောက်တွင် ဘရ်ကတ်ရှိလေသည်၊ စွန်ပလွံခြောက်မရလျှင် ရေဖြင့် ရိုဇဟ်လွှတ်ကုန်၊ ရေသည်သန့်ရှင်းစေသော အရာဖြစ်သည်။ အစ်ဗ်နို့ခိုဇိုင်မဟ်ကျမ်း။

အချို့ ဟဒီးသ်တော်များတွင် နို့ဖြင့်ရောထားသော ရေနှင့် ရိုဇဟ်လွှတ်ကြရန် လည်း လာရှိပေသည်။

مَنْ صَامَ اَرْبَعِيْنَ صِيَامًا مَا يُرِيْدُ بِهٖ اِلَّا وَجْهَ اللّٰهِ تَعَالٰى

لَمْ يَسْئَلِ اللّٰهَ اِلَّا اَعْطَاهُ

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် ရက်ဖေါင်းလေးဆယ် ရိုဇဟ်ကို အခြား အလိုဆန္ဒ လုံးဝမပါဘဲ အလ္လာဟ်အသျှင်မြတ် သဘောတူ နှစ်မြို့ရန် သက်သက်ဖြစ်လျှင် ရေယာနှင့် လိုလားချက်များမပါဘဲ အလ္လာဟ် အသျှင်မြတ်ထံ တောင်းဆိုမှုများလည်းမပြုလျှင် ထိုသို့အလိုဆန္ဒမပါဘဲ အရက်လေးဆယ် ရိုဇဟ်စောင့်သဖြင့် ဒိုအာများသည် (ကဗူလ်) ဖြစ်စ ပြုလေသည်၊ ဤသို့သောသူ၏ ဒိုအာများကို အလ္လာဟ်အသျှင်မြတ်က သင့်လျော်သည်ဖြစ်က အားလုံးကိုလက်ခံ(ကဗူလ်) ပြုတော်မူလေသည်။

ထို့ကြောင့် စူဖွီယဟ် (ရဟမတွလ္လာဟ်) သခင်များက (ကျစ်လဟ်) ထိုင်ခြင်းကို သတ်မှတ်ကြလေသည်၊ ရက်ပေါင်းလေးဆယ်၊ လောက၏ လုပ်ငန်းဆောင်တာများကို လွှတ်၍ ဗလီဝတ်ကျောင်းတော်တစ်ခု၌ ထိုင်ကာ အေဗာဒတ်ပြုနေခြင်း၊ ရိုဇဟ်စောင့်နေခြင်းဖြင့် မြောက်မြားစွာသော အကျိုးကျေးဇူးများရှိလေသည်၊ သာသနာနှင့်ကောင်းမှုများအတွက် အားသုစ်ဖြစ်စေသည်၊ ထိုကောင်းမှု၏ (ဘရ်ကတ်) ဖြင့် အလ္လာဟ်အသျှင်မြတ် ဘက်တော်မှ သီးခြားသော အင်လ်မ်အသိဉာဏ်ပညာ ရရှိလေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် မွန်မြတ်သောလ၌ ကြာသပတေး, သောကြာ, စနေ နေ့များတွင် ရိုဇဟ် ထားလျှင် အလ္လာဟ်အသျှင်မြတ်က နှစ်ပေါင်း (၇၀၀) အေဗာဒတ်ပြုခြင်း အကျိုးသဝါဗ်ကို ပေးတော်မူမည်။

မွန်မြတ်သောလများမှာ ရဂျဗ်လ, သင်လ်ကအ်ဒဟ်လ, သင်လ်ဟဂ်ျလ ၁၀ ရက် (အီဒွလ်အသွဟာ ပထမ ၁၀ ရက်) မုဟရ်ရမ်လ, သို့သော် သင်လ်ဟဂ်ျ လဆန်း ၁၀ ရက် နေ့တွင် ရိုဇဟ်မထားရပေ။

مَنْ صَامَ ثَلَاثَةَ أَيَّامٍ مِنْ شَهْرٍ حَرَامٍ الْخَمِيسِ وَالْجُمُعَةِ وَالسَّبْتِ

كَتَبَ اللّٰهُ تَعَالٰى عِبَادَةَ سَنَتَيْنِ انتهى

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် မွန်မြတ်သောလ၌ ကြာသပတေး, သောကြာ, စနေနေ့သုံးရက် ရိုဇဟ်ထားလျှင် အလ္လာဟ်အသျှင်မြတ်က ကေယာမတ်နေ့တွင် ထိုသုံးရက် ရိုဇဟ်အစား ၂-နှစ်အေဗာဒတ်ပြုခြင်း၏ အကျိုးသဝါဗ်ကို ရေးမှတ်တော်မူပေမည်။

# အဲ့တေကာဖ်၏ ထွတ်မြတ်ခြင်း အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် ရမဿာန်လနောက်ဆုံး(၁၀)ရက်တွင် အဲ့တေကာဖ်ထိုင်လျှင် ထိုသူသည် ဟဂ်ျနှစ်ကြိမ် အွမ်ရဟ်နှစ်ကြိမ် အကျိုးသဝါဗ် ရမည်ဖြစ်လေသည်။ ဗိုင်ဟကီကျမ်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် ဘာသာရေးအရ လုပ်ဆောင်ရမည်ဟု ယူဆ၍ လည်းကောင်း၊ သဝါဗ် ကုသိုလ်ရရန် မက်ဖြင့်လည်းကောင်း၊ အဲ့တေကာဖ်ထိုင်လျှင် ထိုသူ နောက်နောင်က ပြုမူကျူးလွန်ခဲ့သော ဂိုနာဟ်စွဂီရဟ်များ လွှတ်ငြိမ်းချမ်းသာခွင့် ရရှိလေသည်။ ဗိုင်လမီကျမ်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ရက် ပေါင်း လေးဆယ် မွတ်စလင်မ်နိုင်ငံ၏နယ်စပ်ကို စောင့်ရှောက်တာဝန်ကျသော်သူသည် ရောင်း ဝယ် ဖောက်ကားခြင်းနှင့် ဗိုဒအတ်တရားသစ် လုပ်ငန်းများကို မလုပ်လျှင် ထိုသူသည် အမိဝမ်းတွင်းမှ မွေးဖွားလာသည့်အလား ဂိုနာဟ်စွဂီရဟ်များမှ လွတ်ကင်းချမ်းသာမှု ရလေသည်။

ဟဒီးသ်တော်မြတ်၏ ဆိုရင်းသဘောမှာ အစ္စလာမ်နိုင်ငံနယ်ဇပ်တွင် တာဝန်ထမ်း ဆောင်နေယင်း လောကီအလုပ်များကိုစွန့်လွှတ်၍ နမာဇ်၊ ရိုဇာဟ်စသည်များ၌ မွေ့လျော် နေကာ ဂိုနာဟ်များမှရှောင်ကြဉ်၍ စိတ်အတွင်းအပြင် ထိန်းသိမ်းသူကိုဆိုလိုသည်။

စူဖီယာဟ်(ရဟမတွလ္လာဟ်) သခင်များသည် ဤသည်ကို (ကျစ်လဟ်) ထိုင်ခြင်းဟု ခေါ်ဝေါ် သမုတ်ကြလေသည်။

# လိုင်လတွလ်ကာဒ်ရ်နေ့၏ ထွတ်မြတ်ခြင်းအကြောင်း

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ (လိုင်လတွလ်ကဒ်ရေ့) ကဒ်ရ်ညဉ့်မြတ် သည် လပေါင်းတစ်ထောင်ထက် သာမြတ်ပေသည်၊ ဆိုလိုသည်မှာ ဤညဉ့် အေဗာဒတ် ကုသိုလ်ပွားခြင်းသည်အခြားရက်များတွင် လပေါင်းတစ်ထောင် အေဗာဒတ်ပြုသည်ထက် သာမြတ်လေသည်။

အေမာမ်စိုယူတွီ (ရဟမတွလ္လာဟ်) သခင်က လိုဗာဗွလ်နို့ကူလ် ကျမ်းတွင် ရေးသားသည်မှာ ဘနီအစ်ရာအီးလ် အနွယ်အနက် ပုဂ္ဂိုလ်တစ်ဦးသည်လပေါင်းတစ်ထောင် လက်နက်ဆွဲကိုင်၍ အလ္လာဟ်အသျှင်မြတ် လမ်းတော်တွင် (ဂျေဟာဒ် တိုက်ခိုက်ခဲ့ကြောင်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်ကြားတော်မူသောအခါ ဆွဟာဗဟ်ရသွေ့) သခင်များသည် ဤသို့စည်းစိမ် အဘယ်မှာ ရနိုင်မည်နည်းဟု အံ့သြနေတော်မူကြ၏၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်က ဤအာယတ်တော်ကို ချပေးသနားတော်မူခြင်း ဖြစ်လေသည်၊ ကဒ်ရ်ညဉ့်မြတ်သည် ထိုပုဂ္ဂိုလ် လပေါင်းတစ်ထောင် (ဂျေဟာဒ်)ပြုခဲ့သည် ထက် သာမြတ်သည်ဟူ၍ဖြစ်၏။

အခြားဟဒီးသ်တော်တွင် လာရှိသည်မှာ ဘနီအစ်ရာအီးလ် အနွယ်တွင် ပုဂ္ဂိုလ် တစ်ဦးရှိလေသည်၊ ထိုပုဂ္ဂိုလ်သည် လပေါင်းတစ်ထောင်ထိ ညတွင်အေဗာဒတ် ခ-ဝပ်သမှု ပြု၍ နေ့တွင်လက်နက် ဆွဲကိုင်ကာ အလ္လာဟ်အသျှင်မြတ် လမ်းတော်တွင် ဂျေဟာဒ်ပြုလေ သည်၊ ထိုအတွက်ကြောင့် ထိုပုဂ္ဂိုလ်သည် လပေါင်းတစ်ထောင် ညတွင် အေဗာဒတ်ပြု၍ နေ့တွင် ဂျေဟာဒ်ပြုသည်ထက် သာမြတ်သည်ဟူ၍ ဤအာယတ်တော်မြတ် ကျရောက် သည်ဟု မိန့်လေသည်။

အို...မွတ်စလင်မ် ယောကျ်ား မိန်းမ အပေါင်းတို့၊ ဤထွတ်မြတ်သော ညဥ့်ကို တန်ဘိုး ထားကြကုန်လော့၊ အနည်းငယ်မျှ ကြိုးစားခြင်းဖြင့် မြောက်မြားစွာသော အကျိုးသဝါဗ်များ ရရှိပေသည်၊ ထိုညဥ့် သီးခြား၍ ဒိုအာများ ကဘူလ်ဖြစ်လေသည်၊ အကယ်၍ တစ်ညတာလုံး အေဗာဗတ်မပြုနိုင်လျှင် ရသမျှပြုကြကုန်၊ စိတ်အားလျှော့၍ လုံးဝ လက်မဲ့ ဖြစ်မသွားစေကြနှင့်။

ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရမသွာန်လမြတ် သည် သင်တို့ထံ ရောက်လာလေပြီ၊ ထိုလ၌ လပေါင်း တစ်ထောင်ထက် သာမြတ်သော လတစ်လပါရှိလေသည်၊ ထိုလ၏ဘရိကတ်များမှ လက်မဲ့ဖြစ်သူသည် ဆုံးရှုံးမှုအတိ ဖြစ် လေသည်။ အစ်ဗ်နို့မာဂျဟ်ကျမ်း။

ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အလ္လာဟ်အသျှင် မြတ်သည် အလိုတော် ရှိခဲ့ပါလျှင် လိုင်လတွလ်ကဒ်ရ် ညဥ့် မြတ် ကို အသိပေးခဲ့မည်၊ (အချို့ ဟစ်က်မတ်တော်ကြောင့် ဖုံးကွယ်၍ထားတော်မူသည်)၊ ထို့ကြောင့် သင်တို့သည် ရမသွာန်လ နောက်ဆုံး(၇)ရက်တွင် ရှာဖွေကြကုန်။ ဟာကင်မ်ကျမ်း။

နောက်ဆုံး(၇)ရက်တွင် ကဒ်ရ်ညဥ့်မြတ် ပါရှိမည်ဟု အထင်များသဖြင့် ထိုညများ တွင် အမလ်-အေဗာဒတ် မြားမြောင်စွာပြုကြရန် မိန့်ဆိုတော်မူခြင်းဖြစ်လေသည်။

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ .... လိုင်လတွလ် ကဒ်ရ်ညဥ့်မြတ်သည် ရမသွာန်လတိုင်းတွင် ပါရှိလေသည်။ အဘူဒါဝူးဒ်ကျမ်း။

ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကဒ်ရ်ညဥ့်သည် ၂၇-ရက်ညဥ့်တွင် ဖြစ်ရန်များသည်။ အဘူဒါဝူးဒ်ကျမ်း။

ကဒ်ရ်ညဥ့်မြတ်သည် မည်သည့်နေ့ရက်တွင် ကျရောက်သည်ဆိုရာ၌ အလ္လာဟ်အသျှင် မြတ်သာလျှင် သိတော်မူသည်၊ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မ,ရက်များတွင် အထင်များသည် ဟူ၍ ဟဒီးသ်မြောက်မြားစွာ လာရှိပေသည်။

ရမသွာန်လ နောက်ဆုံး(၁၀)ရက်တွင် ပြုနေကျ အမလ်အေဗာဒတ်ထက် ပိုမို၍ ပြုကြရပေမည်၊ ကဒ်ရ်၏ အထိမ်းအမှတ်များ တွေ့ရသည်ဖြစ်စေ၊ မတွေ့ရသည်ဖြစ်စေ အေဗာဒတ်ပြု၍ ဘရ်ကတ် ယူကြရပေမည်။

(လိုင်လတွလ်ကဒ်ရ်ညဥ့်မြတ် အကြောင်းနှင့်ပတ်သက်၍ ဖွသွာအေ့လေ့ ရမသွာန် ကျမ်းကို ကြည့်ပါ)။

## တရာဝီးဟ် နမာဇ်၏ ထွတ်မြတ်ခြင်း အကြောင်း

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကောန် အမှန် အလ္လာဟ်အသျှင်မြတ်က သင်တို့အပေါ်တွင် ရမသွာန်လမြတ်၏ ရိုဇဟ်ကို ဖွရ်သွ် ပြုထား

တော်မူသည်၊ ညဘွဲ့ရပ်ခြင်း(တရာဝီးဟ်)နမာဇ်ကို စုန္နတ်ပြုထားတော်မူလေသည်၊ သို့ရှိရာ အကြင်သူသည် အီမာန်ခိုင်မြဲလျက် သဝါဗ်၏နိယတ်ထားကာ ရိဇာဟ်စောင့်၍ တရာဝီးဟ် နမာဇ်ကိုဖတ်လျှင် ထိုသူ၏ ဂိုနာဟ်စဂီရဟ်အားလုံး လွတ်ငြိမ်းချမ်းသာခွင့်ရလေသည်။

နေစာအီနှင့်ဗိုင်ဟာကီကျမ်း။

ထို့ကြောင့် ဤလမြတ်၌ မြောက်မြားစွာသော ကောင်းမှုများ ပြုမူဆောက်တည် ကြရန်ထိုက်ပေသည်၊ ဖွရ်သွ်တစ်ခုကိုတာဝန်ချလျှင် ဖွရ်သွ် ၇၀-၏အကျိုးသဝါဗ် ရလေသည်၊ နဖ်လ်လုပ်ငန်းတစ်ခုပြုမူလျှင် ဖွရ်သွ်၏ အကျိုးရလေသည်။

## အီးဒ်နှစ်ည၏ ထွတ်မြတ်ခြင်း အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် အီဒွလ်ဖွစ်တ်ရ် နှင့် အီဒွလ်အဒ္ဓဟာ ညတွင် အေဗာဒတ်ပြု၍ နိုးကြားနေလျှင် စိတ်များ သေမည့်နေ့၌ ထိုသူ၏စိတ်သည် သေမည်မဟုတ်ပေ။

တွာဗ်ရာနီကျမ်း။

ကေယာမတ်ကမ္ဘာ့တရားခွင်တွင် လူတို့သည် ကြောက်ခမန်းလိလိ ဖြစ်ရပ်များနှင့် ရင်ဆိုင်နေကြရလေရာ ထိုအချိန်၌ အီးဒ်နှစ်အီးဒ်တွင် အေဗာဒတ်ပြုသူများ၏ စိတ်သည် တုန်လှုပ်ခြင်းမှ ကင်းစင်ကြမည် ဖြစ်လေသည်။

အီးဒ်ညဟု ဆိုရာ၌ မြန်မာအသုံးမှာ- အီးဒ်မတိုင်မီည ဖြစ်လေသည်။

## လှူဒါန်းခြင်း၏ အကျိုးကျေးဇူးများ အကြောင်း

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရက်ရောခြင်းသည် အလ္လာဟ်အသျှင်မြတ်၏ ကြီးမားသော ဓလေ့တော်ဖြစ်လေသည်။

အစ်ဗ်နွလ်နဂ်ဂျာရ်ကျမ်း။

ဆိုလိုတော်မူသည်မှာ.... အလ္လာဟ်အသျှင်မြတ်သည် များစွာ ရက်ရောသောအသျှင်သခင် ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ဗန္ဒဟ်လူသားသည် မုန့်တစ်ဖဲ့ပင် လှူဒါန်းသည်ဖြစ်စေ အလ္လာဟ်အသျှင်မြတ်က အိုဟွဒ်တောင်နှင့်အမျှ ကြီးမားစေတော်မူလေသည်။

တွာဗ်ရာနီကျမ်း။

အလ္လာဟ်အသျှင်မြတ်သည် အိုဟွဒ်တောင်နှင့်အမျှ ကုသိုလ် သဝါဗ် တိုးမြှင့်ကာ ပေးသနားတော်မူလေသည်၊ ထို့ကြောင့် နည်းသည်-များသည် ပထာနမထားဘဲ တတ်နိုင်သမျှ လှူဒါန်းကြရန် ထိုက်လေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... စွန်ပလွံခြောက်တစ်ခုပေး၍ပင်ဖြစ်စေ၊ ဂျဟန္နမ်ရေဲဘုံမှ လွတ်မြောက်မှုကို ရှာဖွေကြကုန်။

ကန်ဇွလ်အမ်မာလ်ကျမ်း။

အနည်းငယ်မျှသောအရာဝတ္ထုရှိသည်ဖြစ်စေ လှူဒါန်းကြကုန်၊ မပြောပလောက်သော အရာဖြစ်၍ မလှူဒါန်းဘဲမနေကြနှင့် ဤသို့လှူခြင်းဖြင့် ဂျဟန္နမ် အပါယ်ငရဲမှ လွတ်ကင်းမည့်အရာ ဖြစ်ပေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော် မူ သည် မှာ.... ပေးလှူသောအကျိုးဖြင့် အလ္လာဟ်အသျှင်မြတ်ထံမှ ရိဇိစားနပ်ရိက္ခာကို တောင်းဆိုကြကုန်။

ဗိုင်ဟကီကျမ်း။

ဆိုလိုတော်မူသည်မှာ- ပေးကမ်းစွန့်ကြဲလှူဒါန်းခြင်းဖြင့် ရိဇိပေါများကြွယ်ဝမည်ဖြစ်လေသည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကောင်းကျိုး ပြုခြင်းသည် ဒုက္ခများမှလွတ်ကင်းစေသည်၊ ဖုံးအုပ်စွာလှူဒါန်းခြင်းသည် အလ္လာဟ်အသျှင်မြတ်၏ အမျက်တော်ကို အေးငြိမ်းစေသည်၊ ဆွေမျိုးများနှင့် ကောင်းမွန်စွာဆက်ဆံခြင်းသည် အသက်ရှည် (ကုသိုလ်)များစေသည်။

ကောင်းမှုကုသိုလ် ပြုရာတွင် အခြားသူ လိုက်နာပြုမူမည့် အထင်ရောက်က ၎င်းအလုပ်ကို ပေါ် လွင်စွာပြုမူခြင်း သာ၍ကောင်းသည်၊ အတုယူ၍လိုက်နာကြမည်ဟု အထင်မရောက်က ဖုံးအုပ်စွာပြုမူခြင်းက မြတ်သည်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့် တော် မူ သည် မှာ.... မြင်းစီးလျက်တောင်းရမ်းသော်လည်း ပေးကြရမည်။ ကန်ဇွလ်အမ်မာလ်ကျမ်း။

ကိုယ်ပိုင်မြင်းကိုစီးလာ၍တောင်းရမ်းလျှင် ၎င်းတွင် လိုအပ်၍ဖြစ်ပေမည်၊ မြင်းပိုင်သူကစ်ယောက်ဘဲဟူ၍ မပေးဘဲ မနေသင့်ပေ၊ သို့သော် ဤသူသည် ပစ္စည်းရှိပါလျက်တောင်းရမ်းသော အလုပ်ဖြင့် အသက်မွေးဝမ်းကြောင်း ပြုနေသူဖြစ်ကြောင်း သိပါက ဤသို့သောသူကိုပေးကမ်းခြင်း (ဟရာမ်)ဖြစ်လေသည်၊ တောင်းရမ်းခြင်းလည်း ဟရာမ်ဖြစ်လေသည်၊ ဤသည်ကို ကောင်းစွာ မှတ်သားကြကုန်။

ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အလ္လာဟ်အသျှင်မြတ်သည် ကရုဏာသက်တော်မူသောအသျှင်ဖြစ်၍ သက်ညှာခြင်းကိုနှစ်သက်တော်မူသည်၊ စာရိတ္တမြင့်မြတ်သူကိုချစ်ခင်တော်မူသည်၊ (ကောင်းမှုပွားများခြင်း၊ လှူဒါန်းခြင်း၊ သေးသိမ်သောအလုပ်ကိုရှောင်ကြဉ်ခြင်း၊ အခြားသူ၏ ဒုက္ခပေးမှုကို သည်းခံခြင်း စသည်များဖြစ်လေသည်၊) စာရိတ္တညံ့သူ(ဘာသာရေးရာတွင် စိတ်ထားပျော့ညံ့သူ)များကို နှစ်သက်တော်မမူပေ။

ဟာကင်မ်ကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ...ကေန်မုချဆွဒကာဟ် လှူဒါန်းခြင်းသည် ကဗရ်၏ မီးကို ငြိမ်းသက်စေသည်၊ မွတ်စလင်မ်တို့သည် ကေယာမတ်ကမ္ဘာ့တရားခွင်နေ့၌ လှူဒါန်းခြင်းဖြင့် အရိပ်အာဝါသ ရရှိကြမည်ဖြစ်သည်။

တွာဗ်ရာနီကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ....အမှန်ပင် အလ္လာဟ် အသျှင်မြတ်၏ သီးခြားသော ဗန္ဒဟ် ပုဂ္ဂိုလ်မွန်များရှိကြသည်၊ ထိုပုဂ္ဂိုလ်များကို လူတို့ လိုအပ်သောအခါ ရနိုင်ကြရန် ထားတော်မူသည်၊ ဤသူတို့သည်ကား အလို ဖြည့်တင်းပေးသူများ၊ ငြိမ်းချမ်းမှုရသူများ၊ အလ္လာဟ် အသျှင်မြတ်၏ အသာဗ် ပြစ်ဒဏ်တော်မှ လွတ်ကင်းသူများ ဖြစ်ကြလေ၏။

တွာဗ်ရာနီကျမ်း။

ရစူလွလ္လာဟ်(ဆွလ္လလာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ .... အို- ဘေလာလ် (ရသွေ့)လှူဒါန်းကုန်၊ အရရှ်တော်ကို ပိုင်ဆိုင်တော်မူသောအသျှင်မြတ်ထံမှ လျော့နည်းစေမည်ဟု မစိုးရိမ်နှင့်။ ဘဇ်ဇာရ်ကျမ်း။

လှူဒါန်းရန် သင့်တော်သော နေရာများတွင် လှူဒါန်းကုန်၊ လှူဒါန်းခြင်းဖြင့် လျော့နည်းသွားမည်ဟု မစိုးရိမ်နှင့်၊ အလ္လာဟ်အသျှင်မြတ်က မြားမြောင်စွာ ပေးသနားတော်မူပေမည်။

ဤဟဒီးတော်မြတ်တွင် အရရှ်တော်ကို ပိုင်ဆိုင်တော်မူသော အသျှင်ဟု သုံးထားလေသည်၊ အမှန်မှာ အလ္လာဟ် အသျှင်မြတ်သည် ရှိရှိသမျှ ဝေနေယျ သက်ရှိ-သက်မဲ့ အပေါင်းကို စိုးပိုင်တော်မူလေသည်၊ အရရှ်တော်သည် အလ္လာဟ်အသျှင်မြတ် ဖန်ဆင်းရာတွင် အကြီးကျယ်ဆုံးဖြစ်သဖြင့် သီးခြား၍ မိန့်ဆိုထားတော်မူခြင်း ဖြစ်လေသည်၊ ဤသို့ ကြီးကျယ်တော်မူသောအသျှင်မြတ်က ပေးမည်မဟုတ်ဟု စိုးရိမ်ရန် မရှိပေ။

စိတ်သောကရောက်သွားလောက်အောင်ပင် ရှိရှိသမျှပစ္စည်းများကို လှူဒါန်းပစ်ရမည်ဟု ဤဟဒီးသ်တော်မြတ်က ဆိုမထားပေ၊ စိတ်ဓါတ် ခိုင်မာသော ရောင့်ရဲတင်းတိမ်သော ပုဂ္ဂိုလ်များသည် ကောင်းမွန်သောကိစ္စများတွင် စိတ်ရှိသရွေ့ လှူဒါန်းနိုင်ကြသည်၊ ထိုပုဂ္ဂိုလ်များသည် စားစရာပင်မကျန်ရစ်၍ စိတ်မပူကြ၊ အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားသည့်အတိုင်း ကျွန်ုပ်တို့ စားသောက်ကြရမည်ဟု သိထားကြလေသည်၊ လှူဒါန်းခြင်းဖြင့် ကျွန်ုပ်တို့ ရိဇ်ဇီတွင် လျော့နည်းသွားမည်မဟုတ်၊ ဘရ်ကတ်ပင် တိုးပွားသည်ဟု ယူဆကြသည်၊ ဤသို့ စိတ်ထားမွန်မြတ်သောပုဂ္ဂိုလ်များအတွက် မည်မျှပင်လှူဒါန်းလိုကြလျှင် လှူဒါန်းခွင့် ရှိလေသည်။

စိတ်ထား နူးညံ့သူများသည် ပစ္စည်းကုန် မလှူကြရပေ၊ လှူပြီးနောက် စားစရာ မကျန်တော့၍ စိတ်အားငယ်ကြမည်၊ စိတ်မကောင်းဖြစ်က မှားသွားသည် အထင်ရောက်လာကြမည်ဖြစ်လျှင် ဤသို့သောသူများသည် ဇကာတ် ဆွဒကာအေ့ ဖွစ်တ်ရ် စသည်များ၌သာ သုံးစွဲကြရမည်၊ ဤဝတ္တရားများကိုကား လျော့နည်းပျက်ကွက်မှုများ မပြုသင့်ကြပေ၊

မွတ်စလင်မ်တို့၏ ပထမဦးစွာ ရှေ့ဆောင်လမ်းပြ ဖြစ်တော်မူသော အဘူဘကရ် (ရသေ့)သခင်သည် မိမိပိုင် ရွှေငွေပစ္စည်းအားလုံးကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ရှေ့တော်မှောက်သို့ယူသွားကာ မွတ်စလင်မ် ဗဟိုရံပုံငွေ ဌာနသို့ ပေးလှူလိုက်လေသည်၊ ''အချို့တဝက်အိမ်တွင်ထားခဲ့ပါသေးသလား'' ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမေးတော်မူရာ ''အသျှင်နှင့်အသျှင့်ရစူလ်၏ နာမတော်ပင် ထားခဲ့ပါသည်၊ (ဘာပစ္စည်းမှမထားခဲ့)'' ဟု လျှောက်တင်လေ၏။

အဘူဘကရ် (ရသေ့) သခင်သည် စိတ်ခိုင်မာသူ အသျှင်မြတ် လမ်းတော်တွင် အသက်နှင့်စည်းစိမ်ပါ လှူဝံ့သော ပုဂ္ဂိုလ်ဖြစ်၍ စိုးရိမ်သောက ဖြစ်မည် မဟုတ်သော ကြောင့် ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်က လက်ခံတော်မူလိုက်လေသည်၊ အခြားဆွဟာဗီ(ရသေ့)တစ်ပါးက ရွှေအချို့ လှူလေရာ အဘူဘကရ် (ရသေ့) သခင် ကဲ့သို့ စိတ်ဓာတ်ခိုင်မာသူမဟုတ်ဘဲ စိတ်နုသူဖြစ်သဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က လက်ခံတော့မမူပေ၊ ကောင်းစွာမှတ်သားကြကုန်။

ဟာဒီးသ်တော်တွင် လာရှိသည်မှာ တောင်းရမ်းသူ တစ်ယောက်သည် မိန်းမတစ်ဦး ထံသို့ ရောက်လာသည်၊ အခြားပေးရန်မရှိသဖြင့် စားနေသော ထမင်းလုပ်ကို မစားဘဲ တောင်းရမ်းသူအား ပေးလိုက်လေသည်။

များမကြာမီ ထိုမိန်းမသည် သားယောကျ်ားကလေးတစ်ဦး ဖွားမြင်လေ၏။ ထို ကလေး ကြီးပြင်းလာသောအခါ ဝံပုလွေ တစ်ကောင်သည် သားငယ်ကို ချီပြေးလေရာ ''ကျမ၏သားကို ဝံပုလွေချီသွားသည်၊ ကူညီကြပါဦး'' ဟု အော်ဟစ်ခါ လိုက်လေ၏။ အလ္လာဟ်အသျှင်မြတ်က ဖွရစ်ရှ်တဟ်တစ်ပါးအား ထိုသူငယ်ကိုဝံပုလွေလက်မှကယ်တင်ပြီး ထိုသူငယ်၏ မိခင်ကို ငါအလ္လာဟ်အသျှင်မြတ်က စလာမ်ပို့သည်ဟု ပြောကုန်၊ ဤသို့ ကလေးကို ကူညီပေးခြင်းသည် ထိုလှူဒါန်းခဲ့သော ထမင်းတစ်လုပ်အတွက် ဖြစ်ကြောင်းကို ပြောကုန်ဟုမိန့်တော်မူလေသည်။

ဆွဒကာဟ်လှူဒါန်းခြင်း၏ အကျိုးဖြင့် ကလေးမှာ ဒုက္ခမှလွတ်ကင်းသည်၊ သဝါဗ် ကုသိုလ်လည်းရသေးသည်၊ ထို့ကြောင့် လောကီလောကုတ္တရာ ကောင်းစားရေးအတွက် တတ်နိုင်သရွေ့ လှူဒါန်းခြင်းများ ပြုကြကုန်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကောင်းမှုကို ညွှန်ပြသောသူသည် ကောင်းမှုပြုသူနှင့် အညီအမျှ ကုသိုလ်သဝါဗ်ရလေသည်။

တစ်ဦးတစ်ယောက်သည် ကိုယ်တိုင်ပေးကမ်းလှူဒါန်းခြင်းမပြုနိုင်၊ သို့သော် တောင့်တ သူများကို ရနိုင်မည့်နေရာ ညွှန်ပြ၍ သော်လည်းကောင်း ကူညီပြောဆိုပေး၍ သော် လည်းကောင်းပြု၊ ပြုလျှင် ထိုသူသည် ကိုယ်တိုင်ပေးလှူသကဲ့သို့ ပေးလှူသူနှင့် အညီအမျှ ကုသိုလ်သဝါဗ်ရလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... သုံးဦးသော သူတို့အနက် တစ်ဦးထံ၌ ဒီနာ၁ရ် ၁၀ပြား ရှိလေသည်၊ ၎င်းက ဒီနာ၁ရ် တစ်ပြားလှူဒါန်းလိုက်၏၊ တစ်ဦးထံတွင် ၁၀ အောင်ကီယဟ်ရှိရာအောင်ကီယဟ်တစ်ခုလှူဒါန်းလိုက်၏၊ အခြားတစ်ဦးထံတွင် အောင်ကီယဟ် ၁၀၀ ရှိရာ အောင်ကီယဟ် ၁၀ လှူဒါန်းလိုက်၏၊ အသီးသီးသည် မိမိတို့ပိုင်ပစ္စည်းများအနက် ၁၀ပုံ တစ်ပုံ လှူဒါန်းကြသဖြင့် ကုသိုလ်သဝါဗ်မှာအညီအမျှပင်ဖြစ်လေသည်။

တွ္ဗာဗ်ရာနီကျမ်း။

တစ်ဦးထက်တစ်ဦး လှူဒါန်းရာတွင် ပစ္စည်းအနေဖြင့် ပိုမိုများပြားကြသော်လည်း မိမိပိုင်ပစ္စည်းများအနက် ၁၀ပုံ တစ်ပုံလှူဒါန်းရာတွင် တူညီသဖြင့် အလ္လာဟ်အသျှင်မြတ်က နီယတ်အပေါ်တွင် ကုသိုလ်သဝါဗ် ပေးတော်မူသောကြောင့် ပစ္စည်းတွင် ကွာခြားသော်လည်း ကုသိုလ်သဝါဗ်ကို အညီအမျှ ပေးသနားတော်မူလေသည်။

ဒီနာ၁ရ်တစ်ခုလျှင် ဒရမ် ၁၀ပြား ရှိ၏၊ ဒရမ်တစ်ပြားလျှင် မြန်မာသုံး ၂၅ ပြား နီးခန့်ရှိလေသည်၊ အောင်ကီယဟ် တစ်ခုလျှင် ဒရမ် ၄၀ ရှိလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ဒရမ်တစ်ပြားသည် ဒရမ်တစ်သိန်းထက် မြင့်မြတ်လေသည်၊ (မြင့်မြတ်နည်းကား) လူတစ်ယောက်ထံတွင် ဒရမ် ၂-ပြားရှိရာ ၎င်းက ဒရမ်တစ်ပြားလှူလိုက်၏၊ အခြားတစ်ဦးထံတွင် ငွေမြောက်များစွာ ရှိသည့်အနက် ဒရမ်တစ်သိန်း လှူကြခြင်းဖြစ်၏။

နေစာအီကျမ်း။

ကုသိုလ်သဝါဗ် ကွာခြားရခြင်းမှာ ဒရမ် ၂-ပြား ပိုင်ဆိုင်သူက တစ်ပြားလှူလိုက်ခြင်းသည် မိမိပိုင်ပစ္စည်းများအနက် ထက်ဝက် လှူလိုက်ခြင်းဖြစ်သည်၊ အခြားတစ်ဦးက မြောက်များစွာငွေကြေးရှိပါလျက် ဒရမ်တစ်သိန်းလှူခြင်းသည် ၎င်းပိုင်ပစ္စည်းများအနက် ထက်ဝက်မဟုတ်သောကြောင့် ထက်ဝက်လှူသူက သဝါဗ်ကုသိုလ် ပိုမိုခြင်း ဖြစ်လေသည်၊ ကောင်းစွာ မှတ်သားကြကုန်၊ အလ္လာဟ်အသျှင်မြတ်၏ ရဟ်မတ်တော်သည် ကြီးမားလှပေသည်၊ ဤဆည်ကို ဦးထိပ်ပန်ဆင်ကြရန် ထိုက်ပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် လိုအပ်၍တောင်းရမ်းသူကို ဘယ်သောအခါမှ လက်မဲ့ဖြစ်စေတော် မမူပေ၊ ရှိလျှင်ပေးလိုက်တော်မူလေသည်၊ မရှိသေးလျှင် အလ္လာဟ် အသျှင်မြတ် ပေးသောအခါ ပေးမည်ဟု ကတိ ပြုတော်မူ လိုက်လေသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အိမ်သူအိမ်သားများသည် နှစ်ရက်ပြည့်အောင် ဂျုံအညံ့ဖြင့်ပင် ဆက်၍ ဝမ်းဝအောင် မစားကြရပေ၊ တတ်နိုင်ကြပါလျှက် လိုအပ်နေသော မွတ်စလင်မ် တစ်ဦးကို မကူညီဘဲ ကိုယ်တိုင် ဗိမ်ခံနေလျှင်ကား မတရားရာ ကျပေတော့သည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အလ္လာဟ်အသျှင်မြတ်၏ လက်ဆောင်တော်သည် မုအ်မင်န်များအတွက် တောင်းရမ်းသူ တံခါးပေါက်သို့ လာရောက်ခြင်းပင် ဖြစ်ပေသည်။

တောင်းရမ်းသူကို ပေးလှူ၍ အလ္လာဟ်အသျှင်မြတ်၏ လက်ဆောင်တော်ကိုလက်ခံကြရန် ထိုက်ပေသည်၊ ထို့ကြောင့် တောင်းရမ်းသူကို ကောင်းစွာကျွေးမွေး ပေးကမ်းကြရန် ထိုက်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ ဆွဒကဟ်ပေးလှူကြကုန်၊ ၎င်းမိမိတို့၏ ဝေဒနာရှင်များကို ဆေးကုကြကုန်၊ အဘယ်ကြောင့်ဆိုသော် လှူဒန်းခြင်းသည် ရောဂါဝေဒနာများကို ပျောက်ကင်းစေ၍ ကုသိုလ်သဝါဗ်တိုးပွားစေလေသည်။

ဗိုင်ဟာကီကျမ်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ မည်သူ့ကိုမျှ အလ္လာဟ်အသျှင်မြတ်က ဝလီ သူတော်ကောင်းအဖြစ် ဖန်ဆင်းခြင်းမဟုတ်ပေ၊ သို့သော် ရက်ရောခြင်း ကောင်းသောစာရိတ္တများဖြင့် ဝလီသူတော်စင် ဖြစ်ကြရလေသည်။

ဒိုင်လမီကျမ်း။

ဆိုလိုတော်မူသည်မှာ အလ္လာဟ်အသျှင်မြတ်၏ အချစ်တော် သူတော်စင်များတွင် ရက်ရောခြင်းနှင့် ကောင်းသောစာရိတ္တ အမှန်တကယ်ရှိကြလေသည်။

# ဟဂျ်၏ ထွတ်မြတ်ခြင်းအကြောင်း

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အစီးအနင်းနှင့် သွားသော ဟာဂျီများကို ဖွရစ်ရှိတဟ်များက လက်ဆွဲနှုတ်ဆက်ကြသည်၊ ခြေလျင်သွားသော ဟာဂျီများကိုကား ရင်ခြင်းအပ်၍ နှုတ်ဆက်ကြလေသည်။

အစ်ဗ်နို့မာဂျဟ်ကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အစီးအနင်းနှင့် သွားသော ဟာဂျီများကို ကုလားအုတ်ခြေတစ်လှမ်း(ဘီးတာလှမ်းတွင်) ကုသိုလ်သဝါဗ် (၇၀)ပို၍ပေးသနားတော်မူသည်၊ ခြေလျင်သွားသော ဟာဂျီများအား ခြေတစ်လှမ်းလျှင် ကုသိုလ်သဝါဗ်(၇၀၀)ပေးသနားတော်မူလေသည်။ တွာဗ်ရာနီကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ ဟဂျ်ပြုမူဆောင်ရွက်သောသူနှင့် ဂျေဟာဒ်ကာဖွင်ရ်များနှင့် စစ်ထိုးသောသူများသည် အလ္လာဟ်အသျှင်မြတ်၏ ဧည့်သည်တော်များ ဖြစ်ကြလေသည်၊ အကယ်၍ ထိုသူတို့က အလ္လာဟ်အသျှင်မြတ်ကိုအား ဆုမွန်တောင်းဆိုကြပါလျှင် လက်ခံ သဘောတူတော်မူသည်၊ ချမ်းသာပေးရန် တောင်းဆိုလျှင် ချမ်းသာခွင့် ပေးတော်မူသည်။ အစ်ဗ်နို့မာဂျဟ်ကျမ်း။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ ဟဂ်ျပြုမူသောသူသည် ကေယာမတ် ကမ္ဘာ့တရားခွင်နေ့၌ မိမိဆွေမျိုးညာတိ(၄၀၀)ကို ရှဖွာအတ်ပြုပေးနိုင်လေသည်၊ ၎င်းသို့ဟဂ်ျပြုသူသည် အမိဝမ်းအတွင်းမှ မွေးဖွားလာသည့်အလား ဂိုနာဟ်များမှ လွတ်ကင်းသွားလေသည်။

ဘဇ်ဇာရ်ကျမ်း။

ဤသို့သော အခွင့်ထူးသည် အလ္လာဟ်အသျှင်မြတ်က ၎င်းသူပြုမူသော ဟဂ်ျကို သဘောတူနှစ်သက်တော်မူမှသာလျှင် ရရှိပေသည်၊ ထို့ကြောင့် ဟဂ်ျပြုရာတွင် သန့်ပြန့်သော ပစ္စည်းများကိုသုံးစွဲ၍ အမိန့်တော်မြတ်များကို တသဝေမတိမ်း လိုက်နာဆောက်တည်ကြရန် ထိုက်ပေသည်၊ သို့မှသာ အလ္လာဟ်အသျှင် လက်ခံသဘောတူသော ဟဂ်ျဖြစ်ပေမည်၊ (အို....အသျှင် ကျွန်တော်နှင့်တကွ မိဘဆွေမျိုးများကို ဤသို့သဘောတူသော ဟဂ်ျ ပေးသနားတော်မူပါ၊ အာမီန် သဘောတူတော်မူပါ....မူစာ။)

ဂိုနာဟ်များမှလွတ်ကင်းသည်ဟုဆိုရာ၌ တာဝန်တင်ရှိသော ဖွရ်သွ် ဝါဂျစ်ဗ်စသည်များနှင့် ကြွေးမြီများ၏ တာဝန်များမှလွတ်မြောက်သွားသည် မဟုတ်ပေ၊ ဆက်ဆက်တာဝန်ချကြရပေမည်၊ ဤအချက်များကား ဂိုနာဟ်ရိုးရိုးများမဟုတ်ဘဲ တာဝန်ပါသော ဂိုနာဟ်များ ဖြစ်လေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် ဟရာမ်မသန့်ပြန့်သောပစ္စည်းဖြင့် ဟဂ်ျပြုရာ ဟာဂျီများဆိုရသော စာလုံး....

لَبَّيْكَ اَللّٰهُمَّ لَبَّيْكَ

လဗ်ဗိုင်က၊ အလ္လာဟုမ်မ၊ လဗ်ဗိုင်က။

အို....အသျှင် ကျွန်တော်မျိုး အသျှင်၏ အမိန့်ကိုနာခံရန် အသင့်ရောက်ရှိပါပြီ (၃) ကြိမ်ဆိုသောအခါ အလ္လာဟ်အသျှင်မြတ် ပြန်ကြားတော်မူမည်မှာ....

လာလဗ်ဗိုင်က၊ သင်၏ လဗ်ဗိုင်က၊ စအ်ဒိုင်က၊ ဆိုခြင်းများကို ငါအသျှင်လက်ခံတော်မမူ၊ ၎င်းသင်ပြုသော ဟဂ်ျကို သင်၏မျက်နှာပေါ်သို့ ပေါက်တော်မူလိုက်သည်။

ဆိုလိုတော်မူသည်မှာ သင်သည် ငါအသျှင်မြတ်အမိန့်တော်ကို နာခံလိုက်နာရန် လာသည်မဟုတ် အမိန့်နာခံလျှင် သန့်ရှင်းသော ဟလာလ်ပစ္စည်းများဖြင့် လာမည်ဖြစ်သည်၊ ၎င်းသင်ပြုသော ဟဂ်ျသည် ငါအသျှင်၏ သန့်ရှင်းစင်ကြယ်သော ရုံးတော်၌ မသန့်သောပစ္စည်းဖြင့် လာသည့်အတွက်လက်မခံနိုင်၊ ကုသိုလ်သဝါဗ်ပြည့်စုံစွာမပေးနိုင်ဟု ဆိုခြင်းဖြစ်သည်၊ ဖွရ်သွ် တာဝန်ကားကျသွားပေသည်။

ရစူလွဲလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... သင်တို့သည် ဟာဂျီများနှင့်တွေ့လျှင် စလာမ်ပေးကုန်၊ ၎င်းတို့နှင့် လက်ဆွဲနှုတ်ဆက်ကုန်၊ ၎င်းမိမိတို့အတွက် မဂ်ဖွေရတ် ချမ်းသာဆုတောင်းပေးရန် ပြောကုန်။

အဘယ့်ကြောင့်ဆိုသော် ထိုဟာဂျီများသည် မိမိအိမ်သို့ မဝင်မီ ဂိုနာဟ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ရခဲ့ကြလေသည်။

အဟ်မဒ်ကျမ်း။

ထိုပုဂ္ဂိုလ်ကို အလ္လာဟ်အသျှင်မြတ်က လက်ခံသဘောတူတော်မူသဖြင့် ၎င်း၏ဒိုအာကိုလည်း လက်ခံတော်မူပေမည်၊ ထိုဟာဂျီ အိမ်သို့ပြန်မရောက်မီ လောကီ လောကုတ္တရာအတွက် ဒိုအာ ဆုမွန်ကောင်းများ တောင်းပေးရန် ခိုင်းကြကုန်။

## ဤတွင်၍ကား ဘာဟစ်ရှိတီဇျောင်ဟရ်ကျမ်း

တ တိ ယ တွဲ ပြီး ၏ ။



# ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း
# စတုတ္ထတွဲ



## နေကာဟ် ထိမ်းမြား လက်ထပ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ နေကာဟ် ထိမ်းမြား လက်ထပ်ခြင်းသည်လည်း အလ္လာဟ်အသျှင်မြတ်၏ပေးသနားတော်မူသော စည်းစိမ်ကြီးတစ်ခုဖြစ်လေသည်၊ လောကီ လောကုတ္တရာနှစ်ဌာနအတွက်ဒင်းအားဖြင့် ကောင်းမွန်ခြင်းဖြစ်စေနိုင်လေသည်၊ ထိမ်းမြား ခြင်းသည် အကျိုးကျေးဇူး မြောက်မြားစွာရှိ၍ အဆုံးမရှိသော သင့်လျော် မွန်မြတ်ခြင်း များရှိလေသည်။

လူသားတို့သည် အကုသိုလ်မှုများမှ ကာကွယ်မှုဖြစ်စေ၍ စိတ်အာရုံကို ထိန်းသိမ်း ခြင်း ပြုနိုင်လေသည်၊ စိတ်အာရုံဖေါက်ပြားခြင်း၊ စည်းမဲ့ကမ်းမဲ့ဖြစ်ခြင်းတို့ကို မဖြစ်စေ နိုင်ချေ၊ ထူးကဲသောအကြောင်းမှာ အကျိုးကျေးဇူး ထပ်ဆင့်လျက် ကုသိုလ်မှုများလည်း ပွားများနိုင်လေသည်၊ အဘယ့်ကြောင့် ဟူမူ ဇနီးမောင်နှံ နှစ်ဦးတို့ ချစ်ခင် နှစ်သက် ဝမ်းမြောက်ပျော်ရွှင်စွာ အတူထိုင်လျက် စိတ်ကြည်နူးဖွယ်စကားများ ပြောဆိုခြင်းသည် ပင် နဖ္လ်နမာဇ်များ ဖတ်သည်ထက် သာ၍မြတ်လေသည်။

၂။ မတ်စ်အလဟ် ပြဿနာ။ နေကာဟ် ထိမ်းမြား လက်ထပ်ခြင်းမှာ စကား နှစ်ခွန်းဖြင့် ပြီးစီးနိုင်သည်၊ ဥပမာ....လူတစ်ဦးက (အခြားတစ်ဦးကို) သက်သေများ၏ ရှေ့ငယ် ကျွန်ုပ်သည် မိမိ၏သမီးအား အသင်နှင့် ထိမ်းမြားလက်ထပ်၍ ပေးပါသည်ဟု ဆိုရာ ထိုသူက (ကျွန်တော်သဘောတူပါသည်) ဟုမြွက်ဆိုလိုက်လျှင် နေကာဟ် ထိမ်းမြား ခြင်း အထမြောက်၍ ၎င်းနှစ်ဦးတို့ ဇနီး-ခင်ပွန်း ဖြစ်ကြလေသည်။

သို့ရာတွင် အကယ်၍ ထိုသူ၌ သမီးတစ်ယောက်ထက်ပို၍ရှိခဲ့လျှင် ဤမျှခန့် မြွက်ဆိုရုံ ဖြင့် လက်ထပ်ပေးခြင်း အတည်မဖြစ်ပေ၊ သမီးနာမည်ကို ထုတ်ဖော်၍ ဤသို့ ပြောဆိုရ မည်၊ ကျွန်ုပ်သည် မိမိ၏သမီးဖြစ်သော (ကွဒ်စီယာ)ကို အသင်နှင့် နေကာဟ်ထိမ်းမြား ပေးသည်ဟုဆို၍ ထိုသူက(ကျွန်တော်သဘောတူပါ၏)ဟု ဆိုလျှင် ပြီးမြောက်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၇၄။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်စုံတစ်ယောက်သော သူက အသင်၏ သမီး မည်သူကို ကျွန်တော်နှင့် နေကာဟ်ထိမ်းမြားပေးပါဟု (သက်သေများရှေ့တွင်)တောင်း ဆိုသောအခါ ကျွန်ုပ်အသင့်အား မိမိသမီးနှင့် နေကာဟ်ထိမ်းမြားပေးပါသည်ဟုဆိုလျှင် နေကာဟ်အထမြောက်၏၊ (သမက်ပြုလုပ်မည့်သူက) ကျွန်တော် သဘောတူပါပြီဟု မြွက် ဆိုသည့်ဖြစ်စေ၊ မဆိုသည်ဖြစ်စေ နေကာဟ် အတည်ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၀။

၄။ မတ်စ်အလဟ်ပြဿနာ။ (အုပ်ထိမ်းသူက)အကယ်၍မိန်းကလေးကိုယ်တိုင် အသင့်ရှိသောနေရာတွင် ညွှန်ပြပြီးလျှင် ကျွန်ုပ်က ဤသူငယ်မကို အသင်နှင့်လက်ထပ်ပေး ပါသည်ဟုမြွက်ဆိုလျှင် ထိုသူက ကျွန်တော်သဘောတူပါသည်ဟု ဆိုလိုက်လျှင် နေကာဟ် ပြီးမြောက်၏၊ ဤနေရာတွင် နာမည်ကိုထုတ်ဖော်ပြောရန်မလိုပေ၊ အကယ်၍ ထိုသူငယ်မ သည် ရှေ့မှောက်တွင် မရှိလျှင် သူမ၏အမည်ကို ထုတ်ဖော်၍ ၎င်းမိန်းကလေး၏ အဖ နာမည်ကိုလည်း လူအများ ကြားလောက်အောင် အဲသံ ကျယ်စွာဖြင့် မြွက်ဆိုရမည်၊ အကယ်၍ မိန်းကလေး၏ အဖနာမည်ကို မြွက်ဆိုရုံ ပြောဆိုရုံဖြင့် မည်သူနှင့် နေကာဟ် လက်ထပ်ကြောင်း လူအများမသိကြမူ ဘိုး၏နာမည်ကိုလည်း ပြောရဦးမည်၊ အချုပ်မှာ- ကြားသောလူအပေါင်းတို့သည် မည်သည့်မိန်းကလေးနှင့် မည်သူ့ကို နေကာဟ်ထိမ်းမြား ကြောင်း သေချာစွာပိုင်းခြား၍သိစေရမည်။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၇၄။

၅။ မတ်စ်အလဟ်ပြဿနာ။ နေကာဟ် ထိမ်းမြားခြင်း ပိုင်ရန်အဖို့ (ရှရတွ) စည်းကမ်းရှိသည်မှာ အနည်းဆုံးသက်သေ ယောကျ်ားနှစ်ယောက်၊ သို့မဟုတ် ယောကျ်ား တစ်ယောက်နှင့်မိန်းမနှစ်ယောက်တို့ရှေ့ဝယ်တွင် အသင့်ဖြစ်၍ ထိုသက်သေတို့သည် မိမိတို့ နားများဖြင့် နှစ်ဦးနှစ်ဖက်ပြောဆိုသောစကားများကိုကြားပြီးလျှင် မည်သူနှင့်မည်သည့် မိန်းကလေးတို့ ထိမ်းမြားကြောင်း အတိအလင်းသိမှသာလျှင် (နေကာဟ်)ပိုင်၏။

အကယ်၍(သမီးရှင်)ဖခင်က သက်သေ တစ်ဦးတစ်ယောက်မျှ မရှိဘဲ တစ်ဦးသူကို ကျွန်ုပ်က မိမိသမီးကို အသင်နှင့် နေကာဟ်ပြုပေးသည်ဟု ပြောဆို၍ (သမက်)ပြုလုပ်မည့် သူက ကျွန်တော် သဘောတူပါကြောင်းဟု မြွက်ဆိုရုံဖြင့် နေကာဟ်မပိုင်၊ ဤနည်းတူစွာ သက်သေတစ်ဦးတည်း၏ ရှေ့ဝယ်တွင်လည်း နေကာဟ်မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၇၆။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၉။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ယောကျ်ားသက်သေ တစ်ယောက်မျှ မပါဘဲ၊ မိန်းမများချည့်ရှိမှု ၁၀-ယောက်၊ ၁၂-ယောက် ရှိသော်ငြားလည်း နေကာဟ် မပိုင်၊ မိန်းမနှစ်ယောက်နှင့် ယောကျ်ားတစ်ယောက်ပါရန် ထိုက်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၆။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ယောကျ်ားနှစ်ယောက် ရှိသော်ငြားလည်း နှစ်ယောက်စလုံးဖြစ်စေ၊ တစ်ယောက်ဖြစ်စေ မွတ်စလင်မ်မဟုတ်ဘဲ ဘာသာခြားဖြစ်သော် နေကာဟ် မပိုင်ချေ၊ ဤနည်းပင် မွတ်စလင် ဖြစ်ကြငြားသော်လည်း နှစ်ဦးစလုံးဖြစ်စေ၊ တစ်ဦးကဖြစ်စေ အရွယ်မရောက်သေးသော် နေကာဟ်မပိုင်ချေ၊ ဤနည်း ၎င်းယောကျ်ားတစ်ယောက်နှင့်မိန်းမနှစ်ယောက်တို့ရှေ့ဝယ် နေကာဟ်ပြုပေးသောအခါ၌လည်း ၎င်းသက်သေမိန်းမများမှာ တစ်ယောက်ဖြစ်စေ၊ နှစ်ယောက်စလုံးဖြစ်စေ အရွယ်မရောက်သေးသော သူငယ်မများဖြစ်ခဲ့လျှင် မပိုင်ချေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၅။

၈။ မတ်စ်အလဟ် ပြဿနာ။ လူထုပရိသတ်ရှေ့ဝယ်တွင် ဥပမာ....ဂျုံမို့အတ်နမာဇ်၏နောက် ဂျုံမို့အတ်ဗလီတွင်ဖြစ်စေ၊ သို့မဟုတ် အခြားသော ဗလီတွင်ဖြစ်စေ နေကာဟ် လက်ထပ်ခြင်း အလွန် ကောင်းသည်၊ အကြောင်းမှာ ထိမ်းမြား လက်ထပ်ကြောင်း ထင်ရှားကျော်ဇောရန်ဖြစ်လေသည်၊ တိတ်တဆိတ် ပုံးကိုးကွယ်ကိုး နေကာဟ် မပြုသင့်၊ သို့ရာတွင် အကျဉ်းအကြပ်ကျ၍ မလွှဲမကင်းသောအခါတွင် လူအများတို့ ထင်ရှား ကျော်ကြားစွာ မသိနိုင်ကြငြားသော်လည်း အနည်းဆုံး ယောကျ်ား နှစ်ယောက် သို့မဟုတ် ယောကျ်ားတစ်ယောက်နှင့်မိန်းမနှစ်ယောက်တို့ မုချအသင့်ရှိပြီးလျှင် နေကာဟ် လက်ထပ်ခြင်း အကြောင်းနှင့် ပတ်သက်သော စကားများကို မိမိ နားဖြင့် ကြားစေရမည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၇၂။

၉။ မတ်စ်အလဟ် ပြဿနာ။ ထိမ်းမြား လက်ထပ်မည့် ယောကျ်ားနှင့် မိန်းမနှစ်ဦးတို့သည် အရွယ်ရောက်ပြီးသူများ ဖြစ်ကြလျှင် (မိဘ အုပ်ထိန်းသူ မပါဘဲ) မိမိတို့ကိုယ်တိုင် လက်ထပ်နိုင်ကြသည်၊ ဥပမာ.... သက်သေနှစ်ဦးတို့ ရှေ့ဝယ်တွင် (၎င်းတို့နှစ်ဦးအနက်)တစ်ဦးက ကျွန်ုပ် အသင်နှင့် နေကာဟ်ထိမ်းမြားပါသည်ဟု ပြောဆိုသောအခါ အခြားတစ်ဦးက ကျွန်ုပ်သဘောတူပါသည်ဟု မြွက်ဆိုလိုက်မှု နေကာဟ်ပိုင်၏။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၆။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် မိမိ၏ နေကာဟ်ထိမ်းမြားခြင်းကိုကိုယ်တိုင်မပြုဘဲအခြားသူတစ်ဦးဦးကို(ကိုယ်စားလှယ်ခန့်၍)အသင်ကျွန်ုပ်အဖို့မည်သည့် မိန်းမနှင့်နေကာဟ်ထိမ်းမြားပေးပါဟု ခိုင်းသဖြင့် ထို(ကိုယ်စားလှယ်)က သက်သေနှစ်ဦး

နှင့်ရှေ့ဝယ်တွင် လက်ထပ်ခဲ့လျှင်လည်း နေကာဟ်ပိုင်၏၊ ထို့နောက် စေခိုင်းသောသူက ငြင်းဆံငြားသော်လည်း လက်ထပ်ခြင်းမပျက်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၉၄။

# နေကာဟ်-ထိမ်းမြားခြင်း မပြုထိုက်သူများ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။မိမိ၏ သား,မြေး,မြစ်,တီ,တွတ် မှစ၍ အောက်ဆက်အပေါင်းတို့နှင့် နေကာဟ်ထိမ်းမြားခြင်းမပြုထိုက်၊ ၎င်းပြင် အဘ ,ဘိုး, ဘေး, ဘီ, ဘင် မှစ၍ အထက်ဆက် အပေါင်းတို့နှင့်လည်း နေကာဟ်မပြုထိုက်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၈၁။
အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၃၇၄။

၂။ မတ်စ်အလဟ်ပြဿနာ။ ။မိမိ၏မောင်အရင်းအချာ(အကြီးဖြစ်စေ၊အငယ်ဖြစ်စေ) ဦးကြီး,ဦးလေး,ဘကြီး,ဘထွေး တို့နှင့်ဖြစ်စေ၊ (မောင် သို့မဟုတ် အစ်မ,ညီမ တို့က မွေးဖွားသော) တူများနှင့် ဖြစ်စေ လက်မထပ်ထိုက်ပေ၊ ရှရီအတ်တရားတော်၌ မောင်နှမ ဟူသောပညတ်မှာ မိတူ ဘတူ ဖြစ်စေ၊ ဘတူ မိကွဲ ဖြစ်စေ၊ မိတူ ဘကွဲဖြစ်စေ အတူတူဖြစ်သည်၊ ၎င်းတို့နှင့် လက်မထပ်ပိုင်၊ ဘကွဲ မိကွဲ ဖြစ်စေ တစ်ဝမ်းကွဲ နှစ်ဝမ်းကွဲ တို့ကို ဆိုလိုသည်မဟုတ်၊ ၎င်းတို့နှင့် နေကာဟ် လက်ထပ်ခြင်းပိုင်၏။

ရှာမီကျမ်း အတွဲ ၂၊စာမျက်နှာ-၃၈၁။
အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၃၇၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ။ယောက္ခမသည် မိမိသားမက်နှင့် လက်မထပ်ပိုင်ချေ၊ ၎င်းသားမက်အား မိမိသမီးနှင့်ခွင့်လွှတ်အပ်နှင်းပြီးဖြစ်စေ၊ မအပ်နှင်းသေးသည်ဖြစ်စေ သားမက် ဖြစ်ခြင်းကြောင့် နေကာဟ်လက်ထပ်ခြင်း 'ဟရာမ်' ဖြစ်လေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၈၁။
အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၇၄။

၄။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူမ၏ ဖခင်ရင်းသေဆုံးသဖြင့် မိခင်မုဆိုးမ,သည် ဒုတိယနေကာဟ်ထိမ်းမြားအိမ်ထောင်ပြုရာ အကယ်၍ ၎င်းအမိ၏နောက်ခင်ပွန်းဖြစ်သော ပထွေးသည် မိမိအမိနှင့် ကာမမစပ်ယှက်မီပင် မိခင် သေဆုံး သွားလျှင်သော်လည်းကောင်း၊ သို့မဟုတ် ကွာရှင်းလိုက်လျှင်သော် လည်းကောင်း (သမီးဖြစ်သူသည်) ပထွေးနှင့် လက်ထပ်ပိုင်သည်။ ။သို့ရာတွင် မိမိအမိနှင့် အတူနေထိုင်လျက် ကာမစပ်ယှက်ဖေါင်းဖက်ပြီးဖြစ်သော် လက်ထပ်ခြင်းမပိုင်ချေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၈၁။
အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၇၄။

၅။ မတ်စ်အလဟ် ပြဿနာ။ ။လင်ပါ သားမြေးတို့နှင့် လက်ထပ်ခြင်း မပိုင်၊ အဓိပ္ပါယ်ကား....ယောကျ်ားတစ်ယောက်တွင်လက်ထပ်မယားအမျိုးရှိခဲ့သော်တစ်ယောက် မွေးသောသားမြေးတို့နှင့် အခြားတစ်ယောက်သော မိထွေးတို့သည် မည်သည့် နည်းနှင့်မျှ နေကာဟ် လက်ထပ်ခြင်း မပိုင်၊ ၎င်းလင်နှင့် ကာမစပ်ရှက် ပေါင်းသင်းဆက်ဆံသည် ဖြစ်စေ၊ မစပ်ရှက်သည်ဖြစ်စေ နေကာဟ်ဟရာမ်ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ၃၇၁။
အာလမ်ဂီရီကျမ်း -၂၊ စာမျက်နှာ-၄၇၄။

၆။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမသည် မိမိယောကျ်ာ၊ ၎င်းယောက်ျမ၏ဘိုး စသည်တို့နှင့်လည်း နေကာဟ်လက်ထပ်ခြင်း မပိုင်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၇၉။

၇။ မတ်စ်အလဟ် ပြဿနာ။ ။မိမိအစ်မ သို့မဟုတ် ညီမ တို့နှင့် လက်ထပ်ထား လျက် ရှိနေသမျှကာလပတ်လုံး ခဲအို့ သို့မဟုတ် မတ်တို့နှင့် နေကာဟ်မပြုထိုက်၊ သို့ရာတွင် အစ်မ,ညီမ သေသွားသည်ဖြစ်စေ၊ ကွာရှင်းထားသည်ဖြစ်စေ (အစ်ဒတ်) ကန့်သတ်ထား သောရက်လွန်မြောက်လျှင် အဆိုပါ ခဲအို့ မတ်တို့နှင့်နေကာဟ်ပြုပိုင်သည်၊ 'အစ်ဒတ်' ရက် မကုန်မီ နေကာဟ်ပြုခြင်း မပိုင်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၃၆၃။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ညီအစ်မနှစ်ယောက်တို့သည်ယောကျ်ား တစ်ယောက်ထဲနှင့် နေကာဟ်ပြု လက်ထပ်၍ထားကြသော် ဦးစွာလက်ထပ်သော သူမ၏ နေကာဟ်သည်ပိုင်၏ နောက်မှလက်ထပ်သော မိန်းမ၏ နေကာဟ်မပိုင်။

မှတ်ချက်။ ။ညီမနှစ်ဦးစလုံးကို တစ်ပြိုင်တည်း နေကာဟ်ပြုလျှင်မည်သူမျှမပိုင်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၆၄။

၉။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမတစ်ဦးသည် ယောကျ်ားတစ်ဦးနှင့်နေကာဟ် လက်ထပ်အိမ်ထောင်ပြုလျက်ရှိနေစဉ် အတွင်း ထိုမိန်းမ၏ အရီးကြီး,အရီးလေး,ဒွေးလေး ဒွေးကြီး မှစ၍ ၎င်းချသော မောင်, ညီမ,အစ်မ တို့မှ မွေးဖွားသော တူမများ နှင့် ၎င်း ယောကျ်ားတို့ နေကာဟ် မပြုအပ်။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၇၁။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်မိန်းမ နှစ်ဦးတို့သည် တစ်ယောက်က ယောကျ်ားအဖြစ်နှင့် ရှိနေခဲ့လျှင် အချင်းချင်း နေကာဟ်မပြုအပ်သောနည်းဖြင့် ဆွေမျိုး တော်စပ်ကြသော် ၎င်းမိန်းမ နှစ်ဦးတို့ အတူတကွ ယောကျ်ား တစ်ယောက်ထဲကို မယူ ထိုက်ပေ၊ သို့သော် တစ်ယောက်သေဆုံးသွားသည်ဖြစ်စေ၊ သို့မဟုတ် တွလာက် ကွာရှင်း ထားသည်ဖြစ်စေ၊ 'အစ်ဒတ်' သတ်မှတ်သော နေ့ရက် လွန်မြောက်ပြီးနောက် အခြား တစ်ယောက်က ထိုယောကျ်ားနှင့် နေကာဟ်ပြုနိုင်သည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၃။

၁၁။ မတ်စ်အလဟ်ပြဿနာ။ လင်ပါသမီးနှင့် မိထွေးနှစ်ဦးတို့သည် ယောကျ်ား တစ်ယောက်ထဲနှင့်အတူတကွ လက်ထပ်ထားပါက နေကာဟ်ပိုင်၏။

ရှရှိဟ်ဝေကာယဟ်ကျမ်း အ-တွဲ၂၊ စာမျက်နှာ ၁၅။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ။မွေးစားသော သားသမီးတို့သည် ရှရီအတ်တရား တော်အရ သားသမီး မည်ရာမရောက်ပေ၊ ဤအတွက် အကြင်မိန်းမသည် မိမိမွေးစား သော သားနှင့် နေကာဟ်ပြုလိုမှုပိုင်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၇။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။မိန်းမသည် မိမိအမေ၏ မောင်အရင်းအချာ မဟုတ် အခြားသောနည်းဖြင့်သာ တောစပ်သော ဦးလေး,ဦးကြီးတို့နှင့် နေကာဟ်ပြုပိုင် သည်၊ ထိုနည်းတူစွာ မိမိအဖ၏ညီအစ်ကိုအရင်းအချာမဟုတ်သော ဘကြီး,ဘထွေးတို့နှင့် ဖြစ်စေ၊ မိမိ၏မောင် သို့မဟုတ် ညီအစ်မ အရင်းအချာမဟုတ်သော ဝမ်းကွဲတော်စပ်သူ တို့က မွေးဖွားသည့် တူများနှင့်ဖြစ်စေ နေကာဟ်လက်ထပ်နိုင်သည်၊ အထက်ပါအဆိုတိုင်း မိမိမောင်အရင်းအချာမဟုတ် တဝမ်းကွဲ တော်စပ်သော မောင်များနှင့်လည်း နေကာဟ် ပြုနိုင်သည်။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ ညီအစ်မနှစ်ယောက်တို့သည် အရင်း အချာမဟုတ် တဝမ်းကွဲ တော်စပ်သော ညီအစ်မဖြစ်ကြသော်လည်း ၎င်းတို့နှစ်ဦးစလုံး အတူတကွ ယောကျ်ား တစ်ယောက်တည်း နှင့်နေကာဟ် လက်ထပ်နိုင်၏၊ ဤကဲ့သို့ ဝမ်းကွဲ အစ်မ ညီမတို့နှင့် လက်ထပ်လျက် ဇနီးခင်ပွန်း ဖြစ်နေစဉ်လည်း(ဝမ်းကွဲ)ခဲအို့မတ်တို့နှင့် နေကာဟ်ပြုပိုင်သည်၊ ထိုနည်းတူစွာ မိဘတို့နှင့် အရင်းအချာမဟုတ်သော ဝမ်းကွဲအစ်မ ညီမဖြစ်ကြသည့် အရီးကြီး,အရီးလေး,ဒွေးလေး,ဒွေးကြီးတို့နှင့် အတူတကွ ယောကျ်ား တစ်ယောက်တည်းယူ၍ လင်ညီမတော်နိုင်လေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၄။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။အမျိုး၏ဆယ်သွယ်သော အကြောင်းကြောင့် နေကာဟ်လက်ထပ်ရန် 'ဟရာမ်' ဖြစ်သောသူများကဲ့သို့ပင် နို့တိုက်ကျွေးသော မိဘတို့နှင့် ပတ်သက်သော သဘောကြောင့်လည်း နေကာဟ်'ဟရာမ်'ဖြစ်လေသည်၊ အဇိပ္ပါယ်ကား နို့တိုက်သူမိခင်၏လင်နှင့် နို့စို့သောမိန်းကလေးတို့ လက်မထပ်ထိုက်၊ အဘယ့်ကြောင့် ဆိုသော် နို့တိုက်သောမိခင်၏ ခင်ပွန်းသည် ထိုမိန်းကလေး၏ အဘအရာ မည်လေသည်၊ ၎င်းနှင့် နို့စို့ဘက်ဖြစ်သော မောင်နှင့်လည်း နေကာဟ်မပိုင်၊ ထို့ပြင် နို့တိုက်သော မိခင်,ဖခင်တို့ဘက်မှ ဆက်သွယ်သော သားမြေးတို့နှင့် လက်မထပ်ထိုက်ရုံမျှမက နို့စို့ ခြင်းအကြောင်းကြောင့် ဦးကြီး,ဦးလေး,ဘကြီး,ဘထွေး တို့မှ၍ ဆက်သွယ်တော်စပ်သူ အပေါင်းတို့နှင့်လည်းနေကာဟ် လက်ထပ်ခြင်း ဟရာမ်ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၈၄။

၁၆။ မတ်စ်အလယ်ပြဿနာ။ ။နို့စို့ဘက်ဖြစ်သော ညီအစ်မနှစ်ယောက်တို့သည် ယောကျ်ားတစ်ဦးတည်းနှင့် အတူတကွ လက်မထပ်နိုင်၊ အချုပ်မှာ အထက်ညွှန်ပြခဲ့သော အမျိုးဆက်အရင်းအချာတို့တွင် လက်ထပ်ခြင်းမအပ်သူများဖြစ်သကဲ့သို့ နို့စို့ခြင်းအကြောင်းကြောင့် ဆွေမျိုးတော်စပ်သူ အပေါင်းတို့မှာလည်း မခြားမနားဖြစ်သည်ဟု မှတ်ယူရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၉၀။

၁၇။ မတ်စ်အလယ်ပြဿနာ။ ။အကြင်ယောကျ်ားသည် သူ့စိမ်းမိန်းမနှင့်ဇေနာခေါ် မတရားကာမကျူးလွန်မှောက်မှားမိလျှင် ထိုကျူးလွန်သောမိန်းမ၏ မိခင်နှင့်၎င်း၏ မြစ်မ အစရှိသည်တို့ပါ ဇေနာပြုသော ယောကျ်ားနှင့် နေကာဟ်ပြုခြင်းမပိုင်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၂၅။

၁၈။ မတ်စ်အလယ်ပြဿနာ။ ။အကြင်မိန်းမသည် ပျို့ရွယ်စဉ်အခါက မလျော်သည့် ကာမဂုဏ်စိတ်ထားဖြင့် ယောကျ်ားတစ်ယောက်အား လက်ဖြင့်ဆွဲကိုင်သော် ထိုသူမ၏ အမိနှင့် သမီး၊ မြေးမ၊ မြစ်မ တို့မှစ၍ အားလုံးတို့ပင် ဆွဲကိုင်ခြင်းခံရသော ယောကျ်ားနှင့် နေကာဟ်မပြုထိုက်၊ ထိုနည်းတူစွာ ယောကျ်ားက မိန်းမကိုဆွဲကိုင်လျှင်လည်း အဆိုပါအတိုင်း ဟရာမ်ဖြစ်သွားလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀၂။

၁၉။ မတ်စ်အလယ်ပြဿနာ။ ။ညဉ့်အခါတွင် မိမိဇနီးအား ကာမစပ်ရှက်လိုသော့သဘောဖြင့် နှိုးရန်အဲဖို့စမ်း၍ ရှာသော့အခါ မှောက်မှားသဖြင့် မိမိသမီးကိုဖြစ်စေ ယောက္ခမကို ဖြစ်စေ ရာဂစိတ်ဖြင့် မိမိမယား အထင်ဖြင့် စမ်းသပ် ဖက်ကိုင်မိလျှင် ထိုယောကျ်ားသည် မိမိမယားအပေါ်မှာ အမြဲထာဝရ (ပေါင်းသင်းဆက်ဆံဖို့)ဟရာမ်ဖြစ်လေသည်၊ မည်သည့်နည်းနှင့်မျှ ပေါင်းသင်းခွင့်မရှိ၊ ထို့ကြောင့် လင်ဖြစ်သူသည် ၎င်းမယားကို တလာက်ပေး၍ ကွာရှင်းရန် ထိုက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၇၄။

၂၀။ မတ်စ်အလယ်ပြဿနာ။ ။လင်ပါသားသည်မိမိ၏မိထွေးကိုမသမာသော ရာဂစိတ်ဖြင့် လက်ဖြင့်ဆွဲကိုင်မိသော် ထိုမိန်းမသည် မိမိလင်နှင့်မှ(ပေါင်းသင်းဆက်ဆံနိုင်ခွင့်မရှိ)လုံးဝ ဟရာမ်ဖြစ်သွားလေသည်၊ မည်သည့်နည်းနှင့်မှ(ဟလာလ်)မဖြစ်နိုင်၊ ထိုနည်းတူစွာ မိထွေးကလင်ပါသားကို ဆွဲကိုင်လျှင်လည်း ပညတ်တစ်မျိုးတည်းဖြစ်၏။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ-၃၈၈။

၂၁။ မတ်စ်အလယ်ပြဿနာ။ ။မွတ်စလင်မ်အမျိုးသမီးနှင့် နေကာဟ်လက်ထပ်ရန် မွတ်စလင်မ်ယောကျ်ားမှတပါး အခြားဘာသာဝင် ယောကျ်ားနှင့် လက်ထပ်ခြင်း မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၈၂။

၂၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူမ၏ခင်ပွန်းဖြစ်သောလင်ယောကျ်ား သည် တွလာက်ပေး၍ ကွာလိုက်သည် ဖြစ်စေ၊ သို့မဟုတ် သေဆုံးသွားသည် ဖြစ်စေ ထိုသူမသည်(တရားတော်က သတ်မှတ်သော) အစ်ဒတ်ရက်မကုန်လွန်မီ အခြားယောကျ်ား နှင့် လက်ထပ်ခြင်းမပိုင်၊

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀၀။

၂၃။ မတ်စ်အလဟ်ပြဿနာ။ အကြင် မိန်းမသည် ယောကျ်ား တစ်ဦးနှင့် နေကာဟ် လက်ထပ်ပြီး နောက် ၎င်းယောကျ်ားက တွလာက် ပေး၍ ကွာရှင်းပြီးလျှင် အစ်ဒတ်ရက် မလွန်သမျှကာလပတ်လုံး အခြားယောကျ်ားနှင့် နေကာဟ်မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၀၀။

၂၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူမသည်လက်ထပ်သောလင်ယောကျ်ား မရှိဘဲ ဇေနာပြုကျင့်ခြင်းကြောင့် ပဋိသန္ဓေ တည်ရှိခဲ့သော် ၎င်းမိန်းမသည် ယောကျ်ား တစ်ယောက်နှင့် နေကာဟ်ပြုပိုင်၏၊ သို့ရာတွင် သန္ဓေမဖွားမီကာမရာဂ ပေါင်းသင်းဆက်ဆံ ခြင်း မပြုအပ်၊ အကယ်၍ ဇေနာပြုကျင့်သူနှင့်သာ လက်ထပ်မူ ပေါင်းသင်းခြင်းလည်း ပြုနိုင်လေသည်။

ရှုရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၅။

၂၅။ မတ်စ်အလဟ်ပြဿနာ။ အကြင် ယောကျ်ားတစ်ယောက်မှာ၊ လက်ထပ် မယားလေးယောက်ရှိပြီးဖြစ်သော် ပဥ္စမတစ်ဦးနှင့် ထပ်မံ နေကာဟ်လက်ထပ်ခြင်းမပြုနိုင်၊ သို့ရာတွင် အကယ်၍ ထိုလက်ထပ်မယားလေးဦးအနက် တစ်ယောက်ကို ကွာရှင်းလိုက်သည် ဖြစ်စေ၊ (သို့မဟုတ်သေဆုံးသွားသည်ဖြစ်စေ)၊ အစ်ဒတ်ရက် ကျော်လွန်ပြီးသည့်နောက် နေကာဟ် လက်ထပ်နိုင်သည်၊ အစ်ဒတ်ရက်မပြည့်မီ လက်မထပ်နိုင်ပေ။

ဟေဒါယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ ၂၉၁၊ ၂၉၂။

# ဝလီ အုပ်ထိန်းသူများ အကြောင်း

အရွယ် မရောက်သေးသော သူငယ်-သူမ တို့အား လက်ထပ်ခွင့် ပေးနိုင်သည့် သူတို့ကို (ဝလီ) အုပ်ထိန်းသူဟု ခေါ်ဆိုလေသည်။

၁။ မတ်စ်အလဟ်ပြဿနာ။ သူငယ်-သူငယ်မ တို့၏ ဝလီ အုပ်ထိန်းသူသည် အားလုံးထက်အရင်းဆုံး ၎င်းတို့ဖခင်ဖြစ်လေသည်၊ ဖခင်မရှိလျှင် အဘ,ဘက်ကဆက်သော ဘိုး,၊ ၎င်းမရှိပြန်လျှင် ဘေး,မှစ၍ အထက်သို့အစဉ်အတိုင်းဖြစ်သည်၊ အကယ်၍ ထိုသူတို့ အနက်မှမည်သူတစ်ဦးတစ်ယောက်မျှမရှိပါကမိတူ-ဘတူအစ်ကိုတို့ဖြစ်၏၊ ၎င်းတို့လည်းမရှိမူ ဘတူ-မိကွဲ အစ်ကို ထို့နောက် အစ်ကို့,မောင်,တို့မှ ဆက်သွယ်သော တူ၊ မြေး၊ မြစ်

အစဉ်အဘိုင်းဖြစ်သည်၊ ဤသူတို့လည်းမရှိခဲ့ပြန်သော် အဖ၏ ညီအစ်ကိုအရင်းဖြစ်သော ဘကြီး,ဘထွေး၊ ထို့နောက် အဖ၏ ဘစုံ-မိကွဲဖြစ်သော ညီအစ်ကို ဘကြီး,ဘထွေးတို့၊ ထို့နောက် ဘကြီး,ဘထွေးအရင်းအချာ၏သားမြေးများ၊ ထို့နောက် ဘစုံ-မိကွဲ၏သားမြေးများ၊ ၎င်တို့လည်းမရှိပြန်သော် အဖ၏ ဘကြီး,ဘထွေးတို့သည် ဝလီ အုပ်ထိမ်းသူဖြစ်သည်၊ ထို့နောက် ၎င်းတို့၏သားမြေးများ၊ အကယ်၍ အထက်ဖော်ပြခဲ့သူတို့အနက် တစ်ဦးတစ်ယောက်မျှမရှိခဲ့လျှင် အမိသည် ဝလီ ဖြစ်လေသည်။

အမိမရှိလျှင် အဖ၏အမိဖြစ်သော အဘွား၊ ထိုအဘွားမရှိပြန်လျှင် အမိ၏အမေဖြစ်သောအဘွား၊ ထို့နောက် အမိ၏အဖဖြစ်သောအဘိုး၊ ထို့နောက်ဘစုံ-မိစုံ အစ်မ၊ ထို့နောက် ဘစုံ-မိကွဲအစ်မ၊ ထို့နောက် မိစုံ-ဘကွဲဖြစ်သော မောင်နှမတော်စပ်သူများ၊ ထို့နောက် အဖ၏ အစ်မ ညီမဖြစ်သော အရီးကြီး,အရီးလေးများ၊ ထို့နောက် အမိ၏ မောင်ဖြစ်သော ဦးကြီး, ဦးလေးများ၊ ထို့နောက် ဒွေးလေး,ဒွေးကြီးများမှစ၍ ဆက်သွယ်လျက် ဝလီ ဖြစ်ကြသည်။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၈၆။
ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆။

၂။ မတ်စ်အလဟ်ပြဿနာ။ အရွယ် မရောက်သေးသော ကလေးသူငယ်သည် မည်သူ၏ ဝလီအုပ်ထိမ်းသူမျှမဖြစ်နိုင်၊ ထိုနည်း ၎င်းကာဖ္ဖိရ်သည် မည်သည့်မွတ်စလင်မ်၏ ဝလီမဖြစ်နိုင်၊ ၎င်း သူရူးသူနှမ်းများလည်း ဝလီ အုပ်ထိမ်းသူ မဖြစ်နိုင်ချေ။

ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၁၁။

၃။ မတ်စ်အလဟ်ပြဿနာ။ အရွယ်ရောက်ပြီးသောမိန်းကလေးသည် မိမိအလိုဆန္ဒအလျောက် လက်ထပ်ပိုင်သည်၊ ဝလီ အုပ်ထိန်းသူ သိသည်ဖြစ်စေ၊ မသိသည်ဖြစ်စေ၊ သဘောတူသည်ဖြစ်စေ၊ မတူသည်ဖြစ်စေ အလိုရှိသောသူ နှင့် နေကာဟ် ပြုနိုင်သည်၊ (ထိုသူမသဘောမတူလျှင်)မည်သူတစ်ဦးတစ်ယောက်မျှ အတင်းအဓမ္မ လက်ထပ်၍ မပေးနိုင်၊ ၎င်းသူမကိုယ်တိုင် သဘောတူညီမှသာ ပိုင်သည်၊ သို့ရာတွင် အကယ်၍ မိမိ အမျိုးဂုဏ်တူသူနှင့် နေကာဟ်မပြုဘဲ အလွန် နိမ့်ကျသူနှင့် နေကာဟ် ပြုသောကြောင့် ဝလီ အုပ်ထိမ်းသူက သဘောမတူသည် ဖြစ်စေ၊ သို့တည်းမဟုတ် မိမိ အမျိုးဂုဏ်တူသူနှင့် နေကာဟ်လက်ထပ်ငြားသော်လည်း ရှရီအတ်တရားတော်၌ ပညတ်သော(မဟရ်မစ်သ်လ်) ခေါ် အမျိုးအဆက်တွင် ရရှိသည့်'မဟ်ရ်'ထက် အလွန်လျော့နည်း၍ ဆန္ဒအလျောက် နေကာဟ်ပြုခဲ့သည်ဖြစ်စေ ထိုအဖြစ်များတွင် နေကာဟ်လက်ထပ်ခြင်းတော့ ပိုင်၏၊ပိုင်ပင်ပိုင်ငြားသော်လည်း ၎င်းသူမ၏ အထက်ဖော်ပြသော ဝလီ အုပ်ထိမ်းသူက မွတ်စလင်မ်ပညာရှိရှုံးမင်းထံမှာ တိုင်တန်းလျှောက်ထား၍ နေကာဟ်ကို ဖျက်နိုင်ခွင့်ရှိသည်၊ သို့သော်



ဤသို့ လျှောက်ထားရန်ထိုက်သော ဝလီများမှာ အထက်တွင် ဖေါ်ပြခဲ့သော ဝလီများ အနက် အမိ၏အလျင် ညွှန်ပြသူတို့ဖြစ်လေသည်၊ အလိုမှာ.... အဖမှ စ၍ အဘိုး, ဘကြီး, ဘထွေး, သား, မြေး, မြစ်တို့ ဖြစ်၏၊ မိန်းမဝလီများမှာမူကား မဖျက်နိုင်ပေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၀၂။

၄။ မတ်စ်အလဟ် ပြဿနာ။ အကြင် ဝလီအုပ်ထိမ်းသူသည် အရွယ်ရောက်ပြီး ဖြစ်သောမိန်းမပျိုကိုမေးမြန်းခြင်း၊ ခွင့်တောင်းခြင်းမပြုဘဲ နေကာဟ်လက်ထပ်၍ပေးလျှင် နေကာဟ်သည် ထိုသူမ၏ သဘောတူခြင်းအပေါ်မှာ အတည်ဖြစ်လေသည်။

အဓိပ္ပါယ်ကား.... ၎င်းသူမက ကျေနပ်စွာ ခွင့်ပြုမှုပိုင်၏၊ ခွင့်မပြုလျှင် မပိုင်ချေ၊ ခွင့်ပြုခြင်း၏ နည်းလမ်းမှာ ရှေ့တွင် လာလတံ့။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၇၇။

၅။ မတ်စ်အလဟ် ပြဿနာ။ (အိမ်ထောင်မှုမပြုဘူးသော)အရွယ်ရောက်ပြီးမိန်းမပျိုကို ဝလီအုပ်ထိမ်းသူက ကျွန်ုပ် အသင်မကို မည်သူနှင့်နေကာဟ်ပြုပေးမည်၊ သို့မဟုတ် နေကာဟ်ပြုပေးသည်ဟု ပြောဆိုသောအခါ သူငယ်မသည် ထိုစကားကို ကြား၍ တိတ်ဆိတ်စွာဘာမျှပြန်မပြောဘဲနေသည်ဖြစ်စေ၊ ပြုံးလျက်နေသည်ဖြစ်စေ၊ ငိုလျက်နေသည် ဖြစ်စေ အခွင့်ပြုပြီဟု မှတ်ယူရမည်၊ ထိုအခါ ဝလီက လက်ထပ်လျှင် ပိုင်၏၊ လက်ထပ်ခဲ့ပြီးဖြစ်လျှင်လည်း ပိုင်၏၊ ဤကဲ့သို့ သူမများကို နှုတ်ဖြင့် ဖွင့်ဟ ပြောမှသာ အခွင့်ဟု မအောက်မေ့ရ၊ အကြင်သူတို့သည် အတင်းအဓမ္မ နှုတ်မှမြွက်ဆိုအောင် မေးသော် ၎င်းတို့သည် မလျော်သောအလုပ်ကို ပြုလုပ်ကြခြင်းဖြစ်၏။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၀၀။

၆။ မတ်စ်အလဟ် ပြဿနာ။ ဝလီ အုပ်ထိမ်းသူက အခွင့်စကား ပြောကြား သောအခါ၌ လက်ထပ်မည့် ခင်ပွန်းသည်၏ နာမည်ကို မပြောဘဲ သူငယ်မကလည်းပထမဦးစွာ မသိသေးမူထို အခါ၌ သက်သက် တိတ်ဆိတ်စွာ နေရုံဖြင့် သဘောတူ ကျေနပ်ကြောင်း ခွင့်ပြုကြောင်း မမှတ်ရ၊ သာမက မည်သူမည်ဝါနှင့် လက်ထပ် ပေးလိုသည်ဟု သေချာစွာ မေးမြန်းပြောဆိုရန် ထိုက်လေသည်၊ ဤသို့ မေးမြန်းပြောဆိုသဖြင့် သူငယ်မသည် ငါ့အား မည်သူနှင့် လက်ထပ်ရန်, မေးသည်-ပြောသည်ဟု သိရန် အရေးကြီးသည်၊ ထိုနည်းတူစွာ (မဟ်ရ်) ခန်းဝင်ကြေးငွေ မည်မျှဟု မပြောခဲ့လျှင်သော်လည်းကောင်း၊ မဟ်ရ် မစ်သ်လ်ခေါ် မိမိတို့အဆက်တွင် ရရှိဘူးခဲ့သူတို့၏ မဟ်ရ်ထက် လျော့နည်းခဲ့လျှင် သော်လည်းကောင်း အဆိုပါ သူမ၏ အခွင့်မပြုဘဲ နေကာဟ် အထမမြောက်ပေ၊ ထိုသူမ အတွက် နည်းလမ်းရှိသည်နှင့်လျော်ညီစွာ ထပ်မံ၍ အခွင့်စကား ပြောကြားရန် ထိုက် လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၀။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍အကြင်သူမသည် အပျိုမဟုတ်ဘဲ ပဌမတစ်ကြိမ် လက်ထပ် ထိမ်းမြားခဲ့ဘူးသူ ဖြစ်သော် ၎င်းသူမအား ဒုတိယနေကာဟ်ပြုရန် ဝလီအုပ်ထိမ်းသူက အခွင့်တောင်းဆိုမေးမြန်းပြောဆိုသောအခါ တိတ်ဆိတ်စွာနေရုံမျှဖြင့် အခွင့်ပြုသည်ဟု မယူရ၊ သာမက နှုတ်ကဖွင့်လှစ်၍ ပြောမှသာ အခွင့်ပြုသည်ဟု မှတ်ယူရမည်၊ အကယ်၍ ထိုသူမနှုတ်ဝယ်မှ မမြွက်ဟာဘဲ တိတ်ဆိတ်နေခြင်းနှင့်ပင် ဝလီအုပ်ထိမ်းသူက လက်ထပ်ပေးလိုက်မူ နေကာဟ် မပြီးပြတ်ပေ၊ ထို့နောက် ၎င်းသူမ၏ နှုတ်မှ သဘောတူ ကျေနပ်ကြောင်းပြောဆိုမူ နေကာဟ်ပိုင်၏၊ မကျေနပ်ခဲ့လျှင် မပိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၈၉။

၈။ မတ်စ်အလဟ်ပြဿနာ။ အုပ်ထိမ်းသူက အဘ ဝလီရှိပါလျက် ဘကြီး, ဘထွေး, မောင်, မှ စ၍ အခြားဝလီ တစ်ဦးတစ်ယောက်က အပျိုစစ်သူငယ်မအား အခွင့်စကားမေးမြန်းပြောဆိုခဲ့သော် တိတ်ဆိတ်စွာနေရုံမျှဖြင့် အခွင့်မမြောက်၊ နှုတ်မှမြွက်ဟာ၍ အခွင့်ပေးမှသာ အခွင့်မြောက်သည်၊ သို့သော် အဘဖြစ်သူက တစ်ဦးတစ်ယောက်သောသူကို အခွင့်တောင်းယူ မေးမြန်းပြောဆိုရန် စေလွှတ်သဖြင့် မေးမြန်းတောင်းဆိုမူ တိတ်ဆိတ်စွာ နေရုံမျှဖြင့် အခွင့်ပေးရာရောက်၏၊ နှုတ်က မြွက်ဆိုသည်ဖြစ်စေ၊ မမြွက်ဆိုသည်ဖြစ်စေ မလိုတော့ပေ၊ အချုပ်စကားမှာ.... ရှရီအတ်တရားတော်က ညွှန်ပြသတ်မှတ်သော ဝလီအုပ်ထိန်းသူ အရင်းဆုံး ကိုယ်တိုင်ဖြစ်စေ၊ ၎င်းသူက စေလွှတ်သော ကိုယ်စားလှယ်တို့ကဖြစ်စေ အခွင့်စကားမေးမြန်းပြောဆိုခဲ့မူ ဘာမျှမပြောဘဲ တိတ်ဆိတ်စွာနေရုံမျှဖြင့် အခွင့်ပေးရာရောက်သည်၊ အကယ်၍ ဖခင်၏ အဘဖြစ်သော ဘိုး, ဝလီ အရင်းဆုံး ဖြစ်ပါလျက် မောင်က မေးသည်ဖြစ်စေ၊ မောင်, ဝလီအရင်းဆုံးရှိပါလျက် ဘကြီး, ဘထွေး, တို့ကဖြစ်စေ ထိုအခါ တိတ်တဆိတ် နေရုံမျှဖြင့် အခွင့်ပေးရာမမည်ပေ၊ နှုတ်မှ မြွက်ဟာ၍ အခွင့်ပေးရန် အရေးကြီး၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၂။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၈၇။

၉။ မတ်စ်အလဟ်ပြဿနာ။ ဝလီ အုပ်ထိမ်းသူက မမေးမမြန်း အခွင့်မယူဘဲ သူပျိုမကို နေကာဟ် လက်ထပ်လိုက်ပြီးသည့်နောက် ၎င်းဝလီ ကိုယ်တိုင်ဖြစ်စေ၊ သို့မဟုတ် ဝလီက စေလွှတ်သော ကိုယ်စားလှယ် တစ်ဦးတစ်ယောက်ဖြစ်စေ သူပျိုမထံ လာရောက်ပြီးလျှင် အသင်မအား မည်သူနှင့်နေကာဟ်ပြုပြီးသည်ကို သိစေရန် ပြောဆိုသောအခါ တိတ်တဆိတ် တစ်စုံတစ်ရာ ပြန်မပြောဘဲနေခဲ့ပါလျှင် အခွင့်ပေးရာရောက်သဖြင့် နေကာဟ်ပိုင်လေသည်၊ ထိုနည်းတူစွာ ရိုးသား ဖြောင့်မတ်သောသူ တစ်ဦးတည်းဖြစ်စေ၊ နှစ်ဦးဖြစ်စေ ၎င်းတို့က သိစေရန် သတင်းစကား ပြောကြားသည့်အခါ တိတ်တဆိတ် ပြန်မပြောဘဲနေခဲ့လျှင်လည်းနေကာဟ်ပိုင်၏၊ အကယ်၍မေးမြန်းပြောဆိုသူသည် တစ်ယောက်

တည်းဖြစ်၍ တည်ကြည်ဖြောင့်မတ်သူ မဟုတ်သော် တိတ်တဆိတ် နေရုံမျှနှင့် နေကာဟ် မပိုင်သေးပေ၊ သူငယ်မနှုတ်ဝယ်မှ အတိအလင်း အခွင့်ပေးမှုဖြစ်စေ၊ သို့မဟုတ် အခွင့် ပေးကြောင်း မှတ်ယူနိုင်လောက်သော စကားကိုမြွက်ဆိုမှုဖြစ်စေ နေကာဟ်ပိုင်ပေသည်။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၀၀။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။အထက် ဖော်ပြခဲ့သည့်အတိုင်း သူပျိုမနှုတ်က အခွင့်ပေးကြောင်း မြွက်ဆိုရန် အရေးကြီးသော နေရာများတွင် ၎င်းသူမ၏နှုတ်မှ အခွင့် သာကြောင်း မမြွက်ဆိုငြားသော်လည်း သူ၏ထံသို့ ခင်ပွန်းဖြစ်သူလာသောအခါ ကာမ စပ်ရှက်ပေါင်းသင်းခြင်းမှ ငြင်းဆန်ခြင်းမပြုခဲ့သော် နေကာဟ်ပိုင်၏။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ။ယောကျ်ားပျို၏ပညတ်မှာလည်း ဖော်ပြခဲ့သည့် အတိုင်း အရွယ်ရောက်ပြီးဖြစ်သော် ၎င်းသူပျို သဘောမတူခွင့်မပြုဘဲ ဝလီအုပ်ထိန်းသူက အတင်းအဓမ္မ လက်ထပ်၍ မပေးနိုင်ပေ။ အကယ်၍မမေးမမြန်းဘဲနေကာဟ် ပြုပေးသော် ထိုသူ၏အလိုသဘောအတိုင်း ခွင့်ပေးလိုက်လျှင် နေကာဟ်ပိုင်၏၊ ငြင်းဆန်လျှင်မပိုင်ချေ၊ သို့သော် ယောကျ်ားနှင့် မိန်းမ ပညတ်ချက်မတူ၊ ကွဲလွဲသည်မှာ များစွာ မဟုတ်ပေ၊ ယောကျ်ားသည် လူပျိုစစ် (အိမ်ထောင်မပြုဘူးသူ) ဖြစ်စေကာမူ သက်သက် တိတ်တဆိတ် နေရုံမျှဖြင့် အခွင့်ပေးရာမရောက် နှုတ်လျှာမှ မြွက်ဆိုရန်ထိုက်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၅။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ။အရွယ်မရောက်သေးသော သူငယ်/မ တို့သည် ပထမထိုက်သော ဝလီအုပ်ထိန်းသူ၏ အခွင့်မရဘဲ မိမိတို့ သဘောအလျောက် လက်မထပ် နိုင်ချေ၊အကယ်၍ ထိုသူနှစ်ဦးတို့သည်ဝလီအုပ်ထိန်းသူ၏ အခွင့်အမိန့်မရဘဲ မိမိတို့အလိုဆန္ဒ အတိုင်း နေကာဟ်ပြုလျှင်သော်လည်းကောင်း၊ သို့မဟုတ် အခြားသောသူက လက်ထပ် ပေးလိုက်လျှင်သော် လည်းကောင်း ဝလီ၏ အခွင့်အပေါ်တွင် နေကာဟ် တည်နေသည်၊ အဓိပ္ပါယ်ကား ... ဝလီအုပ်ထိန်းသူကအခွင့်ပေးလျှင်နေကာဟ်ပိုင်၏၊ သို့မဟုတ်ကမပိုင်ပေ၊ ၎င်းဝလီသည် ထိုသူငယ် သူငယ်မတို့အား နေကာဟ်ပြုပေးရန် ပြည့်စုံစွာစိုးပိုင်သူဖြစ်သော ကြောင့် အလိုရှိသောသူနှင့်နေကာဟ်ပြုပေးနိုင်သည်၊ သူငယ် သူငယ်မတို့ သဘောတူသည် ဖြစ်စေ၊ မှတူသည်ဖြစ်စေ ၎င်း နေကာဟ်ကို မဖျက်နိုင်၊ ထိုအရွယ် မရောက်သေးသော သူငယ် သူငယ်မသည် အိမ်ထောင်မပြုရသေးသည်ဖြစ်စေ၊အိမ်ထောင်ပျက်ဖြစ်စေ ပညတ် တစ်မျိုးတည်းဖြစ်ကြ၍ ဝလီ၏ အမိန့်ကို မပယ်နိုင်ချေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၂၃။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀၃။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ။အရွယ်မရောက်သေးသော သူငယ်/မတို့အား အဖ သို့မဟုတ် အဖ၏ အဖအဘိုးတို့က နေကာဟ် လက်ထပ် ထိမ်းမြားခဲ့သော် အရွယ်ရောက်ပြီးသည့်နောက်မှာလည်း ထိုနေကာဟ်ကိုမဖျက်နိုင်ပေ၊ အဓိပ္ပါယ်ကား.... သူငယ်မသည်မိမိ၏အမျိုးဂုဏ်ရည်တူနှင့်ဖြစ်စေ၊မိမိထက်အမျိုးဂုဏ်နိမ့်သူနှင့်ဖြစ်စေ မဟ်ရ်မဗ်သ်လ် အထက်အဆက်မှာ ရသမျှ မဟ်ရ်ပစ္စည်းနှင့် ဖြစ်စေ၊ ထို့ထက်များစွာ လျော့၍ ဖြစ်စေ ဝလီသဘောအရ ပထမလက်ထပ်ခဲ့သည်ကို မငြင်းဆန်နိုင်၊ အဘယ်နည်းနှင့်မဆိုနေကာဟ်ပိုင်၏၊ အရွယ်ရောက်ပြီးသည့်နောက် တစုံတရာခုခံ၍မပြောနိုင်ချေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၂၀။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ အဖက ၎င်းအဖ၏အဖအဘိုးတို့အပြင် အခြားသောဝလီတစ်ဦးတစ်ယောက်က အရွယ် မရောက် သေးသော သူငယ်မကို မိမိ၏ အမျိုးဂုဏ်တူသူ အရွယ်မရောက်သေးသော သူငယ်နှင့် မဟ်ရ်မှာလည်း (မဟ်ရ်မစ်သ်လ်) အတည်သတ်မှတ်ပြီး လက်ထပ် ထိမ်းမြားပေးစားခဲ့သော် သူငယ်မ အရွယ် မရောက်မီ နေကာဟ်ပိုင်၏၊ အရွယ်ရောက်ပြီးသည့်နောက် သူ၏ အလိုဆန္ဒအတိုင်း ၎င်း နေကာဟ်ကိုပင် အပိုင်ထားလိုကထားနိုင်သည်၊ သို့မဟုတ် မွတ်စလင်မ်တရားသူကြီးထံမှာလျှောက်ထား၍ နေကာဟ်ကိုဖျက်နိုင်၏၊အကယ်၍ ထိုဝလီကသူငယ်မကို အမျိုးဂုဏ်ရည်နိမ့်သောယောကျ်ားနှင့်ဖြစ်စေ၊ (မဟ်ရ်မစ်သ်လ်) ထက်လျော့၍ဖြစ်စေ၊ သို့မဟုတ် မဟ်ရ် သင့်သည်ထက် များစွာအပိုရသောကြောင့်ဖြစ်စေလက်ထပ်ပေးစားခဲ့မူ ၎င်း နေကာဟ်မပိုင်ဟု မှတ်ယူရမည်။

ရှာမီကျမ်း အတွဲ -၂၊စာမျက်နှာ-၄၂၀။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ။ဘိုးဘတို့၏ပြင် အခြားသောဝလီက အရွယ်မရောက်သေးသော သူငယ်မကို လက်ထပ် ထိမ်းမြားပေးရာ သူငယ်မ ကိုယ်တိုင်လည်း နေကာဟ်ပြုပြီးကြောင်းသိလျက် အရွယ်ရောက်သည်တိုင် လင်ယောကျ်ားဖြစ်သူက ၎င်းနှင့် အတူတကွ ကာမစပ်ရှက်ပေါင်းသင်းဆက်ဆံခြင်း မပြုသေးသော် သူငယ်မအရွယ်ရောက်၍ အပျိုဖြစ်သည်နှင့် တပြိုင်နက် သဘောမကျ မကျေနပ်ပါလျှင် ဆောလျင်စွာ မဆိုင်းဘဲ ကျွန်မသဘောမတူပါ၊ သို့မဟုတ် ကျွန်မ၏နေကာဟ်ကိုအတည်မထားလိုပါဟု သက်သေရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ငြင်းပယ်စကား မြွက်ကြားပြောဆိုရမည်။

အကယ်၍ မိမိတစ်ယောက်ထဲပင်ဖြစ်စေကာမူ အရွယ်ရောက်လာလျှင် မဆိုင်းငံ့ဘဲ ပြောဆိုရာ၏၊ သို့ရာတွင် သက်သက်ဤသို့မြွက်ဟပြောဆိုရုံနှင့် နေကာဟ် မပျက်သေးပေ၊ ရှရီအတ် တရားတော်အရ ရုံးမင်းထံမှာ သွားရောက် လျှောက်ထားပြီး ဖျက်မှသာ နေကာဟ် ပျက်သည်၊ အကယ်၍ အရွယ်ရောက်ပြီးနောက် တစ်နာရီ တစ်မိနစ်ခန့်ပင် သူငယ်မနှုတ်မှ မမြွက်ဟဘဲ၊ တိတ်တဆိတ်နေခဲ့ပါလျှင် ထိုအခါတွင် နေကာဟ်မဖျက်နိုင်တော့ပေ၊ ထိုနည်းတူစွာ အရွယ်မရောက်မီ သူငယ်မသည် မိမိ နေကာဟ် ပြုပြီးကြောင်း

မသိ၊ အရွယ်ရောက်၍အပျိုဖြစ်မှသိမှု သိသည်နှင့်တပြိုင်နက် တအောင့်တနားမဆိုင်းငံ့ဘဲ နေကာဟ် ပြုခြင်းကို သဘောမတူကြောင်း ငြင်းဆန် လိုက်ရမည်၊ အပျိုဖြစ်ပြီးနောက် မငြင်းဆန်ဘဲ အတန်ကြာ တိတ်တဆိတ်နေခဲ့သော် ၎င်းသူမသည် နေကာဟ်ဖျက်နိုင်ခွင့် မရှိတော့ပေ။ ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၁၉။ ၂၂၅။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ။အရွယ်မရောက်သေးသော သူငယ်မသည် မိမိ ခင်ပွန်းနှင့် ကာမစပ်ရှက် ပေါင်းသင်းပြီးဖြစ်သော် အရွယ်ရောက်၍ နေကာဟ် ပြုပြီး ကြောင်း သိသည်နှင့်တပြိုင်နက် ငြင်းပယ်ရန် အရေးမကြီးပေ၊ မည်သည့် အချိန်အခါ လွန်ငြားသော်လည်း စဉ်းစားဆင်ခြင်ပြီးမှ သဘောကျကျေနပ်ကြောင်း သို့မဟုတ် မကျေ နပ်ကြောင်းကို ငြင်းဆန် ပြောဆိုနိုင်ခွင့်ရှိသည်၊ သို့ရာတွင် အရွယ် ရောက်ပြီးနောက် သူပျိုမ၏ နှုတ်လျှာမှ ကျွန်မသဘောကျကျေနပ်ပါသည်ဟု ပြောသည်ဖြစ်စေ သို့မဟုတ် မကျေနပ်ကြောင်း အတည်ဖြစ်လောက်သော အမူအရာနှင့်ဖြစ်စေ၊ ဥပမာ....မိမိခင်ပွန်း နှင့်တကွ နှစ်ကိုယ်တစ်ကိုယ် လင်မယားသဖွယ် နေကြသည်ဖြစ်စေ နေကာဟ်ဖျက်နိုင်ခွင့် မရှိတော့ချေ၊ အတည်ဖြစ်သွား၏။

ရှရှိဟ်ဝေကာယဟ်ကျမ်း စာမျက်နှာ ၂၅။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ။အရွယ်မရောက်သေးသောသူငယ်မကို နေကာဟ် လက်ထပ်ပေးရန် ပထမထိုက်သော ဝလီသည် အလွန် ဝေးကွာသော အရပ်ဒေသတွင် ရှိနေသောကြောင့်အကယ်၍ထိုသူအား စောင့်ဆိုင်း၍နေလျှင်သော်လည်းကောင်း၊ သွား ရောက်၍ တိုင်ပင်နေရလျှင်သော်လည်းကောင်း ဤကဲ့သို့ အခန့်သင့်မဖြစ်နိုင်၊ လက်လွတ် သွားရလိမ့်မည်၊ နောင်ကိုလည်း အခန့်သင့်ရဖို့ခဲယဉ်း သည်ဟု ထင်မှု ထိုပထမ ဝလီ၏ နောက်ဆက်ခံထိုက်သော ဝလီကပင် နေကာဟ် လက်ထပ်ပေးနိုင်လေသည်၊ အကယ်၍ ဒုတိယဝလီကပထမဝလီကိုမမေးမမြန်းဘဲ လက်ထပ်လျှင်လည်း နေကာဟ်ပိုင်၏၊ပထမထိုက် သောဝလီသည် များစွာဝေးကွာသော အရပ်ဒေသ၌မဟုတ် မေးမြန်းရန်မခဲယဉ်းမူ သူ၏ အခွင့်အမိန့်မရဘဲ ဒုတိယ ဝလီက လက်မထပ်နိုင်၊ အကယ်၍ အခွင့်မဲ့ လက်ထပ်ခဲ့ပါမူ ၎င်းပထမဝလီ၏ သဘောတူမှသာ ပြီးပြတ်နိုင်သည်၊ အဓိပ္ပါယ်ကား.... ၎င်းဝလီကအခွင့် ပေးသော်အခါ နေကာဟ်ပိုင်၏၊ မပေးလျှင် မပိုင်ပေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၁၀။

၁၈။ မတ်စ်အလဟ်ပြဿနာ။ ။ဤနည်းတူစွာ အရင်းခံပထမထိုက်သော ဝလီ ရှိလျှက် ဒုတိယဝလီက အရွယ်မရောက်သူကို နေကာဟ်လက်ထပ်လိုက်မည်၊ ဥပမာ.... ပထမထိုက်သူအဖရှိပါလျှက် ၎င်းကိုမမေးမမြန်းဘဲ အဖ၏အဖေက နေကာဟ်ပြုပေးသည် ဖြစ်စေ၊ အစ်ကိုရှိပါလျှက် ဘကြီး၊ ဘထွေး တို့က နေကာဟ် ပြုပေးလိုက်သည် ဖြစ်စေ၊ အဖ ၎င်းအစ်ကိုတို့ကို အခွင့်တွင် နေကာဟ်တည်သည်၊ အဓိပ္ပါယ်ကား.... ထိုသူတို့အခွင့် ပြုလျှင် နေကာဟ်ပိုင်၏၊ အခွင့်မပြုလျှင်နေကာဟ်မပိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၀၅။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ။အကြင် သူမသည် စိတ်မကောင်း ရှူးသွတီ ပေါ်နှန်းသူဖြစ်သော်ငှင်းသူမကိုလက်ထပ်လိုသောအခါ အရွယ်မရောက်သေးသောသူငယ်မ ကဲ့သို့ ဝလီကလက်ထပ်ပေးမှ သို့မဟုတ် ခွင့်ပြုမှသာနေကာဟ်ပိုင်၏၊ သို့ရာတွင်ထိုသူမမှာ အဖလည်းရှိ၍ အရွယ်ရောက်ပြီး သားလည်းရှိမူ ၎င်းသူမအတွက် ပထမ ဝလီသည် သားဖြစ်သည်၊ အဖမဟုတ် အဘယ့်ကြောင့်ဆိုသော် သားသည် အဖထက် အရင်း ကျသည် ဟူ၏။ ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်င့ာ ၁၁၀။

# [ကွဖ်ဝ် ]အမျိုးဂုဏ်တူခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ရှရီအတ်တရားတော်တွင် ဂုဏ်ကျက်သရေမတူမျှ သူနှင့် နေကာဟ်လက်မထပ်ရန် များစွာသတ်မှတ်ချက်ရှိသည်၊ အမိပ္ပါယ်ကား..... အရွယ် မရောက်သောသူငယ်မကို ဝလီအုပ်ထိန်းသူက သူနှင့်အမျိုးဂုဏ်မတူသော ယောကျ်ားနှင့် နေကာဟ်ပြု၍မပေးရ၊ ဘာသာရေးရာ လေးစားမှုတွင်လည်း မတူညီလျှင် မပေးစားရ။

၂။ မတ်စ်အလဟ် ပြဿနာ။ ။(ကွဖ်ဝ်)ခေါ် အမျိုးဂုဏ်တူဆိုသည်မှာ ၄ါးမျိုး ရှိ၏။

၁။ အမျိုးအနွယ် ဂုဏ်တူဖြစ်ခြင်း။

၂။ မွတ်စလင်မ် ဖြစ်ခြင်း။

၃။ သာသနာတော်ကိုလေးစားသူဖြစ်ခြင်း။

၄။ ဥစ္စာဓနမှာဂုဏ်တူဖြစ်ခြင်း။

၅။ အလုပ်အကိုင်မှာဂုဏ်တူဖြစ်ခြင်း။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၀၂။

၃။ မတ်စ်အလဟ်ပြဿနာ။ ။အမျိုးအနွယ် ဂုဏ်တူခြင်း ဆိုသည်မှာ (ရှိုက်ခ်) ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အထက်အဆက်နှင့် (စိုင်ယစ်ဒ်)ခေါ် တမန်တော် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်မှ မွေးဖွားဆက်သွယ်ခဲ့သော အမျိုးအနွယ်၊ (အန်စွာရီ) ခေါ် တမန်တော်မြတ်အား မဒီနာမြို့ဘော်၌ ကူညီ ရိုင်းပင်ကြသော ပုဂ္ဂိုလ် များ၏ အဆက်အနွယ်၊ (အွလ်ဝီ) ခေါ် အလီ(ရသွေ့)သခင်၏(ဘီဘီ ဖွာတေ့မာ ဝမ်းမှမဟုတ်ဘဲ အခြားသော) ကြင်ယာတော်များမှ အဆက် အနွယ် တို့သည် ဂုဏ်တူ ဖြစ်ကြသည်၊ အမိပ္ပါယ်ကား.... စိုင်ယစ်ဒ် အမျိုးအနွယ် များ၏ ဂုဏ်ကျက်သရေသည် ဆိုခဲ့သည့် သူ အပေါင်းတို့ထက်သာပိုကြီးကဲပြားသော်လည်း စိုင်ယစ်ဒ်အမျိုးသမီးနှင့်ရှိုက်ခ်အမျိုးသား တို့လက်ထပ်သော် မိမိအမျိုးဂုဏ်တူနှင့် နေကာဟ်ပြုသည်ဟု ဆိုရမည်။

ဖွတာဝါကာသွ ိခါန်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄၉။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အမျိုးအနွယ်သည် အဖဘက်ကသာ အရေးယူရ၍အမိဘက်ကမလိုပေ၊ ဥပမာ....အဖသည် စိုင်ယစ်ဒ်အမျိုးဖြစ်လျှင် အမိသည် အခြားအမျိုးဖြစ်ငြားသော်လည်း ၎င်းတို့သားသမီးကို စိုင်ယစ်ဒ်ဟုမှတ်ယူရမည်၊ ထိုနည်းတူစွာဖခင် (ရှိုက်ခ်)အမျိုးဖြစ်လျှင် သားသမီးများကို (ရှိုက်ခ်) အမျိုးဟုမှတ်ယူရသည်။

မိခင်ဘက် အဆက်အနွယ်သည် မြတ်သည်ဖြစ်စေ၊ ညံ့သည်ဖြစ်စေ ဂရုမပြုရ၊ အကယ်၍ စိုင်ယစ်ဒ်တစ်ဦးတစ်ယောက်က မိမိတို့ အနွယ်မဟုတ်သည့် အမျိုးညံ့မိန်းမတစ်ဦးကို နေအိမ်သို့ ခေါ်ဆောင်၍ နေကာဟ် လက်ထပ်ထားသဖြင့် သားသမီး မွေးဖွားသော် ၎င်းတို့သည် စိုင်ယစ်ဒ် ဖတူမိတူ မွေးဖွားသူတို့နှင့် မခြားမနား အနွယ်တူ ဖြစ်ကြ၏။ သို့သော် မိဘနှစ်ပါး စိုင်ယစ်ဒ် အမျိုးဖြစ်ကြ၍ စုံမက်မွေးဖွားသော သားသမီးတို့မှာ သာပိုပြီး ဂုဏ်ကျက်သရေ ရှိလေသည်၊ သာပင် သာငြားသော်လည်း ရှရီအတ်တရားတော်တွင် နေကာဟ်တွင် အမျိုးအနွယ် ဂုဏ်ရည်တူဟုပညတ် ထား၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၃၆။

၅။ မတ်စ်အလဟ် ပြဿနာ။ ။(မိုဂွလ်) (ပထန်) တို့သည် အမျိုးဂုဏ်တူဖြစ်ကြ၏၊အထက်ညွှန်ပြခဲ့သော (ရှိုက်ခ်)(စိုင်ယစ်ဒ်)အမျိုးများနှင့် ဂုဏ်တူမဖြစ်နိုင်ပေ၊ ၎င်းတို့ကညံ့သည်၊ အကယ်၍ ရှိုက်ခ် အမျိုး သို့မဟုတ် စိုင်ယစ်ဒ် အမျိုးသမီးသည် မိုဂွလ် ပထန်အမျိုးသားနှင့် လက်ထပ်သော် အမျိုးဂုဏ်မတူဘဲ လက်ထပ်သည်ဟုဆိုရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄၃။၄၄၄။
အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၃၄၉။

၆။ မတ်စ်အလဟ်ပြဿနာ။ ။မွတ်စလင်မ်ဖြစ်ခြင်း၌ ဂုဏ်ရည်တူ ဆိုသည်မှာ... ရှိုက်ခ်၊စိုင်ယစ်ဒ်၊အွလ်ဝီ၊အန်စွာရီ အမျိုးအဆက်တို့မှာ လိုက်စစ်ရန်မလို၊ (မိုဂွလ်၊ပထန်) မှစ၍ အခြားအမျိုးများမှသာ လိုက်စစ်ရန်လိုသည်၊ ဥပမာ... ကာဖွင်ရ် အမျိုးခြားက မွေးဖွားသော သားသည် အဖ ကာဖွင်ရ် အမျိုးညံ့ ဖြစ်သောကြောင့် သူ့ကိုယ်တိုင် အစ္စလာမ်ဘာသာသို့ ဝင်ရောက်ခဲ့ငြားသော်လည်း အဖမွတ်စလင်မ်ဖြစ်သော အမျိုးသမီးနှင့် ဂုဏ်တူမဖြစ်နိုင်ပေ၊ ထိုနည်းတူစွာ အဖသာ မွတ်စလင်မ်ဖြစ်၍ ဖခင်၏ အဖဖြစ်သော အဘိုးသည် ဘာသာခြားဖြစ်ခဲ့သော် ထိုမွတ်စလင်မ်အမျိုးသားသည် ဘိုးအဆက်ကပါ မွတ်စလင်မ်ဖြစ်သော အမျိုးသမီးနှင့် ဂုဏ်မတူပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀။

၇။ မတ်စ်အလဟ် ပြဿနာ။ ။ဘိုးဖ နှစ်ဘက်စလုံးက မွတ်စလင်မ် အဖြစ်နှင့် ဆက်နွယ်ခဲ့သော အမျိုးသားသည် ဘေးမှ စ၍ အထက်အဆက်များတွင် မွတ်စလင်မ်

ဘာသာ၀င် မဟုတ်ခဲ့ငြားသော်လည်း ဘိုး ဘေး ဘီ အဆက်က မွတ်စလင်မ် ဖြစ်ခဲ့သော အမျိုးသမီးနှင့်ဂုဏ်တူရည်တူဖြစ်လေသည်၊ အချုပ်သဘောမှာ ဖခင်၏ အဖဖြစ်သော ဘိုးသို့တိုင် ရောက်အောင်သာ အမျိုးတူလိုက်စစ်ရမည်၊ ၎င်း၏အထက်ဆက်တို့ မွတ်စလင်မ် ဘာသာ၀င်ဖြစ်စေ၊ အခြားဘာသာ၀င်ဖြစ်စေ လိုက်စစ်ရန်မလိုပေ။

ရှရှိဟ်ဝေကာ်ယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၈။

၈။ မတ်စ်အလဟ်ပြဿနာ။ ။သာသနာတော်ကိုလေးစားခြင်း၊ ဂုဏ်ဆိုသည်မှာ ဥပမာ....တရားတော်ကိုမလေးစားဘဲ တရားတော်နှင့်ဆန့်ကျင်ဘက်ဖြစ်သော ထန်းရည်, အရက်, ဘိန်းကင်း, ကဇော် မှစ၍ သောက်စားသူ လူဒလ, လူလှင့်, လူယုတ်မာ, လူမိုက်, လူဆိုးတို့အား တရားတော်ကို ရိုသေလေးစား လိုက်နာဆောင်ရွက်နေသော သူ၏သမီးနှင့် ဂုဏ်တူမဖြစ်နိုင်ချေ။

ရှာမီကျမ်း အတွဲ -၂၊ စာမျက်နှာ-၄၄၀။

၉။ မတ်စ်အလဟ်ပြဿနာ။ ။ဥစ္စာဓနမှာ ဂုဏ်ရည်တူခြင်းဟူသည်မှာ အလွန် ဆင်းရဲနွမ်းပါးသော ယောကျ်ားသည် ဓနဥစ္စာနှင့် ပြည့်စုံသောမိန်းမနှင့် လက်ထပ် ရန်ဂုဏ်ရည်မတူပေ၊ သို့ရာတွင် ပထမညဉ့်၌ အခန်းဝ၌ကာမပိုင်ကြေး(မဟ်ရ်)နည်းငယ်ပါ ထုံးစံရှိသကဲ့သို့ ပေးနိုင်လောက်သော စွမ်းအားရှိမူ ထိုသူသည် ပကတိ ဆင်းရဲနွမ်းပါးသူ မဟုတ်၊ အထက်ဆိုခဲ့သော မိန်းမနှင့် ဂုဏ်ရည်တူ ဖြစ်နိုင်သည်၊ မဟ်ရ် အပြည့်အစုံပေး နိုင်သည်ဖြစ်စေ၊ မပေးနိုင်သည်ဖြစ်စေ ဂုဏ်ရည်တူဟု ဆိုရမည် ၎င်းပြစ် လက်ထပ်မည့် သူငယ်မမှာ ဥစ္စာဓနရှိသလောက် သူငယ်မှာလည်း ဥစ္စာဓနရှိမှသာ လက်ထပ်ဖို့ ဂုဏ် ရည်တူသူဟုမမှတ်ယူရ၊ မဟ်ရ်အနည်းဆုံးမှာ ငွေဒင်္ဂါးနှစ်ကျပ်ငါးဆယ်ပြားဖြစ်သည်။

ဒွုရ်ရှေ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၉၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ။အလုပ်အကိုင်၌ ဂုဏ်ရည်တူဆိုသည်မှာယက်ကန်း သည် အမျိုးသည် စက်ချုပ်သမား အမျိုးနှင့် ဂုဏ်ရည်မတူပေ၊ အဓိပ္ပါယ်ကား.... ယက်ကန်းသည်မျိုး ယောကျ်ားနှင့် စက်ချုပ်သမား အမျိုးသမီးတို့ လက်ထပ် လိုသော် အမျိုးဂုဏ်မတူသဖြင့်လ က်ထပ်ရန်မသင့်ဆိုလိုသည်၊ ထိုနည်းတူစွာ ခဲ၀ါသည်နှင့် ဆတ္တာ သည် အမျိုးသားတို့သည်လည်း စက်ချုပ်သမားအမျိုးသမီးနှင့် ဂုဏ်ရည်မတူပေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၄၂။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ။စိတ်ဖောက်ပြန်ရူးသွတ်သော ယောကျ်ားသည် စိတ်တည်ကြည်ကောင်းမွန်စွာရှိသော မိန်းမနှင့် လက်ထပ်ရန် ဂုဏ်ရည်မတူပေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၅၁။

# [မဟ်ရ်]ခေါ် ဇနီးအတွက် သီးသန့်ပေးရသော ကာမပိုင်ကြေး အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။လက်ထပ်ထိမ်းမြားသောအခါ (မဟ်ရ်) ခေါ် ကာမပိုင်ကြေး မည်ရွေ့မည်မျှဟု အတိအလင်း သတ်မှတ်သည်ဖြစ်စေ၊ မသတ်မှတ်သည် ဖြစ်စေ နေကာဟ်ပိုင်၏၊ သို့သော် လက်ထပ်ပြီးနောက်(မဟ်ရ်)ပေးရလိမ့်မည်၊ အကယ်၍ အကြင်သူက ကျွန်ုပ် မဟ်ရ် မပေးဟု ကတိပြု၍ မိန်းမတစ်ဦးနှင့် သဘောတူလက်ထပ်မှု လည်း မပေးဘဲ မနေရပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၄။

၂။ မတ်စ်အလဟ်ပြဿနာ။ ။ရှရီအတ်တရားတော်၌ လက်ထပ်မည့်သူက လက်ထပ်မည့်သူမကို မဟ်ရ်ခေါ် ကာမပိုင်ကြေး အနည်းဆုံးပေးရန်ပညတ်ချက်မှာ(အင်္ဂလိပ်သုံး ဒင်္ဂါးနှင့်) ၂ ိ၊ ၁၂ပဲ(၂ ိ၊ ၅ ၀ ါး)ဖြစ်သည်၊ထို့ထက်မလျော့စေရ၊အကယ်၍(၂ ိ၊ ၁၂ပဲ) မျှထက် သာပို၍ ပေးမည်ဆိုလျှင် မည်မျှပင် သာပိုစေကာမူ ကိစ္စမရှိပေ၊ မိမိ အလိုရှိသမျှ ပေးနိုင်သည်၊ သို့သော်မဟ်ရ်ပစ္စည်းကိုအလွန်များစွာပို၍ပေးခြင်းသည်လည်းမကောင်းပေ၊ အကြင်သူသည် သက်သက် မဟ်ရ် ငွေဒင်္ဂါး တစ်ကျပ် သို့မဟုတ် ၈-ပဲ အတည်ပြု၍ မိန်းမ တစ်ယောက်နှင့် နှစ်ဦးသဘောတူ လက်ထပ်ထိမ်းမြားလျှင်လည်း ညွှန်ပြခဲ့သည့် အတိုင်း ၂ ိ၊ ၁၂ပဲ ပြည့်အောင်ပေးရမည်၊ ရှရီအတ် တရားတော်တွင် ထို့ထက်လျော့ပါက မဟ်ရ် မဖြစ်နိုင်ချေ၊ ၎င်းပြင် အကြင်သူသည် လက်ထပ်ပြီးနောက် မိမိဇနီးနှင့် ကာမ မစပ်ယှက်မီ ကွာရှင်းလိုက်သော် သတ်မှတ်သော မဟ်ရ်ပစ္စည်း ထက်ဝက်သာ ဇနီးသို့ ပေးရန်ထိုက်၏၊ မဟ်ရ် အားလုံးပေးရန်မလိုချေ၊ (ကာမစပ်ယှက်ပြီးမှကွာရှင်းလျှင် မဟ်ရ်အားလုံးပေးလိုက် ရမည်။)

ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၀၃။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက် ၆၉။

၃။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူသည် ငွေဒင်္ဂါး ၁၀ကျပ်၊ သို့မဟုတ် နှစ်ဆယ်ကျပ်၊ တစ်ရာ၊ တစ်ထောင်ကျပ် ဖြစ်စေ မိမိအင်အားနှင့် လျော်ညီစွာ မဟ်ရ်ပေး၍လက်ထပ် မင်္ဂလာပြုပြီးနောက် ထိုဇနီးကိုစွန့်လွှတ် ကွာရှင်းလိုက်သည် ရှိသော် အကယ်၍၎င်းသူမနှင့်ကာမစပ်ယှက်ပေါင်းသင်းပြီးဖြစ်စေ သို့မဟုတ်ကာမစပ်ယှက် ပေါင်းသင်းပြီး မဟုတ်ငြား သော်လည်း ပေါင်း သင်း ဆက်ဆံ ပျော်ပါးကြလျှင် မည်သူ တစ်ဦး တစ်ယောက်မှ တားဆီး ကန့်ကွက် ခြင်းငှါ မစွမ်းနိုင် သည့် လုံခြုံသောနေရာတွင် ဇနီးခင်ပွန်းတို့ နှစ်ကိုယ်တစ်ကိုယ် အတူနေကြပြီးလျှင်မဟ်ရ်အား လုံး မိန်းမသို့ ပေးလိုက်ရမည်၊ ထိုနည်းတူစွာ ဇနီးမောင်နှံ နှစ်ဦးတို့ အနက် တစ်ဦး တစ်ယောက် သေဆုံးသွားလျှင် မိန်းမအတွက် ပြည့်စုံစွာ မဟ်ရ်ပေးရန် ထိုက်လေသည်။ သို့သော် အထက် ညွှန်ပြခဲ့သော အချက်များ မပါရှိဘဲ လင်ယောကျ်ားက

(တွလာက်)ပေး၍ ကွားရှင်းခဲ့သော် မဟ်ရ်ထက်ဝက်သာပေးရန်ထိုက်လေသည်၊ အချုပ် သဘောမှာ လင်မယား နှစ်ဦးတို့သည် အထက်တွင် ရေးသား ဖော်ပြခဲ့သည့် အတိုင်း တနေရာတည်းတွင် ကာမစပ်ရှက်နိုင်သောအဖြစ်နှင့် အတူနေထိုင်၍ သို့မဟုတ် နှစ်ဦးအနက် တစ်ဦးတစ်ယောက်သေဆုံးခဲ့သော် မဟ်ရ်အပြည့်အစုံပေးရမည်၊အကယ်၍ကာမစပ်ရှက်နိုင် သော အဖြစ်၌မနေမီ တွလာက်ပေး၍ ကွာရှင်းလိုက်ပါလျှင် မဟ်ရ်ထက်ဝက်ပေးရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၆၁။

၄။ မတ်စ်အလဟ် ပြဿနာ။ ။ဇနီးခင်ပွန်းနှစ်ဦးတို့အနက်တစ်ဦးတစ်ယောက်မကျန်း မာသည်ဖြစ်စေ၊ သိမဟုတ် တစ်ဦးတစ်ယောက် ရမသွာန်လ၏ ရိုဇဟ် ဥပုသ် စောင့်ထိန်း လျက်ဖြစ်စေ ဟဂ်ျပြုရန် (အဲဟရာမ်) ချည်လျက်ဖြစ်စေ၊ ဇနီးဖြစ်သူ ဓမ္မတာ သွေးဆင်း လျက်ဖြစ်စေ သို့မဟုတ် အခြားသူ တစ်ဦးတစ်ယောက်က ၎င်းတို့ အတူ နေထိုင်သည်ကို ချောင်းမြောင်းလျက် ရှုကြည့်နေသည်ဖြစ်စေ ဤအချက် ပေါင်းတို့တွင် ဇနီး ခင်ပွန်း နှစ်ဦးတို့ တစ်နေရာတည်းအတူတကွနေကြခြားသော်လည်း အသုံးမဝင်ပေ၊ အဓိပ္ပါယ်ကား ဇနီး ခင်ပွန်း နှစ်ဦးတို့ လက်ထပ်ပြီးနောက် သဘော မမျှသဖြင့် ကွာရှင်း သောအခါ အထက်ဖော်ပြပါ အချက်များ အတွက် ဇနီးမယားမှာ မဟ်ရ် အားလုံး မရနိုင်ပေ။ ထက်ဝက်သာ ရနိုင်မည်ဟု ဆိုလိုသည်၊ သို့ရာတွင် ညွှန်ပြခဲ့သည့် အတိုင်း ရမသွာန်လ ရိုဇဟ် စောင့်ထိန်းသည်မဟုတ် အခြားရိုဇဟ်များ၊ ဥပမာ...၁ ကသွာ ခေါ် ပျက်သည့် အတွက် ဖြစ်သော ရိုဇဟ်ဖြစ်စေ၊ နဖိလ် ရိုဇဟ်ဖြစ်စေ၊ နသရ် ကိုးထားသည့်အတွက် စောင့်ထိန်းရသော ရိုဇဟ်ဖြစ်စေ၊ ဇနီး ခင်ပွန်းနှစ်ဦးအနက် တစ်ဦးတစ်ယောက် ဆောက် တည်သောအခါတွင် (လူသူမမြင်သော နေရာမှာ) အတူတကွ လုံခြုံသော နေရာတွင် နေထိုင်ကြပြီးဖြစ်သော် ဇနီးဖြစ်သူအား မဟ်ရ် ပစ္စည်းအားလုံးပေးရမည်၊ ခင်ပွန်းဖြစ်သူ အပေါ်မှာမဟ်ရ် အပြည့်ပေးရန် ထိုက်၍သွားလေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၆၂။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၈။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူမသည် ယောကျ်ားအင်္ဂါ မသန်စွမ်းသူ နှင့် လက်ထပ်ထိမ်းမြား၍ အတူတကွ လုံခြုံသောနေရာတွင် နေထိုင်ပြီးမှ ကွာရှင်းခြင်း ပြုသော် သူမမှာ မဟ်ရ်အပြည့်အစုံ အားလုံးရသင့်သည်၊ ထိုနည်းတူစွာ မိန်းမရှာနှင့် လက်ထပ်လျှင်လည်း နှစ်ကိုယ်တည်း လုံခြုံသောနေရာတွင် နေထိုင်ပြီးဖြစ်သော် ကွာရှင်း သောအခါ ဇနီးဖြစ်သူမှာ မဟ်ရ်အပြည့်အစုံ ရထိုက်သည်။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၆၂။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ကာမစပ်ရှက်နိုင်ခွင့်မရှိသေးသောအရွယ်မရောက် သေးသည့် သူငယ်မသည် မိမိ၏ကာမပိုင် ခင်ပွန်းနှင့် လုံခြုံသောနေရာမှာ အတူတကွ နေထိုင်ပြီး ဖြစ်သော်လည်း (လင်ယောကျ်ားနှင့် ကွာရှင်းသောအခါ) ပေးသောမဟ်ရ်

အားလုံးမရနိုင်(ထက်ဝက်သာရနိုင်လေသည်) ထိုနည်းတူစွာ အကြင်သူမသည် ကာမစပ်ယှက် မေထုံမှီဝဲခြင်းငှါ မစွမ်းနိုင်သေးသော သူငယ်ယောကျ်ားကလေးနှင့်လက်ထပ်မင်္ဂလာပြု၍ နှစ်ကိုယ်တည်းအတူနေပြီးဖြစ်ငြားသော်လည်း ကွာရှင်းသောအခါ မဟ်ရ် ပစ္စည်းအားလုံး မရနိုင်ချေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၉၀။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ယောကျ်ားနှင့်မိန်းမ နှစ်ဦးတို့ လက်ထပ်မင်္ဂလာပြုကြစဉ် 'မဟ်ရ်'ပစ္စည်း မည်ရွေ့မည်မျှဟု အတိအလင်းမပြောဘဲ နေကာဟ်ပြုကြသည်ဖြစ်စေ၊ သို့မဟုတ် ယောကျ်ားဖြစ်သူကမိန်းမသို့ မဟ်ရ်ပစ္စည်းမပေးဘဲလက်ထပ်ရန် နှစ်ဦးသဘောတူသဖြင့် နေကာဟ်ပြုကြသည်ဖြစ်စေ ထိုအဖြစ်များတွင် ဇနီးမောင်နှံ နှစ်ဦးအနက် တစ်ဦးတစ်ယောက် သေဆုံးလျှင်သော်လည်းကောင်း၊ သို့မဟုတ် ရှရီအတ်တရားတော်ပညတ်ချက်အရ ဇနီးခင်ပွန်းနှစ်ဦးတို့ နှစ်ကိုယ်တည်း အတူတကွ ပျော်ပါးပြီးမှ ကွာရှင်းကြလျှင်သော်လည်းကောင်း ခင်ပွန်းဖြစ်သူက ဇနီးသို့ (မဟ်ရ် မစ်သ်လ်) ပေးရမည်၊ (မဟ်ရ်မစ်သ်လ်)၏အကြောင်းကို ရှေ့လာလတ္တံ့သောအခန်းတွင် ရှင်းလင်းစွာ ဖေါ်ပြပေအံ့။

အကယ်၍ ပြဆိုခဲ့သည့်အတိုင်း ဇနီးခင်ပွန်းနှစ်ဦးတို့ နှစ်ကိုယ်ရေနှစ်ကာယ အတူတကွ မပျော်ပါးမီ လင်ဖြစ်သူက မယားသို့ 'တွလာက်' ပေး ကွာရှင်းလိုက်ပါလျှင် မဟ်ရ်ပစ္စည်းပေးရန်မလိုပေ၊ သက်အက် အဝတ်တစ်စုံသာ လင်ဖြစ်သူက မယားသို့ပေးလိုက်ရမည်။

အဝတ်တစ်စုံမပေးလျှင် (လင်ဖြစ်သူမှာ) အပြစ်ဂိုနာဟ် ကင်းမည်မဟုတ်ချေ။

ကန်ဇ္ဒဒကာအစ်က်ကျမ်းစာမျက်နှာ- ၁၀၁။

၈။ မတ်စ်အလဟ် ပြဿနာ။ အထက်ဖေါ်ပြခဲ့သော ဝတ်စုံတစ်စုံ ဆိုသည်မှာ အထည်လေးထည် ယောကျ်ားက မိန်းမသို့ ပေးရမည်၊ (၁)အင်္ကျီ၊ (၂)ခေါင်းစည်းအဝတ်၊ (၃) လုံချည် (သို့မဟုတ် ကုလား ဘောင်းဘီ)၊ (၄) ဦးခေါင်းက ခြေတိုင်ဖုံးအုပ်နိုင်သော ခေါင်းမြီးခြုံတစ်ခု ဖြစ်လေသည်၊ ၎င်းလေးထည်အပြင် ပို၍ ပေးရန်မထိုက်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၂၃။

၉။ မတ်စ်အလဟ် ပြဿနာ။ ဆိုခဲ့သောအဝတ်၏အမျိုးအစားမှာ ယောကျ်ား၏ အခြေအနေနှင့်ထိုက်တန်သည့်အတိုင်းပေးရမည်၊ ဥပမာ....ဆင်းရဲနွမ်းပါးသူဖြစ်သော် ချည်အဝတ်၊ များစွာလည်းမဆင်းရဲ၊ များစွာလည်းမကြွယ်ဝသူဖြစ်သော် ဖဲထည်အဝတ်၊ အလွန်ကြွယ်ဝသော လူကုံတန်ဖြစ်သော် အလွန်ကောင်းသောပိုးအဝတ်၊ ထိုကဲ့သို့မိမိဂုဏ်နှင့်လိုက်၍ပေးရန်ထိုက်လေသည်၊သို့ရာတွင် အဘယ်အခါမဆိုသဘောထားရန်အကြောင်းမှာ ထိုအဝတ်များ၏ အဖိုးသည် (မဟ်ရ် မစ်သ်လ်) ပစ္စည်း၏ ထက်ဝက်ထက် မပိုစေရ၊

အင်္ဂလိပ်သုံး ငွေဒင်္ဂါး ၁-ကျပ်၆-ပဲထက်လည်း တန်ဘိုးမလျှော့စေရ၊ အဓိပ္ပါယ်ကား.... 'မဟ်ရ်မစ်သ်လ်'ပစ္စည်း ထက်ဝက်ထက် သာပို၍ အဖိုးတန်သောအဝတ်ပေးရန် ယောကျ်ား အပေါ်၌ (ဝါဂျစ်ဗ်)မဟုတ်ပေ၊ သို့သော် ယောကျ်ားဖြစ်သူက စိတ်ကျေနပ်သဖြင့် မိမိ သဘောအတိုင်း မဟ်ရ်မစ်သ်လ် ထက်ဝက်ထက် သာပို၍ အဖိုးတန်သော အဝတ်ပေး လိုက်လျှင် မည်သည့်အပြစ်မျှ မရှိချေ။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၁၄။

၁၀။ မတ်စ်အလဟ် ပြဿနာ။ (ယောကျ်ားနှင့်မိန်းမနှစ်ဦးတို့) လက်ထပ် ထိမ်း မြားသောအချိန်တွင် မည်ရွေ့မည်မျှ'မဟ်ရ်'ကာမပိုင်ပေးရန် အတည်မပြုခဲ့၊ လက်ထပ် ထိမ်းမြားပြီးသည့်နောက်မှ ဇနီးခင်ပွန်းနှစ်ဦးတို့သဘောအတိုင်း မဟ်ရ်အတည်ကန့်သတ်၍ ထားလိုက်ကြမူ ထိုအခါ 'မဟ်ရ်မစ်သ်လ်'ပေးရန် မလိုပေ၊ နှစ်ဦးသဘောတူ ကန့်သတ် သော'မဟ်ရ်'သာ ပေးရမည်၊ သို့သော် လက်ထပ်ပြီးနောက် နှစ်ကိုယ်တည်း လုံခြုံသော နေရာဌာနတွင် မပျော်ပါးကြမီ ကွာရှင်းကြသော် မိန်းမသည် မဟ်ရ် မရထိုက်ပေ၊ ညွှန်ပြ ခဲ့သည့် အဝတ်တစ်စုံသာ ရပေလိမ့်မည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၆။

၁၁။ မတ်စ်အလဟ် ပြဿနာ။ (လက်ထပ် မင်္ဂလာ ပြုစဉ် အခါသမယတွင်) ယောကျ်ားဖြစ်သူက ငွေဒင်္ဂါး ၁၀၀-ကျပ်၊ သို့မဟုတ် ၁၀၀၀-ကျပ်ဖြစ်စေ မိမိတတ်နိုင် သမျှ (မိန်းမသို့) မဟ်ရ် ပေးရန် အတည်ပြုပြီးနောက် လင်ယောကျ်ား ဖြစ်သူက မိမိ သဘောအတိုင်း (ပထမထားရင်း မဟ်ရ်ထက်) မည်ရွေ့မည်မျှ သာပိုပေးရန် ကတိထား ရမည်၊ ဥပမာ.... ပထမထားရင်း မဟ်ရ် ပစ္စည်း ၁၀၀-ကျပ်ထက် ၅၀-ကျပ် သာပို၍ ၁၅၀-ကျပ်ပေးမည်ဟု ကတိထားသည့်အတိုင်း ၁၅၀-ကျပ်ပေးရလိမ့်မည်၊ မပေးခဲ့လျှင် အပြစ် ဂိုနာဟ် မကင်းပေ၊ သို့သော် ထိုသို့ မဟ်ရ် တိုးမြှင့်ပြီးသည့်နောက် လင်မယား နှစ်ဦးတို့သည် နှစ်ကိုယ်တည်းအတူနေ၍ ကာမ မစပ်ယှက်မီကွာရှင်းကြမူ ပထမထားရင်း 'မဟ်ရ်'၏ထက်ဝက် မိန်းမသို့ပေးရမည်၊ နောက်မှ တိုးမြှင့်သောမဟ်ရ်ကို စာရင်းသွင်းရန် မလိုပေ၊ ထိုနည်းတူစွာ(လင်ယောကျ်ား ပေးသော မဟ်ရ်ကို)မိန်းမက မိမိ၏သဘောကျ ကျေနပ်နှစ်ခြိုက်စွာ နည်းများမဆို လျှော့၍ယူသျှင်ယူပိုင်၏၊ သို့မဟုတ် ပေးသောမဟ်ရ် အားလုံးကိုပင် မယူလိုဟု ခွင့်လွှတ်လိုက်လျှင်လည်း 'မဟ်ရ်' အားလုံးကိုပင် မိန်းမဖြစ်သူ မရနိုင်ချေ။

ကိုဒ္ဒူရီကျမ်း စာမျက်နှာ-၁၃၀။

၁၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ လင်ဖြစ်သူက အတင်း အဓမ္မ ကျပ်တီးစွာ ညှဉ်းပန်းနှိပ်စက် ခြောက်လှန့်၍ ခိုင်းသောကြောင့် မယားသည် စိတ်မကျေ နပ်ဘဲ မဟ်ရ်ကိုခွင့်လွှတ်ရသော် ထိုသို့ခွင့်လွှတ်ခြင်းဖြင့် ခွင့်လွှတ်ရာမရောက်ပေ၊ လင်ဖြစ်သူ အပေါ်၌ ပထမကတိထားရင်းအတိုင်း မဟ်ရ် ပေးရန် တာဝန်ရှိလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၀၂။

၁၃။ မတ်စ်အလယ်ပြဿနာ။ မယ်ရိ ကာမပိုင်ကြေးပေးရန်အတွက် ကြေးနီ ပိုက်ဆံရွှေ-ငွေမှစ၍ အတည်မပြုဘဲ မည်သည့်ရွှာ သို့မဟုတ် ဥယျာဉ်၊ သို့မဟုတ် မြေကွက် အတည်သတ်မှတ်၍ ပေးက ပေးနိုင်၏၊ သို့သော်ပထမသတ်မှတ်သည့်ရွာ၊ဥယျာဉ်၊မြေကွက် တို့ကိုပေးရမည်၊ သတ်မှတ်အတည်ပြုသည့် ရွာ၊ဥယျာဉ်၊မြေကွက်ကတစ်ခြား၊ ပေးသည်က တစ်ခြားမဖြစ်စေရ။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၃။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၀၂။

၁၄။ မတ်စ်အလယ်ပြဿနာ။ မယ်ရိပေးရန်အတွက် မြင်းဖြစ်စေ၊ဆင်ဖြစ်စေ သို့မဟုတ် အခြားတိရစ္ဆာန်ကိုဖြစ်စေ အတည်ပြု၍ မည်သည့်မြင်း၊ မည်သည့်ဆင်၊ မည် သည့် တိရစ္ဆာန်ဟု သေချာစွာမပိုင်းခြားသော်လည်းကိစ္စမရှိပေ၊ ပေးပိုင်၏၊ ထိုအဖြစ်တွင် အဖိုးတန် မနိမ့်မမြင့်သော အလတ်စား ဆင်,မြင်း တို့ကို ပေးရလိမ့်မည်၊ သို့မဟုတ်က ၎င်းမြင်း,ဆင်တို့ တန်ဘိုးကိုလည်းပေးနိုင်သည်၊ သို့ရာတွင် သက်သက်တိရစ္ဆာန်တစ်ကောင် ပေးမည်ဟုသာမြွက်ဆို၍ မည်ကဲ့သို့ တိရစ္ဆာန်ဟု ပိုင်းခြားချက်မရှိသော် ဤကဲ့သို့ မယ်ရိ ပေးခြင်းမပိုင်ပေ၊ မယ်ရိ မစ်သ်လ် ပေးရမည်။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၀၅။

ဂျောင်ဟရယ်နိုင်ယေရယ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၅။

၁၅။ မတ်စ်အလယ်ပြဿနာ။ လက်ထပ်ထိမ်းမြားသောအခါသက်သေတစ်ဦး တစ်ယောက်မျှမရှိ၊ ပုန်းလျှိုးကွယ်လျှိုး နှစ်ဦးတည်း မိမိတို့အလိုအလျောက် နေကာယ် ပြုကြသည်ဖြစ်စေ၊ သို့မဟုတ် လက်ထပ်စဉ် သက်သေတော့ ရှိ၏၊ ရှိပင်ရှိငြားသော်လည်း ထိုနှစ်ဦးလုံးပင်နားပင်းသူဖြစ်ကြသောကြောင့် လက်ထပ်သည့် ယောကျ်ား-မိန်းမနှစ်ဦးတို့ မြွက်ဆိုသော စကားကို မကြားကြသည် ဖြစ်စေ သို့မဟုတ် လင်ကွာပြီးလျှင် သော်လည်း ကောင်း၊ လင်သေပြီးလျှင်သော်လည်းကောင်း အစ်ဒတ်ရက်သတ်မှတ်သည့်ရက်ပိုင်း မပြည့် မီအတွင်းယောကျ်ား-မိန်းမနှစ်ဦးတို့လက်ထပ်ကြသည်ဖြစ်စေ၊ထိုနည်းတူစွာလက်ထပ်ခြင်း အပေါင်းတို့သည် ရှရီအတ်တရားတော်အရ နေကာဟ်မမြောက်၊ သို့ဖြစ်၍ နှစ်ဦးနှစ်ဝတို့ကို (ကာသွိ)တရားသူကြီးက ကွာရှင်း၍ပေးသောအခါ ယခုရင်းယောကျ်ားနှင့်မိန်းမနှစ်ဦး တို့ ကာမစပ်ယှက်လွန်ကျူးခြင်း မရှိသေးပါက မိန်းမဖြစ်သူမှာ မယ်ရိပစ္စည်း ဘာမျှမရ နိုင်ချေ၊ အကယ်၍ ကာမစပ်ယှက်နိုင်သော နှစ်ကိုယ်ရေနှစ်ကာယ အတူပင် နေကြငြား သော်လည်း မယ်ရိ မရနိုင်ချေ။

သို့သော် ကာမစပ်ယှက်ပြီးမှ ခွဲခွာရလျှင် ယောကျ်ားဖြစ်သူက မိန်းမသို့ (မယ်ရိ မစ်သ်လ်)ပေးရမည်၊ အကယ်၍ လက်ထပ်ထိမ်းမြားစဉ်အခါက အတည် သတ်မှတ်သော မယ်ရိပစ္စည်းထက်(မယ်ရိမစ်သ်လ်က)က သာပို၍နေမူ သတ်မှတ်သောမယ်ရိပစ္စည်းသာလျှင် မိန်းမမှာ ရနိုင်မည်၊ (မယ်ရိ မစ်သ်လ်) မရနိုင်ချေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၀၅။

၁၆။ မတ်စ်အလက်ပြဿနာ။ အကြင်သူတစ်ဦးသည်မိမိမယားဘဲဟုအထင်မှား၍ တစ်ပါးသောမိန်းမကို ကာမစပ်ယှက် ပေါင်းသင်းဆက်ဆံမိသော် ထိုသူမကိုလည်း ပေါင်းသင်း ဆက်ဆံမိသူက (မဟ်ရ်မစ်သ်လ်) ပေးရမည်၊ ဤသို့ ပေါင်းသင်း ဆက်ဆံခြင်းကို(ဇနာ)ဟုမဆိုရ၊ ၎မည်သည့်မျှအပြစ်ဂိုနာဟ်မရှိပေ၊ အကယ်၍ယင်းကဲ့သို့မှားယွင်းပြီး ပေါင်းဖေါ်ခြင်းကြောင့် ပဋိသန္ဓေတည်သွားလျှင် ထိုသန္ဓေမှမွေးဖွားသောသားသည် ဟရာမ် မဟုတ်၊ ဟလာလ်ဖြစ်၍ အမျိုးအနွယ်ဆက် အတည်ဖြစ်လေသည်၊ သို့သော် မိမိမယားမဟုတ်ကြောင်း အတိအလင်း သိသောအခါ ထိုသူမနှင့် ကာမ စပ်ယှက်ခြင်း မပြုအပ်၊ ခွဲခွာ၍နေရမည်၊ ၎င်းပြင် အဆိုပါမိန်းမသည် အစ်ဒတ်ရက်လည်း ဆိုင်းရန် ထိုက်၏၊ အစ်ဒတ်ရက်ပြည့်စုံစွာမဆိုင်းဘဲ မိမိနှင့်လက်ထပ်ပြီးကာမပိုင်လင်နှင့် အတူနေထိုင်ပေါင်းသင်းဆက်ဆံရန် မထိုက်ချေ၊ အစ်ဒတ်ရက်ဆိုင်းရမည့်အကြောင်းကို ရှေ့အခန်းတွင်ဖေါ်ပြပါအံ့။ (အင်ရှာအလ္လာဟ်တို့တအာလာ)

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၂၇။

၁၇။ မတ်စ်အလက်ပြဿနာ။ လက်ထပ်ပြီးနောက် ပထမည့၌ အခန်းမဝင်မီ မဟ်ရ်အားလုံးပေးရန် ထုံးစံရှိခဲ့သောအရပ်ဒေသတွင် မိန်းမတို့သည် လက်ထပ်သောနေ့၌ပင် လင်ယောကျ်ားထံမှ မဟ်ရ်အားလုံး တောင်းယူနိုင်ခွင့်ရှိသည်၊ အကယ်၍ ပထမနေ့တွင် မတောင်းဘဲ နောက်မှ အလိုရှိသောအခါ တောင်းဆိုလျှင်လည်း ယောကျ်ားဖြစ်သူက မဆိုင်းငံ့ဘဲ လျှင်မြန်စွာပေးရန် ထိုက်လေသည်။

ရှုရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၄၅။

၁၈။ မတ်စ်အလက်ပြဿနာ။ အိန္ဒိယနိုင်ငံ၌ ထုံးစံရှိသည်မှာ မဟ်ရ် ပစ္စည်း၏ အပေးအယူသည် လင်မယားနှစ်ဦးတို့ ကွာရှင်းပြီး ဖြတ်စာ ပေးပြီးနောက် ဖြစ်စေ၊ တစ်ယောက်ယောက် သေဆုံးပြီးသည့်နောက်မှ ဖြစ်စေ ပေးယူသော အလေ့အထ ရှိ၏၊ အဓိပ္ပါယ်ကား.... မည်သည့်အခါ လင်ဖြစ်သူက တလာက်ပေး၍ ကွာရှင်းလိုက်လျှင် ထိုအခါမှ မယားဖြစ်သူက မဟ်ရ် ပစ္စည်း ရလိုကြောင်း ပြောလေသည်၊ သို့တည်းမဟုတ် လင်ယောကျ်ား သေဆုံးသွားသောအခါ ကြွင်းကျန်ရစ်သော ပစ္စည်းဥစ္စာများမှ မဟ်ရ်ယူလေသည်၊ ထိုနည်းတူစွာ မယားဖြစ်သူ သေဆုံးသွားလျှင်လည်း ၎င်း၏အမွေ ဆက်ခံထိုက်သူက လင့်ထံမှ မဟ်ရ်ရလိုကြောင်း မြွက်ဟပြောဆို၏။

အထက်ဖေါ်ပြခဲ့သည့်အတိုင်း အိန္ဒိယနိုင်ငံမှာမူကား လင်မယားနှစ်ဦးတို့မပြတ်စဲဘဲ အသက်ရှင်လျက်ပေါင်းသင်းနေထိုင်ကြသမျှကာလပတ်လုံး တစ်ယောက်တစ်ယောက်ကို မဟ်ရ်ပစ္စည်း တောင်းခြင်း၊ ပေးခြင်းထုံးစံ မရှိသော အကြောင်းကြောင့် ၎င်းထုံးစံဓလေ့အတိုင်း လိုက်နာပြီးလျှင် လင်မယားနှစ်ဦးတို့ သင့်တင့်ကောင်းမွန်စွာ အသက်ရှင်လျက် ရှိနေစဉ် မယားဖြစ်သူက လင်ကို မဟ်ရ် ပစ္စည်း မတောင်းနိုင်ချေ။

မသင့်တင့်သောကြောင့် ဖြတ်ထားပြီးမှုဖြစ်စေ၊ နှစ်ဦးအနက် တစ်ဦးတစ်ယောက် သေဆုံးမှုဖြစ်စေ မဟ်ရ်ပစ္စည်း တောင်းယူနိုင်သည်၊ သို့သော် ထိုနိုင်ငံတွင် မဟ်ရ်ပစ္စည်း အချို့ လက်ထပ်သောညဥ့်တွင် ပေးရသော ထုံးစံရှိသည်ဖြစ်၍ ၎င်းမဟ်ရ် အချို့မှုကား ဦးစွာ ညဥ့်ပင်ပေးရမည်၊ အကယ်၍ အကြွင်းအရပ်ဒေသတွင် ဤထုံးစံမရှိခဲ့မူ ထိုအရပ်၌ ၎င်းပညတ် မပေးရချေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၄၅။

၁၉။ မတ်စ်အလဟ် ပြဿနာ။ (လက်ထပ်ပြီးသော ညဥ့်တွင်) အနည်းငယ်မျှ မဟ်ရ် ကြိုတင်၍ ပေးရသော ထုံးစံလေ့ရှိသည့် အရပ်ဒေသတွင်ယောကျ်ားဖြစ်သူက ထိုမဟ်ရ်မပေးဘဲနေခဲ့လျှင် မိန်းမသည် မိမိသဘောအလျောက် ညွှန်ပြခဲ့သည့် မဟ်ရ်ပစ္စည်း မရသမျှ လင်ယောကျ်ားကို မိမိနှင့်တစ်အိမ်ထည်းမအိပ်စက်ရန်တားဆီးနိုင်သည်၊အကယ်၍ ၎င်းမဟ်ရ်မရဘဲ တစ်ကြိမ်မိမိလင်နှင့်အတူအိပ်စက်ပေါင်းသင်းခဲ့ပြီးသော်လည်း သဘော မကျ မကျေနပ်လျှင် နောက်ကိုမိမိထံသို့ အတူအိပ်စက် ကာမစပ်ယှက်ခြင်းပြုရန် မလာရန် တားဆီးနိုင်သည်။

ထိုနည်းတူစွာ အထက်ညွှန်ပြခဲ့သည့် မဟ်ရ် အနည်းငယ်မပေးဘဲ ခင်ပွန်းဖြစ်သူက ဇနီးမယားကို အဝေးခရီးသို့ခေါ် သွားလိုမူ မလိုက်ဘဲနေနိုင်သည်၊ အကယ်၍ ဇနီးမယား သည် မိမိနှင့် နေကာဟ်မပြုပိုင်သော(မဟ်ရမ်)ခေါ် ၎င်းနီးသူတစ်ဦးနှင့် အဝေးခရီးသို့ သွားလျှင်သော်လည်းကောင်း၊ သို့မဟုတ် ခင်ပွန်းလင်၏ အိမ်မှဆင်း၍ မိမိ မိဘအိမ်သို့ သွားလျှင်သော်လည်းကောင်း လင်ယောကျ်ားက မတားဆီးနိုင်ပေ၊ သို့သော် ဆိုခဲ့သည့် မဟ်ရ်ပစ္စည်းကို လင်ယောကျ်ားကပေးပြီးဖြစ်မူ ယခုလင်အခွင့်မပြုဘဲမယားသည်မည်သည့် အလုပ်အကိုင်မျှမလုပ်နိုင်၊ အဓိပ္ပါယ်ကား.... လင်သဘောမတူဘဲ မယား၏ အလိုအတိုင်း မည်သည့်နေရာဌာနမှ မသွားနိုင်ချေ၊ လင်ယောကျ်ားက အလိုရှိသော နေရာသို့ ခေါ် ဆောင်သွားလျှင် မယားဖြစ်သူသည် လိုက်ရမည်ဟူ၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၅၊၄၆။

၂၀။ မတ်စ်အလဟ် ပြဿနာ။ မဟ်ရ် ပစ္စည်းဘဲဟု စိတ်ဆန္ဒထား၍ လင်ဖြစ်သူက မယားကို အနည်းငယ်ပစ္စည်းပေးလိုက်လျှင် ပေးသမျှ မဟ်ရ်၏တာဝန် ကျသွား လေသည်၊ ကျွန်ုပ် မဟ်ရ်ပေးသည်ဟု အတိအလင်း မြွက်ဟပြောဆိုရန် မလိုပေ။

ကန်ဇုဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ- ၁၀၇။

၂၁။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားက တစ်စုံတစ်ရာ ဝတ္ထုပစ္စည်း မယားသို့ပေးသောအခါမယားဖြစ်သူကသင်သည်ဤဝတ္ထုပစ္စည်းကျွန်မကိုမဟ်ရ်ပေးသည် မဟုတ် သက်သက်မေတ္တာအတိုင်းပေးသောပစ္စည်းဟုဆိုသော် တဖန် လင်ဖြစ်သူက ကျွန်ုပ် ထိုပစ္စည်း အသင်မကို မဟ်ရ်ပေးပါသည်ဟု မြွက်ဆိုလျှင် ယောကျ်ား၏စကားကို အမှန်

ယူရလိမ့်မည်၊ သို့ရာတွင် ပေးသောအရာဝတ္ထုသည် အစားအသောက်ဖြစ်ခဲ့မူ မဟ်ရ်မဖြစ်နိုင်ပေ၊ မဟ်ရ်ဘဲဟု လင်ယောကျ်ားက ပြောငြားသော်လည်း အတည်မဖြစ်ချေ။

ကန်ဇွဒ်ဒကာအစ်ကျမ်း စာမျက်နှာ-၄၅၊၄၆။

# မဟ်ရ် မစ်သ်လ် ၏ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မဟ်ရ် မစ်သ်လ် ဆိုသည်မှာ အထက် ဖေါ်ပြခဲ့သည့် အတိုင်း မဟ်ရ် မစ်သ်လ် ရထိုက်သော မိန်းမ၏ အဖအဆက်အနွယ်အတွင်းမှ ၎င်းမိန်းမနှင့်ပမာတူ မိန်းမတစ်ယောက်ကို ရှုကြည့်ရမည်၊ အဓိပ္ပါယ်ကား.... မဟ်ရ် မစ်သ်လ် ရထိုက်သော သူမနှင့် နေကာဟ်ပြုသည့် အရွယ်ချင်းတူမျှသောသူမ၊ သို့မဟုတ် ရုပ်ဆင်းသဏ္ဍာန်တူမျှသောသူမ၊ သို့မဟုတ်ဥစ္စာဓနချင်းတူမျှသောသူမ၊ သို့မဟုတ် နေရာဌာနချင်း အသိအလိမ္မာချင်းမှစ၍ အစစအရာရာ တူမျှသောသူမကို သူ၏အဖ အဆက်အနွယ်တွင်းမှ ရှုကြည့်ရှာဖွေပြီးလျှင် ၎င်းသူမမှာရခဲ့သမျှ မဟ်ရ်ပစ္စည်းကို ထိုသူမမှာလည်း ရရှိမည်ဟူ၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၄၀။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄။

၂။ မတ်စ်အလဟ် ပြဿနာ။ အဖဘက်က အဆက်အနွယ် မိန်းမများဆိုသည်မှာဥပမာ.... ဖခင်၏ အစ်မ နှမများ၊ သို့မဟုတ် ဖခင်နှင့်ညီအစ်ကိုဖြစ်ကြသော ဘကြီး ဘထွေးတို့၏ သမီးများမှ စ၍ အဆက်ဆက် မိန်းမများပါ အပါအဝင် ဖြစ်လေသည်၊ ၎င်းမိန်းမများအနက်မှ နေကာဟ်ပြုသော အရွယ်ချင်းတူမျှသည့် သူမ ရုပ်ဆင်းသဏ္ဍာန် အနေအထိုင်မှစ၍ အတူဆုံးမိန်းမကို ရွေးချယ်ရမည်ဟူ၏။

မဟ်ရ် မစ်သ်လ်ရထိုက်သောသူမ၏ အမိနှင့် ၎င်းအမိဘက်က ဆက်နွယ်သော မိန်းမများ၏ မဟ်ရ်ကို ရှုကြည့် ဆင်ခြင်ရန် မလိုချေ၊ သို့သော် မိခင်ဖြစ်သူလည်း ဖခင်၏အနွယ်တွင်းမှဖြစ်ခဲ့ပါမူ အထက်ပါအချက်များနှင့်ညီညွတ်ပါက ၎င်းအမိ၏ မဟ်ရ်လည်း မဟ်ရ် မစ်သ်လ် ဖြစ်နိုင်သည်၊ ဥပမာ.... ဖခင်ဖြစ်သူက မိမိဘထွေး၏ သမီးဖြစ်သော တစ်ဝမ်းကွဲနှမနှင့် နေကာဟ်ပြုထားပါလျှင် ထိုတစ်ဝမ်းကွဲနှမသည် ဖခင် အဆက်အနွယ်အတွင်းက ဖြစ်သောကြောင့် ၎င်း၏မဟ်ရ်ကို မဟ်ရ်မစ်သ်လ်အဖြစ် ယူဆနိုင်သည်။

မှတ်ရန်။ အကြင်သူမမှာ ရှရီအတ်တရားတော်အရ မဟ်ရ်မစ်သ်လ် ရထိုက်သော် ညွှန်ပြခဲ့သည့်အတိုင်း သူ၏ဖခင် အမျိုးအနွယ် အတွင်းမှ မိန်းမတစ်ယောက်၏ မဟ်ရ်ကို ရှုကြည့်ပြီးလျှင် ၎င်းမိန်းမ၏ မဟ်ရ်အတိုင်း အတည်သတ်မှတ်ရမည်၊ ၎င်းသတ်မှတ်သော မဟ်ရ်ကို မဟ်ရ် မစ်သ်လ်ဟု ခေါ်၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၄၀။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄။

# ကာဖွင်ရှိများ၏ လက်ထပ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ (ကာဖွင်ရှိ)ဘာသာခြားများသည် မိမိတို့ဘာသာ ထုံးစံဓလေ့အတိုင်း နည်းလမ်းနှင့် လျော်ညီစွာ လက်ထပ်မင်္ဂလာ ပြုကြလျှင် ကျွန်ုပ်တို့ ရှရီအတ် တရားတော်အရ ၎င်းလက်ထပ်ခြင်းကိုလည်း အတည်ထားလေသည်၊ ဥပမာ.... အကယ်၍ ထိုသို့လက်ထပ်ပြီးဖြစ်သောဇနီးခင်ပွန်းနှစ်ဦးတို့ တစ်ပြိုင်နက်သည်း အစ္စလာမ် ဘာသာတွင်းသို့ ဝင်ရောက်လာမူ ထပ်မံ၍ နေကာဟ်ထိမ်းမြားရန် မလိုတော့ချေ၊ ကာဖွင်ရှိ အဖြစ်က လက်ထပ်ခြင်းနှင့်ပင် လုံလောက်သည်ဟူ၏။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ- ၁၁၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ကာဖွင်ရှိ ဘာသာခြား ဇနီးခင်ပွန်းနှစ်ဦးအနက် တစ်ဦး မွတ်စလင်မ်ဖြစ်လျက် အခြားတစ်ဦးမှာ မွတ်စလင်မ်မဖြစ်ခဲ့သော်ထိုအခါ ထိမ်းမြားခြင်း ပျက်သည်ဖြစ်၍ ၎င်းတို့နှစ်ဦး ဇနီးခင်ပွန်းအဖြစ်နှင့် အတူပေါင်းဖော် နေထိုင်ရန် မထိုက်ပေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၁၀။

၃။ မတ်စ်အလဟ် ပြဿနာ။ ကာဖွင်ရှိဘာသာခြား ဇနီးခင်ပွန်းနှစ်ဦးတို့အနက် ဇနီးမယားက မွတ်စလင်မ် ဖြစ်၍ လင်က မွတ်စလင်မ် မဖြစ်သောကြောင့် နှစ်ဦးနှစ်ဝတို့ လက်ထပ်ခြင်းပျက်သောအခါ ၎င်းမိန်းမသည် မွတ်စလင်မ်အဖြစ်တွင် ရာသီ ဓမ္မတာသွေး ၃-ကြိမ် မလာသမျှ ကာလပတ်လုံး အခြားယောကျ်ားနှင့် နေကာဟ်မပြုပိုင်၊ ရာသီ ၃-ခါ လာပြီးမှ အခြားယောကျ်ားနှင့် လက်ထပ်နိုင်ခွင့်ရှိသည်။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၁၀။

# ဇနီးမယားတို့ကို အညီထားခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူအား ဇနီးမယား တစ်ယောက်ထက်ပို၍ နှစ်ယောက်ဖြစ်စေ၊ သုံးယောက်ဖြစ်စေ၊ လေးယောက်ဖြစ်စေ ရှိခဲ့သော် ထိုသူသည် ဇနီးမယားအပေါင်းတို့ကို စားရေးရိက္ခာ အဝတ်တန်ဆာမှ စ၍ အသုံးအဆောင် များ တူညီစွာဝေငှ၍ ပေးထားရန် ထိုက်သည်၊ ၎င်းဇနီးတို့သည် သက်ရွယ်ခြင်း မမျှ ပျိုသူ အိုသူ ကွဲပြားကြငြားသော်လည်း ပညတ်တစ်မျိုးတည်းဖြစ်လေသည်၊ မယားကြီး မယားငယ် ဖြစ်သောကြောင့်၎င်း၊ မယားကြီးကို မယားငယ်ထက် မပိုစေရ၊ အကယ်၍ မယားတစ်ယောက်နှင့် တစ်ညဥ့်အတူတကွအိပ်စက်ပါမူ အခြားမယားနှင့်လည်း ညီတူညီမျှ တစ်ည အိပ်စက်ရမည်၊ ထိုနည်းတူစွာ တစ်ယောက် နှင့် နှစ်ညဥ့်ဖြစ်စေ၊ သုံးညဥ့်ဖြစ်စေ အိပ်စက်ပါလျှင် အခြားတို့နှင့် နှစ်ညဥ့်သို့မဟုတ် သုံးညဥ့်အိပ်စက်ရလိမ့်မည်၊ အပိုအလျော့ မရှိရ၊ ဥစ္စာပစ္စည်းအဝတ်အစားဘာယက်တန်ဆာတို့မှာလည်း မယားတစ်ယောက်ပေးသမျှ အခြားတစ်ယောက်ကို ပေးရမည်ဟူ၏။

၂။ မတ်စ်အလဟ်ပြဿနာ။ မယားကြီး နှင့် မယားငယ်တို့ ထိုက်သက်သော ဝတ္တရားမှာ အနည်းငယ်မျှ ကွဲလွဲခြင်းမရှိ၊ အတူတူပင်ဖြစ်ကြသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၀၄။

၃။ မတ်စ်အလဟ်ပြဿနာ။ လင်ဖြစ်သူသည် ဇနီးမယားတို့ထံမှာ အလှည့်ကျနှင့် ညီမျှစွာ အတူနေရမည်ဆိုသည်မှာ ညဥ့်အချိန်၌ဆိုသည်၊ နေ့အချိန်တွင် ညီမျှရန်မလိုချေ၊ အကယ်၍ နေ့အချိန်တွင် မယားတစ်ယောက်ထံမှာ အချိန်ပိုမို၍ အခြားတစ်ယောက်ထံမှာ လျော့ပြီးနေငြားသော်လည်း မည်သို့မျှကိစ္စမရှိပေ၊ ညဥ့်အချိန်အခါသမယတွင် ညီမျှစွာ သွားလာဖို့သာလျှင် (ဝါဂျစ်ဗ်) ဖြစ်၏၊ ဥပမာ....အလှည့်ကျအတိုင်း မယားတစ်ယောက် ထံသို့ မဂ်ရစ်ဗ်အပြီး သွားပါလျက် အခြားတစ်ယောက်ထံသို့ အေရှာအ်ပြီးမှ သွားပါလျှင် မညီမျှခြင်းကြောင့် လင်ယောက်ျားအပေါ်တွင် အပြစ်မကင်းပေ၊ သို့ရာတွင် အကြင်သူ သည် ညဥ့်အချိန်၌ လုပ်စား အမှုထမ်းရသဖြင့် ဇနီးတို့ထံ သွား လာ ရန် မအားလပ်ဘဲ နေ့အချိန်မှာသာ မိမိအိမ်တွင် နေရသဖြင့် အားလပ်ခဲ့ပါမူ ထိုသူ့အတွက် နေ့အချိန်တွင် ဇနီးမယားတို့ထံအညီအမျှသွားလာနေထိုင်ရန် ပညတ်တရားထားလေသည်၊ ဥပမာ....ညဥ့် အချိန်တွင်မအားလပ်သည့်တံခါးမှူး-တံခါးစောင့်နှင့်ညလုပ်သားတို့အတွက်နေ့အချိန်တွင် ညီမျှရန်ပညတ်ထား၏။ ဖွတာဝါကာသွီခါန်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၀၀။

၄။ မတ်စ်အလဟ်ပြဿနာ။ လင်ဖြစ်သူသည် ဇနီးမယားတို့နှင့် ကာမစပ်ယှက် ပေါင်းသင်းခြင်းတွင် ညီမျှရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ဥပမာ.... ဇနီးမယားတစ်ယောက်နှင့် အိပ်စက်သောအလှည့်တွင် ပေါင်းသင်းဆက်ဆံခြင်းမပြုမူ လင်ယောက်ျားအပေါ်၌ တစ်စုံ တစ်ရာ အပြစ်မရှိချေ။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၄၀။

၅။ မတ်စ်အလဟ်ပြဿနာ။ လင်ယောက်ျားသည် ကျန်းမာစွာရှိသည်ဖြစ်စေ၊ မကျန်းမာသည်ဖြစ်စေ အလှည့်ကျအတိုင်း ဇနီးမယားတို့ထံ သွားလာခြင်း အညီအမျှ ဖြစ်ရမည်။ ဖွတာဝါကာသွီခါန်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၁။

၆။ မတ်စ်အလဟ်ပြဿနာ။ ခင်ပွန်းဖြစ်သူသည် ဇနီးတစ်ယောက်ကို အခြား ဇနီးတစ်ယောက်ထက် သာပို၍ အချစ်အခင်ထားပါလျှင် မည်သည့် အပြစ်မျှ မရှိချေ၊ အဘယ့်ကြောင့်ဆိုသော် စိတ်နှလုံးကို မိမိအလိုဆန္ဒအတိုင်း ပြုပြင်ရန် မစွမ်းနိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၅။
ဖွတာဝါကာသွီခါန်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀၁။

၇။ မုတ်စ်အလဟ် ပြဿနာ။ အခြား နေရာဌာနသို့ ခရီးသွားသောအခါ ဇနီးမယားများအနက်မှ အလိုရှိသော ဇနီးကို လင်ယောကျ်ားက မိမိ နှင့် အတူတကွ ခေါ်ဆောင်သွားနိုင်သည်၊ ထိုအခါတွင် အလှည့်ကျအတိုင်း အညီ အမျှ ဖြစ်ရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ သို့သော် သာ၍ကောင်းသောနည်းမှာ မည်သည့်အခါမဆို လင်ယောကျ်ားသည် တစ်နေရာသို့ခရီးသွားရန် အလိုဆန္ဒရှိပါလျှင် ဇနီးတစ်ယောက်ကို ခေါ်ဆောင်သွားလိုပါက အားလုံးသောဇနီးတို့ကို မဲချ၍ ၎င်းမဲကျသော ဇနီးကို ခေါ်ဆောင်သွားရမည်၊ သို့မှသာလျှင် ဇနီးအပေါင်းတို့ စိတ်ကျေနပ်ရန် အကြောင်းဖြစ်၏။

အကြင်သူအား ဇနီးမယားနှစ်ယောက်ရှိသည့်အနက် တစ်ယောက်ကို မိမိနှင့်ခရီးစခန်းသို့ အတူတကွ ခေါ်ဆောင်၍သွားလိုမူ ၎င်းဇနီးနှစ်ဦးလုံးတို့၏ နာမည်ကို စာရွက်ငယ်နှစ်ခုမှာ တစ်ယောက်နာမည်ကို စာတစ်ရွက်စီမှာရေး၍ အလိပ်ငယ်နှစ်ခု ပြုလုပ်ထားရမည်၊ ထို့နောက် အရွယ် မရောက်သေးသော သူငယ်ကလေးတစ်ယောက်ကို ခေါ်၍ ၎င်း၏ရှေ့မှာ မဲလိပ်နှစ်လိပ် ချထားပြီးလျှင် ထိုမဲလိပ်နှစ်လိပ်အနက် တစ်လိပ်ကို မိမိသို့ကောက်ပေးစေရမည်၊ သို့ရှိရာ သူငယ်ကလေးကောက်ပေးသောမဲလိပ်မှ နာမည်ထွက်သော ဇနီးသည် လင်နှင့်အတူ လိုက်သင့်၏၊ အထက်ဖေါ်ပြခဲ့သည့် မဲချရန် နည်းလမ်းအတိုင်း မပြုလုပ်လိုမူ မိမိတို့သဘောကျသည့်နည်းဖြင့် မဲပြုလုပ်နိုင်သည်။

# နို့စို့ခြင်း-နို့တိုက်ခြင်း နှင့် ပတ်သက်သော အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မည်သည့်အခါ ကလေးမွေးဖွားခဲ့မူ မိခင် ဖြစ်သူအပေါ်၌ ၎င်းကလေးကို နို့တိုက်ရန် (ဝါဂျစ်ဗ်) ထိုက်လေသည်၊ မတိုက်ဘဲမနေအပ်၊ သို့သော် ကလေး၏ ဖခင်သည် ဥစ္စာဓနနှင့် ပြည့်စုံသူဖြစ်၍ ကလေးအား နို့တိုက်ရန် နို့ထိန်းသည် ရှာဖွေငှါးရမ်း၍ပေးနိုင်လျှင် မိခင်က ကလေးကို နို့မတိုက်ငြားသော်လည်း မည်သည့်အပြစ်မျှ မရှိချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄၆။

၂။ မတ်စ်အလဟ် ပြဿနာ။ ဇနီးမယားသည် လင် အခွင့်မပြုဘဲ သူတထူး၏ သားသမီးကို နို့မတိုက်အပ်ချေ၊ သို့သော် အကြင်ကလေးသည် နို့ဆာမွတ်သောကြောင့် ဆတ်ဆတ်တုန်လျက် သေဆုံး ပျက်စီးလောက်အောင် ဖြစ်နေခဲ့မူ ထိုအခါ လင်အခွင့်မရှိငြားသော်လည်း နို့တိုက်ပိုင်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၅၇။

၃။ မတ်စ်အလဟ် ပြဿနာ။ ရှရီအတ် တရားတော်အရ ကလေးသူငယ် တို့ကို နို့တိုက်ရန်အများဆုံးပိုင်းဖြတ်သောအခါသမယမှာ (၂)နှစ်တိုင်ဖြစ်သည်၊ ၎င်း(၂)နှစ်ထက်ပို၍ နို့တိုက်ခြင်း (ဟရာမ်) ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၅၁။

၄။ မတ်စ်အလဟ်ပြဿနာ။ (၂)နှစ် အရွယ် မပြည့်သော နို့စို့ ကလေးကို အစားအသောက် နည်းများမဆို စားနိုင်သောက်နိုင်သောကြောင့် နို့ဖြတ်လိုက်မှု တစ်စုံ တစ်ရာကိစ္စမရှိပေ၊ နို့ဖြတ်နိုင်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၅၅။

၅။ မတ်စ်အလဟ်ပြဿနာ။ (၂)နှစ်အရွယ်မပြည့်သေးသော သူငယ်မတို့သည် မိမိတို့၏မွေးသမိခင်အပြင် အခြားမိန်းမ၏နို့ကိုစို့ခဲ့သော် ထိုမိန်းမနှင့် ၎င်း၏ခင်ပွန်းသည် နှစ်ဦးစလုံးတို့သည် နို့စို့သော သူငယ်/မတို့၏ မိဘဖြစ်၍ ၎င်းတို့နှစ်ဦးမှ မွေးဖွားသော သားသမီးတို့လည်း နို့စို့သော သူငယ်/မတို့နှင့် နို့စို့ဘက်နှမ တော်စပ်ကြသောကြောင့် အချင်းချင်းလက်ထပ်ရန် (ဟရာမ်) ဖြစ်သွားလေသည်၊ အဓိပ္ပါယ်ကား....အမျိုးအနွယ် အဘက်ကြောင့် လက်ထပ်ခြင်း ဟရာမ် ဖြစ်သကဲ့သို့ နို့စို့ဘက်ဖြစ်ခြင်း အနွယ်ကြောင့် လည်း လက်ထပ်ရန် ဟရာမ်ဖြစ်၏၊ သို့သော် အထက်ဆိုခဲ့သောပညတ်သည် သူငယ်/မတို့ (၂)နှစ်အရွယ် မရောက်မီအတွင်း နို့စို့မှသာ အတည်ဖြစ်၏။

(၂)နှစ်အရွယ်ကကျော်လွန်သောအခါ အခြားမိန်းမ၏နို့ကို စို့ငြားသော်လည်း နို့စို့ဘက်မဖြစ်ပေ၊ အဓိပ္ပါယ်ကား.... နို့တိုက်သော မိန်းမနှင့် ၎င်း၏ လင်ယောကျ်ား နှစ်ဦးစလုံးတို့သည် နို့စို့သောကလေး၏ မိဘအရာ မရောက်သည်သာမက မွေးဖွားသော သားသမီးတို့လည်း နို့စို့သောကလေးနှင့် နို့စို့ဘက်မောင်နှမ အတည်မဖြစ်သောကြောင့် အချင်းချင်း လက်ထပ်နိုင်သည်၊ ထိုအဆိုသည် အများသော အာလင်မ်ပညာရှင်များ၏ 'ဖွာတ်ဝါ' ဆုံးဖြတ်ချက်ဖြစ်၏။

သို့ရာတွင် အလွန် ကြီးကျယ်သော ပညာတော်ရှင် အေမာမ်အအ်ဇွာမ် သခင်ထံမှာ သူငယ်/မတို့သည် (၂)နှစ် (၆)လအတွင်း အခြား မိန်းမ၏ နို့ကို စို့ပါလျှင် နို့စို့ ဘက်အတည်ဖြစ်၍ အချင်းချင်း လက်ထပ်မှု မပြုအပ်ဟု အမိန့်ရှိသည်၊ (၂)နှစ်နှင့်(၆)လ လွန်ပြီးနောက်မှ နို့စို့ခဲ့ပါမူ နို့စို့ဘက် အတည်မဖြစ်၊ နေကာဟ်ပြုနိုင်သည် ဟူ၏။

ရှုဲ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၆၄။

၆။ မတ်စ်အလဟ်ပြဿနာ။ ကလေးသူငယ်၏ လည်ချောင်းတွင် အနည်းငယ် ဖြစ်စေ၊ သို့မဟုတ် များစွာဖြစ်စေ နို့ဝင်သွားပါလျှင် အထက်တွင် ကျွန်ုပ်ရေးသားညွှန်ပြ ခဲ့သော အဆက်အနွယ်အပေါင်းတို့နှင့် နေကာဟ် ဟရာမ် ဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၅၆။

၇။ မတ်စ်အလဟ်ပြဿနာ။ အကြင် ကလေးသည် သားမြတ်မှ နို့စို့သည် မဟုတ်ဘဲ ၎င်းသူမက မိမိနို့ကိုညှစ်ယူပြီးလျှင် ကလေး၏လည်ချောင်း၌ ချပေးလျှင်လည်း နို့စို့ဘက်ဖြစ်၍ အထက်ဆိုခဲ့သည့်အတိုင်း နေကာဟ်လက်ထပ်ခြင်း ဟရာမ်ဖြစ်လေသည်၊ ထိုနည်းတူစွာ ကလေး၏နှာခေါင်းပေါက်တွင် နို့ညှစ်၍ချလိုက်လျှင်လည်း မထူးတော့ပေ၊ သို့သော် ကလေး၏နားတွင်းသို့ ညှစ်၍ချခဲ့လျှင် နို့စို့ဘက်မဖြစ်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၀။

၈။ မတ်စ်အလယ်ပြဿနာ။ အကြင်သူသည် မိမိ၏ကလေးကို နို့တိုက်ရန်အတွက် မိန်းမတစ်ဦးတစ်ယောက်ထံက နို့တောင်းယူပြီးလျှင် ၎င်းနို့ကို ရေနှင့်ဖြစ်စေ၊ ဆေးနှင့်ဖြစ်စေ ရောစပ်ပြီး သကာလ ကလေးကို တိုက်ခဲ့သော် ထိုအခါ နို့နှင့်စပ်သော ရေနှင့်ဆေးတို့သည် နို့ထက် များသည်-နည်းသည်ကို ရှုကြည့်ရပေမည်၊ အကယ်၍ နှောစပ်သော နို့သည် ရေနှင့်အတူသော်လည်းကောင်း၊ သို့မဟုတ် နို့ရည်ကပိုမိုလျှင်သော်လည်းကောင်း နို့ရည်ပေးသော မိန်းမသည် ကလေးသူငယ်၏ နို့စို့မိခင်ဖြစ်လေသည်၊ သို့တည်းမဟုတ် နှောစပ်သောရေနှင့်ဆေးတို့သည် နို့ရည်ထက်သာပိုမိုများပြားခဲ့လျှင် အတည်မဖြစ်ချေ၊ နို့ရည်ပေးသော မိန်းမသည် ကလေး၏ မိခင် မဖြစ်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၉။

၉။ မတ်စ်အလယ်ပြဿနာ။ မိန်းမတစ်ဦးတစ်ယောက်၏ နို့ရည်ကို ဆိတ်နို့၊ သို့မဟုတ် နွားနို့နှင့်ရောစပ်၍ ကလေးသူငယ်ကို တိုက်ခဲ့လျှင်လည်း လူနို့သည် ဆိတ်နို့-နွားနို့နှင့် ဆတူသော်လည်းကောင်း၊ သို့မဟုတ် ဆိတ်နို့ နွားနို့ ထက် သာ ပို လျှင်သော်လည်းကောင်း နို့ရည်ပေးသောမိန်းမသည် ကလေးသူငယ်၏မိခင်ဖြစ်၍ ၎င်းမိန်းမ၏ အရင်းအချာ အမျိုးအနွယ်အပေါင်းတို့သည် နို့စို့သောကလေးနှင့် လက်ထပ်ရန် ဟာရမ် ဖြစ်လေသည်၊ အကယ်၍ ဆိတ်နို့၊ နွားနို့က လူနို့ထက်များခဲ့လျှင် နို့ပေးသော မိန်းမသည် ကလေး၏မိခင် မဖြစ်နိုင်ပေ။

အွမ်ဒတ္တုရ်ရေအာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၆၈။

၁၀။ မတ်စ်အလယ်ပြဿနာ။ အရွယ်ရောက်ပြီးသော အပျိုကညာ၏ရင်သားမှ နို့ရည်ဆင်းသက်လာသဖြင့် နို့စို့အရွယ် ကလေးတစ်ဦးတစ်ယောက် သောက်စို့မိလျှင် အပျိုကညာသည် ကလေးသူငယ်၏မိခင်ဖြစ်၍ ၎င်း၏အဆက်အပေါင်းတို့နှင့် လက်ထပ်ရန် (ဟာရမ်)ဖြစ်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၂။

၁၁။ မတ်စ်အလယ်ပြဿနာ။ သေနေသောမိန်းမ၏ ရင်သားမှ နို့ရည်ညှစ်ယူပြီးလျှင် နို့စို့အရွယ်ကလေးတစ်ယောက်ကိုတိုက်ကျွေးလျှင်လည်း ကလေးသည် ၎င်းမိန်းမ၏ အဆက်အနွယ်ရင်းတို့နှင့် နေကာဟ်'ဟာရမ်' ဖြစ်လေသည်။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၄၄။

၁၂။ မတ်စ်အလယ်ပြဿနာ။ နို့စို့အရွယ်သူငယ်ကလေးနှင့်သူငယ်မကလေးတို့သည် ဆိတ်မတစ်ကောင်၏ နို့ကိုသော်လည်းကောင်း၊ နွားမတစ်ကောင်၏ နို့ကိုသော်လည်းကောင်း အတူဆုံ၍ စို့ခဲ့ကြသော် ၎င်းတို့နှစ်ဦး နို့စို့ဘက်အဖြစ်နှင့် မောင်နှမ မတော်စပ်ချေ၊ အချင်းချင်းလက်ထပ်လိုက လက်ထပ်နိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၄။

၁၃။ မတ်စ်အလယ်ပြဿနာ။ အရွယ်ရောက်ပြီးသော ခင်ပွန်းသည် မိမိဇနီး၏ ရင်သားမှ နို့ရည်ကို စို့လိုက်မူ၊ ဇနီးခင်ပွန်းနှစ်ဦးတို့ နေကာဟ် လက်ထပ်ခြင်း ဟာရမ်

မဖြစ်ပေ၊ သို့သော် ၎င်းကဲ့သို့ နို့စို့ခြင်း အလွန်ပင် အဖြစ်တာဝန် လေးလံသည်၊ အဘယ်ကြောင့် ဆိုသော်.... အသက် အရွယ် ၂-နှစ် လွန်ပြီးသည့်နောက် နို့စို့ခြင်းသည် လုံးဝ(ဟရာမ်)ဖြစ်လေသည်။ အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၄၃။

၁၄။ မတ်စ်အလဟ် ပြဿနာ။ နို့စို့ရွယ်ယောကျ်ားလေးတစ်ဦးနှင့်မိန်းကလေး တစ်ဦးသည် တရံစာ မိန်းမတစ်ဦး၏နို့ကို အတူဆုံ၍ နို့စို့ဘက် ဖြစ်ခဲ့ကြသော် ၎င်းတို့ နှစ်ဦး လက်မထပ်နိုင်ပေ၊ ထိုပညတ်သည် ယောကျ်ားကလေး နှင့် မိန်းလေးတို့ နို့စို့ သောအခါ သမယ တူသည်ဖြစ်စေ၊ သို့မဟုတ် တစ်ယောက် နို့စို့ပြီးနောက် နှစ်ပရိစ္ဆေဒ ပေါင်းများစွာ ကြာပြီးမှ တစ်ယောက်စို့သည်ဖြစ်စေ မထူးတော့ပေ၊ အတူတူဟုမှတ်ယူ ရမည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၄၄။
အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၅။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ၂-နှစ်အရွယ်မပြည့်မီ ကလေးတစ်ဦးတစ်ယောက် သည် (ဗာကင်ရ်) အမည်ရှိသူ၏ ဇနီးမယားနို့ကို စို့ခဲ့သော် ၎င်းသူမသည် ဗာကင်ရ် နှင့် လက်မထပ်ထိုက်သည် သာမက ဘယ်သောအခါမဆို ဗာကင်ရ် ၏ ဘိုး, ဘေး, ဘီ, သား, မြေး, မြစ်မှ စ၍ ဆက်နွယ်သူအပေါင်းတို့နှင့်လည်း လက်မထပ်ထိုက်ချေ။

(မှတ်ရန်) ဗာကင်ရ်၏ ဒုတိယ-တတိယမယားတို့က မွေးဖွားသော သူတို့နှင့်လည်း လက်မထပ်ထိုက်ဟု မှတ်ယူရမည်။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၄၄။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ဥပမာ (ကာဒင်ရ်)အမည်ရှိသော ယောကျ်ား တစ်ဦးနှင့် ဇနီးမယားနှစ်ဦး(ခဒီဂျာ)နှင့် (ဇိုင်နပ်)ဟု ရှိရာ ခဒီဂျာ၏နို့ကို အခြားမိန်းမ တစ်ယောက်၏သား အဗ်ဗားစ်အမည်ရှိသောသူငယ်ကစို့ခဲ့မူ ၎င်းသူငယ်သည် ကာဒင်ရ် ၏ သားအရာ ရောက်သောကြောင့် နို့စို့သောမိခင် ခဒီဂျာနှင့်သာ လက်မထပ်ထိုက်ရုံမျှ မက မိမိ ဖခင်၏ ဇနီးမယား ဖြစ်သည့်အတွက် ဇိုင်နပ်သည် ကာဒင်ရ်နှင့် ကွာရှင်းပြီး ဖြစ်သော်လည်း အဗ်ဗားစ်နှင့်ဇိုင်နပ်တို့လည်း လက်မထပ်ထိုက်ချေ။

ထိုနည်းတူစွာ အဗ်ဗားစ်သည် မိမိမယားကို ကွာရှင်းငြားသော်လည်း ကာဒင်ရ် နှင့်လက်မထပ်နိုင်ပေ၊ အဘယ်ကြောင့်ဆိုသော် အဗ်ဗားစ်၏မယားနှင့် ကာဒင်ရ်တို့သည် သမီးယောက္ခမ တော်စပ်ကြလေသည်၊ (ယောက္ခမ နှင့် ချွေးမတို့ လက်မထပ်ထိုက်)၊ ၎င်းအုဆိုနှင့် လျော်ညီစွာ ကာဒင်ရ်၏အစ်မ, နှမတို့နှင့် အဗ်ဗားစ်တို့လည်း အချင်းချင်း တူအရီးတော်ခြင်းကြောင့် အရီးလေး-အရီးကြီးနှင့် တူတို့လက်မထပ်ထိုက်ပေ၊ (မှတ်ရန်- ကာဒင်ရ်၏ အစ်မ, နှမ ဆိုသည်မှာ.... အရင်းအချာဖြစ်စေ၊ နို့စို့ဘက် ဖြစ်သောကြောင့် တော်စပ်သည်ဖြစ်စေ ပညတ်တစ်မျိုးတည်းဖြစ်၏၊ သို့ရာတွင် အဗ်ဗားစ်၏အစ်မ, နှမတို့နှင့် ကာဒင်ရ်တို့ လက်ထပ်လိုမူ နေကာဟ်ပြုပိုင်သည်ဟု မှတ်ယူရမည်။
အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၂။

၁၇။ မတ်စ်အလယ်ပြဿနာ။ ။အဗ်ဗားစ်၌ စာဂျေဒါခေါ် နှမတစ်ဦးရှိရာ စာဂျေဒါကမိန်းမတစ်ဦး၏ နို့ကိုစို့၏၊ သို့ရာတွင် အဗ်ဗားစ်ကမစို့ခဲ့သော် ထိုနို့တိုက်ကျွေးသောမိန်းမနှင့် အဗ်ဗားစ်တို့သည် နေကာဟ်ထိမ်းမြားခွင့်ရှိလေသည်။

အာလမ်ဂီရီကျမ်း အတွဲ၂၊ စာမျက်နှာ ၁၄၂။

၁၈။ မတ်စ်အလယ်ပြဿနာ။ ။အဗ်ဗားစ် အမည်ရှိသူ၏သားက (ဇာဟေဒါ) အမည်ရှိသောမိန်းမ၏နို့ကိုစို့ခဲ့လျှင်လည်း အဗ်ဗားစ်နှင့်ဇာဟေဒါတို့ လက်ထပ်ပိုင်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၆၁။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၄၃။

၁၉။ မတ်စ်အလယ်ပြဿနာ။ ။ညီအစ်ကိုနှစ်ယောက် (ကာဒင်ရ်နှင့်သာကင်ရ်) ဟုရှိကြရာ သာကင်ရ်သည် နို့စို့ဘက် နှမတစ်ယောက်ရှိခဲ့လျှင် ကာဒင်ရ်နှင့် ၎င်းသူမတို့ လက်ထပ်ပိုင်သည်၊ (ညီငယ်သာကင်ရ်နှင့် နို့စို့ဘက်နှမဖြစ်ခြင်းကြောင့် အစ်ကိုဖြစ်သော ကာဒင်ရ်နှင့် လက်မထပ်နိုင်ဟုမမှတ်ယူရ)၊ ရှရီအတ်တရားတော်အရ လက်ထပ်နိုင်ကြောင်း မှတ်ယူရမည်၊ သို့သော် သာကင်ရ်နှင့်မူကား နို့စို့ဘက် နှမအရင်း ဖြစ်ခြင်းကြောင့် အဘယ်နည်းနှင့်မျှ လက်မထပ်နိုင်ချေ။

**မှတ်ရန်။** ။ဤသို့သော မတ်စ်အလယ်များသည်ခက်ခဲသည်ဖြစ်၍လူတိုင်းနားမလည်နိုင်ပေ၊ သို့အတွက် ဤနေရာတွင် ကျွန်ုပ်အကျယ်မရေးတော့ အလိုရှိသောအခါ သိနားလည်သော အာလင်မ် ပညာရှိကြီးများထံ မေးမြန်းကြပါကုန်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၆၁။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၃။

၂၀။ မတ်စ်အလယ်ပြဿနာ။ ။ယောကျ်ားတစ်ယောက်နှင့် မိန်းမတစ်ယောက် လက်ထပ်မည်ပြုကြစဉ် အခြားမိန်းမတစ်ဦးလာရောက်ပြီးလျှင် မိမိကိုယ်တိုင် ထိုယောကျ်ား မိန်းမနှစ်ဦးကို နို့တိုက်ခဲ့ကြောင်း သို့အတွက် ၎င်းတို့နှစ်ဦး လက်မထပ်ထိုက်ပါဟု မြွက်ဆိုလျှင် သက်သက်ထိုမိန်းမပြောဆိုချုံမျှဖြင့် လက်ထပ်မည့် ယောကျ်ားနှင့် မိန်းမနှစ်ဦးတို့ နို့စို့ဘက် မောင်နှမ အတည်မဖြစ်ပေ၊ လက်ထပ်နိုင်ပါသည်၊ သို့သော် သိလသမာဓိနှင့် ပြည့်စုံသော ယောကျ်ားနှစ်ဦးက ဖြစ်စေ၊ သို့မဟုတ် သူတော်စင်ယောကျ်ားတစ်ဦးနှင့် မိန်းမနှစ်ဦးကဖြစ်စေ၊ နို့စို့ဘက် မောင်နှမ မှန်ကြောင်း မြွက်ဆို၍ သက်သေခံခဲ့မူ ၎င်းတို့နှစ်ဦး လက်မထပ်နိုင်ချေ၊ နေကာဟ် ဟရာမ် ဖြစ်၏။

ဆိုခဲ့သည့်အတိုင်း သက်သေခံမရှိလျှင် လက်ထပ်နိုင်သည်၊ အကယ်၍ (သိလသမာဓိနှင့်မပြည့်စုံသော)ယောကျ်ားတစ်ယောက်ကဖြစ်စေ မိန်းမတစ်ယောက်ကဖြစ်စေ၊သို့မဟုတ် မိန်းမသုံးယောက်ကဖြစ်စေ၊ မိန်းမနှစ်ယောက်ကဖြစ်စေ နို့စို့ဘက် မှန်ကြောင်း သက်သေခံခဲ့မူ ရှရီအတ်တရားတော်အရ သက်သေမလုံလောက်သဖြင့် ၎င်းတို့နှစ်ဦး လက်ထပ်

လိုက်သော် နေကာဟ်ပိုင်၏၊ သို့သော် သက်သေပင် မလုံလောက်ငြားသော်လည်း စိတ်နှလုံးမှာ ဒွိဟယနကင်းစေရန် ၎င်းတို့နှစ်ဦးလက်မထပ်ခြင်း သာ၍ကောင်းသည်။

ကိုဒူရီကျမ်း စာမျက်နှာ ၁၇၀။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၄၇။

၂၁။ မတ်စ်အလဟ် ပြဿနာ။ ။မိန်းမနို့ရည်ကိုတစ်စုံတစ်ခုသောဆေး၌ထည့်စွက်၍အသုံးပြုခြင်းမပိုင်ချေ၊ အကယ်၍ ထည့်စွက်ခဲ့ပါမူ ထိုဆေးကိုစားခြင်း၊ လိမ်းခြင်းသည် ဟရာမ်ဖြစ်လေသည်၊ ထိုနည်းတူစွာမိန်းမနို့ရည်ကို ဆေးသဘောဖြင့် မျက်စိတွင်ဖြစ်စေ၊ နားတွင်ဖြစ်စေ ထည့်သွင်းခြင်းလည်း မအပ်ပေ၊ အချုပ်သဘောမှာ မိန်းမနို့ရည်သည် ၂-နှစ်အရွယ်မတိုင်ရောက်မီ ကလေးတို့ အသုံးပြုရန်သာ ဟလာလ်ဖြစ်၍ ထိုပြင်နေရာ ဟူဟူသမျှ၌ မသုံးစွဲထိုက်ကြောင်း မှတ်ယူရမည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁၂။

# တွလာက် ကွာရှင်းခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။ဗာလစ်ဂ် အရွယ်ရောက်ပြီး လင်ယောကျ်ားကဖြစ်စေ၊ စိတ်နှလုံးတည်ကြည် ကောင်းမွန်စွာရှိသော လင်ယောကျ်ားကဖြစ်စေ မိမိဇနီးမယားကို (တွလာက်)ပေးခဲ့မူ တွလာက်မြောက်၏၊ အရွယ်မရောက်သေးသော သူငယ်ကဖြစ်စေ စိတ်နှလုံးမတည်ကြည်သည့် ရူးသွပ်ပေါ်နှန်းသူဖြစ်စေ မိမိမယားကို တွလာက်ပေးခဲ့လျှင် တွလာက်မမြောက်ပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၁။

၂။ မတ်စ်အလဟ်ပြဿနာ။ ။အိပ်ပျော်လျက် နေသူ၏ နှုတ်မှ ရေဘ်ရမ်းကာ အသင်မကို တွလာက်၊ သို့မဟုတ် ကျွန်ုပ်၏မယားကို တွလာက်ဟု မြွက်ဟထွက်ဆိုမိမူ တွလာက် မမြောက်ပေ၊ (၎င်းကဲ့သို့ တွလာက်ပေးခြင်းကို အရေးမယူရ။)

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၁။

၃။ မတ်စ်အလဟ်ပြဿနာ။ ။ ။တစ်ဦးတစ်ယောက်သောသူက အတင်းအဓမ္မခြောက်လှန့် ကြိမ်းမောင်းပြီးလျှင် လူတစ်ယောက်ကိုပြောဆိုသည်မှာ အသင်သည် မိမိဇနီးကို တွလာက် ပေးလျှင်ပေးလော့၊ မပေးလျှင် ကျွန်ုပ်အသင်ကို အသက်နှင့် ထားမည်မဟုတ်၊ သေအောင်သတ်မည်၊ ထိုသို့မြွက်ဆိုသောကြောင့် ခင်ပွန်းဖြစ်သူသည် မိမိဇနီးကို မပစ်လိုပါဘဲလျက် ဘေးအန္တရာယ်ကိုကြောက်၍ တွလာက် ပေးလိုက်ရပါမူလည်း ထိုတွလာက်သည်မြောက်၏။

ကိုဒူရီကျမ်း စာမျက်နှာ-၁၇၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူသည်အရက်(ထန်းရည်)မှုစ၍ မူးယစ်တတ်သောအရာ တစ်စုံတစ်ခုကို သောက်စားပြီးလျှင် မူးယစ်သောအဖြစ်တွင် မိမိမယားကို တွလာက်ပေးလိုက်သော် တွလာက်မြောက်၏၊ အမူးပြေသောအခါ မိမိမှားကြောင်း နောင်တရငြားသော်လည်း တွလာက်ဖြစ်ပေ၏၊ ထိုနည်းတူစွာ ဒေါသဖြစ်သောအခါတွင် တွလာက်ပေးလိုက်လျှင်လည်း အထမြောက်သည်ဟု မှတ်ယူရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၇၃။

၅။ မတ်စ်အလဟ် ပြဿနာ။ ။ဇနီးမယားကို လင်ယောက်ျားအပြင် အခြားသူ တစ်ဦးတစ်ယောက်က(လင်နှင့်ပြတ်စဲအောင်)တွလာက်ပေးနိုင်ခွင့်မရှိပေ၊ သို့သော် လင်ဖြစ်သူ၏ကိုယ်စားလှယ် လွှဲအပ်ခြင်းခံရသူဖြစ်သော် တွလာက်ပေးနိုင်ခွင့်ရှိသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၃။

# [တွလာက်] ပေးခြင်းအကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။တွလာက်ပေးရန် စိုးပိုင်သူသည် လင်ယောက်ျား ဖြစ်သေသည်၊ အကယ်၍လင်ဖြစ်သူက တွလာက်ပေးလိုက်မှု ဇနီးဖြစ်သူ သဘောတူကျေနပ်သည်ဖြစ်စေ၊ မကျေနပ်သည်ဖြစ်စေ မငြင်းဆန်နိုင်ပေ၊ တွလာက်မြောက်၏၊ ဇနီးမယားကား မိမိလင်ကို တွလာက်မပေးနိုင်ချေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၁၅။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၀။

၂။ မတ်စ်အလဟ် ပြဿနာ။ ။ဇနီးမယားကို တွလာက်ပေးရန် လင်ဖြစ်သူသည် တွလာက် သုံးကြိမ်သာ ပိုင်ဆိုင်လေသည်၊ ထိုထက်ပို၍ မပေးထိုက်ပေ၊ အကယ်၍ တွလာက် သုံးကြိမ်ထက်ပိုပြီး လေးကြိမ်ဖြစ်စေ၊ ငါးကြိမ်ဖြစ်စေ ပေးငြားသော်လည်း သုံးကြိမ်သာလျှင် အထမြောက်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၂။

၃။ မတ်စ်အလဟ် ပြဿနာ။ ။မည်သည့်အခါ လင်ဖြစ်သူက မိမိ မယားကို တွလာက်ပေးသည်ဟု နှုတ်မှမြွက်ဆိုလိုက်သော် ပြောဆိုသည်နှင့်တပြိုင်နက် အသိသက်သေ ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ မယားဖြစ်သူ ကြားသည်ဖြစ်စေ၊ မကြားသည်ဖြစ်စေ တွလာက်မြောက်လေသည်။

ကန်ဇ္ဇဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၁၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ။တွလာက် ပေးခြင်းသည် သုံးမျိုး ရှိလေသည်၊ (၁)တွလာက်ဘာအင်န်၊ (၂)တွလာက်မိုဂလ်လဇ္ဇတ်၊ (၃)တွလာက်ရဂ်ျအီဖြစ်၏၊ ဆိုခဲ့သော တွလာက်များအနက် တွလာက်ဘာအင်န် ဆိုသည်ကား အကြင်သူက မိမိမယားကို

ထိုတ္ဗလာက်ပေးလိုက်လျှင် ပေးပြီးသည်နှင့်တပြိုင်နက် ဇနီးခင်ပွန်းနှစ်ဦးတို့ လက်ထပ်ခြင်း ပျက်သွားလေသည်။

ထပ်မံ၍ နေကာဟ်မပြုဘဲ လင်မယားနှစ်ဦးတို့အတူ ပေါင်းသင်း၍ မနေထိုက်ပေ၊ တ္ဗလာက် ဘာအင်န်ပေးပြီးနောက် ဇနီးခင်ပွန်းနှစ်ဦးတို့ အတူပေါင်းသင်း နေထိုင်လိုကြလျှင် အသစ်ထပ်မံ၍ နေကာဟ်ပြုရပေမည်။

(တ္ဗလာက်မိုဂလ်လဇ္ဇဟ်) ဆိုသည်ကား အကြင်သူက ဇနီးမယားကို ထိုတ္ဗလာက်ပေးလိုက်သော် ယင်းသူမသည် ဒုတိယလက်ထပ်၍ အခြားလင်တစ်ယောက်နှင့် ကာမ စပ်ယှက်ပေါင်းသင်းပြီးလျှင် ကွာရှင်း၍ အစ်ဒတ်ရက် မလွန်သမျှကာလပတ်လုံး ပထမလင်နှင့် လက်မထပ်နိုင်ချေ၊ အဓိပ္ပါယ်ကား တ္ဗလာက်မိုဂလ်လဇ္ဇဟ် ပေးပြီးသောသူသည် ထိုသူမ နောက်အိမ်ထောင်ပြုပြီးနောက် ကွာရှင်း၍ အစ်ဒတ်ရက်လွန်မှသာ ထိုမိန်းမနှင့်နေကာဟ် ပြန်ပြုနိုင်သည်ဟူ၏။

(တ္ဗလာက်ရဂ်ျအီ) ဆိုသည်ကား ရှင်းလင်းသောအက္ခရာများဖြင့် တ္ဗလာက်တစ်ကြိမ် သို့မဟုတ် နှစ်ကြိမ်ပေးရုံမျှဖြင့် တ္ဗလာက်ပေးပြီးသည့် တပြိုင်နက် ဇနီးခင်ပွန်းနှစ်ဦး တို့ နေကာဟ် မပျက်သေးပေ၊ ထိုတ္ဗလာက်ပေးပြီးနောက် (အစ်ဒတ်) ရက်အတွင်း လင်ယောကျ်ားသည် နောင်တရသဖြင့် ပြန်၍လှည့်လည်လိုမူ၊ အသစ် နေကာဟ်မပြုရဘဲ ဇနီးဖြစ်သူနှင့် ပေါင်းသင်းလျက်နေနိုင်သည်၊ သို့သော် လင်ယောကျ်ားသည် မိမိဇနီးမယား ကို တ္ဗလာက်ရဂ်ျအီ တစ်ကြိမ်ဖြစ်စေ၊ နှစ်ကြိမ်ဖြစ်စေ ပေးပြီးနောက် (အစ်ဒတ် ရက်လွန်သည့်တိုင် တစ်စုံတစ်ရာ ဇနီးဖြစ်သူနှင့် ဆက်ဆံခြင်းမရှိပြန်၍ သိမ်းပိုက်ခြင်းလည်း မပြုမူ ထိုအခါ လင်မယားနှစ်ဦးတို့ နေကာဟ် ပျက်သွားသည်၊ တဖန် ဇနီးခင်ပွန်း အဖြစ်နှင့် နေလိုပါက အသစ် နေကာဟ်မပြုဘဲ မနေပိုင်ချေ၊ အစ်ဒတ်ရက် မလွန်မီမူကား လင်ယောကျ်ား၏ အလိုသဘောအတိုင်း ဇနီးမယားကို မိမိနှင့်အတူတကွ ပေါင်းသင်း နေထိုင်လိုလျှင် နေနိုင်သည်၊ အတူမနေလိုလျှင်လည်း စွဲခွါနေနိုင်သည်ဟု မှတ်ယူရမည်။

သို့ရာတွင် (တ္ဗလာက်ရဂ်ျအီ)ကိုပင် သုံးကြိမ်ပေးလိုက်သော် ပေးပြီးသည်နှင့် တပြိုင် နက် သုံးတ္ဗလာက် အဖြစ်နှင့် ဇနီး ခင်ပွန်း နှစ်ဦးတို့ နေကာဟ် ပျက်လေသည်၊ လင်ယောကျ်ား၏ အလိုသဘောအတိုင်း အစ်ဒတ်ရက် အတွင်းမှာ ပြန်၍သိမ်းပိုက်လိုမူလည်း မဖြစ်နိုင်တော့ပေ။ ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၇၄။

၅။ မတ်စ်အလဟ် ပြဿနာ။ ။တ္ဗလာက်ပေးခြင်းသည် နှစ်မျိုးရှိ၏၊ ပထမအမျိုး မှာ ရှင်းလင်းသေချာသော အက္ခရာများဖြင့်မြွက်ဆိုခြင်း၊ (ဥပမာ) ကျွန်ုပ် အသင်မကို တ္ဗလာက်ပေးသည် သို့မဟုတ် ကျွန်ုပ်မိမိ၏မယားကို တ္ဗလာက်ပေးသည်စသည်ဖြင့် ထိုကဲ့သို့ ရှင်းလင်းသေချာသော အက္ခရာစာလုံးများဖြင့် မြွက်ဟ၍ (မိမိမယားကို တ္ဗလာက်ပေးခဲ့မူ) ၎င်းတ္ဗလာက်ကို(တ္ဗလာက်စွရီးဟ်)ဟုခေါ် ဆိုလေသည်၊ အဘယ်ကြောင့်ဆိုသော်ထိုအက္ခရာ များမူကား တ္ဗလာက်ပေးခြင်း အဓိပ္ပါယ်အပြင် အခြား အဓိပ္ပါယ် မရနိုင်ချေ။

ဒုတိယအမျိုးမှာ(အထက်တွင် ဖေါ်ပြသကဲ့သို့)ရှင်းလင်းသေချာစွာ အတိအလင်း အက္ခရာ စာလုံး မဟုတ်၊ သို့သော် ၎င်းစကားကို မြွက်ဆိုလိုက်သောအခါ တွလာက်၏ အဓိပ္ပါယ်သော်လည်းကောင်း၊ အခြား အဓိပ္ပါယ်သော်လည်းကောင်း ကောက်ယူနိုင်ခွင့် ရှိလေသည်၊ ဥပမာ.... အကြင်သူက မိမိမယားကို အသင်မအား ကျွန်ုပ်စွန့်လွှတ်လိုက်ပြီဟု မြွက်ဆိုလျှင် ထိုစကား၏ အဓိပ္ပါယ်ကား ကျွန်ုပ် အသင်မကို(တွလာက်)ပေးလိုက်သည်ဟု ကောက်ယူနိုင်သည်၊ တစ်ချက် သို့မဟုတ် ကျွန်ုပ်ထံတွင် အသင်မကိုမထားလို၊ မိမိအလိုရှိရာ သွားလော့၊ သင်မ၏သတင်းစကားကိုလည်း မမေးချင်လိုပါဟု အဓိပ္ပါယ်တစ်ချက် ရနိုင် လေသည်။

ထိုနည်းတူစွာ အသင်မနှင့်ကျွန်ုပ် ဘာမျှမပတ်သက်ပါ၊ သင်မနှင့်ကျွန်ုပ် ကွဲကွာ သွားပြီ၊ကျွန်ုပ်က သင်မကိုခွဲလိုက်ပြီ၊ သို့မဟုတ်စွန့်လွှတ်လိုက်ပြီ၊ ကျွန်ုပ်အိမ်မှအသင်မ သွား လော့၊ ထွက်သွားပါ၊ ဝေးစွာရှောင်သွားပါ၊ အသင်မ မိဘအိမ်သို့သွားလော့၊ မိမိအိမ် သွားလော့၊ သင်မနှင့် ငါ မဆိုင် စသည်ဖြင့် ၎င်းနည်းတူ အက္ခရာများကိုမြွက်ဆိုသော် အဓိပ္ပါယ်နှစ်မျိုးရသည်ဖြစ်၍ ဤသို့သောစကားမျိုးဖြင့် တွလာက်ပေးခြင်းကို(တွလာက် ကေနာယဟ်)ဟုခေါ်လေသည်။ ကိုးဒူရီကျမ်း စာမျက်နှာ-၁၄၆။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၆။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၂၊၂၂၄။

၆။ မတ်စ်အလဟ် ပြဿနာ။ တွလာက်ပေးလိုသောဆန္ဒရှိသည်ဖြစ်စေ၊ မရှိသည် ဖြစ်စေ ရှင်းလင်းသေချာစွာ အက္ခရာများဖြင့် တွလာက်ပေးလိုက်မူ နှုတ်မှမြွက်ဆိုသည်နှင့် တစ်ပြိုင်နက် တွလာက်မြောက်လေသည်။

အကယ်၍ ကျီစယ်သောသဘောဖြင့်ဖြစ်စေ၊ မိမိမယားကို (တွလာက်) ပေးလိုက် လျှင်လည်း တွလာက်အထမြောက်သည်ဟုမှတ်ယူရမည်၊ သို့ရှိရာ အဆိုပါအတိုင်း ရှင်းလင်း သေချာသောအက္ခရာများဖြင့်မြွက်ဆို၍ တွလာက်ပေးခဲ့သော် အထက်ဖေါ်ပြပါ တတိယ အမျိုးဖြစ်သော (တွလာက်ရဂျီအီ) မြောက်လေသည်၊ အဓိပ္ပါယ်ကား.... ထိုတွလာက် ပေးပြီးနောက် အစ်ဒတ်ရက် မကျော်လွန်မီအတွင်း လင်ယောကျ်ားဖြစ်သူက မယားကို အလိုရှိသည့်အတိုင်း ထားလိုကထားနိုင်ခွင့်၊ စွန့်လိုကစွန့်နိုင်ခွင့်ရှိသည်၊ (နေကာဟ်အသစ် ပြုရန်မလိုချေ)။

ယင်းကဲ့သို့ တွလာက်တစ်ကြိမ်ပေးလျှင် တစ်ကြိမ်သာမြောက်၏၊ နှစ်ကြိမ် သုံးကြိမ် မမြောက်ပေ၊ သို့သော် နှစ်ကြိမ်သော်လည်းကောင်း၊ သုံးကြိမ်သော်လည်းကောင်း မြွက် ဟ၍ပေးခဲ့မူ မြွက်ဆိုသကဲ့သို့ တွလာက်နှစ်ကြိမ် သို့မဟုတ် သုံးကြိမ်မြောက်ပေမည်။

ထိုနည်းတူစွာအသင်မကို သုံးတွလာက်ပေးသည်ဟုတစ်ခါထည်းဆိုလိုက်လျှင်လည်း သုံးတွလာက်မြောက်သည် ဟူ၏။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၁၆။

၇။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားဖြစ်သူသည် (မိမိမယားကို) ပထမတလာက်တစ်ကြိမ် ပေးပြီးသော် ၎င်းပေးပြီးနောက် အစ်ဒတ်ရက် မကုန်မီအတွင်း ထပ်မံ၍ ဒုတိယတစ်ကြိမ်၊ တတိယတစ်ကြိမ် တလာက်ပေးလိုလျှင် ပေးနိုင်လေသည်၊ အဓိပ္ပါယ်ကား....တလာက်တစ်ကြိမ်ပေးလျှင်တစ်ကြိမ်၊ နှစ်ကြိမ်ပေးလျှင်နှစ်ကြိမ်၊ သုံးကြိမ်ပေးလျှင် သုံးကြိမ် အထမြောက်၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၆၄၅။
ဘဲဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၅၂။

၈။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိဇနီးမယားကို (အသင်မအား တလာက်ပေးမည်)ဟု ပြောဆိုမှု ထိုသို့ပြောဆိုရုံမျှနှင့် တလာက်မမြောက်ပေ၊ ဤနည်းတူစွာ (အသင်မကို မည်သည့်အလုပ်ကို ပြုလျှင် ကျွန်ုပ် တလာက် ပေးရလိမ့်မည်)ဟု မြွက်ဆိုပြီးနောက် မယားဖြစ်သူက လင်မြွက်ဆိုသော အလုပ်ကို ပြုလုပ်ငြားသော်လည်း တလာက်မမြောက်ချေ၊ သို့သော် မည်သည့်အလုပ်ကိုပြုလုပ်ပါက အသင်မကို တလာက်ဟု မြွက်ဆိုပါလျက် မယားဖြစ်သူက ထိုအလုပ်ကို ပြုလုပ်ပါလျှင် တလာက်မြောက်၏။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်းအတွဲ-၃၊ စာမျက်နှာ-၂၅၂။

၉။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက(မိမိမယားကို) တလာက် ပေးပြီးနောက် ရုတ်တရက် လျှင်မြန်စွာ မအောင့်မဆိုင်းဘဲ 'အင်ရှာအလ္လာဟ်'ဟု ဆိုလိုက်မှု တလာက်မမြောက်ချေ၊ ထိုနည်းတူစွာ ခိုဒါအသျှင်မြတ် အလိုတော်ရှိလျှင် အသင့်မကို တလာက်ဟု မြွက်ဆိုလိုက်မှု တလာက်မမြောက်ပေ၊ သို့သော် တလာက် ပေးပြီးနောက် အတန်ကြာအောင်ဆိုင်းငံ့လျက်နေပြီးမှ 'အင်ရှာအလ္လာဟ်' ဆိုခဲ့သော်တလာက်မြောက်၏။

ကန်ဇွဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ- ၁၂၈။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိမယားကို ပျက်ချော် သရော်သော သဘောဖြင့် မတလာက်ဟု မြွက်ဟ၍ခေါ်လိုက်မှု တလာက်မြောက်၏။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၂၅၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက(မိမိမယားကို) အသင်မ လခ်နောင်မြို့သို့ သွားလျှင် တလာက်ဟု မြွက်ဟ၍ ကတိထားခဲ့မှု လင်ကတိထားသည့် အတိုင်း မယားသည် လခ်နောင် မြို့သို့မသွားသမျှ တလာက်မမြောက်၊ ထိုမြို့သို့ သွားသောအခါ တလာက်မြောက်၏။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၂၇။

၁၂ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရှင်းလင်း သေချာသော အက္ခရာ (တလာက် စွရီးဟ်) မဟုတ်ဘဲ မရှင်းလင်း မသေချာသော (တလာက် ကေနာယဟ်) အက္ခရာစကားဖြင့် တလာက်ပေးခဲ့မှု ထိုအက္ခရာစကားများ၏ မြွက်ဆိုလိုက်သောအချိန်တွင် တလာက် ပေးရန် နိယတ် စိတ်ဆန္ဒရှိပါက (တလာက်ဘာအင်န်) အထမြောက်

သည်၊ ယခု နေကာဟ် အသစ်မပြုဘဲ လင်မယားနှစ်ဦးတို့ အတူမနေနိုင်ချေ၊ အကယ်၍ တွလာက်ပေးရန် စိတ်က ရည်ရွယ်ချက်မရှိဘဲ အခြားသော သဘောဖြင့် မြွက်ဆိုလိုက်မူ တွလာက်မမြောက်ပေ၊ သို့သော် အရိပ်နိမိတ်သဘောဖြင့် တွလာက်ပေးသည်ဟု အထင်ရောက်ရန်ရှိပါလျက် (လင်ယောကျ်ားက) မုသားလိမ်လည်၍ပြောငြားသော်လည်း ဇနီးမယားသည် မိမိအား တွလာက်ရပြီဟု မှတ်ယူလျက် လင်ယောကျ်ားထံမှ ခွဲခွာ၍ ထွက်သွားရမည်၊ ဥပမာ.... လင်မယားနှစ်ဦးတို့ သဘောမမျှသဖြင့် စိတ်ဆိုးကြသောအခါ တွင် မယားဖြစ်သူကဒေါသဖြင့် လင်ကို အသင်နှင့်ကျွန်မ သင့်တင့်စွာမနေနိုင်၊ ကျွန်မကို တွလာက်ပေးပါတော့ဟု မြွက်ဆိုလိုက်ရာ လင်ဖြစ်သူက ကောင်းပြီ ကျွန်ုပ် (အသင်မကို စွန့်လိုက်ပြီ)ဟု ပြန်၍မြွက်ဆိုလိုက်လျှင် ထိုအခါ တွလာက်ပေးပါသည်ဟု မှတ်ယူရပေမည်၊ (လင်မယားနှစ်ဦးတို့ အတူမနေထိုက်)။

ကိုဒူရိကျမ်း စာမျက်နှာ-၁၇၂။

၁၃။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူက မိမိမယားကို သုံးကြိမ်မြောက် (တွလာက်....တွလာက်....တွလာက်)ဟု မြွက်ဆိုလိုက်မူ သုံး တွလာက်မြောက်၏၊ ထိုနည်းတူစွာ မရှင်းလင်းသော(တွလာက်ကေနာယဟ်)စကားဖြင့် သုံးကြိမ်မြောက် မြွက်ဆိုလျှင်လည်း သုံးတွလာက်မြောက်သည်၊သို့သော်(ကေနာယဟ်စကားဖြင့်)တွလာက်တစ်ကြိမ်သာ ဆန္ဒထားလျက် နှစ်ကြိမ်, သုံးကြိမ်မြောက်ထပ်၍ဆိုခြင်းမှာ အခိုင်အမာ တစ်ကြိမ်သေချာရန်အဖို့ ရည်ရွယ်ခဲ့ပါလျှင် တွလာက်တစ်ကြိမ်သာ မြောက်၏၊ (သုံးကြိမ်မမြောက်ပေ) သို့ရာတွင် ဇနီး မယားသည် လင်ယောကျ်ား၏ အတွင်းစိတ်နှလုံးမှ ဆန္ဒ ထားသည်ကို မသိနိုင်သောကြောင့်(ထိုကဲ့သို့သုံးကြိမ်မြောက် တွလာက်ကေနာယဟ် မြွက်ဆိုသောအခါ) မိမိသည် သုံးတွလာက်ရပြီဟု မှတ်ယူရပေမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ ၁၊ စာမျက်နှာ-၂၂၄။

# အခန်းမအပ်မီ အလျှင်၊ တွလာက်မြောက်ခြင်း
## အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ လက်ထပ်ပြီးနောက် အခန်းမအပ်မီ လင်ယောကျ်ားသည် မိမိဇနီးမယားကို တွလာက်ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် အခန်းအပ်ပြီးဖြစ်ငြားသော်လည်းရှရီအတ်တရားတော်အရ အခိုင်အမာဖြစ်ရန် အထက်က'မဟ်ရ်'ကာမပိုင်ကြေးပေးရမည့်အကြောင်းတွင် ရေးသားညွှန်ပြသကဲ့သို့ ဇနီးခင်ပွန်းနှစ်ဦးတို့ နှစ်ကိုယ်တည်းလုံခြုံသော နေရာဌာနမှာ အတူ မနေကြမီ တွလာက်ပေးလိုက်သည်ဖြစ်စေ၊ တွလာက်ဘာအဝ်န် မြောက်၍ အလိုသဘောမှာ ရှင်းလင်းသေချာစွာ တွလာက်စွရီးဟ် ပေးသည်ဖြစ်စေ၊ သို့မဟုတ် မရှင်းမလင်း မသေချာသော (တွလာက်ကေနာယဟ်)စကားများနှင့် ပေးသည်ဖြစ်စေ(တွလာက်ဘာအဝ်န်)မြောက်သည်ဟူ၏။

ထိုသို့သော မိန်းမသည် အစ်ဒ်ရက် ဆိုင်းရန် မလိုချေ၊ တွလာက် ရပြီးသည်နှင့် တစ်ပြိုင်နက် အလိုရှိပါက အခြားယောကျ်ားတစ်ဦးနှင့် နေကာဟ် လက်ထပ်နိုင်သည်၊ လင်ဖြစ်သူကငင်းမိန်းမကိုထပ်မံ၍ဒုတိယတစ်ကြိမ်တတိယတစ်ကြိမ်တွလာက်ပေးရန်လည်း မစိုးပိုင်ပေ၊ အကယ်၍ ပေးခဲ့ပါလျှင် အလဟဿ ဖြစ်၏၊ အဓိပ္ပါယ်ကား.... ထိုကဲ့သို့ နောက်ထပ် တွလာက်ပေးငြားသော်လည်း နှစ်ကြိမ်သုံးကြိမ် မမြောက်၊ ပထမတစ်ကြိမ် သာမြောက်သည်ဟုဆိုလိုသည်၊ သို့သော်ပထမဦးစွာတွလာက်ပေးစဉ်ကပင် တစ်ကြိမ်ထည်း အသင်မကို တွလာက် နှစ်ကြိမ် သို့မဟုတ် သုံးကြိမ်ပေးသည်ဟု မြွက်ဆိုလိုက်မူ မြွက်ဆို သကဲ့သို့ တွလာက် မြောက်ပေသည်။

(မှတ်ရန်)။ အကယ်၍ အသင်မကို တွလာက်....တွလာက်... တွလာက်ဟု သုံးကြိမ် ဆက်၍ မြွက်ဆိုခဲ့လျှင်လည်း ဤကဲ့သို့သော မိန်းမ အပေါ်မှာ သုံး တွလာက်မမြောက် ပထမတစ်ကြိမ်သာမြောက်သည်ဟုမှတ်ယူရသည်၊
ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၂၀။

၂။ မတ်စ်အလဟ် ပြဿနာ။ လက်ထပ်မင်္ဂလာ ပြုပြီးနောက် ဇနီးခင်ပွန်းနှစ်ဦး တို့အတူတကွ နေထိုင်ပေါင်းသင်းဆက်ဆံ ကာမ မစပ်ယှက်မီ ဇနီးမယားဖြစ်သူကို ခင်ပွန်း ဖြစ်သူလင်ယောကျ်ားက မည်သည့်အလုပ်ပြုလုပ်လျှင် အသင်မကို တွလာက်....တွလာက်.... တွလာက်ဟု မြွက်ဆိုထားပါလျက် ထိုလင်ယောကျ်ားပြောဆိုသော အလုပ်ကိုပင် ဇနီး မယားဖြစ်သူကပြုလုပ်လိုက်ပါလျှင်ငင်းအလုပ်ကိုပြုလုပ်သည်နှင့်တစ်ပြိုင်နက် သုံးတွလာက် မြောက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၇၄။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဇနီးခင်ပွန်းနှစ်ဦးတို့သည် လက်ထပ် ပြီးနောက် ကာယကံမြောက်ကာမစပ်ယှက်ပေါင်းသင်းပြီးဖြစ်စေ၊ သို့မဟုတ်ကာမစပ်ယှက် ခြင်း မပြုသေးသည်ဖြစ်စေ နှစ်ကိုယ်တည်း လုံခြုံရာနေရာဌာနတွင် အတူတကွ နေထိုင် ပြီးကြသော် ထိုသို့သောမိန်းမကို တွလာက်စွရီးဟ်ခေါ် ရှင်းလင်းသေချာသော အက္ခရာ များနှင့် တွလာက် ပေးပါက တွလာက်ရဂျ်အီမြောက်လေသည်၊ ထိုကဲ့သို့ တွလာက်ပေး ခြင်းတွင် အစ်ဒတ်ရက်အတွင်း ဇနီးခင်ပွန်းနှစ်ဦးတို့ အတူပေါင်းသင်း နေထိုင်လိုကြပြန် လျှင်အသစ်နေကာဟ်မပြုဘဲလင်ဖြစ်သူကမယားကိုသိမ်းပိုက်နိုင်သည်၊ အကယ်၍တွလာက် စွရီးဟ်မဟုတ်ဘဲ တွလာက်ကေနာယဟ်ခေါ် မရှင်းလင်းမသေချာသော အက္ခရာများနှင့် တွလာက် ပေးခဲ့မူ တွလာက်ဘာအင်န် မြောက်သည် ဖြစ်၍ တွလာက် ပေးလိုက်သည်နှင့် တစ်ပြိုင်နက် လင်မယားနှစ်ဦးတို့သည် နေကာဟ်ပျက်သည်ဖြစ်ခြင်းကြောင့် အစ်ဒတ်ရက် ဆိုင်းရမည်၊ အစ်ဒတ်ရက်မဆိုင်းဘဲ အခြားယောကျ်ားနှင့် နေကာဟ်မပြုနိုင်၊ အစ်ဒတ်ရက် အတွင်းမှာ ထိုသူမ၏ လင်ဖြစ်သူသည် ဒုတိယ, တတိယ တွလာက်များ ပေးနိုင်ခွင့်ရှိသည်။
ကိုဒူရီကျမ်း စာမျက်နှာ-၁၇၁။

# သုံးတွလာက် ပေးခြင်း၏ အကြောင်း

၁။ မတ်စ်အလှတ် ပြဿနာ။ ။အကြင်သူက မိမိဇနီးကိုသုံးတွလာက်ပေးခဲ့သော် ၎င်းသူသည် ထိုသုံးတွလာက်ပေးပြီးဖြစ်သောမယားနှင့် မပေါင်းသင်းထိုက်ချေ၊ လက်ထပ်ခြင်း ဟရာမ်ဖြစ်၏၊ အကယ်၍ ထပ်မံပြီး နေကာဟ်ပြုငြားသော်လည်း အတည်မဖြစ်သည်သာမကထိုအခါ၌ အတူပေါင်းသင်းနေထိုင်ကြခြင်းဟရာမ်ဖြစ်လေသည်။

မှတ်ရန်။ ။သုံးတွလာက် ဆိုသည်မှာ… (တွလာက်စွရီးဟ်) ခေါ် ရှင်းလင်းသေချာသောအက္ခရာများနှင့်တွလာက်ပေးသည်ဖြစ်စေ၊သို့မဟုတ်(တွလာက်ကေနာယာဟ်) ခေါ် မရှင်းလင်းသော အက္ခရာများနှင့် တွလာက်ပေးသည်ဖြစ်စေ အဆိုပါ အတိုင်း သုံးတွလာက်ပေးပြီးဖြစ်ပါလျှင် ပညတ်တစ်မျိုးတည်းဟု မှတ်ယူရမည်။

အထက်တွင် ညွှန်ပြခဲ့သည့်အတိုင်း သုံးတွလာက် ပေးပြီးဖြစ်သော ဇနီးမယားတို့သည် အကယ်၍ တဖန် နေကာဟ်လက်ထပ်လိုသောဆန္ဒရှိပါက လက်ထပ်နိုင်သော နည်းလမ်းတစ်ခုအပြင် အခြားမရှိချေ၊ ၎င်းနည်းလမ်းတစ်ခုဆိုသည်မှာ ထိုသုံးတွလာက်ရပြီးဖြစ်သောမိန်းမသည် အခြားသော ယောကျ်ားတစ်ဦးတစ်ယောက်နှင့် နေကာဟ်လက်ထပ်ခြင်းပြု၍ တစ်အိပ်ရာတည်း အတူအိပ်စက်ကာ ကာမစပ်ယှက်ပြီးနောက် ထိုယောကျ်ားသေမှဖြစ်စေ၊ သို့မဟုတ် တွလာက်ပေး၍ ကွာရှင်းပြီးမှဖြစ်စေ အစ်ဒတ်ရက် ကျော်လွန်သောအခါ ပထမ လင်ယောကျ်ားနှင့် နေကာဟ် လက်ထပ်နိုင်သည်၊ အချုပ်သဘောမှာ…. သုံးတွလာက် ရပြီး မိန်းမသည် ဒုတိယလင်ယောကျ်ား တစ်ယောက်နှင့် လက်မထပ်ဘဲနှင့်သော် လည်းကောင်း၊ သို့မဟုတ် လက်ထပ်ငြားသော် လည်းကောင်း၊ ဒုတိယလင်နှင့် ကာမစပ်ယှက်ပေါင်းသင်းခြင်းမပြုရမီ ၎င်းလင် သေဆုံးသောကြောင့် သို့မဟုတ် မိမိကို တွလာက်ပေး၍ ကွာရှင်းလိုက်လျှင်သော် လည်းကောင်း၊ ပထမ သုံးတွလာက်ပေးသော လင်ယောကျ်ားနှင့် ပြန်၍နေကာဟ်မပြုပိုင်ချေ၊ ထိုမိန်းမသည် ဒုတိယ လင်ယောကျ်ား တစ်ယောက်လက်ထပ်ယူပြီး ထိုယောကျ်ားနှင့် ကာမစပ်ယှက် ပေါင်းသင်းခြင်းသည်လည်း အထမြောက်ပြီးနောက် တွလာက်ပေး၍ကွာရှင်းပြီးလျှင် အစ်ဒတ်ရက် ကျော်လွန်မှသာ ပထမ လင်ယောကျ်ားနှင့် နေကာဟ် ပြုနိုင်ခွင့်ရှိချေသည်၊ ထိုသို့မဟုတ်ဘဲ သုံးတွလာက် ပေးသောလင်ယောကျ်ားနှင့် အပေးခံရသော မိန်းမတို့သည် အဘယ်နည်းနှင့်မျှ ပြန်၍ နေကာဟ်မပြုနိုင်ဟု မှတ်ယူကြရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၃၇၁။၃၇၉။

၂။ မတ်စ်အလှတ် ပြဿနာ။ ။တွလာက်သုံးကြိမ်ကို တခါတည်းအသင်မအား သုံးတွလာက်ဟုမြွက်ဟ၍ ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် အသင်မအား တွလာက်…. တွလာက်….တွလာက်ဟု သုံးခွန်းဆက်လက်၍ မြွက်ဟပေးလိုက်သည် ဖြစ်စေ၊ သို့မဟုတ် ယနေ့ တွလာက်သုံးကြိမ်၊ နက်ဖြန်မှာ တွလာက်တစ်ကြိမ်၊ သဘက်ခါ တွလာက်တစ်ကြိမ်ဟု

ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် သုံးလဆက်လက်ပြီးလျှင် အစ်ဒတ်ရက်အတွင်း တလကို တွလာက်တစ်ကြိမ်ကျ ပေးလိုက်သည်ဖြစ်စေ ဆိုခဲ့သည့်အတိုင်း တွလာက်ပေးခြင်းအပေါင်း တို့သည် သုံးတွလာက်မြောက်သည်ဖြစ်၍ ပညတ်တစ်မျိုးတည်းဟု မှတ်ယူရမည်၊ ၎င်းပြင် တွလာက်စွရီးဟ်ခေါ် ရှင်းလင်းသေချာသော အက္ခရာများနှင့် တွလာက်ပေးသောအခါ တွလာက်သုံးကြိမ်တိုင်မလွန်သေးဘဲ တစ်ကြိမ် သို့မဟုတ် နှစ်ကြိမ်မျှ တွလာက်ပေးပြီးနောက် ဆောလျင်စွာ နောင်တရသဖြင့် မိမိတွလာက်ကိုမဆိုင်းဘဲ ပြန်၍ရုပ်သိမ်းနိုင်ခွင့်ရှိလေသည်၊ သို့သော် တွလာက်သုံးကြိမ်တိုင်ပေးပြီးဖြစ်သော် ထိုအခါ ရုပ်သိမ်းနိုင်ခွင့်မရှိချေ။

ရှရ်ဟွတ်တန်စီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၇၈။

၃။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူက မိမိဇနီးကို တွလာက်ရဂ်ျအီတစ်ကြိမ် ပေးပြီးနောက် စိတ်မကျေနပ်သဖြင့် ထိုဇနီးကို (အစ်ဒတ်ရက်)အတွင်း တဖန်ပြန်၍ သိမ်းပိုက်လိုက်၏၊ ၎င်းနောက် သုံးနှစ်၊ လေးနှစ်မျှ ကြာရှည်သောအခါ ဇနီးမယားကို စိတ်မကျေနပ်သဖြင့် တွလာက်ရဂ်ျအီတစ်ကြိမ်ပေးလိုက်ပြန်လျှင် ထိုအခါ တွလာက်နှစ်ကြိမ်သာ ရှိသေးသည်ဖြစ်၍ မိမိဇနီးမယားကို (အစ်ဒတ်ရက်အတွင်း ပြန်၍သိမ်းပိုက်လိုက သိမ်းပိုက်နိုင်ခွင့်ရှိပေသေးသည်) သို့သော် စိတ်မကျေနပ်သဖြင့် နောက်တဖန် တွလာက်ရဂ်ျအီ တစ်ကြိမ်ပေးပြန်သော် ထိုအခါ သုံးတွလာက်အထမြောက်သည်ဖြစ်၍ အထက်တွင် ကျွန်ုပ် ရေးသားညွှန်ပြခဲ့သည့်အတိုင်း ထိုမိန်းမသည် ဒုတိယ လင်ယောကျ်ား တစ်ယောက်ယူပြီး မကွာရှင်းဘဲ ပထမယောကျ်ားနှင့် နေကာဟ်မပြုနိုင်ချေ။

ထိုနည်းတူစွာ အကြင်သူက (မိမိဇနီးမယားကို)တွလာက်ဘာအင်န်ခေါ် ရုတ်ခြည်းပင် နေကာဟ်ပျက်၍ တဖန်အသစ်အနေကာဟ်မပြုဘဲ မပေါင်းအပ်သော တွလာက်တစ်ကြိမ် ပေးလိုက်၏၊ ထို့နောက် ဇနီးခင်ပွန်း နှစ်ဦးစလုံးပင် နောင်တ ရ၍ စိတ်သဘော ကျေနပ်စွာ နေကာဟ် အသစ်ပြုကြပြန်လေသည်၊ ၎င်းနောက် သဘောမကျေနပ်သဖြင့် တွလာက်ဘာအင်န် တစ်ကြိမ်ပေးလိုက်ပြီးလျှင် တဖန် နောဓ်တရကြသဖြင့် ပြန်၍ လက်ထပ်ကြပြန်မူ ထိုအခါတွင် တွလာက် နှစ်ကြိမ်မြောက်ပြီ ဖြစ်လေသည်၊ အကယ်၍နောက် ထပ်တွလာက်ဘာစ်ကြိမ်ထပ်၍ပေးပြန်သော်ထိုအခါသုံးတွလာက်အတည်ဖြစ်၏ သုံးတွလာက်၏ပညတ်မှာ အထက်ပါအတိုင်းဖြစ်လေသည်၊ အဓိပ္ပါယ်ကား.... ၎င်းမိန်းမသည် နောက် လင်တစ်ယောက်မယူသေးဘဲ ပထမလင်ယောကျ်ားနှင့် နေကာဟ်မပြုအပ်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၇၀။

၄။ မတ်စ်အလဟ် ပြဿနာ။ ။(သုံးတွလာက်ရပြီးသော မိန်းမသည် ပထမဆုံး တွလာက်ပေးသော ယောကျ်ားနှင့် တဖန်ပြန်၍ လက်ထပ်နိုင်ရန်အတွက်) အခြားသော ယောကျ်ားတစ်ဦးနှင့် ကာမစပ်ယှက်ပြီးလျှင် ကွာရှင်းရန် ကတိထားပြီး နေကာဟ်ပြုကြ သော် ၎င်းကတိသည် အလဟဿဖြစ်၏၊ ဒုတိယလင်ယောကျ်ား၏ သဘောအတိုင်းထား

လိုကထားနိုင်ခွင့် ကွာရှင်းလိုက ကွာရှင်းနိုင်ခွင့်ရှိလေသည်၊ အဆိုပါအတိုင်း ကတိထား၍ နေကာဟ်လက်ထပ်ခြင်း များစွာအပြစ်ရှိလေသည်သာမက 'ဟရာမ်' ဖြစ်လေသည်၊ ၎င်းပြင် မြင့်မြတ်တော်မူသော အသျှင့်ထံမှ 'လအ်နတ်' ရောက်၏၊ သို့သော် ညွှန်ပြခဲ့သည့်အတိုင်း ကတိပြု၍ ဒုတိယလင်နှင့်ယောကျ်ားနှင့် နေကာဟ်ပြုပြီးနောက် ထိုဒုတိယလင်က ပေါင်းသင်းပြီးမှ ကွာရှင်းလိုက်သည်ဖြစ်စေ၊ သို့မဟုတ် ထိုဒုတိယလင် သေသွားသည်ဖြစ်စေ ပထမလင်ယောကျ်ားအတွက် နေကာဟ်ပြုရန် ဟလာလ် ဖြစ်သွား၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၇၁။

# အကြောင်းခံ တစ်ခုနှင့် တွလာက်ပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူက မိန်းမတစ်ဦးတစ်ယောက်ကိုလက်မထပ်မီက အသင်မနှင့်ကျွန်ုပ် နေကာဟ်ပြုသော် တွလာက်ဟုမြွက်ဆိုခဲ့လျှင် ထိုမိန်းမနှင့်၎င်းသူတို့ လက်ထပ်သည်နှင့် တစ်ပြိုင်နက် တွလာက်ဘာအင်န် မြောက်သွားသည်၊ နောက်ထပ် နေကာဟ်မပြုဘဲ ယောကျ်ားဖြစ်သူက ထိုမိန်းမကို သိမ်းပိုက်၍မထားနိုင်၊ အကယ်၍ လက်မထပ်မီက အသင်မနှင့် နေကာဟ်ပြုလျှင် တွလာက်နှစ်ကြိမ်ပေးသည်ဟု မြွက်ဆိုလျှင်လည်း တွလာက်ဘာအင်န် နှစ်ကြိမ်ဖြစ်လေသည်။

ထိုနည်းတူစွာ တွလာက်ဘာအင်န် သုံးကြိမ်ဟု မြွက်ဆိုလျှင် တွလာက် သုံးကြိမ် မြောက်သည်ဟုမှတ်ယူရမည်၊ ထိုအခါ တွလာက်မိုဂလ်လဇ္ဇဟ် ဖြစ်သွား၏။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၇၃။

၂။ မတ်စ်အလဟ်ပြဿနာ။ ။အထက်ဖော်ပြသကဲ့သို့ လက်ထပ်ခဲ့လျှင် တွလာက်ဟု မြွက်ဆိုသောစကားသည် ပထမနေကာဟ်မှာသာ အထမြောက်၏၊ ဒုတိယ ထပ်မံ၍ အသစ်နေကာဟ် ပြုသောအခါ လက်ထပ်ခြင်း မပျက်ချေ၊ နေကာဟ်ပိုင်၏၊ သို့သော် ဦးစွာပထမ အသင်မနှင့် နေကာဟ်ပြုသမျှ အဘယ်အကြိမ်မဆို တွလာက်ဟု ကတိစကား မြွက်ဆိုခဲ့မူ ထိုယောကျ်ားနှင့် မိန်းမတို့ နေကာဟ်ပြုသမျှ တွလာက် မြောက်သွား၏၊ အဘယ်အခါမျှ နေကာဟ် ပိုင်မည်မဟုတ်၊ ထိုအခါ ၎င်းယောကျ်ားသည် ထိုမိန်းမကို မည်သည့်နည်းနှင့်မျှ ပေါင်းသင်းနိုင်ခွင့်မရှိ၊ အချုပ်သဘောမှာ ၎င်းမိန်းမသည် နောက်လင်တစ်ယောက်ယူပြီးကွာရှင်း၍အစ်ဒတ်ရက်လွန်ပြီးမှ ပထမကတိမြွက်ဆိုသောယောကျ်ားနှင့် နေကာဟ်ပြုလျှင်လည်း ပထမကတိအတိုင်းတွလာက်ပြန်၍မြောက်လေသည်၊ နေကာဟ်မပိုင်ပေ။ ဒွရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၆၇၇။

၃။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက လက်မထပ်မီ အဘယ်မိန်းမ မဆို ကျွန်ုပ် နေကာဟ်ပြုလျှင် တွလာက်ဟု မြွက်ဆိုခဲ့မူ မိမိမြွက်ဆိုသည့်အတိုင်း လက်ထပ်သောအခါ ထိုလက်ထပ်သော မိန်းမပေါ်တွင် တွလာက်မြောက်၏၊ သို့သော် တွလာက်

မြောက်ပြီးနောက် ထိုမိန်းမကိုဘဲ ထပ်မံ၍ နေကာဟ်ပြုပြန်ပါလျှင် တွလာက် မမြောက်တော့ပေ၊ နေကာဟ်ပိုင်သွား၏။ ကို့ဒူရီကျမ်း စာမျက်နှာ ၁၇၃။

၄။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူက မိမိနှင့်လက်ထပ်မယားမဟုတ်သော တရံစာမိန်းမတို့ အလုပ်တစ်ခု ညွှန်ပြ၍ အသင်မ ထိုအလုပ်ကို ပြုလုပ်လျှင် တွလာက်ဟု မြွက်ဆိုမူ၊ ၎င်းကဲ့သို့မြွက်ဆို၍ တွလာက်ပေးခြင်း အတည်မဖြစ်ပေ၊ ဥပမာ.. အကယ်၍ ထိုယောကျ်ားသည် ၎င်းမိန်းမနှင့် လက်ထပ်ပြီးနောက် အထက်ညွှန်ပြခဲ့သည့် အလုပ်ကို မိန်းမက ပြုလုပ်ငြားသော်လည်း တွလာက် မမြောက်ပေ၊ အဘယ့်ကြောင့် ဆိုသော် တရံစာ မိန်းမကို တွလာက် ပေးနိုင်ခွင့်သည် အကယ်၍ အသင်မနှင့် နေကာဟ်ပြုလျှင် တွလာက်ဟုဆိုသော စကားအပြင် အခြားနည်းလမ်းနှင့် တွလာက်မမြောက်ချေ။

(မှတ်ရန်) အသင်မ ထိုအလုပ်ကို ပြုလုပ်လျှင် တွလာက်ဟု မြွက်ဆိုသော စကားသည် ယောကျ်ား မိန်းမ နှစ်ဦးတို့ လက်မထပ်မီကတည်းက အတည်မြွက်ဆိုသောစကားဖြစ်၍ အတည်မဖြစ်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၇၄။

၅။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူက မိမိဇနီးမယားကိုအသင်မ မည်သည့် အလုပ်ကိုပြုလုပ်သော် အသင်မကို တွလာက်ဟု မြွက်ဆိုလျှင်သော်လည်းကောင်း၊ သို့မဟုတ် အသင်မ ကျွန်ုပ်ထံမှ ထွက်သွားသော် အသင်မကို တွလာက်ဟု မြွက်ဆိုသော်လည်းကောင်း သို့မဟုတ် အသင်မ ဤအိမ်ကိုသွားသော် တွလာက်ဟု မြွက်ဆိုလျှင် သော်လည်းကောင်း သို့မဟုတ် ထိုနည်းတူစွာ တစ်စုံတစ်ရာ အသင်မ မည်သို့ပြုလုပ်လျှင်အသင်မကို တွလာက်ဟု မြွက်ဆိုလျှင်သော်လည်းကောင်း မယားဖြစ်သူသည် လင်မြွက်ဆိုကတိထားသော အလုပ်ကို ပြုလုပ်သည်နှင့်တပြိုင်နက် တွလာက်မြောက်လေသည်၊ အခြေပြယ်ကား ...လင်၏အမိန့် မသွားနှင့် မလာနှင့်ဆိုသော စကားအတိုင်း မတည် ဖီဆန်ခြင်းကြောင့် ထိုနေရာတွင် တွလာက်မြောက်သည် ဟူ၏။

အကယ်၍ အထက်အဆိုပါအတိုင်း လင်က ကတိထားသောအခါ မယားဖြစ်သူသည် လင်၏အမိန့်အတိုင်း မသွားနှင့် မလုပ်နှင့်ဆိုသောစကားများကို အတည်လိုက်နာဆောင်ရွက်ပါလျှင် တွလာက်မမြောက်ချေ၊ လင်၏အမိန့်ကိုမတည်ဘဲ သွားလာလုပ်ကိုင်ပါလျှင်လည်း (တွလာက်ရဂျ်အီ)သာ မြောက်၏၊ (တွလာက်ဘာအင်န်) မမြောက်ပေ၊ (တွလာက်ရာဂျအီ)၏ အကြောင်း အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သည်၊ သို့သော်(တွလာက်ကေနာယဟ်)ခေါ် မရှင်းလင်းသော အာက္ခရာစကားများနှင့် မြွက်ဆိုသော် ဥပမာ.... အသင်မသည် မည့်သည့်အလုပ်ကိုပြုလုပ်သော် အသင်မနှင့် ကျွန်ုပ် ဘာမျှမဆိုင်ဟုမြွက်ဆိုလျက် မယားဖြစ်သူက လင်၏အမိန့်ကို မတည်ဘဲ ထိုအလုပ်ကိုပြုလုပ်လျှင် မြွက်ဆိုသော အချိန်အခါတွင် လင်ယောကျ်ားစိတ်က တွလာက်၏ ဆန္ဒထားမှု (တွလာက်ဘာအင်န်) မြောက်၏၊ (တွလာက်ဘာအင်န်) အကြောင်း ဖော်ပြခဲ့ပြီးဖြစ်သည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၇၄။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လင်ဖြစ်သူက မယားကို အသင်မ ထိုအလုပ်ကိုပြုလုပ်လျှင် အသင်မအား တွလာက်နှစ်ကြိမ်သို့မဟုတ် သုံးကြိမ်ဟုမြွက်ဆိုထားပါလျက် မယားဖြစ်သူက လင်မြွက်ဆိုထားသည့် အလုပ်ကိုပင် ကျူးလွန် ပြုလုပ်ခဲ့သော် ထိုအခါ လင်ကတိထားသည့်အတိုင်း တွလာက်နှစ်ကြိမ် ကတိထားလျှင် တွလာက်နှစ်ကြိမ်၊ တွလာက်သုံးကြိမ် ကတိထားလျှင် သုံးကြိမ်မြောက်သွားသည်။

ကိုဒူရီကျမ်း စာမျက်နှာ-၁၇၄။

၇။ မတ်စ်အလဟ်ပြဿနာ။ ခင်ပွန်း ဖြစ်သူက မိမိ ဇနီးမယားကို အသင်မ ထိုအိမ်သို့သွားလျှင် အသင်မကို တွလာက်ဟု မြွက်ဆိုထားပါလျက် ဇနီးမယားဖြစ်သူက လင်၏ အမိန့်ကို မတည်ဘဲ ၎င်းအိမ်သို့သွားလျှင် တွလာက်မြောက်၏၊ ထိုသို့ တွလာက်မြောက်ပြီးနောက် လင်ဖြစ်သူက မိမိမယားကို အစ်ဒတ်ရက်အတွင်းမှာ ပြန်၍သိမ်းပိုက်သည်ဖြစ်စေ၊ သို့မဟုတ်၎င်းမိန်းမနှင့်အသစ်တဖန် နေကာဟ်ပြုလိုက်သည်ဖြစ်စေ ထိုအခါတွင်ပထမ လင်ဖြစ်သူ (ရှရတ္ထ) ထားသော နေအိမ်သို့ ထပ်မံ၍ ဇနီးဖြစ်သူ သွားရောက်ငြားသော်လည်း တွလာက်မမြောက်ချေ၊ သို့ရာတွင် ဦးစွာပထမ လင်၏စကားသည် အသင်မ ထိုအိမ်သို့ သွားသမျှအကြိမ်တိုင်း အသင်မကို တွလာက်၊ သို့မဟုတ် အဘယ်အခါမဆို သွားခဲ့လျှင် သွားသမျှ တွလာက်ဟု မြွက်ဆို၍ (ရှရတ္ထ)ထားခဲ့သော် ထိုအခါ၌ အစ်ဒတ်ရက်အတွင်း လင်ကမယားကို ပြန်၍သိမ်းပိုက်ပြီးနောက်ဖြစ်စေ၊ သို့မဟုတ် တဖန် နေကာဟ်ပြုပြီးနောက်မှဖြစ်စေ၊ဒုတိယအကြိမ်ထပ်မံ၍ အဆိုပါနေအိမ်သို့ ဇနီးဖြစ်သူသွားပြန်ပါလျှင် ပထမတွလာက်နှင့် ယခုတွလာက်ပါ နှစ်ကြိမ်မြောက်ဖြစ်သွား၏၊ ၎င်းနောက် တဖန် လင်ကမယားကို အစ်ဒတ်ရက်အတွင်းပြန်၍သိမ်းပိုက်ပြီးနောက်မှဖြစ်စေ၊ သို့မဟုတ် အသစ်နေကာဟ်ပြုပြီးနောက်မှဖြစ်စေ၊ မယားဖြစ်သူသည် ၎င်းနေအိမ်သို့ပင် တဖန်ထပ်၍ သွားပြန်သော် ထိုအခါ သုံးတွလာက် မြောက်သွား၏၊ ၎င်းယောကျ်ားနှင့် မိန်းမတို့ နောက်ထပ် အတူပေါင်းသင်းနေထိုင်ရန် နေကာဟ်မပိုင်တော့ပေ၊ သို့သော် ၎င်းမိန်းမသည် နောက်လင်တစ်ယောက်ယူပြီးမှ ပထမယောကျ်ားနှင့် ပြန်၍နေကာဟ်ပြုမည်ဆိုလျှင် နေကာဟ်ပိုင်၏၊ ထိုအခါတွင် မယားဖြစ်သူသည် ပထမဦးစွာ လင်ဖြစ်သူက သွားခဲ့လျှင် တွလာက်ဟုဆိုသောနေအိမ်သို့ သွားငြားသော်လည်း တွလာက်မမြောက်တော့ချေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၀၀။

၈။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိမယားကို အသင်မ မည်သည့်အလုပ်ပြုလုပ်လျှင် အသင်မကို တွလာက်ဟု မြွက်ဆိုထားရာ ထိုအလုပ်ကို မယားဖြစ်သူမပြုလုပ်မီ လင်ဖြစ်သူကတွလာက်တစ်ကြိမ်ပေး၍ မိမိမယားကိုစွန့်လွှတ်လိုက်၏၊ ထို့နောက် အတန်ကြာ နေ့ရက် ကြာပြီးသောအခါ ၎င်းယောကျ်ားသည် တွလာက် ပေးလိုက်သော မိန်းမနှင့်ပင် တဖန်ပြန်၍နေကာဟ်ပြုပြန်လေသည်၊ ထိုနေကာဟ် ပြုပြီးမှ လင်ဖြစ်သူက

ပထမ ရှရတ္တ ထားသောအလုပ်ကို မယားက လုပ်ပါလျှင် ၎င်းအလုပ်အတွက် ထပ်မံ၍ တွလာက်မြောက်၏၊ သို့သော် ဆိုခဲ့သည့် နေကာဟ်မပြုမီ တွလာက်ရ၍ အစ်ဒတ်ရက်လွန်ပြီးနောက် ရှရတ္တ ထားသည့်အလုပ်ကို မိန်းမဖြစ်သူတစ်ကြိမ်ပြုလုပ်ပြီးဖြစ်မူ နေကာဟ်ပြုပြီးနောက်ဇနီးဖြစ်သူသည် ၎င်းအလုပ်ကို ထပ်၍ပြုပြန်သော်လည်း တွလာက်မမြောက်ချေ၊ အကယ်၍အစ်ဒတ်ရက်လွန်ပြီးနောက်မှမဟုတ်ဘဲ အစ်ဒတ်ရက်အတွင်းမှာပင် ရှရတ္တထားသည့်အလုပ်ကို ပြုလုပ်ပါလျှင် ထိုအခါ၌ ဒုတိယအကြိမ် ထပ်မံ၍ တွလာက်မြောက်သည်ဟု မှတ်ယူရမည်။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၀၃။

၉။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူက မိမိမယားကို အကယ်၍ အသင်မ ရာသီလာခဲ့မူ တွလာက်ဟု မြွက်ဆိုထားပြီးနောက် မယား ဖြစ်သူမှာ သွေးဆင်းသက်ခြင်း ရှုမြင်ရမူ ထိုအခါ၌ တွလာက်၏ပညတ်မပေးရသေးပေ၊ သုံးနေ့နှင့်သုံးညဥ့်ပြည့်စုံစွာဆက်သွယ်လျက် ရာသီသွေးလာမှသာ တွလာက်မြောက်သည်ဟုပညတ်ပေးရမည်၊ ထိုတွလာက်၏ ပညတ်မှာ ပထမ ရာသီသွေး လာသော နေ့က မြောက်လေသည်၊ တတိယနေ့မှ မြောက်သည်မဟုတ် သို့သော် လင်ဖြစ်သူ၏စကားသည် မည်သည့်အခါ အသင်မ ရာသီတစ်ကြိမ်လာခဲ့မူ အသင်မကို တွလာက်ဟု မြွက်ဆိုခဲ့လျှင် ရာသီ လာသောရက် ဆုံးခန်းတိုင်မှသာ တွလာက်မြောက်၏၊ ပထမရာသီလာသောရက်မှာ တွလာက်မမြောက်ချေ။

ဒုရ်ရေ မုခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၂။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ခင်ပွန်းဖြစ်သူက မိမိဇနီးမယားကို အသင်မ ရိုဇဟ် စောင့်ထိန်းလျှင် အသင်မကို တွလာက်ဟု မြွက်ဆိုလိုက်မူ မယားဖြစ်သူ ရိုဇဟ်စောင့်သည်နှင့်တစ်ပြိုင်နက် တွလာက်မြောက်သွားသည်၊ သို့သော် ခင်ပွန်းဖြစ်သူက အသင်မ ရိုဇဟ်တစ်ရက်စောင့်လျှင် အသင်မကို တွလာက်ဟု မြွက်ဆိုသော် မယားဖြစ်သူ ရိုဇဟ်စောင့်သည်နှင့်တစ်ပြိုင်နက် တွလာက်မမြောက်သေးပေ၊ ရိုဇဟ်တစ်နေ့ ဆုံးခန်းတိုင်မှသာ တွလာက်မြောက်သည်၊ အကယ်၍ ရိုဇဟ်စောင့်ပြီးနောက်တစ်နေ့ ဆုံးခန်းမတိုင်မီကြားတွင် ရိုဇဟ်ဖျက်ခဲ့လျှင် တွလာက်မမြောက်ပေ။

ဟေဒါယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၆၇။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ဇနီး မယားဖြစ်သူသည် အိမ်မှ အပြင်သို့ထွက်သွားရန် အလိုဆန္ဒပြုသောအခါ လင်ယောကျ်ားက ယခုမသွားနှင့်၊ သွားလျှင်တွလာက်ဟု ဆိုလိုက်မူ မယားသည် လင်၏အမိန့်ကို နားမထောင်ဘဲ ရုတ်ချည်းပင် ပြင်သို့ထွက်သွားလျှင် တွလာက်မြောက်၏၊ အကယ်၍ တစ်အောင့်တစ်နာရီနေပြီးမှသွားပါလျှင်တွလာက်မမြောက်ပေ၊ အဘယ့်ကြောင့် ဆိုသော် လင်ယောကျ်ား မြွက်ဆိုသော စကားမှာ ယခုရုတ်ချည်း မသွားရန်သာ တားမြစ်ချက်ဖြစ်သည်၊ ရှေ့ကိုဆက်လက်၍ တစ်သက်လုံးမသွားရန် တားမြစ်ချက်မဟုတ်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄၁။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူ တစ်ဦးက မိန်းမ တစ်ယောက်ကို မည်သည့်နေ့ သင်မနှင့်ကျွန်ုပ် နေကာဟ်ပြုလျှင် ထိုနေ့ အသင်မကို တွလာက်ဘဲဟု မြွက်ဆိုလိုက်ပြီးနောက် ၎င်းယောကျ်ားနှင့်မိန်းမတို့ ထိုနေ့ညဉ့်တွင်နေကာဟ်ပြုကြသော် တွလာက်မြောက်၏၊ အဘယ့်ကြောင့်ဆိုသော် ထိုသို့မြွက်ဆိုချက်သည် ဝေါဟာရ အသုံးစကားတွင် အသင်မနှင့် နေကာဟ်ပြုသောအချိန်တွင် တွလာက်ဟု အဓိပ္ပါယ်ရသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၄၆။

# ဝေဒနာသည်၏ တွလာက် ပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဝေဒနာ ဖြစ်သော အခါတွင် ခင်ပွန်းဖြစ်သူက မိမိဇနီးမယားကို တွလာက်ပေးပြီးနောက် အစ်ဒတ်ရက်မပြည့်လုမီ လင်ဖြစ်သူသည် ထိုရောဂါနှင့်သေသွားပါလျှင် လင်၏ပစ္စည်းများမှ မယားဖြစ်သူ၏ ဝေစုဝေပုံ ထိုက်သက်သမျှခန့် မယားမှာရထိုက်သည်၊ အလိုသဘောမှာ တွလာက် တစ်ကြိမ်ပေးသည်ဖြစ်စေ၊ နှစ်ကြိမ်ပေးသည်ဖြစ်စေ၊ သုံးကြိမ်ပေးသည်ဖြစ်စေ၊ တွလာက် ရဂျ်အီ ပေးသည်ဖြစ်စေ၊ ဘာအင်န် ပေးသည်ဖြစ်စေ ပညတ် တစ်မျိုးတည်းဖြစ်၏၊ အကယ်၍ တွလာက်ပေးပြီးနောက် အစ်ဒတ်ရက်လွန်မှ လင်ယောကျ်ား သေဆုံးခဲ့သော် လင်၏ပစ္စည်းမှာ ထိုမယားဖြစ်သူ ဝေစုဝေပုံမရနိုင်ပေ၊ ထိုနည်းတူစွာ လင်ဖြစ်သူသည် ဝေဒနာဖြစ်စဉ် မိမိမယားကို တွလာက်ပေးပြီးနောက် ထိုဝေဒနာပျောက်ပြီး နောက်ထပ်ဝေဒနာတစ်ခုခုနှင့်သေဆုံးပါလျှင်လည်း အစ်ဒတ်ရက်လွန်သည်ဖြစ်စေ၊ မလွန်သည်ဖြစ်စေ မယားဖြစ်သူမှာ လင်၏ပစ္စည်းမှ အမွေ ဝေစုဝေပုံ မရနိုင်ချေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၁၂၉။

၂။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယားက တွလာက် တောင်းသောကြောင့် ဝေဒနာဖြစ်နေသော လင်ဖြစ်သူက တွလာက်ဘာအင်န် ပေးလိုက်လျှင် ထိုလင် သေဆုံးသော အခါ အစ်ဒတ်ရက် လွန်ပြီးဖြစ်စေ၊ မလွန်သေးသည်ဖြစ်စေ မယားဖြစ်သူသည် ထိုသေသောလင်၏ပစ္စည်းမှ အမွေမရနိုင်ပေ၊ သို့သော် မယားက တွလာက်တောင်းသောကြောင့် ဖြစ်စေ၊ သို့မဟုတ် မတောင်းဘဲ မိမိ အလိုဖြင့် ဖြစ်စေ မယားကို တွလာက်ရဂျ်အီပေးလိုက်သော် အစ်ဒတ်ရက်အတွင်း ထိုလင် သေဆုံးသွားပါက မယားဖြစ်သူမှာ လင်၏ပစ္စည်းမှ ထိုက်သင့်သလောက် အမွေရနိုင်သည်။

ရှာမီကျမ်း အတွဲ-၃၊ စာမျက်နှာ ၇၁၉။

၃။ မတ်စ်အလဟ်ပြဿနာ။ ဝေဒနာ စွဲကပ်လျက်ရှိသောအဖြစ်တွင် လင်ဖြစ်သူက မိမိမယားကိုပြောဆိုသည်မှာ အကယ်၍ အသင်မသည် နေအိမ်မှ အပြင်သို့ထွက်သွားမူ အသင်မကို တွလာက်ဘာအင်န် ပေးသည်ဟုဆို၏၊ ထို့နောက် မယားဖြစ်သူသည် လင်၏ အမိန့်ကို မတည်ဘဲ ပြင်ပသို့ ထွက်သွားသော် တွလာက်ဘာအင်န် မြောက်

လေသည် ဤအဖြစ်တွင် အဆိုပါ လင်ယောကျ်ား သေဆုံးသောအခါ မယားဖြစ်သူမှာ အမွေ မရထိုက်ချေ၊ အဘယ့်ကြောင့် ဆိုသော် ယောက်ျား ဖြစ်သူသည် နေနိုင်သော အကြောင်းခံ ရှိပါလျက် မိမိဘာသာ မိမိကိုယ်ကို တလာက်မြောက်အောင် ပြုလုပ်ခြင်း ဖြစ်သည်၊ အကယ်၍ လင်ဖြစ်သူက မိမိမယားကို အသင်မ ထမင်းစားလျှင် အသင်မကို တလာက်ဘာအင်န်ဟု ဆိုသည်ဖြစ်စေ၊ သို့မဟုတ် အသင်မ နမာဇ်ဖတ်လျှင် အသင်မကို တလာက်ဘာအင်န်ဟုဆိုသည်ဖြစ်စေ၊ ထိုအခါ ထမင်းစားခြင်း၊ နမာဇ်ဖတ်ခြင်းကြောင့် တလာက်ဘာအင်န်တော့ မြောက်သွား၏၊ မြောက်ပင် မြောက်ငြားသော်လည်း အစ်ဒတ်ရက် အတွင်းမှာ ၎င်းယောကျ်ား သေဆုံးပါက မယားဖြစ်သူမှာ ထိုက်သင့်သည့်အတိုင်း အမွေရနိုင်သည်၊ အဘယ်ကြောင့်ဆိုသော် မယားဖြစ်သူ၏ အလိုသဘောနှင့် တလာက် မြောက်ရသည်မဟုတ်၊ ထမင်း စားခြင်း၊ နမာဇ် ဖတ်ခြင်း ဆိုသည်မှာ အရေးကြီးစွာ ထိုက်သက်သော အလုပ်များဖြစ်လေသည်၊ အဘယ်နည်းဖြင့် လွတ်ရပါမည်နည်း မလွတ် အပ်ချေ၊ အကယ်၍ ဝေဒနာသည် လင်ဖြစ်သူက တလာက်ရဂျ်အီ ပေးပြီးသည့်နောက် ထိုရောဂါနှင့်ပင် သေဆုံးခဲ့သော် အစ်ဒတ်ရက် အတွင်းမှာ သေဆုံးပါက အဘယ်အခါ မဆို မယားဖြစ်သူမှာ သက်ဆိုင်သမျှ လင်၏အမွေကို ရနိုင်သည်ဟုမှတ်ယူရမည်၊ အစ်ဒတ် ရက် လွန်ပြီးမှ သေဆုံးမူ မရနိုင်ချေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၀၉ ။

၄။ မတ်စ်အလဟ် ပြဿနာ။ ကျန်းမာစွာရှိသော ယောကျ်ား တစ်ဦးက မိမိ မယားကို အသင်မ အိမ်ပြင်သို့ထွက်လျှင် တလာက်ဘာအင်န်ဟု မြွက်ဆိုထားရာ မယား ဖြစ်သူက ယခုအိမ်ပြင်သို့မထွက်သေး၊ နောက်အိမ်ပြင်သို့ထွက်သောအခါ လင်ယောကျ်ား ဝေဒနာစွဲကပ်လျက်ရှိလေသည်၊ သို့ရှိရာ ထိုဝေဒနာဖြင့်ပင် အစ်ဒတ်ရက်အတွင်းမှာ လင် ယောကျ်ားသေဆုံးခဲ့သော် မယားဖြစ်သူမှာ လင်၏ပစ္စည်းမှ အမွေမရနိုင်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၆၅ ။

၅။ မတ်စ်အလဟ် ပြဿနာ။ ခင်ပွန်းဖြစ်သူသည် ကျန်းမာလျက်ရှိစဉ် မိမိဇနီး မယားကို အသင်မ၏ဖခင် ခရီးသွားရာအရပ်က ပြန်လာသောအခါ အသင်မကို တလာက် ဘာအင်န်ဟု ပြောဆိုပြီးနောက် ထိုမယားဖြစ်သူ၏ ဖခင် ခရီးသွားရာက ပြန်လာသော အချိန်တွင် လင်ဖြစ်သူ မကျန်းမမာ ဝေဒနာ စွဲကပ်နေသော် တလာက်ဘာအင်န်တော့ မြောက်သွားသည်၊ သို့ရာတွင် လင် ဖြစ်သူသည် ထိုရောဂါနှင့်ပင် သေဆုံးသွားခဲ့လျှင် (အစ်ဒတ်ရက်အတွင်းမှာပင် သေဆုံးငြားသော်လည်း) မယားဖြစ်သူသည် လင်၏ပစ္စည်း မှ အမွေမရနိုင်တော့ပေ၊ သို့တည်းမဟုတ် လင်ဖြစ်သူသည် ကျန်းမာစဉ်က မြွက်ဆိုသည် မဟုတ်ဘဲ ဝေဒနာစွဲကပ်သောအချိန်တွင်ပင် အထက်ဆိုခဲ့သည့်အတိုင်း မြွက်ဆိုထားခဲ့သော် ထိုရောဂါနှင့်ပင်အစ်ဒတ်ရက်အတွင်းမှာသေဆုံးပါက မယားဖြစ်သူမှာအမွေစုရနိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၆၅ ။

# တွလာက်ရဂျ်အီ ပေးပြီးသည့်နောက် သိမ်းပိုက်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူက မိမိဇနီးမယားကို တွလာက်ရဂျ်အီ တစ်ကြိမ်ဖြစ်စေ၊ နှစ်ကြိမ်ဖြစ်စေ ပေးလိုက်မူ၊ အစ်ဒတ်ရက်မကုန်မီအတွင်း မိမိမယားကို ပြန်၍ သိမ်းပိုက်လိုက၊ နေကာဟ် အသစ်မပြုဘဲ သိမ်းပိုက်နိုင်ခွင့်ရှိသည်၊ မယားဖြစ်သူ သဘောတူသည် ဖြစ်စေ၊ မတူသည်ဖြစ်စေ လင်ယောကျ်ားက ပြန်၍ သိမ်းပိုက်နိုင်၏၊ သို့သော် တွလာက်ရဂျ်အီတဲသုံးကြိမ်ပေးလိုက်ပါလျှင် အထက်တွင် ရေးသားညွှန်ပြခဲ့သော ပညတ်အတိုင်း ထိုအခါပြန်၍ လှည့်လည်သိမ်းပိုက်ခြင်း မပြုနိုင်ပေ။

ကိုဒူရီကျမ်း စာမျက်နှာ-၁၇၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။လင်ယောကျ်ားသည် မိမိမယားကို တွလာက် ပေးပြီးနောက် အစ်ဒတ်ရက်အတွင်း ပြန်၍လှည့်လည်သိမ်းပိုက်ရန် နည်းလမ်းမှာ ဤသို့ ရှိလေသည်၊ အဘယ်သို့ဆိုသော် ရှင်းလင်းသေချာစွာ အကျွန်ုပ် သင်မကို ပြန်၍သိမ်းပိုက် ထားလိုက်ပြီ၊ အသင်မကို လွှတ်မည်မဟုတ်ဟု နှုတ်မှမြွက်ဆိုလိုက်လျှင် လည်းကောင်း သို့မဟုတ် ကျွန်ုပ်သည် မိမိနေကာဟ်တွင် အသင်မကိုပြန်၍ ပြန်လည်ယူလိုက်သည်ဟုဆိုလျှင် သော်လည်းကောင်း၊ သို့မဟုတ် ဇနီးမယားကို ပြောသည်မဟုတ်ဘဲ အခြားသူတစ်ဦး တစ်ယောက်ကို ကျွန်ုပ်သည်မိမိမယားကိုပြန်၍ သိမ်းပိုက်ထားလိုက်သည်၊ ၎င်းပြင်တွလာက်မှ ပြန်၍ရုပ်သိမ်းလိုက်သည်ဟုပြောဆိုလျှင် သော်လည်းကောင်း၊ အထက်ပါအတိုင်း စကား များဖြင့်ပြန်၍ရုပ်သိမ်းလိုက်သော် လင်မယားနှစ်ဦးတို့ နေကာဟ်မပျက်ချေ၊ သိမ်းပိုက်ပြီး ဖြစ်၏၊ အထက်က ညွှန်ပြသကဲ့သို့ မြွက်ဆိုသည်မဟုတ်ဘဲ တွလာက်ရဂျ်အီ ပေးပြီးနောက် အစ်ဒတ်ရက်အတွင်းမှာ လင်က နှုတ်ကမပြောဘဲ ထိုမယားကို ကာမစပ်ယှက်ပေါင်းသင်း လိုက်သည်ဖြစ်စေ၊ သို့မဟုတ် နမ်းရှုတ်လိုက်သည်ဖြစ်စေ၊ သို့မဟုတ် ကာမစပ်ယှက်ရန် စိတ်ဆန္ဒဖြင့် ဖက်ပွေ့ထိကိုင်လိုက်သည်ဖြစ်စေ၊ ထိုအဖြစ်များတွင်လည်း နေကာဟ်တည်ပြီး ဇနီးခင်ပွန်း ပြန်၍ဖြစ်သွားကြသည်၊ ထပ်မံ၍ နေကာဟ်ပြုရန်မလိုတော့ပေ။

ကိုဒူရီကျမ်း စာမျက်နှာ ၁၅၁။
ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၃၁။

၃။ မတ်စ်အလဟ် ပြဿနာ။ ။လင်ဖြစ်သူသည် မိမိမယားကို တွလာက်ရဂျ်အီ ပေးပြီးနောက် အစ်ဒတ်ရက်အတွင်း ပြန်၍သိမ်းပိုက်လိုပါလျှင်သိမ်းပိုက်ကြောင်း စကား မြွက်ဆိုသောအခါ သက်သေနှစ်ဦးဖြစ်စေ၊လေးဦးဖြစ်စေ အသင့်ရှိသော်သာ၍ကောင်း၏၊

အဘယ့်ကြောင့်ဆိုသော် နောက်နောင်၌ အငြင်းအခုံ အရှုပ်အထွေးမရှိရန် ဖြစ်သည်၊ အကယ်၍သက်သေတစ်ဦးတစ်ယောက်မျှမရှိဘဲ မယားတစ်ဦးတည်းရှေ့တွင်ပင်'ရစ်ဂျ်အတ်' ပြန်၍ရုပ်သိမ်းခဲ့လျှင်လည်း နေကာဟ်အတည်ဖြစ်သည်။

ကန်ဇွဲဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၂၅။

၄။ မတ်စ်အလဟ်ပြဿနာ။ ။တွလာက်ရဂျ်အီပေးပြီး အစ်ဒတ်ရက်လွန်မှ လင်သည် မယားဖြစ်သူကို(ရစ်ဂျ်အတ်)ပြန်၍ သိမ်းပိုက်ခြင်းမပြုနိုင်၊၊ လင်မယား နှစ်ဦးစလုံး ပြန်၍ ပေါင်းသင်းနေထိုင်လိုကြပါလျှင် အသစ်ထပ်မံ၍ နေကာဟ်ပြုရမည်၊ နေကာဟ် အသစ်မပြုဘဲ ပြန်၍ပေါင်းသင်းနေထိုင်ခြင်း မပိုင်ပေ၊ အကယ်၍ အသစ်နေကာဟ်မပြုဘဲ လင်ဖြစ်သူက သိမ်းပိုက်၍ ထားငြားသော်လည်း မယားဖြစ်သူသည် လင်၏ထံမှာမနေရ ထွက်သွားရမည်၊ (၎င်းတို့နှစ်ဦး လက်ထပ်ခြင်း ပျက်ပြီဟုမှတ်ယူရမည်။)

ကို့ဒူရီကျမ်း စာမျက်နှာ-၁၅၁။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၂၅။

၅။ မတ်စ်အလဟ်ပြဿနာ။ ။ရာသီဓမ္မတာ သွေးဆင်းသက်သော မိန်းမများ အတွက် တွလာက်ဗွာရှင်းသော အစ်ဒတ်ရက်မှာ ရာသီသုံးကြိမ်လာသည်တိုင် ဖြစ်လေသည်၊ ရာသီသုံးကြိမ် လာပြီးသည်နှင့် တပြိုင်နက် အစ်ဒတ်ရက်လွန်၏၊ ဥပမာ....ရာသီ သုံးကြိမ်အနက် နောက်ဆုံး တတိယအကြိမ်ဖြစ်သော ရာသီဓမ္မတာသွေးသည် ဆယ်ရက် တိတိလာပြီးမှ ရပ်စဲခဲ့သော် ၎င်းသွေးရပ်စဲသည်နှင့် တပြိုင်နက် အစ်ဒတ်ရက် ကုန်ဆုံး လေသည်။

ထိုအခါ တွလာက်ရဂျ်အီ ပေးထားသော လင်ယောကျ်ားသည် မိမိမယားကို အသစ်နေကာဟ်မပြုဘဲ ပြန်၍သိမ်းပိုက်နိုင်ခွင့် မရှိတော့ပေ၊ ထို့ဆယ်ရက် ကုန်ဆုံးသော အခါ မိန်းမဖြစ်သူ ရေချိုးပြီးဖြစ်စေ၊ ရေမချိုးရသေးသည်ဖြစ်စေ အရေးမကြီးတော့ပေ၊ အစ်ဒတ်ရက် ကုန်၏၊ အထက် ညွှန်ပြသကဲ့သို့ တတိယ ရာသီလာခြင်းသည် ဆယ်ရက် မဟုတ်ဘဲ ဆယ်ရက်ထက်လျော့ပြီး ရာသီသွေးရပ်စဲပါလျှင် ထိုအခါ၌ မိန်းမဖြစ်သူရေမချိုး ရသေးသည်ဖြစ်စေ၊သို့မဟုတ် နမာဇ်အချိန်တချိန်မလွန် သေးသည်ဖြစ်စေ တွလာက်ရဂျ်အီ ပေးသောယောကျ်ားသည် ထိုမိန်းမကို နေကာဟ် အသစ်မပြုဘဲ ပြန်၍သိမ်းပိုက်နိုင်ခွင့် ရှိသေး၏၊ သို့သော် ဓမ္မတာရာသီသွေး ရပ်စဲပြီးနောက် ရေချိုးလိုက်သော်လည်းကောင်း၊ သို့မဟုတ် ရေမချိုးငြားသော်လည်းကောင်း၊နမာဇ်၏အချိန်တချိန်လွန်၍ ထိုသူမအပေါ်၌(ကသွာ)ဖြစ်သွားသော်လည်းကောင်း၊ ထိုအခါ လင်ဖြစ်သူက ၎င်းမယားကို အသစ် နေကာဟ် မပြုဘဲ မပေါင်းသင်းနိုင်ပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၁၂။

၆။ မတ်စ်အလဟ် ပြဿနာ။ ။ဇနီးခင်ပွန်းနှစ်ဦးတို့သည် လုံခြုံစွာ လူမမြင်ရသောနေရာ၌ နှစ်ကိုယ်တည်း အတူမနေရသေးမီ သို့မဟုတ် ကာမစပ်ယှက်ခြင်း မပြုရသေးမီ လင်ဖြစ်သူကမယားကို တွလာက်ပေးလိုက်သော် တွလာက်ဘာအင်န် မြောက်၏၊ အစ်ဒတ်ရက်အတွင်း လင်ဖြစ်သူက ထိုမယားကို အသစ်တဖန် နေကာဟ်မပြုဘဲ ပြန်၍ သိမ်းပိုက်နိုင်ခွင့်မရှိချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၀၃။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ဇနီးခင်ပွန်း နှစ်ဦးတို့သည် နှစ်ကိုယ်တည်း လုံခြုံသောနေရာမှာ နေကြသော်လည်း လင်ဖြစ်သူက မိမိသည် ကာမစပ်ယှက်ခြင်း မပြုသေးကြောင်းဝန်ခံပြီးမှ တွလာက်ပေးခဲ့သော် (ရဂ်ျအတ်) ခေါ် ပြန်၍သိမ်းပိုက်နိုင်ခွင့်မရှိပေ။ ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၃၉။

၈။ မတ်စ်အလဟ် ပြဿနာ။ ။အစ်ဒတ်ရက်အတွင်း လင်ယောကျ်ားက အသစ်နေကာဟ်မပြုဘဲ ပြန်၍ သိမ်းပိုက်နိုင်သော တွလာက်ရဂ်ျအီတစ်ကြိမ်၊ သို့မဟုတ် နှစ်ကြိမ် အပေးခံရသောမိန်းမသည် မိမိယောကျ်ားကပြန်၍ သိမ်းပိုက်စေရန် အလိုဆန္ဒနှင့် ကောင်းမွန်စွာ အမွှေးအကြိုင်၊ နံ့သာ၊ ကရမက် လိမ်းကျံပြင်ဆင်ခြင်း၊ သင့်လျော် ကောင်းမြတ်လေသည်၊ အကယ်၍လင်ဖြစ်သူသည် မိမိ (တွလာက်ရဂ်ျအီ)ပေးသောမိန်းမကို ပြန်၍ မသိမ်းပိုက်လိုက အစ်ဒတ်ရက်အတွင်း အိမ်သို့ တက်လာသောအခါ ချောင်းဟန့်လျှက် အသံပေး၍ တက်ရမည်၊ သို့မှသာလျှင် တွလာက်ရဂ်ျအီ အပေးခံရသော မယားသည် မိမိအရှက် လစ်လပ်နေပါက အဝတ်ဖြင့်ဖုံးအုပ်ရန် အကြောင်းဖြစ်၏၊ ထိုသို့ဖုံးအုပ်မှသာလျှင် မယားဖြစ်သူ၏ အရှက်ကို မမြင်ရန် အကြောင်းဖြစ်လေသည်၊ မည်သည့် အခါ အစ်ဒတ်ရက် ကုန်လွန်သွားပါလျှင် မယားဖြစ်သူသည် အခြားတစ်နေရာ၌ ခွဲနေရမည်၊ လင်နှစ့်အတူမနေရ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၂၆။

၉။ မတ်စ်အလဟ် ပြဿနာ။ ။တွလာက်ရဂ်ျအီပေးထားသော မယားကို လင်ဖြစ်သူက(ရဇ်ဂျအတ်)ပြန်၍မသိမ်းပိုက်မီ အဝေးခရီးသို့ ခေါ်မသွားနိုင်ပေ၊ ထိုနည်းတူစွာ မယားဖြစ်သူကလည်း ၎င်းလင်နှင့်အတူ မလိုက်အပ်ချေ။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၂၆။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ။တွလာက်ဘာအင်န် ပေးခံရသော မိန်းမသည် အစ်ဒတ်ရက်အတွင်း အခြားသောယောကျ်ားတစ်ဦးနှင့် လက်မထပ်နိုင်ပေ၊ အစ်ဒတ်ရက်လွန်မှ နေကာဟ်ပြုနိုင်လေသည်၊ သို့သော် တွလာက်ဘာအင်န်ပေးသော ယောကျ်ားနှင့်ဘဲ သဘောတူပြန်၍ နေကာဟ် ပြုကြမည်ဆိုလျှင်လည်း အစ်ဒတ်ရက် အတွင်းမှာ ဖြစ်စေ၊ လွန်မှဖြစ်စေ နေကာဟ်ပြုပိုင်၏။ ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၄၀။

# အဳလာအ် ဇနီးမယားထံသို့ မသွားဟူ 'ကဆမ်' ကျိန်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။အကြင်သူက မိမိဇနီးမယားနှင့် ကာမစပ်ယှက်ရန် 'ကဆမ်' ကျိန်ဆိုသည်မှာ... အလ္လာဟ်အသျှင်မြတ်၏ ကဆမ်ဖြစ်ပါစေ၊ အသင်မကို ယခု ကာမစပ်ယှက်မည်မဟုတ်ဟု ဆိုသည်ဖြစ်စေ သို့မဟုတ် အလ္လာဟ်အသျှင်မြတ်၏ ကဆမ် ဖြစ်ပါစေ၊ အသင်မနှင့် ဘယ်အခါမှ ကာမစပ်ယှက်တော့မည်မဟုတ်ဟု ဆိုသည်ဖြစ်စေ၊ သို့မဟုတ် ကျွန်ုပ် ကဆမ်ကျိန်ဆိုပါသည်၊ အသင်မနှင့်ကာမစပ်ယှက် ပေါင်းသင်းဆက်ဆံ မည်မဟုတ်ပါဟု ဆိုသည်ဖြစ်စေ၊ ထိုကဲ့သို့ ကျိန်ဆိုခြင်း တစ်ခုခုကို မြွက်ဆိုပြီးနောက် လင်ယောကျ်ားသည် မိမိဇနီးမယားနှင့် လေးလတိုင် ကာမစပ်ယှက် ပေါင်းသင်းခြင်း မပြုခဲ့သော် ထိုလေးလကျော်လွန်သောအခါ ဇနီးမယားအပေါ်တွင် တွလာက်ဘာအင်န် မြောက်သွားပေသည်၊ အသစ်ထပ်မံ၍နေကာဟ်မပြုဘဲ ၎င်းတို့နှစ်ဦးဇနီးခင်ပွန်းအဖြစ်နှင့် အတူမနေထိုက်ချေ၊ သို့သော် အထက်ဖော်ပြခဲ့သည့်အတိုင်း ကျိန်ဆိုပြီးနောက် မိမိကျိန် ဆိုခြင်းကိုဖျက်၍ လေးလအတွင်းမှာပင် ဇနီးမယားနှင့် ကာမစပ်ယှက်ပေါင်းဖော်လိုက် သော် တွလာက်မမြောက်ပေ၊ကဆမ်ကျိန်ဆိုခြင်းဖျက်သော (ကတ်ဖ္ဖာရဟ်) ပြစ်ဒဏ်ကြေး သာလျှင် ပေးဆောင်ရမည်၊ ဤကဲ့သို့ ကဆမ်ကျိန်ဆိုခြင်းကို ရှရီအတ် တရားတော်တွင် (အီလာအ်)ဟုခေါ်၏။ ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၃၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူသည် မိမိဇနီးမယားကို အမြဲထာဝရ ကာမစပ်ယှက်ပေါင်းသင်းဆက်ဆံခြင်းမပြုရန် ကျိန်ဆိုသည်မဟုတ်ဘဲ သက်သက် လေးလ ခန့်မျှသာကန့်သတ်ပြီးလျှင် အလ္လာဟ်အသျှင်မြတ် ကဆမ်ဖြစ်ပါစေ၊ လေးလတိုင်အသင်မ နှင့် ကျွန်ုပ် မပေါင်းသင်းပါဟု ကျိန်ဆိုလျှင်လည်း အီလာအ် အတည် ဖြစ်လေသည်၊ အကယ်၍ ၎င်းကဲ့သို့ကျိန်ဆိုပြီးနောက် လင်သည်မိမိမယားကို လေးလတိုင် ကာမစပ်ယှက် ခြင်းမပြုသော် တွလာက်ဘာအင်န် မြောက်၏၊ သို့တည်းမဟုတ် လေးလမတိုင်မီပင် ကာမ စပ်ယှက် ပေါင်းသင်းဆက်ဆံခဲ့မူ တွလာက် မမြောက်ပေ၊ ကဆမ်ကျိန်ဆိုခြင်း ဖျက်သော ကတ်ဖ္ဖာရဟ်သာလျှင် ပေးရန် ထိုက်၏၊ ၎င်းကဆမ်ကျိန်ဆိုခြင်း ဖျက်သော ကတ်ဖ္ဖာရဟ် သတ်မှတ်ချက်အကြောင်း ဖော်ပြခဲ့ပြီးဖြစ်ပေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၂၀။

၃။ မတ်စ်အလဟ်ပြဿနာ။ ။အကယ်၍ လေးလထက်လျော့ပြီး ကာမစပ်ယှက် ရန် ကျိန်ဆိုခဲ့မူ ၎င်းကျိန်ဆိုချက် အတည်မဖြစ်ပေ၊ အီလာအ်မဖြစ်ချေ၊ လေးလထက် လျော့သည်ဆိုသောစကားမှ အကယ်၍တစ်ရက်မျှလျော့လျှင်လည်း (အီလာအ်) မဖြစ်ဟု မှတ်ယူရမည်၊ သို့သော် လေးလထက်လျော့၍ မည်မျှနေ့ရက် ကန့်သတ်ပြီးလျှင် ကာမ စပ်ယှက်ရန် ကျိန်ဆိုပြီးနောက် ထိုနေ့ရက် မတိုင်ရောက်မီ အလျှင် ကာမစပ်ယှက်သော် ကဆမ်ကျိန်ဆိုခြင်းဖျက်သော ကတ်ဖ္ဖာရဟ် ပြစ်ဒဏ်ကြေး ပေးဆောင်ရမည်၊ ထို့ပြင်

အကယ်၍ မိမိကျိန်ဆိုထားသည့်နေ့တိုင် ကာမစပ်ယှက်ခြင်းမပြုသော် မိန်းမဖြစ်သူအပေါ်
တွင်လည်း တွလာက်မမြောက်၊ ‘ကဆမ်’ကျိန်ဆိုခြင်းလည်း တစ်စုံတစ်ရာ တာဝန်မရှိပေ။
ရှရ်ဖ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၁၉။

၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိမယားနှင့် ကာမစပ်ယှက်ခြင်း မပြုရန် သက်သက် လေးလအတွက် ကျိန်ဆိုပြီးနောက် မိမိကျိန်ဆိုခြင်းကို မဖျက်ခဲ့သော် ထိုလေးလကျော်လွန်သောအခါ မယားဖြစ်သူအပေါ်မှာ တွလာက်ဖြစ်သွား၏၊ တွလာက်မြောက်ပြီးသည့်နောက် တဖန် ထိုယောကျ်ားနှင့်ပင် နေကာဟ်ပြုကြပြီးလျှင် လေးလအတွင်း ကာမစပ်ယှက်ခြင်းမပြုလျှင်လည်း တစ်စုံတစ်ရာကိစ္စမရှိပေ၊ လေးလအတွက်သာ ကျိန်ဆိုခြင်းမဟုတ်ဘဲ အမြဲထာဝရအစွက်ကျိန်ဆိုလိုက်မည်၊ ဥပမာ ယခု သင်မနှင့်ကျွန်ုပ် ကာမစပ်ယှက်ခြင်းမပြုဟု ကျိန်ဆိုလျှင်သော်လည်းကောင်း၊ သို့မဟုတ် အသင်မနှင့်ကျွန်ုပ် အဘယ်အခါမျှ ကာမစပ်ယှက်ခြင်းမပြုဟု ကျိန်ဆိုလျှင်သော်လည်းကောင်း ထိုသို့ ကျိန်ဆိုပြီးနောက် မိမိကျိန်ဆိုခြင်းကိုမဖျက်ခဲ့သော် လေးလကျော်လွန်သောအခါ မယားဖြစ်သူ အပေါ်မှာတွလာက်မြောက်၏၊ ၎င်းတွလာက်မြောက်ပြီးသည့်နောက်ထိုယောကျ်ားနှင့်ပင် နေကာဟ်ပြုကြပြီးလျှင် လေးလတိုင် ကာမစပ်ယှက်ခြင်းမပြုပြန်လျှင်လည်း တဖန်ထပ်မံ၍ ဒုတိယ တွလာက်တစ်ကြိမ်မြောက်ပြန်လေသည်၊ တွလာက်မြောက်ပြီးသည့်နောက် အထက်မှာညွှန်ပြခဲ့သည့်အတိုင်း ထပ်မံ၍နေကာဟ်ပြုကြပြီးလျှင် လေးလတိုင် ကာမသံဝါသ ဆက်ဆံခြင်းမပြုခဲ့ပြန်သော် ထိုအခါ သုံးတွလာက်မြောက်သွား၏၊ သုံးတွလာက်၏ ပညတ်ချက် အထက်တွင် ဖော်ပြပြီးဖြစ်လေသည်၊ သို့သော် ဒုတိအကြိမ်၊ သို့မဟုတ် တတိယအကြိမ် နေကာဟ်ပြုပြီးသောအခါ၌ လင်ယောကျ်ားသည် မိမိမယားနှင့်လေးလအတွင်း ကာမစပ်ယှက်ခြင်းပြုလိုက်သော် ကဆမ်ကျိန်ဆိုချက်ပျက်သည်ဖြစ်၍ ဘယ်အခါမျှတွလာက်မမြောက်တော့ချေ၊ ကဆမ်ဖျက်သောပြစ်ဒဏ်ကြေး ကတ်ဖွာရဟ်သာလျှင် ပေးဆောင်ရမည်ဟူ၏။
ကို ဒူရီကျမ်း စာမျက်နှာ-၁၇၉။
" ကန်ဇွဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ- ၁၃၄။

၅။ မတ်စ်အလဟ်ပြဿနာ။ အထက်ဆိုခဲ့သည့်အတိုင်း နေကာဟ် သုံးကြိမ်နှင့် တွလာက်မြောက်ပြီးနောက် မိန်းမဖြစ်သူသည် အခြား လင်တစ်ယောက်ယူ၍ ကာယက်မြောက် ၎င်းလင်နှင့် ကာမစပ်ယှက်ပြီးနောက် ကွာရှင်း၍ အစ်ဒတ်ရက်လွန်သောအခါ ပထမကျိန်ဆိုခြင်းပြုသောယောကျ်ားနှင့် တဖန်ပြန်၍နေကာဟ်ပြုကြကာ ထိုအခါ၌ မည်မျှတိုင် ကာမစပ်ယှက်ခြင်းမပြုသော်လည်း တွလာက် မမြောက်တော့ချေ၊ သို့သော် ကာမစပ်ယှက်ခြင်း ပြုခဲ့ပါလျှင် ကဆမ်ဖျက်သော ကတ်ဖွာရဟ်ပေးရမည်၊ အဘယ်ကြောင့် ဆိုသော်၎င်းသူသည် ဘယ်အခါမျှ ကာမစပ်ယှက်ခြင်းမပြုဟု မြွက်ဆိုသော ကျိန်ဆိုခြင်းကို ဖျက်သောကြောင့် ဖြစ်၏။ ကန်ဇွဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ-၁၃၄။

၆။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် မိမိမယားကို တွလာက်ဘာအင်န် ပေးပြီးနောက်မှ ကာမစပ်ယှက်ခြင်းမပြုရန် ကျိန်ဆိုခဲ့မူ အီလာအ်မဖြစ်ချေ၊ အဓိပ္ပါယ်ကား....၎င်းတို့နှစ်ဦး ထပ်မံလက်ထပ်ပြီးနောက် ကာမစပ်ယှက်ခြင်းမပြုငြားသော်လည်း တွလာက်မမြောက်ဟူ၏၊ သို့ရာတွင် ကာမစပ်ယှက်ခဲ့လျှင် ကဆမ်ဖျက်သော ကတ်ဖွာရဟ် ပေးရ၏။

ညွှန်ပြခဲ့သည့် အတိုင်း တွလာက်ဘာအင်န် ပေးသည် မဟုတ်ဘဲ တွလာက်ရဂ်ျအီ ပေးပြီးနောက် အစ်ဒတ်ရက်အတွင်း ဤသို့ကျိန်ဆိုပါလျှင် အီလာအ် အတည်ဖြစ်သွား၏၊ ယခု၎င်းကျိန်ဆိုခြင်းပြုသူသည် ထိုမယားကိုပြန်ရှိသိမ်းပိုက်သောအခါ ကာမစပ်ယှက်ခြင်း မပြုဘဲသော် လေးလ လွန်ပြီးနောက် တွလာက်မြောက်လေသည်၊ အကယ်၍ ပေါင်းသင်းဆက်ဆံလျှင် ကဆမ်ဖျက်သော ကတ်ဖွာရဟ် ပေးဆောင်ရမည်။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၂၂။

၇။ မတ်စ်အလဟ် ပြဿနာ။ အလ္လာဟ်အသျှင်မြတ်ကိုတိုင်တည်၍ ကဆမ် ကျိန်သည်မဟုတ်ဘဲ အကယ်၍ အသင်မကို ကာမစပ်ယှက်ခဲ့လျှင် အသင်မကိုတွလာက်ဟုမြွက်ဆိုလျှင်လည်း အီလာအ် အတည် ဖြစ်သွားလေသည်၊ အဓိပ္ပါယ်ကား.... လင် ဖြစ် သူ က ထိုမယားကို ကာမစပ်ယှက်လျှင် တွလာက်ရဂ်ျအီမြောက်၏၊ သို့ရာတွင် ဤသို့ကျိန်ဆိုချက်ပျက်ငြားသော်လည်း ကတ်ဖွာရဟ် ပြစ်ဒဏ်ကြေး မထိုက်ချေ၊ အကယ်၍ လေးလတိုင် ကာမစပ်ယှက်ခြင်းမပြုခဲ့သော် တွလာက်ဘာအင်န်မြောက်သည်ဟူ၏၊ အကယ်၍ လင်ဖြစ်သူက မိမိမယားကို အသင်မနှင့်ကျွန်ုပ်ကာမစပ်ယှက်လျှင် ကျွန်ုပ်မှာ ဟဂ်ျတစ်ကြိမ်တာဝန် ထိုက်ပါစေဟု ဆိုသည်ဖြစ်စေ၊ သို့မဟုတ် ရိုဇဟ်တစ်ရက် တာဝန်ထိုက်ပါစေဟု ဆိုသည် ဖြစ်စေ၊ သို့မဟုတ်ငွေဒင်္ဂါးတစ်ကျပ်လှူဒါန်းပါမည်ဟုဆိုသည်ဖြစ်စေ၊ သို့မဟုတ်ကုရ်ဘာနီသားကောင်တစ်ကောင်ပြုပါမည်ဟုဆိုသည်ဖြစ်စေဤအဖြစ်အပေါင်းတို့သည်(အီလာအ်) အတည်ဖြစ်သွား၏၊ ဤသို့မြွက်ဆိုပြီးနောက် လင်ဖြစ်သူက မိမိမယားကို ကာမစပ်ယှက်ခဲ့ပါလျှင် မြွက် ဆို ခဲ့ သည့် အ တိုင်း လျော်ညီစွာ တာဝန် များကို ထမ်းဆောင်ရမည်၊ ကတ်ဖွာရဟ် ပြစ်ဒဏ်ကြေး မလိုတော့ချေ၊ လေးလတိုင် ကာမစပ်ယှက်ခြင်း မပြုခဲ့လျှင် တွလာက်ဘာအင်န် မြောက်သွား၏။

ရှရိဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၁၉။

## [ခိုလအ်] ကိုယ်ဖိုးပေး၍ ကွာရှင်းခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ဇနီးခင်ပွန်းနှစ်ဦးတို့သည် မသင့်မတင့်သောကြောင့် အဘယ်နည်းနှင့်မျှ အတူပေါင်းသင်းလျက် မနေနိုင်လောက်သော အခါ (ဇနီးဖြစ်သူကကွာရှင်းလိုပါက)ခင်ပွန်းဖြစ်သူက တွလာက်မပေးခဲ့မူ ထိုအခါ၌ မယားဖြစ်သူက၎င်းလင်ကို ပစ္စည်းတစ်ခုခုပေး၍ဖြစ်စေ၊သို့မဟုတ် မဟ်ရ်ပစ္စည်းကို ပြန်ပေး၍ဖြစ်

စေ၊ အသင်လင်ဖြစ်သူ ဤမျှငွေကိုယူ၍ ကျွန်မကို လွှတ်ပါတော့ဟု ဆိုမည်၊ သို့တည်း မဟုတ် ကျွန်မအတွက်တာဝန်ထိုက်သည့် မဟ်ရ်ကို အသင်လင်ဖြစ်သူကမပေးဘဲနှင့် ကျွန်မ ကိုလွှတ်ပါတော့ဟု မြွက်ဆိုသောအခါ လင်ဖြစ်သူက အသင်မကို ကျွန်ုပ် စွန့်လွှတ်လိုက် ပြီဟု မြွက်ဆိုလိုက်မူ မယားဖြစ်သူ အပေါ်မှာ (တွလာက်ဘာအင်န်) မြောက်သွား၏၊ တွလာက် ပေးပြီးသည်နှင့်တစ်ပြိုင်နက် ကွာရှင်းပြီးဖြစ်သွားခြင်းကြောင့် လင်ယောကျ်ား သည်ထိုမယားကို အသစ်နေကာဟ်မပြုဘဲ ပြန်၍သိမ်းပိုက်ခြင်း မပြုနိုင်ချေ။

သို့သော်မယားကကွာရှင်းရန်ပြောသောအခါ လင်ဖြစ်သူသည် တစ်စုံတစ်ရာပြန်၍ မပြောဘဲ ထသွားသည်ဖြစ်စေ၊ သို့မဟုတ် လင်ယောကျ်ား ထသွားသည်မဟုတ်ဘဲ မယား ဖြစ်သူ ထသွားသောအခါ လင်ယောကျ်ားဖြစ်သူက ကောင်းပြီ ကျွန်ုပ်စွန့်လွှတ်လိုက်ပြီဟု ဆိုသည်ဖြစ်စေ ထိုကဲ့သို့ မြွက်ဆိုခြင်းများ အတည် မဖြစ်ပေ၊ တွလာက် မမြောက်ချေ၊ အဘယ့်ကြောင့်ဆိုသော် အမေး-အဖြေ စကား ပြောဆိုကြသော အခါ နှစ်ဦးစလုံး တစ်နေရာထည်းတွင်အတူရှိနေကြရန်ထိုက်၏၊ ဆိုခဲ့သည့်အတိုင်း ဇနီးမယားကလျှော်ကြေး ပေး၍ အခွင့်တောင်းသောအခါ လင်ယောကျ်ားက စွန့်လွှတ်ခြင်းကို ရှရီအတ်တရားတော် တွင် (ခိုလအ်)ဟု ခေါ်လေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၇၆၆။

၂။ မတ်စ်အလဟ် ပြဿနာ။ လင်ယောကျ်ားကကျွန်ုပ်သည်အသင်မကို(ခိုလအ်) ပြုလိုက်သည်ဟုပြောဆိုသောအခါ မယားဖြစ်သူက ကျွန်မ သဘောတူပါသည်ဟု မြွက်ဆို လိုက်မူ (ခိုလအ်) ဖြစ်သွား၏၊ အကယ်၍ မယားဖြစ်သူသည် လင်ယောကျ်ားမြွက်ဆိုသော နေရာတွင် ပြန်၍မပြောသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထသွားသည်ဖြစ်စေ၊ သဘောမတူ သည်ဖြစ်စေ (ခိုလအ်) မဖြစ်ပေ၊ သို့ရာတွင် မိန်းမသည် မိမိနေရာတွင် ထိုင်လျက်ရှိပြီး လင်ယောကျ်ားက ကျွန်ုပ်အသင်မကို ခိုလအ်ပြုလိုက်သည်ဟုဆို၍ ထသွားသည်၊ မိန်းမက ထသွားပြီးနောက် လက်ခံလိုက်လျှင် ခိုလအ် အတည်ဖြစ်သွားလေသည်။

ရှာမီကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၆၆။

၃။ မတ်စ်အလဟ် ပြဿနာ။ ဥစ္စာပစ္စည်းကြေးငွေ၏အကြောင်းကို တစ်စုံတစ်ရာ စပ်၍ မပြောဘဲ လင်ယောကျ်ားဖြစ်သူက မိမိမယားကို အသင်မအား ကျွန်ုပ် ခိုလအ် ပြုလိုက်သည်ဟုသာ မြွက်ဆိုသော အခါ မယား ဖြစ်သူက ကျွန်မ သဘောတူပါပြီဟု ပြန်ကြားပြောဆိုလိုက်လျှင် ခိုလအ်အတည်ဖြစ်၍ နှစ်ဦးစလုံးတို့၏တာဝန်များ ကျေပွန် သွားလေသည်၊ အဓိပ္ပါယ်ကား.... မယားထံကလည်း လင်ဖြစ်သူမှာ တစ်စုံတစ်ရာ ဥစ္စာ ပစ္စည်း မရနိုင်၊ လင်ထံကလည်း မယားဖြစ်သူက တစ်စုံတစ်ရာပစ္စည်းဥစ္စာ မရနိုင်ဟူ၏။

ထိုနည်းတူစွာ မယားဖြစ်သူသို့ မဟ်ရ်ပေးရန် လင်၏တာဝန် ရှိသေးလျှင်လည်း ပေးရန် မလိုတော့ချေ၊ သို့သော် ခိုလအ် မဖြစ်မီကပင် ဇနီးမယားသို့ ပြေကြေအောင် မဟ်ရ်ပေးပြီးဖြစ်လျှင်လည်း ထိုမဟ်ရ်ကို လင်ယောကျ်ားသို့ပြန်ပေးရန်မလိုတော့ပေ၊ ၎င်း ပြင် ထိုယောကျ်ားသည် ခိုလအ်ပြုလိုက်သောမိန်းမကိုအစ်ဒတ်ရက်မကုန်မီအတွင်း စားရေး

ရိက္ခာ အဝတ်တန်ဆာမှစ၍ နေထိုင်ရန် အိမ်ပေးထားရမည်၊ အကယ်၍ ဦးစွာပထမက မယားဖြစ်သူသည် ကျွန်မ အစ်ဒတ်ရက်အတွက် စားရေးရိက္ခာ အဝတ်တန်ဆာ နေထိုင်ရန်အိမ် တစ်စုံတစ်ရာ ဘာမျှ အသင်လင့်ဖြစ်သူထံက အလိုမရှိပါကြောင်းဟုမြွက်ဆိုခဲ့သော် မယားဖြစ်သူမှာ ဘာမျှ မရနိုင်ချေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၂၉။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ 'ခိုလအ်' ပြုသည်ဟု မြွက်ဆိုသောအချိန်တွင် ဥစ္စာပစ္စည်းလည်းကန့်သတ်၍မြွက်ဆိုခဲ့သော် ၎င်းအဆိုအတိုင်း အတည်ဖြစ်လေသည်၊ ဥပမာ.... လင်ယောကျ်ားဖြစ်သူက မိမိမယားကို အသင်မအား ကျွန်ုပ် ငွေဒင်္ဂါး ၁၀၀ ၏အစား ခိုလအ်ပြုလိုက်သည်ဟု မြွက်ဆိုသောအခါ မယားဖြစ်သူက ကျွန်မသဘောတူပါသည်ဟု ပြန်ကြား ပြောဆိုလိုက်လျှင် ခိုလအ် အတည်ဖြစ်၍ ငွေဒင်္ဂါး ၁၀၀ (လင်ယောကျ်ားသို့ပေးရန်) မယား၏တာဝန်ဖြစ်လေသည်၊ အလိုသဘောမှာ မယားဖြစ်သူသည် မိမိမဟ်ရ်ပစ္စည်းရပြီးဖြစ်စေ၊မရသေးသည်ဖြစ်စေ ငွေဒင်္ဂါး၁၀၀ လင်ယောကျ်ားသို့ ပေးရမည်သာမက အကယ်၍ မဟ်ရ်မရသေးလျှင်လည်း ခိုလအ်အတွက် တာဝန်ကျသွားသည် ဖြစ်သောကြောင့် လင်ယောကျ်ားထံမှ မရနိုင်တော့ချေ။

ကိုဒူရီကျမ်း စာမျက်နှာ-၁၅၄။

၅။ မတ်စ်အလဟ် ပြဿနာ။ ခိုလအ်ပြုခြင်းတွင် အကယ်၍ လင်ယောကျ်ားက အပြစ်ကျူးလွန်ခဲ့သော် ထိုလင်ယောကျ်ားသည် မယား၏ထံမှ လျော်ကြေး ဥစ္စာပစ္စည်း တစ်စုံတစ်ရာယူ၍ဖြစ်စေ၊ သို့မဟုတ် မိမိတာဝန်ထိုက်သောမဟ်ရ်ကို ခုနှိမ်၍ဖြစ်စေ၊ ခိုလအ်ပြုလုပ်ခြင်း များစွာ အပြစ်ဖြစ်သည်၊ သာမက (ဟရာမ်) ဖြစ်လေသည်၊ ထိုနည်းတူစွာ ၎င်းဖစ္စည်းကိုယူ၍ အသုံးပြုခြင်းသည် ဟရာမ်ဖြစ်၏။

အကယ်၍(လင်ယောကျ်ား၏အပြစ်ကျူးလွန်ခြင်းမဟုတ်ဘဲ) ဇနီးမယားကအပြစ်လွန်ကျူးသောအခါတွင် ခိုလအ် ပြုလုပ်ခဲ့လျှင်လည်း လင်ယောကျ်ားသည် ဇနီးမယားထံမှ မိမိ မဟ်ရ်ပေးသောပစ္စည်းထက် သာပို၍ယူရန်မသင့်ချေ၊ မဟ်ရ်ပစ္စည်းနှင့်သာ ခုနှိမ်ပြီးလျှင် ခိုလအ်ပြုရန်သင့်လျော်၏၊ သို့သော်၎င်းမဟ်ရ်ထက်သာပို၍ယူပြီးလျှင် ခိုလအ်ပြုလုပ်လျှင်လည်း တစ်စုံတစ်ရာအပြစ်မရှိပေ၊ သို့သော် မကောင်းပေ။

ကိုဒူရီကျမ်း စာမျက်နှာ-၁၅၄။

၆။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယား သဘောမတူဘဲ လင်ယောကျ်ားက အတင်းအဓမ္မ ရိုက်နှက်ခြိမ်းခြောက်၍ ခိုလအ်ပြုရန် ခိုင်းသဖြင့်သာ မစွမ်းနိုင်ခြင်းကြောင့် ခံလိုက်ရသော် တလာက်မြောက်သွား၏၊ သို့သော် ဇနီးဖြစ်သူက လင်ယောကျ်ားကို ဥစ္စာပစ္စည်းပေးရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ အကယ်၍ လင်ယောကျ်ားက ထိုမယားသို့ ပေးရန်မဟ်ရ်ပစ္စည်း လိုသေးလျှင်လည်း ပေးရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၇၇၂။

၇။ မတ်စ်အလဟ်ပြဿနာ။ ။အထက်ညွှန်ပြခဲ့သည့်အတိုင်း ခိုလအ်ဖြစ်၍ ဇနီးခင်ပွန်းနှစ်ဦးတို့ တ္ဂလာက်ဖြစ်ကြသည်မှာ ဇနီးမယားက ခိုလအ် ဟူသော အက္ခရာကို မြွက်ဆိုသည်ဖြစ်စေ၊ သို့မဟုတ်ငွေဒင်္ဂါးတစ်ရာကျပ်သော် လည်းကောင်း၊ တစ်ထောင်ကျပ်နှင့်သော်လည်းကောင်း ကျွန်မကို စွန့်လွှတ်ပါတော့ဟု မြွက်ဆိုသည်ဖြစ်စေ၊ သို့မဟုတ် ကျွန်မ မဟ်ရ်ပစ္စည်းကိုခုနှိမ်၍ မပေးဘဲနှင့် ကျွန်မကို စွန့်လွှတ်ပါတော့ဟု မြွက်ဆိုသည်ဖြစ်စေ၊ ၎င်းအဆိုအပေါင်းတို့အနက် တခုခုကို ဇနီးမယားက မြွက်ဆိုသောအခါ လင်ယောကျ်ားက သဘောတူကြောင်း ခွင့်လွှတ်လိုက်လျှင် ခိုလအ် အတည်ဖြစ်၏၊ သို့သော် ညွှန်ပြလိုက်သည့်အတိုင်း မြွက်ဆိုလိုက်သည်မဟုတ်ဘဲ တ္ဂလာက်၏အက္ခရာကို မြွက်ဆိုလိုက်မှု ဥပမာ ဇနီးမယားဖြစ်သူက မိမိလင်ကိုငွေဒင်္ဂါးတစ်ရာကျပ်၏အစား တ္ဂလာက်ပေးလိုက်မှု တ္ဂလာက်ဘာအင်န်တစ်ကြိမ်မြောက်၏၊ ၎င်းကဲ့သို့ တ္ဂလာက်ပေးခြင်းကို ခိုလအ်ဟုမခေါ်နိုင်ချေ၊ ဇနီးခင်ပွန်း နှစ်ဦးတို့ တစ်ယောက်မှ တစ်ယောက်ထံသို့ ရရန်ရှိသော ဝတ္တရားများလည်းမပျက်ပေ၊ ထိုက်သင့်သည့်အတိုင်း ယူရမည်၊ အကြောင်းအားဖြင့် ဆိုသော် ၎င်းကဲ့သို့ တ္ဂလာက်ပေးပြီးသောအခါ ဇနီးမယားသည် မိမိလင်ထံမှ မဟ်ရ်ပစ္စည်း ရရန်ရှိပါလျှင် ရယူနိုင်သည်ဟူ၏၊ ခိုလအ်ပင် မဟုတ်ငြားသော်လည်း မိန်းမ၏ ကတိအတိုင်း ငွေဒင်္ဂါးတစ်ရာကျပ် ဇနီးမယားထံမှ လင်ယောကျ်ားက တောင်းယူနိုင်ခွင့်ရှိလေသည်။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၂၃။

၈။ မတ်စ်အလဟ်ပြဿနာ။ ။လင်ယောကျ်ားဖြစ်သူက ငွေဒင်္ဂါး တစ်ရာကျပ်အစား မင်းကိုတ္ဂလာက်ပေးသည်ဟု မြွက်ဆိုလိုက်မှု ဇနီးမယား၏ သဘောတူခြင်းအပေါ်တွင်အတည်ဖြစ်၏၊ အဓိပ္ပါယ်ကား ဇနီးမယားက သဘောမတူလျှင် တ္ဂလာက်မမြောက် သဘောတူလျှင် တ္ဂလာက်ဘာအင်န် တစ်ကြိမ်မြောက်သည်ဟု ဆိုလိုသည်။

သို့သော်ထိုနေရာတွင် မဟုတ်ဘဲ နေရာဌာနပြောင်းလဲပြီးမှ ဇနီးမယားကသဘောတူကြောင်းမြွက်ဆိုခဲ့သော် တ္ဂလာက်မမြောက်တော့ချေ။

ဟေဒါယဟ်နှင့် အာလမ်ဂီရီကျမ်း။

၉။ မတ်စ်အလဟ်ပြဿနာ။ ။ဇနီးဖြစ်သူက မိမိလင်ကို ကျွန်မအား တ္ဂလာက်ပေးပါဟု တောင်းဆိုသောအခါ လင်ယောကျ်ားက ကောင်းပြီ အသင်မကို တ္ဂလာက်ပေးစေလိုလျှင် အသင်မ ကျွန်ုပ်ထံမှရရန်ရှိသော မဟ်ရ်ပစ္စည်းမှစ၍ အရပ်ရပ်ရရန်ရှိသည့် ပစ္စည်းများကို မရလိုကြောင်း ခွင့်လွှတ်ရမည်၊ သို့မှသာ ကျွန်ုပ် တ္ဂလာက်ပေးမည်ဟုပြောဆိုသဖြင့် ဇနီးမယားကလည်းလင်ယောကျ်ားသဘောကျအတိုင်းမဟ်ရ်ပစ္စည်းနှင့်အရပ်ရပ်ပစ္စည်းတို့ကို အသင် လင့်ထံမှ မယူလိုပါ၊ ကျေနပ်ပါကြောင်းဟု မြွက်ဆို လိုက်သော် လင်ယောကျ်ားက တ္ဂလာက်ပေးလိုက်ပါက မိမိထံက ကတိစကားအတိုင်း လင်ယောကျ်ား

ထံမှရရန်ရှိသောပစ္စည်းအရပ်ရပ်များကို မယားဖြစ်သူမှာ ကင်းလွတ်၍သွား၏၊ အကယ်၍ တွလာက်မပေးခဲ့မူ ကင်းလွတ်ခြင်းမဖြစ်ပေ၊ မယားဖြစ်သူက ရနိုင်သည်ဟူ၏။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၇ဂဝ။

၁၀။ **မတ်စ်အလဟ်ပြဿနာ။** ။ဇနီးဖြစ်သူက မိမိလင်ကို အသင် လင်ဖြစ်သူ ကျွန်မကိုငွေသုံးရာကျပ်အစား သုံးတွလာက်ပေးပါဟုမြွက်ဆိုသောအခါလင်ယောကျ်ားက တွလာက် တစ်ကြိမ်သာ ပေးခဲ့မူ ဇနီးထံမှ လင်ယောကျ်ားသည် ငွေဒင်္ဂါးတစ်ရာကျပ်သာ ရယူနိုင်၏၊ သုံးရာကျပ်မရနိုင်ချေ။

ထိုနည်းတူစွာ တွလာက် နှစ်ကြိမ် ပေးခဲ့လျှင်လည်း ငွေဒင်္ဂါးနှစ်ရာကျပ်သာ ရယူနိုင်၏၊ အကယ်၍ တွလာက် သုံးကြိမ်စလုံးပေးခဲ့ပါမူ ငွေဒင်္ဂါး သုံးရာကျပ်ပင် ရယူနိုင်လေသည်၊ အဆက်ပါအဖြစ်အပေါင်းတို့တွင် ဥစ္စာပစ္စည်းလျှော်ကြေး၏အစား တွလာက်ပေးရသည်ဖြစ်၍ တွလာက်ဘာအင်န် ဖြစ်သည်ဟု မှတ်ယူရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၂၄။

၁၁။ **မတ်စ်အလဟ်ပြဿနာ။** ။အရွယ် မရောက်သေးသော သူငယ်နှင့် စိတ်ဖောက်ပြန်ရူးနှမ်းသောသူတို့သည် မိမိဇနီးမယားထံမှ ခိုလအ် လျှော်ကြေးယူ၍ ကွာရှင်းခြင်းမပြုနိုင်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅ဝ၄။

# မွေဟာရ် ဇနီးမယားကို အမိနှင့်တူသည်ဟု မြွက်ဆိုခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိမယားကို အသင်မသည် ကျွန်ုပ်အမေနှင့်အတူဘူဖြစ်သည်ဟု မြွက်ဆိုသည်ဖြစ်စေ၊ သို့မဟုတ် အသင်မ ကျွန်ုပ်၏ စာရင်းတွင် အမိနှင့်အတူသွင်းသည်ဟုဆိုသည်ဖြစ်စေ၊ သို့မဟုတ် အသင်မကျွန်ုပ်ထံတွင် အမိသဖွယ် အမိပမာဖြစ်သည်ဟု ဆိုသည်ဖြစ်စေ၊ ထိုနည်းတူ စကားများကို မြွက်ဆိုသောအခါ ၎င်းမြွက်ဆိုသူ၏ အလိုဆန္ဒ မည်သို့ထားသည်ကို ရှုကြည့်ရပေမည်။

ဥပမာ မြွက်ဆိုသော လင်ယောကျ်ား၏ အလိုဆန္ဒသည် မိမိမယားကို ရိုသေသမှုပြုရာတွင် အမိကဲ့သို့ ကြီးကဲသောသဘောနှင့် (အမိနှင့်တူသည်) ဟု မြွက်ဆိုလျှင်သော်လည်းကောင်း၊ သို့မဟုတ် အသက်အရွယ် ကြီးကဲခြင်းတွင် အမိနှင့် တူဖြစ်ခြင်းကြောင့် မြွက်ဆိုလျှင်သော်လည်းကောင်း တစ်စုံတစ်ရာ အပြစ်တာဝန်မရှိချေ၊ ထိုနည်းတူစွာ အဆိုပါ စကားများ၏ မြွက်ဆိုသော အချိန်အခါ၌ မည်သည့်နိယတ်စိတ်ဆန္ဒကိုမှ ရည်မှန်း၍ မထားဘဲ အလဟဿ နှုတ်ဝယ်မှ မြွက်ဆိုလိုက်လျှင်လည်း အပြစ်မရှိဟု မှတ်ယူရမည်။

သို့သော် ၎င်းကဲ့သို့ ထိုစကားများကို မြွက်ဆိုသောအချိန်အခါတွင်(မိမိမယားကို) တွလာက်ပေးခြင်း၊ စွန့်လွှတ်ခြင်း၏ဆန္ဒနှင့် မြွက်ဆိုခဲ့ပါမူ တွလာက်ဘာအင်နိ တစ်ကြိမ် မြောက်သွား၏၊ အကယ်၍အထက်ပါအတိုင်း မိမိမယားကို တွလာက်ပေး၍ စွန့်လွှတ် လိုသော သဘောလည်းမထားဘဲ သက်သက်စိတ်ဆန္ဒ ထားသည်မှာ အသင်မ ကျွန်ုပ်၏ လက်ထပ်ဇနီးမယားမှန်ပေသည်၊ အသင်မကို ကျွန်ုပ်မခွဲပါ၊ သို့သော် အသင်မကို ကျွန်ုပ် အဘယ်အခါမှ ကာမစပ်ယှက်ခြင်း ပြုမည်မဟုတ်၊အသင်မနှင့်ကာမစပ်ယှက်ရန်မိမိအပေါ် တွင် ဟရာမ်ပြုလိုက်ပြီ၊ ဝတ်ဆင်ရန်တန်ဆာနှင့် စားသောက်ရန် စားရေရိက္ခာသာလျှင် ယူ၍ နေထိုင်တော့ဟု(အလိုဆန္ဒထားလျက် မိမိမယားကို အမိနှင့်တူသည်ဟု မြွက်ဆိုလိုက် မည်၊) အချုပ်သဘောမှာ လင်ယောကျ်ားသည် မိမိမယားကို စွန့်လွှတ်ကွာရှင်းလိုသော် သဘောနှင့် အထက်ပါစကားများကို မြွက်ဆိုခြင်းမဟုတ်ဘဲ သက်သက် ဇနီးမယားကို ကာမစပ်ယှက်ရန်သာလျှင် မိမိအပေါ်၌ ဟရာမ်ပြုရန်ဆန္ဒနှင့် မြွက်ဆိုခဲ့သော် ၎င်းကဲ့သို့ မြွက်ဆိုခြင်းကို ရှရီအတ်တရားတော်၌ (ဇွေဟာ့ရ်)ဟု ခေါ်ဝေါ်ပညတ်၏။

ညွှန်ပြခဲ့သည့်အတိုင်း လင်ယောကျ်ားသည်ဇနီးမယားကို ကာမ မစပ်ယှက်လိုသော် ဆန္ဒနှင့် အထက်ပါစကားများကို မြွက်ဆိုသောကြောင့်(ဇွေဟာရ်)ဖြစ်သွားသောအခါ လင်မယားနှစ်ဦးစလုံးတို့ နေကာယ်တော့မပျက်ပေ၊ ထိုသို့နေကာယ်မပြက်ဘဲ ရှိနေကြငြား သော်လည်း လင်ယောကျ်ားသည် တရားတော် ပညတ်ချက် အတိုင်း (ဇွေဟာရ်) ၏ ကတ်ဖွာရဟ် ပြစ်ဒဏ်ကြေးမလျော်သမျှ ကာလပတ်လုံး ထိုဇနီးမယားနှင့် ကာမစပ်ယှက် ခြင်း သို့မဟုတ် ကာမဂုဏ်စိတ်ထားနှင့် ဇနီးမယားကို ဆွဲကိုင်ခြင်း၊ သို့မဟုတ် ဇနီး မယားကို ချစ်ခင်သော စိတ်သဘောနှင့် နမ်းရှုတ် ဖက်ပွေ့ခြင်းများ (ဟရာမ်) မအပ်စပ် ဖြစ်လေသည်၊ မည်သည့်တိုင် ကတ်ဖွာရဟ် ပြစ်ဒဏ်ကြေးမဆောင်ရွက်ခဲ့သော် နှစ်ပရိစ္ဆေဒ အဘယ်မျှပင် လွန်ရောက်ငြားသော်လည်း လင်ယောကျ်ားသည် ၎င်း ဇနီးမယားနှင့် ကာမစပ်ယှက်ခြင်းဟရာမ်ဖြစ်၏၊ ကတ်ဖွာရဟ်ဒဏ် ပေးပြီးသောအခါ အသစ်နေကာဟ် မပြုဘဲ ဇနီးခင်ပွန်း အဖြစ်နှင့် ကာမ စပ်ယှက်ခြင်း တစ်စုံဘစ်ရာ အပြစ်မရှိချေ၊ ၎င်း ဇွေဟာရ်၏ကတ်ဖွာရဟ်သည် ရိုဇဟ်ဖျက်သော ကတ်ဖွာရတ်ကဲ့သို့ဖြစ်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၃၀။

၂။ မတ်စ်အလဟ်ပြဿနာ။ ။(ဇွေဟာရ်) ဖြစ်သော လင်ယောကျ်ားသည် အကယ်၍ ကတ်ဖွာရဟ်ထိုက်သက်သည့်အတိုင်း မဆောင်ရွက်မီ မိမိဇနီးနှင့်ကာမစပ်ယှက် ခဲ့ပါမူ ကြီးသောအပြစ်ဖြစ်၏၊ ၎င်းသူသည် မိမိ၏မှောက်မှားခြင်းကိုနောင်တရ၍ မြင့်မြတ် တော်မူသော အလ္လာဟ်အသျှင့်ထံတော်မှာ ချမ်းသာရရန် 'တော်ဗဟ်' ဝန်ချတောင်းပန် ခြင်းပြု၍ ကျွန်တော်မျိုးသည် ကတ်ဖွာရဟ်မထမ်းဆောင်ဘဲ နောက်တဖန် ကာမစပ်ယှက် ခြင်းမပြုပါဟု ခိုင်မာသောအလိုဆန္ဒပြုရသည် ၎င်းပြင် ဇနီးမယားဖြစ်သူကလည်းထိုလင်

ယောကျ်ား ကာတ်ဖွာရယ်ပြစ်ဒဏ်ကြေးမဆောင်ရွက်သမျှကာလပတ်လုံး မိမိအနီးအပါးသို့ မချဉ်းမကပ်စေရန် တားစီးဖို့သင့်လေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၃၀။

၃။ မတ်စ်အလဟ် ပြဿနာ။ ။(မိမိဇနီးမယားကို အမိနှင့်တူသည်ဟု မြွက်ဆိုသည်မဟုတ်ဘဲ) အကယ်၍ မိမိနှင့်နေကာဟ် ဟရာမ်ဖြစ်သော သူမတို့အနက် တစ်ဦးဦးဖြင့် အတူဖြစ်သည်ဟု ဆိုလိုက်မည်၊ ဥပမာ...အစ်မ ,နှမ, မိမိ၏သမီးနှင့်သော် လည်းကောင်း သို့မဟုတ် ဒွေးလေး,ဒွေးကြီးတို့မှစ၍ ထိုနည်းတူစွာ နေကာဟ် ဟရာမ်ဖြစ်သော မိန်းမတို့အနက် တစ်ဦးတစ်ယောက်နှင့်တူသည် သော်လည်းကောင်း၊ မြွက်ဟဆိုခဲ့လျှင်လည်း (အမိနှင့်တူသည်)ဟုဆိုသော ပြဋ္ဌာတ်ကဲ့သို့ အတူတူဖြစ်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၀၆။

၄။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူက မိမိဇနီးမယားကို အသင်မ ကျွန်ုပ်အတွက် ဝက်နှင့်တူသည်ဟု မြွက်ဆိုလိုက်မှု အကယ်၍ တွလာက်ပေးရန် စွန့်လွှတ်ရန် သဘောဆန္ဒ ထားရှိပါက တွလာက်မြောက်၏၊ ထိုသို့တွလာက်ပေးရန် ဆန္ဒမထားရှိဘဲ ဇှေဟာရ်၏ ဆန္ဒထားရှိခဲ့သော် အဓိပ္ပါယ်ကား ,တွလာက်ပေးရန် စိတ်ဆန္ဒမထားပြား သော့်လည်း ၎င်းဇနီးနှင့် ကာမစပ်ယှက်ခြင်း မိမိအပေါ်၌ဟရာမ်ဖြစ်စေရန် စိတ်ဆန္ဒထားခဲ့သော် ဇှေဟာရ်မမြောက်ချေ၊ အလဟာဿဖြစ်၏၊ ထိုနည်းတူစွာ မည်သည့်နိယတ်ကိုမှ မထားဘဲ မြွက်ဆိုခဲ့လျှင်လည်း ကိစ္စမရှိဟု မှတ်ယူရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၅၄၂။

၅။ မတ်စ်အလဟ် ပြဿနာ။ ။အကယ်၍ ဇှေဟာရ် ဖြစ်သောအခါတွင် (လင်ယောကျ်ားသည်) ဓလေးလ သို့မဟုတ် လေးလထက်သာပို၍ မိမိဇနီးမယားနှင့် ကာမစပ်ယှက်ခြင်းလည်းမပြု၊ ထိုက်သက်သည့် ကာတ်ဖွာရယ် ပြစ်ဒဏ်ကြေးကိုလည်း မဆောင်ရွက်ခဲ့သော် တွလာက်မမြောက်ပေ၊ ၎င်းပြင်(အီလာအ်)လည်းမဖြစ်ချေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၈၄၆။

၆။ မတ်စ်အလဟ်ပြဿနာ။ ။(ဇှေဟာရ် ဖြစ်သောအခါတွင် လင်ယောကျ်ားသည်) မိမိတာဝန် ,ကာတ်ဖွာရယ် ပြစ်ဒဏ်ကြေး မဆောင်ရွက်မီအတွင်း (ဇနီးမယားကို) ရှုကြည့်ခြင်း၊ ၎င်းနှင့်နှုတ်ခွန်းဆက်စကားပြောဆိုခြင်း ဟရာမ် မဟုတ်ပေ၊ (ဟလာလ်) ဖြစ်၏၊ သို့သော် အရှက်နေရာသို့ ရှုကြည့်ခြင်းမပိုင့်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ ၅၀၆။

၇။ မတ်စ်အလဟ် ပြဿနာ။ ။အကြင်သူသည် အမြဲထာဝရအတွက် ဇှေဟာရ်၏နိယတ်ထားသည်မဟုတ်ဘဲ အနည်းငယ်မျှ အခါသမယအတွက်သာ ပိုင်းဖြတ်၍ မြွက်ဆိုလိုက်မည်၊ဥပမာ....တနှစ်အတွက် သို့မဟုတ် လေးလအတွက် အသင်မ ကျွန်ုပ်အဖို့ အမိနှင့်တူသည်ဖြစ်သည်ဟုမြွက်ဆိုလိုက်သော်မိမိအတည်မြွက်ဆိုသည့်အခါသမယအတိုင်းဇှေဟာရ် ဖြစ်နေသည်၊ အကယ်၍ ထိုဇှေဟာရ်ပိုင်းဖြတ်သည့် အခါသမယအတွင်း (ဇနီးမယားနှင့်)

ကာမစပ်ယှက်လိုမှု ကတ်ဖ္ဖာရဟ် ထမ်းဆောင်ရပေမည်၊ ပိုင်းဖြတ်သည့် အခါသမယ၏ နောက်မှ ကာမစပ်ယှက်ခဲ့လျှင် ကတ်ဖ္ဖာရဟ်ပေးရန်မလိုပေ၊ ဇနီးမယားနှင့် ကာမစပ်ယှက်ခြင်း ဟလာလ်ဖြစ်သွား၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၄၃။

၈။ မတ်စ်အလဟ်ပြဿနာ။ (တွလာက်မှာကဲ့သို့) ဇှေဟာရ်မှာလည်း အလျင်အမြန် ရှတ်တရက် (အင်ရှာအလ္လာဟ်)ဟု ဆိုခဲ့မှု မည်သည့်ကိစ္စမှမရှိပေ၊ (ဇှေဟာရ်) မမြောက်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၀၉။

၉။ မတ်စ်အလဟ်ပြဿနာ။ အရွယ်မရောက်သေးသော သူငယ်များ နှင့် စိတ်ဖေါက်ပြန် ရူးသွပ်သူတို့ (ဇှေဟာရ်) မပြုနိုင်ပေ၊ အကယ်၍ ပြုခဲ့လျှင်လည်း အတည်မဖြစ်ချေ၊ ထိုနည်းတူစွာ အကြင်သူသည် ယခုမိမိနှင့် နေကာဟ်မပြုသေးသော တရုံစာမိန်းမနှင့် ဇှေဟာရ်ပြုလိုက်မှုလည်း အလဟာဿ ဖြစ်လေသည်။

(မှတ်ရန်)။ အဆိုပါတရုံစာမိန်းမနှင့် ဇှေဟာရ်ပြုပြီးနောက် လက်ထပ်လျှင်လည်း ပိုင်သည်ဟု မှတ်ယူရာသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၀၆။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ဇှေဟာရ်၏ စာလုံးကို တစ်ကြိမ်တည်းဆိုသော် မဟုတ်ဘဲ ဥပမာ.... နှစ်ကြိမ်ဖြစ်စေ၊ သုံးကြိမ်ဖြစ်စေ အသင်မ ကျွန်ုပ်အတွက် အမိနှင့်တူသည်ဟုမြွက်ဆိုလိုက်သော် မြွက်ဆိုသည့်အကြိမ်နှင့်အမျှ ကတ်ဖ္ဖာရဟ်ထိုက်သည်၊ သို့သော် နှစ်ကြိမ်, သုံးကြိမ်မြောက် ဇှေဟာရ်ဖြစ်ရန် စိတ်ဆန္ဒမထားဘဲ တစ်ကြိမ်အခိုင်အမာဖြစ်ရန် ဆန္ဒနှင့်သာ ထပ်မံ၍မြွက်ဆိုလိုက်မှု ကတ်ဖ္ဖာရဟ် တစ်ကြိမ်သာ ထိုက်၏။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၅၉၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယားတစ်ယောက်ထက် ပိုမို၍ရှိသောလင်ယောကျ်ားသည် ဇနီးအားလုံးကို ဇှေဟာရ်ဖြစ်စေရန် အသင်မတို့ ကျွန်ုပ်အတွက် အမိနှင့်တူကြသည်ဟု မြွက်ဆိုလိုက်သော် ဇနီး တစ်ယောက်တစ်ယောက် အတွက် ကတ်ဖ္ဖာရဟ် တစ်ကြိမ်, တစ်ကြိမ်စီ ပိုင်းခြား၍ ပေးရန်ထိုက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၄၃။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အထက်မှာ ရေးသား ညွှန်ပြခဲ့သည့် အတိုင်း ကျွန်ုပ်အမိနှင့် တူသည်၊ ကျွန်ုပ်အမိကဲ့သို့မှစ၍ ထိုနည်းတူ စာလုံးများကို မြွက်ဆိုသည် မဟုတ်ဘဲ အသင်မ ကျွန်ုပ်အမိဖြစ်သည်၊ ကျွန်ုပ်အစ်မဖြစ်သည် ဟူသော စကားများကို မြွက်ဆိုခဲ့ပါမူ ၎င်းကဲ့သို့မြွက်ဆိုခြင်း အတည်မဖြစ်ပေ၊ ဇနီးမယားနှင့် ဟရာမ်မဖြစ်ချေ၊ သို့သော် ကြီးစွာသော အပြစ်ဂိုနာဟ် ဖြစ်၏၊ ထိုနည်းတူစွာ မိမိမယားကို ကျွန်ုပ်၏

အစ်မ, သို့မဟုတ် ကျွန်ုပ်၏နှမ, မည်သည့်အလုပ် ပြုလုပ်လိုက်ပါဟု ခေါ်ဆို၍ ခိုင်းခြင်းလည်း မကောင်းပေ၊ သို့ရာတွင် ၎င်းစကားသည် ဇွေဟာရ်မဖြစ်ချေ။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၀၇။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိမယားကို အကယ်၍ အသင်မကို ကျွန်ုပ် ထားခဲ့မူ မိမိ၏အမိကို ကျွန်ုပ်ထားသည်ဟု မြွက်ဆိုသည် ဖြစ်စေ၊ သို့မဟုတ် အသင်မနှင့်ကျွန်ုပ် ကာမစပ်ယှက်မူ မိမိအမိနှင့် ကာမစပ်ယှက်သကဲ့သို့ဖြစ်ပါစေတော့ဟု မြွက်ဆိုသည်ဖြစ်စေ ၎င်းကဲ့သို့မြွက်ဆိုခြင်းဖြင့် ဇွေဟာရ်မဖြစ်ပေ၊ (သို့သော် ကြီးကျယ်သော အပြစ်ဖြစ်လေသည်)။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၄၂။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိ မယားကို အသင်မ ကျွန်ုပ်အတွက် အမိကဲ့သို့ ဟရာမ် ဖြစ်သည်ဟု မြွက်ဆိုလိုက်မူ အကယ်၍ တွလာက်ပေးရန် စိတ်ဆန္ဒရှိပါက တွလာက်မြောက်သွား၏၊ တွလာက်ပေးရန် စိတ်ဆန္ဒမရှိဘဲ ဇွေဟာရ်ဖြစ်စေရန် ဆန္ဒထားသည်ဖြစ်စေ၊ သို့မဟုတ် မည်သည့်ဆန္ဒကိုမျှ မထားသည်ဖြစ်စေ ထိုအခါ ဇွေဟာရ်အတည်ဖြစ်သွားလေသည်၊ ကတ်ဖွာရဟ်ပေးပြီးသောအခါမှ မိမိဇနီးနှင့် ကာမသံဝါသ ဆက်ဆံ ပေါင်းသင်းပိုင်၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ၅၄၂။

# ကတ်ဖွာရဟ်ခေါ် ပြစ်ဒဏ်ကြေး၏ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဇွေဟာရ်၏ကတ်ဖွာရဟ်အပြစ်ဒဏ်သည်ရမသွာန်လ ရိုဇဟ်ဖျက်သော ကတ်ဖွာရဟ် ပြစ်ဒဏ်ကဲ့သို့ဖြစ်၏၊ နှစ်ခုစလုံးတွင် ကွဲလွဲခြင်း မရှိပေ။ အထက်ပါမတ်စ်အလဟ်များကိုကျွန်ုပ်က ရှင်းလင်းသေချာစွာရေးသားဖော်ပြခဲ့ပါသည်၊ အလိုရှိသူတို့ ဖွင့်လှစ်၍ကြည့်ရှုကြပါကုန်၊ ယခုကျွန်ုပ်ရေးသားဖော်ပြခဲ့သည့်အခန်းများတွင် မပါသော အရေးကြီးသည့် မတ်စ်အလဟ်များကို ဖော်ပြပါဦးအံ့။

ကို ့ဒူရီကျမ်း စာမျက်နှာ-၁၀၂။

၂။ မတ်စ်အလဟ်ပြဿနာ။ (ဇွေဟာရ်၏ကတ်ဖွာရဟ်မှာ)အကယ်၍ စွမ်းအားရှိခဲ့ပါမူ လင်ယောကျ်ားသည် ရိုဇဟ်ရက်ပေါင်း ၆၀-ဆက်လက်၍စောင့်ရမည်၊ အလယ်ကြားတွင် ပျက်ကွက်ခြင်းမရှိစေရ၊ လင်ယောကျ်ားသည် ရိုဇဟ်ရက်ပေါင်း၆၀-မပြည့်မီ မိမိဇနီးနှင့် ကာမစပ်ယှက်ခြင်းမပြုအပ်ပေ၊ အကယ်၍ထိုရက်ပေါင်း၆၀-မပြည့်မီ အလယ်ကြား၌ လင်ယောကျ်ားသည် မိမိဇနီးကို ကာမစပ်ယှက်ခဲ့မူ အသစ်တဖန်ပြန်၍ ရိုဇဟ်စောင့်ရပေမည်၊ (ပဌမစောင့်သောရိုဇဟ် အတည်မဖြစ်ချေ)၎င်းကာမစပ်ယှက်ခြင်းသည် နေ့အချိန်၌ဖြစ်စေ၊ ညဉ့်အချိန်၌ဖြစ်စေ အတူတူဖြစ်သည်၊ ထိုနည်းတူစွာ သိလျက်နှင့် ကာမစပ်ယှက်သည်ဖြစ်စေ၊မေ့လျော့သောကြောင့်စပ်ယှက်မိသည်ဖြစ်စေ ပညတ်တစ်မျိုးတည်း ဖြစ်၏။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၁၂။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ပထမလဆန်းတစ်ရက်က ရိုဇဟ်ဝါစောင့်ခြင်း အစပြုခဲ့ပါမူ ရက်ပေါင်း၃၀-စီ ပြည့်သောလများဖြစ်စေ၊ သို့မဟုတ် မပြည့်သောလဖြစ်စေ နှစ်လတိတိသာ ရိုဇဟ်ဝါစောင့်ရန်ထိုက်၏၊ ထိုသို့ ပထမလဆန်းတစ်ရက်က မဟုတ်ဘဲနောက်ရက်များကမှ ရိုဇဟ်ဝါစောင့်ခြင်းပြုခဲ့သော် ရက်ပေါင်း၆၀ပြည့်အောင် စောင့်ရပေမည်၊ ကျွန်ုပ်တို့ မိုဟမ္မဒီယာ် (ဟစ်ဂျ်ရီ) လ သည် တစ်လကို ၂၉-ရက်သော်လည်းကောင်း၊ ရက်ပေါင်း ၃၀သော်လည်းကောင်း ဖြစ်နိုင်သောကြောင့် ပထမလဆန်းတစ်ရက်က ရိုဇဟ်စောင့်သောအခါ ဒုတိယလကုန်သည့်တိုင် ရိုဇဟ်စောင့်ခဲ့ပါလျှင် ရက်ပေါင်း ၆၀- မပြည့်ငြားသော်လည်း ကတ်ဖ္ဖာရဟ်တာဝန်ကျသွားသည်ဟူ၏။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၅၁၂။

၄။ မတ်စ်အလဟ် ပြဿနာ။ ကတ်ဖ္ဖာရဟ်ကြောင့် ရိုဇဟ် စောင့်ခြင်း ရက်ပေါင်း၆၀-မပြည့်မီ နေ့ကိုဖြစ်စေ၊ ညကိုဖြစ်စေ မိမိဇနီးနှင့် ကာမ သံဝါသ ဆက်ဆံပေါင်းသင်းခဲ့သော် အသစ်ထပ်မံ၍ ကတ်ဖ္ဖာရဟ် ဆောင်ရွက်ရမည်။

ကို့ဒူရီကျမ်းစာမျက်နှာ-၁၈၃။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကတ်ဖ္ဖာရဟ် တာဝန်ကို ရိုဇဟ် ရက်ပေါင်း၆၀-စောင့်ရန်မစွမ်းဆောင်နိုင်ခဲ့မူ သူဆင်းရဲပေါင်း၆၀-ကိုပင့်ခေါ်၍ ညနံနက်စာထမင်းကျွေးရမည်၊ သို့တည်းမဟုတ် သူဆင်းရဲပေါင်း၆၀-ကို ဆန်စိမ်း ဟင်းစိမ်း ပေးလိုက်ရမည်၊ အကယ်၍ သူဆင်းရဲပေါင်း ၆၀-ပြည့်အောင် ထမင်းဟင်း မကျွေးမွေးမီလင်ယောကျ်ားသည် မိမိဇနီးနှင့်ကာမစပ်ယှက်ခဲ့သော် အပြစ်ဂိုနာဟ်မကင်းပေ၊ သို့သော် အသစ်တဖန် ကတ်ဖ္ဖာရဟ် ဆောင်ရွက်ရန် မလိုတော့ချေ။

(ထမင်းဟင်းကျွေးရမည့် နည်းလမ်းများကို အထက်တွင် ရေးသားဖေါ်ပြခဲ့ပြီးဖြစ်သည်)။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၈၄။

၆။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် ဇွေဟာရ်၏ကတ်ဖ္ဖာရဟ် ပြစ်ဒဏ်နှစ်ခု ဆောင်ရွက်ရန်ရှိသောကြောင့် သူဆင်းရဲပေါင်း၆၀-ကို ကတ်ဖ္ဖာရဟ်တစ်ခုခုအတွက် ဂျုံနှစ်ပိဿာရည်မှန်း၍ တစ်ယောက်လျှင် ဂျုံစွာအ်တစ်ခုကျကတ်ဖ္ဖာရဟ်နှစ်ခုလုံးတာဝန်ကျစေရန် ပေးကမ်းစွန့်ကြဲလိုက်သော် ပထမ ကတ်ဖ္ဖာရဟ်တစ်ခုအတွက်သာ တာဝန်ကျလေသည်၊ ဒုတိယ ကတ်ဖ္ဖာရဟ်အတွက် တာဝန် မကျသေးပေ၊ သို့သော် ကတ်ဖ္ဖာရဟ်နှစ်ခုလုံးသည် ဇွေဟာရ်အတွက်သာမဟုတ်ဘဲ ဥပမာ.... ရိုဇဟ်ဝါဖျက်သော ကတ်ဖ္ဖာရဟ်တစ်ခု ဇွေဟာရ်၏ကတ်ဖ္ဖာရဟ်တစ်ခုဖြစ်ခဲ့ပါလျှင် ၎င်းကတ်ဖ္ဖာရဟ်နှစ်ခုအတွက် အထက်အဆိုပါအတိုင်း ကတ်ဖ္ဖာရဟ်တစ်ခုတစ်ခုလျှင် ဂျုံစွာအ်တစ်ခုကျစီ ဆန္ဒထား၍ သူဆင်းရဲ

ပေါင်း ၆၀-ကို တစ်ယောက်လျှင် ဂျုံစွာအ် တစ်ခုကျ ပေးလိုက်သော် ကတ်ဖွာရဟ်နှစ်ခု၏ တာဝန်ကျသွား၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၃၅။

# လေအာန်၏ အကြောင်း

၁။ **မတ်စ်အလဟ်ပြဿနာ။** အကြွင်သူက မိမိမယားကို (ဇနာ) ပြုသည်ဟု စွပ်စွဲပြောဆိုသည်ဖြစ်စေ၊ သို့မဟုတ် မိမိ၏မယား သားငယ်မွေးဖွားသောအခါ ဤသားငယ်သည် ကျွန်ုပ်၏ သားငယ် မဟုတ် မည်သူနှင့် သန္ဓေ တည်၍ မွေးဖွားသည် မသိဟု မြွက်ဆိုသည်ဖြစ်စေ၊ ထိုအခါ မယားဖြစ်သူသည် (ကာသွီ) မွတ်စလင်မ်တရားသူကြီး ထံတွင် မိမိလင်ယောကျ်ား မဟုတ်မတရား စွပ်စွဲကြောင်းကို လျှောက်ထား တင်ဆိုရန် သင့်၏၊ ယင်းသို့ လျှောက်ထားချက်ရှိလျှင် (ကာသွီ) တရားသူကြီးက စီရင်ရန်နည်း လမ်းမှာ ဇနီး-ခင်ပွန်း နှစ်ဦးလုံးကို (ကဆမ်) ကျိန်ဆိုခြင်း ပြုစေရမည်။

ကျိန်ဆိုစေရန်နည်းလမ်းမှာ ကာသွီက ဦးစွာပထမ စွပ်စွဲသော လင်ယောကျ်ား ကို ဤသို့လေးကြိမ်မြောက်မြွက်ဆိုစေရမည်၊ (လင်ယောကျ်ားမြွက်ဆိုရန်) ကျွန်တော်မျိုး သည် မြင့်မြတ်တော်မူသော အသျှင်ကို သက်သေ အဖြစ် အတည်ထား၍ မိမိစွပ်စွဲခြင်း မှန်ကန်ကြောင်း မြွက်ဆိုပါ၏၊ (လေးကြိမ်) ထို့နောက် ပဉ္စမအကြိမ်တွင် အကယ်၍ ကျွန်တော်မျိုးမမှန်မကန်မုသားဖြစ်ခဲ့သော် ကျွန်တော်မျိုးအပေါ်၌အလ္လာဟ်အသျှင်မြတ် ၏(လအ်နတ်) အပြစ်ပေးခြင်း ခံရပါစေသားဟု မြွက်ဆိုရမည်။

အထက်ပါ အတိုင်း လင်ယောကျ်ားက ကျိန်ဆိုပြီးနောက် ဇနီးမယားကလည်း လေးကြိမ်မြောက် အောက်ပါအတိုင်း မြွက်ဆိုရမည်။

(ဇနီးမယားမြွက်ဆိုရန်မှာ....)ကျွန်တော်မျိုးမသည် မြင့်မြတ်တော်မူသော အသျှင် ကိုသက်သေထား၍ လင်ယောကျ်ား၏စွပ်စွဲခြင်း မမှန်မကန် မုသားဖြစ်ကြောင်း မြွက်ဆို ပါ၏၊ (လေးကြိမ်) ထို့နောက် ပဉ္စမအကြိမ်တွင် အကယ်၍ လင်ယောကျ်ား၏စွပ်စွဲချက် အတိုင်း အမှန်အကန်ဖြစ်ခဲ့ပါလျှင် ကျွန်တော်မျိုးမ အပေါ်၌ အလ္လာဟ်အသျှင်မြတ်၏ (ဂဇဗ်) အမျက်ဘော် ရောက်ရှိပါစေသားဟု မြွက်ဆိုရမည်။

အကြွင်အခါ ညွှန်ပြခဲ့သည့်အတိုင်း ဇနီးခင်ပွန်းနှစ်ဦးစလုံးတို့ ကျိန်ဆို သစ္စာပြု ပြီးကြသော် တရားသူကြီးက ၎င်းတို့နှစ်ဦးကို ခွဲခြား၍ပေးရမည်၊ ထိုသို့ ကာသွီ တရား သူကြီး၏ ခွဲခြား၍ပေးခြင်းဖြင့် တလာက်ဘာအင်န် တစ်ကြိမ်မြောက်၏။

ဆုံးဖြတ်ချက်မှာ .... မွေးဖွားသော သူငယ်သည် လင်ယောကျ်ား၏ ပဋိသန္ဓေ အတည်မဖြစ်၊ မိခင်သို့အပ်ရမည်၊ ဤကဲ့သို့ကျိန်နည်းကို ရှရီအတ်တရားတော်၌(လေအာန်) ဟုခေါ်လေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၅၀။

# မဖွင့်ကူးဒ် လင်ယောကျ်ား ပျောက်ဆုံးနေခြင်း
## အကြောင်း

အကြင်သူမ၏ လင်ယောကျ်ားသည် မသသည့် ရှင်သည်လည်း မသိရဘဲ လုံး၀ ပျောက်ဆုံးသွားလျှင် ၎င်းမိန်းမသည်အခြားယောကျ်ားနှင့်နေကာဟ်မပြုနိုင်သည်သာမက မိမိကာမပိုင် လင်ယောကျ်ား ပြန်လာလိမ့်မည်ဟု မျှော်လျက်နေရမည်၊ ထိုသို့မျှော်လင့် စောင့်ဆိုင်းလျက် လင်ယောကျ်ား၏ အသက် နှစ်ပေါင်း (ကိုးဆယ်) တိုင် လွန်မြောက်ခဲ့သော် ထိုအခါ သေဆုံးသော ပညတ်ပေးရမည်၊ ဇနီးဖြစ်သူက အခြားယောကျ်ားနှင့် နေကာဟ်ပြုလိုပါက ယောကျ်ား၏ အသက်(၉၀)လွန်ပြီးနောက် အစ်ဒတ်ရက် ပြည့်စုံစွာ ဆိုင်းပြီးလျှင် နေကာဟ်ပြုပိုင်၏၊ (မှတ်ရန်) လင်ပျောက်သော မိန်းမ၏ ဒုတိယ နေကာဟ် ပြုရန်နည်းလမ်းမှာ ကာသွိ တရားသူကြီးထံမှ ပထမလင်သေဆုံးသည့် အမိန့်ဒီဂရီပေးပါဟု လျှောက်ထားတောင်းဆိုရသည်၊ ဒီဂရီရပြီးနောက် လင်သေ အစ်ဒတ်ပြည့်စုံစွာ ဆိုင်းပြီးမှ ဒုတိယယောကျ်ားနှင့် လက်ထပ်အပ်၏။

(ဤသို့ပြဿနာမျိုးကြုံကြိုက်ပါက အာလင်မ်ကြီးများထံမေးမြန်း၍ အဆုံးအဖြတ် ခံယူကြပါ)။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၉၂။

# အစ်ဒတ် လင်ကွာမိန်းမ၏ ဆိုင်းငံ့အပ်သော ရက်ပိုင်း
## အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူမ၏ လင်ယောကျ်ားက တလာက်ပေးသည်ဖြစ်စေ၊ သို့မဟုတ် ခိုလအ်အီလာအ်မှစ၍ တစ်နည်းနည်းနှင့် နေကာဟ်ပျက်သွားသည် ဖြစ်စေ၊ သို့မဟုတ် လင်ယောကျ်ား သေဆုံးသွားသည်ဖြစ်စေ ဤအဖြစ်အပေါင်းတို့တွင် ဇနီးမယားသည် အတန်ကြာအခါသမယတိုင် အိမ်တစ်အိမ်၌နေရာ၏၊ အစ်ဒတ်အခါသမယ မကုန်လွန်မီ ၎င်းမိန်းမသည် အခြားတစ်နေရာသို့ မသွားအပ်၊ အခြားယောကျ်ား တစ်ယောက်နှင့်လည်း နေကာဟ်မပြုအပ်ချေ၊ ထိုအခါသမယ ကုန်ဆုံးသောအခါ မိမိအလို သဘောအတိုင်း အခြားယောကျ်ားတစ်ယောက်နှင့် နေကာဟ်ပြုလိုကပြုနိုင်သည်၊ ဤသို့ ဆိုင်းငံ့အပ်သော အခါသမယကို(အစ်ဒတ်)ဟု ခေါ်လေသည်။

ဖွတာ၀ါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၂၆။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အကြင်သူမကို မိမိလင်ယောကျ်ားက တွလာက် ပေးလိုက်သော် ရာသီ မွေတာသွေး သုံးကြိမ်လာသည့်တိုင် ထိုလင်ယောကျ်ား

အိမ်မှာပင် ဇနီးဖြစ်သူ ဆိုင်းငံ့နေထိုင်ရဦးမည်၊ ထိုရာသီသုံးကြိမ်လာသော အခါအမယ မကုန်လွန်မီ နေ့ကိုဖြစ်စေ၊ ညကိုဖြစ်စေ အိမ်ပြင်သို့ မထွက်အပ်ပေ၊ အခြားယောကျ်ား တစ်ယောက်နှင့် လက်ထပ်ခြင်းမပြုအပ်ချေ။ သို့သော်အဆိုပါအတိုင်း ရာသီဓမ္မတာ သုံး ကြိမ်မြောက် လာပြီးသောအခါ ၎င်းမိန်းမအလိုသဘောအတိုင်းဖြစ်လေသည်၊ အစ်ပွါယ် ကား.... မိန်းမအလိုရှိရာသို့ သွားလာနေထိုင်နိုင်၏၊ ထိုသို့လင်ယောကျ်ားက တလာက် ပေးသည်မှာ တလာက် တစ်ကြိမ်ပေးသည်ဖြစ်စေ၊ နှစ်ကြိမ်ပေးသည်ဖြစ်စေ၊ တလာက် ဘာအင်န်ဖြစ်စေ၊ ရဂျ်အီဖြစ်စေ ညွှန်ပြခဲ့သည့်အတိုင်း အစ်ဒတ် ဆိုင်းငံ့ရမည်၊ ပညတ် တစ်မျိုးထည်းဖြစ်၏။

ထိုလင်ကွာမိန်းမကို ကွာရှင်းသည့် ယောကျ်ားကပင် ပြန်၍သိမ်းပိုက် နေကာဟ် ပြုမည်ဆိုလျှင် အစ်ဒတ်ရက်ဆိုင်းငံ့ရန် မလိုပေ။

ကို့ဒူရီကျမ်းစာမျက်နှာ-၁၈၆။

၃။ မတ်စ်အလဟ်ပြဿနာ။ တလာက်အပေးခံရသောမိန်းမသည် ရာသီဓမ္မတာ ငယ်သွေး မလာသေးသော သူငယ်မလေးဖြစ်စေ၊ သို့မဟုတ် သွေးဆုံးပြီးသော အမယ်အို ဖြစ်စေ ထိုသူမနှစ်ဦးတို့၏ ဆိုင်းငံ့ရန် အစ်ဒတ်ရက်ပိုင်းမှာ (သုံးလတိတိ)ဖြစ်၏၊ သုံးလ ကျော်လွန်သောအခါ အစ်ဒတ်ရက် ကုန်ဆုံးလေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၈၆။

၄။ မတ်စ်အလဟ်ပြဿနာ။ အရွယ် မရောက်သေးသဖြင့် ရာသီ မလာသေး သောမိန်းကလေးတစ်ဦးတစ်ယောက်ကို(တလာက်)ရရှိသောကြောင့် လ၏အရေအတွက် ဖြင့် အစ်ဒတ်ဆိုင်းရန် အစပြုခဲ့ရာ ၎င်းအစ်ဒတ်ရက် အတွင်း ရာသီဓမ္မတာသွေး ဆင်း သက်၍လာပါက ရာသီသုံးကြိမ်လာသည်တိုင် ပြန်၍ အစ်ဒတ်ဆိုင်းရမည်၊ ရာသီသုံးကြိမ် မပြည့်မီ အစ်ဒတ်ရက် မကုန်လွန်သေးချေ၊ ဥပမာ....ရာသီဓမ္မတာသွေး မဆင်းသက်ဘူး သေးသော သူငယ်မတစ်ဦးတစ်ယောက်သည် အစ်ဒတ်ရက် တစ်လ၊ သို့မဟုတ် နှစ်လတိုင် လ၏အရေအတွက်နှင့် ဆိုင်းငံ့ပြီးသည့်နောက်မှ ရာသီဓမ္မတာသွေး ဆင်းသက်၍ လာခဲ့ သော် လ၏ အရေအတွက်ကို အရေးမယူဘဲ ရာသီ သုံးကြိမ်လာသည်ကို အရေးယူ၍ အစ်ဒတ်ရက် ဆိုင်းအပ်သည်ဟူ၏။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၅၆၂။

၅။ မတ်စ်အလဟ်ပြဿနာ။ ပဋိသန္ဓေ ရှိသော မိန်းမ တစ်ဦးတစ်ယောက်ကို ထိုသန္ဓေရှိသောအဖြစ်၌ပင် တလာက်ရရှိခဲ့သော် အစ်ဒတ်ရက်မှာ ကလေး မွေးဖွားသည့် တိုင်ဖြစ်၍ ကလေးမွေးဖွားပြီးနောက် အစ်ဒတ်ရက် ကုန်ဆုံးလေသည်၊ တလာက်ရရှိပြီး နောက် ခေတ္တခဏမျှတွင် ကလေးမွေးဖွားလျှင်လည်း အစ်ဒတ်ရက် ကုန်သည်ဟု မှတ်ယူ ရသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၄၆။

၆။ မတ်စ်အလယ် ပြဿနာ။ အကြင်သူက မိမိဇနီးကို ရာသီဓမ္မတာသွေးဆင်းသက်နေသော အခါ သမယ၌ တလာက် ပေးခဲ့မှု ထိုရာသီလာခြင်းကို အစ်ဒတ်ရက်မှာ မသွင်းရ၊ ၎င်း၏အပြင် ရာသီဓမ္မတာသွေး သုံးကြိမ်လာမှ အစ်ဒတ်ရက်ကုန်ဆုံးလေသည်၊ (မှတ်ရန်) ရာသီဓမ္မတာသွေးဆင်းသက်နေသောအဖြစ်၌ တလာက်ပေးခြင်း အပြစ်ဂိုနာဟ် မကင်းပေ။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၂၇။

၇။ မတ်စ်အလယ် ပြဿနာ။ အစ်ဒတ်ရက် ဆိုင်းငံ့ရန်ထိုက်သောမိန်းမဆိုသည်မှာ မိမိလင်နှင့်ကာမစပ်ယှက်ပြီးနောက်မှ တလာက်ရသည့်ဖြစ်စေ၊ သို့မဟုတ် ကာမစပ်ယှက်ခြင်း မပြုရသေးငြားသော်လည်း ကာမစပ်ယှက်မည်ဆိုလျှင် မည်သူတစ်ဦးတစ်ယောက်မှ အနှောင့်အယှက်မရှိသော လုံခြုံသည့်နေရာတွင် နှစ်ကိုယ်တည်း နေထိုင်ပျော်ပါးကြပြီးမှ တလာက်ရသည်ဖြစ်စေ ၎င်းအဖြစ်နှစ်မျိုးစလုံးတွင် အစ်ဒတ်ဆိုင်းငံ့ရာ၏၊ ထိုကဲ့သို့လုံခြုံသောဌာနမှာ နှစ်ကိုယ်တည်းနေထိုင်ပျော်ပါးပြီးနောက် ကွာရှင်းသောအခါ ပြည့်စုံစွာ မဟ်ရ်ပစ္စည်း ဇနီးဖြစ်သူမှာ ရထိုက်သော အဖြစ်၌သော်လည်းကောင်း၊ လျော့နည်း၍ ရထိုက်သော အဖြစ်မှာသော်လည်းကောင်း အစ်ဒတ်ရက် ဆိုင်းငံ့အပ်သည်ဟု မှတ်ယူပါကုန်၊ အထက်အဆိုပါအတိုင်း လင်ယောကျ်ားနှင့်ကာမစပ်ယှက်ခြင်း၊ သို့မဟုတ် နှစ်ကိုယ်တည်း လုံခြုံသောဌာနမှာ မပျော်ပါးကြမီ ဇနီးဖြစ်သူမှာ တလာက်ရခဲ့သော် အစ်ဒတ်ရက် ဆိုင်းငံ့ရန်မလိုချေ၊ (ဤအကြောင်း အထက်တွင် ရှင်းပြခဲ့ပေပြီ)။

ကုရ်အာန်ပါရဟ်-၂၂၊ ရိုကူအ်-၂။

၈။ မတ်စ်အလယ် ပြဿနာ။ အကြင်သူက အခြားသူတစ်ဦး၏ ဇနီးမယားကို မိမိမယားဘဲဟု အထင်မှား၍ ကာမစပ်ယှက်ကျူးလွန်ပြီးသည့်နောက်မှ မိမိမယား မဟုတ်ကြောင်း သိရှိမှု ထိုကာမစပ်ယှက်ခြင်း ခံရသောမိန်းမလည်း (အစ်ဒတ်) ဆိုင်းရပေမည်၊ ထိုအစ်ဒတ်ရက် မကုန်လွန်မီ မိမိလက်ထပ်ထားသော လင်ယောကျ်ားနှင့်လည်း ကာမစပ်ယှက်ခြင်းမပြုအပ်ချေ၊ အကယ်၍စပ်ယှက်ခြင်းပြုပါလျှင် ဇနီးခင်ပွန်းနှစ်ဦးစလုံးအပေါ်၌ အပြစ် ဂိုနာဟ် ဖြစ်သည်။

၎င်းမိန်းမ၏ အစ်ဒတ်ရက်ဆိုင်းငံ့ရန် ပညတ်မှာလည်း တလာက် ရရှိသောမိန်းမကဲ့သို့ဖြစ်လေသည်၊ အကယ်၍ ပဋိသန္ဓေတည်ရှိပါလျှင် ထိုမိန်းမ၏အစ်ဒတ်ရက်မှာ ကလေးမွေးဖွားပြီးသည်အထိ ဖြစ်လေသည်၊ မွေးဖွားသောကလေးသည်လည်း ဟာရာမ်မဖြစ်ပေ၊ မှားယွင်းသဖြင့် ကာမစပ်ယှက်ကျူးလွန်သောသူ၏ သားသမီးအဖြစ် အတည်ထားရာ၏၊ (လက်ထပ်ယောကျ်ား၏ သားသမီးဟု မထားအပ်ချေ)။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၆၀။

၉။ မတ်စ်အလယ် ပြဿနာ။ အကြင်သူက နည်းလမ်းမကျဘဲ နေကာဟ်ပြုခဲ့မည်၊ ဥပမာ... မိန်းမတစ်ဦးနှင့် နေကာဟ်လက်ထပ်ရာ၌ ၎င်းလက်ထပ်ပြီးနောက် ထိုမိန်းမ၏ ပထမကာမပိုင်လင် ရှင်လျက်ရှိကြောင်းသိရသည်၊ ထိုသူက တလာက်မပေးသေးကြောင်း

ကို သိရသည်ဖြစ်စေ၊ သို့မဟုတ် နေကာဟ်လက်ထပ်ပြီးသည့်နောက်မှ မိမိနှင့် နို့စို့ဘက် ဖြစ်ကြောင်းသိရသည်ဖြစ်စေ၊ ထိုကဲ့သို့အဖြစ်များတွင် ယောကျ်ားဖြစ်သူက ၎င်းမိန်းမနှင့် ကာမစပ်ယှက်ပြီးဖြစ်သော် အောက်ပါအတိုင်း ပညတ်ချက်ဖြစ်သည်။

ပညတ်ချက်။ ယောကျ်ားဖြစ်သူက မိမိ နေကာဟ်ပြုမိခြင်း မှားသွင်းကြောင်း သိသောအခါ ထိုမိန်းမနှင့် ခွဲခြားရမည်ဖြစ်၍ ထိုယောကျ်ားဖြစ်သူ 'တောင်ဗဟ်'ပြုပြီး နောက် ခွဲခြားသောအချိန်မှ မိန်းမဖြစ်သူအစ်ဒတ်ရက်အစပြု၍ ဆိုင်းရပေမည်၊ ၎င်းတို့ နှစ်ဦး ကာမသံဝါသ မဆက်ဆံမပေါင်းသင်းမိ ခွဲခြား၍နေဆိုင်ကြပါလျှင် အစ်ဒတ်ရက် ဆိုင်းရန်မလိုချေ၊ ထိုကဲ့သို့ နည်းလမ်းမကျဘဲ နေကာဟ်လက်ထပ်ကြသော ယောကျ်ား နှင့်မိန်းမနှစ်ဦးတို့သည် လက်ထပ်ပြီးနောက် လုံခြုံသောနေရာဌာနမှာအတူနေထိုင်ကြပြီး ဖြစ်ငြားသော်လည်း ကာယကံမြောက် ကာမစပ်ယှက်ခြင်းမပြုကြသေးမီ နေကာဟ်ပျက်၍ ခွဲခွာနေထိုင်ကြသောအခါ အစ်ဒတ်ရက်ဆိုင်းရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ကာမစပ်ယှက်မှသာ အစ်ဒတ်ရက် ဆိုင်းရမည်။

ကို့ဒုရီကျမ်းစာမျက်နှာ-၁၈၇။

၁၀။ မတ်စ်အလလ်ပြဿနာ။ အစ်ဒတ်ရက် ဆိုင်းငံ့သည့်အတွင်း ၎င်းမိန်းမ၏ အစားအသောက် အဝတ်တန်ဆာပေးရန် တာဝန်သည် တွလာက်ပေး၍ ကွာရှင်းသော ယောကျ်ားအပေါ်မှာ ထိုက်၏၊ (၎င်းအကြောင်းကို ရှေ့လာလတ္တံ့တွင် ရှင်းလင်း သေချာစွာ ဖေါ်ပြပေအံ့)။ အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၄၀။

၁၁။ မတ်စ်အလလ်ပြဿနာ။ အကြင်သူက မိမိမယားကို တွလာက်ဘာအင်န် ပေးပြီးနောက်ဖြစ်စေ၊သုံးတွလာက်ပေးပြီးနောက်ဖြစ်စေ အစ်ဒတ်ရက်အတွင်း၌မေ့မှား၍ ကာမစပ်ယှက်ခြင်းပြုလိုက်သော် ထိုသို့မတရားသော ကာမစပ်ယှက်ခြင်းဖြင့် အစ်ဒတ်ရက် တစ်ကြိမ် ထပ်၍ထိုက်လေသည်၊ အဓိပ္ပါယ်ကား.... အစ်ဒတ်အသစ် ဆိုင်းငံ့ရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၂၃။

၁၂။ မတ်စ်အလလ်ပြဿနာ။ လင်ယောကျ်ားမှ တွလာက်ဘာအင်န် အပေး ခံရသောမိန်းမသည် ၎င်းလင်အိမ်၌ အစ်ဒတ်ရက်ဆိုင်းငံ့ပါလျှင် ကောင်းမွန်စွာ အကာ အကွယ်ကို ကာလျက် ထားရပေမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၃။

## လင်ယောကျ်ားသေဆုံးသောမိန်းမ၏ အစ်ဒတ် ဆိုင်းငံ့

### အပ်သော အခါသမယ အကြောင်း

၁။ မတ်စ်အလလ်ပြဿနာ။ လင်ယောကျ်ားသေဆုံးသောမိန်းမသည် လေးလ နှင့်ဆယ်ရက်တိုင် အစ်ဒတ်ရက်ဆိုင်းအပ်၏၊ မိမိလင်ယောကျ်ား သေဆုံးသော နေအိမ်မှာ အစ်ဒတ်ရက် ဆိုင်းငံ့နေထိုင်ရန်ထိုက်သည်၊ အိမ်အပြင်သို့ထွက်၍ သွားလာခြင်း မပိုင်ပေ၊

သို့သော် အစ်ဒတ်ရက် ဆိုင်းငံ့ နေထိုင်ရသော မိန်းမသည် ဆင်းရဲနွမ်းပါးသောကြောင့် သူတထူး၏အစေခံထမင်းဟင်းချက်ပြုတ်၍ပေးရသည်ဖြစ်စေ၊ သို့မဟုတ် တစ်မျိုးမျိုးသော အစေခံ ကူလီလုပ်၍ အသက်မွေးရသည်ဖြစ်စေ ထိုသို့သောမိန်းမအတွက် နေ့အချိန်တွင် မိမိနေအိမ်မှထွက်၍သွားလာခြင်းပိုင်၏၊ ညဥ့်အချိန်၌မူကား ၎င်းနေအိမ်မှာပင် မထွက်ဘဲ နေရမည်။

လင်ယောကျ်ားသေဆုံးသောမိန်းမသည် မိမိ၏သေသောလင်နှင့် ကာမစပ်ယှက်ပြီး ဖြစ်စေ မစပ်ယှက်ရသေးသည်ဖြစ်စေ၊ သို့မဟုတ် လုံခြုံသော နေရာဌာနမှာ နှစ်ကိုယ်တည်း အတူ နေထိုင်ပြီးဖြစ်စေ၊ မနေထိုင်ရသေးသည်ဖြစ်စေ အစ်ဒတ်ရက် လေးလနှင့် ဆယ်ရက်ဖြစ်လေသည်။

ထိုနည်းတူစွာ ရာသီမပွင့်ဘာသွေးလာခြင်း နှင့် မလာခြင်းမှာလည်း အစ်ဒတ်ရက်မှာ ခြားနားခြင်းမရှိတော့ချေ၊ ပညတ်တစ်မျိုးတည်းဖြစ်၏၊ သို့သော် အကြင်းမိန်းမမှာ မိမိလင် သေဆုံးသွားသောအခါ ပဋိသန္ဓေနှင့် ကြွင်းကျန်လျက် ရှိခဲ့ပါသော် သန္ဓေဖွား မြင်သည့်တိုင် ၎င်းသူ၏ အစ်ဒတ်ရက်ဆိုင်းငံ့ရန်ဖြစ်လေသည်၊ လ,၏ အရေအတွက်ဖြင့် အစ်ဒတ်ရက် ဆိုင်းရန်မလိုပေ၊ ဥပမာ.... လင်ယောကျ်ား သေဆုံးပြီးနောက် တစ်နာရီ နှစ်နာရီခန့်မျှ နေပြီး ကလေးမွေးဖွားခဲ့လျှင်လည်း အစ်ဒတ်ရက် ကုန်ဆုံးသည်ဟု မှတ်ယူရသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၃။

၂။ မတ်စ်အလဟ် ပြဿနာ။ အစ်ဒတ်ရက် ဆိုင်းငံ့ရသောအိမ်တွင် မိန်းမဖြစ်သူသည် ၎င်းအိမ်အတွင်း အလိုရှိရာသို့ သွားလာ နေထိုင်နိုင်၏၊ အချို့နေရာ၌ ထုံးစံရှိသည်မှာ အစ်ဒတ်ရက်အတွင်း မိန်းမဖြစ်သူနေထိုင်ရန် သီးသန့်ရနေရာတစ်ခုအစာည်ပြုထားလေသည်၊ အိမ်ပေါ်မှာ နေရာတိုင်းသို့မသွားရပေ၊ ဥပမာ....သေဆုံးသူလင် မသေမီက အိပ်သော ခုတင်မှာသော်လည်းကောင်း၊ သို့မဟုတ် လင်ယောကျ်ားသေဆုံးသော နေရာမှာသော်လည်းကောင်း မိန်းမဖြစ်သူ နေရ၏၊ ၎င်း ထုံးစံသည် ရှရီအတ် တရားတော် ပညတ်ချက်မဟုတ်၊ အချည်းနှီး အသုံးမဝင်ဖြစ်သောကြောင့် စွန့်လွှတ်ရသည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၃၅။

၃။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူမ၏ လင်ယောကျ်ားသည် 'ဗာလစ်ဂ်' အရွယ် မရောက်သေးသော သူငယ်ဖြစ်မူ ထိုလင်ယောကျ်ား သေဆုံးသောအခါ မယားဖြစ်သူမှာ ပဋိသန္ဓေနှင့် ကြွင်းကျန်လျက် ရှိခဲ့လျှင်လည်း ၎င်းသူမ၏ အစ်ဒတ်ရက်သည် ကလေး မွေးဖွားသည့်တိုင် ဖြစ်၏၊ သို့သော် မွေးဖွားသော ကလေးသည် သေသူ လင် ယောကျ်ား၏,သားမဟုတ် (ဟရာမီ) ဖြစ်လေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၄၆။

၄။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ အကြင်သူမ၏ လင်ယောကျ်ားသည် ပထမလဆန်းတစ်ရက်မှာ ကွယ်လွန်သေဆုံး၍ ပဋိသန္ဓေလည်း မကြွင်းကျန်ခဲ့သော် လ၏ အရေအတွက်ဖြင့် လေးလနှင့်ဆယ်ရက် ကုန်လွန်စေရမည်၊ သို့တည်းမဟုတ် လင်ယောကျ်ားသည် ပထမလဆန်းတစ်ရက်၌ သေဆုံးသည်မဟုတ်သော် ရက်ပေါင်းသုံးဆယ်စီကို တစ်လ သတ်မှတ်ချက် အတည်ပြု၍ လေးလနှင့် ဆယ်ရက် ပြည့်အောင် အစ်ဒတ် ဆိုင်းငံ့ရမည်၊ လင်ကွာမိန်းမ၏ အစ်ဒတ်မှာလည်း အကယ်၍ ၎င်းမိန်းမ၌ ပဋိသန္ဓေ ကိုယ်ဝန်ဆောင် လည်းမရှိ၊ ရာသီဓမ္မတာသွေးလည်းမလာသူဖြစ်သော် ပထမလဆန်းတစ်ရက်တွင် တလာက် ရရှိပါက လ၏အရေအတွက်ဖြင့် သုံးလတိတိဆိုင်းရပေမည်၊ အဓိပ္ပါယ်ကား....၂၉-ရက် ရှိသော လဖြစ်စေ၊ ရက်ပေါင်း ၃၀-ရှိသောလဖြစ်စေ တစ်မျိုးတည်းထားသည်ဟု ဆိုလို သည်၊ အကယ်၍ ပထမလဆန်းတစ်ရက်မှာ တလာက်ရရှိသူ မဟုတ်သော် အထက်မှာ ညွှန်ပြခဲ့သည့်ကဲ့သို့ ရက်ပေါင်း ၃၀-စီကို တစ်လသတ်မှတ်၍ သုံးလတိုင် ဆိုင်းငံ့ရမည်ဟု မှတ်ယူရာ၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၅၀၊ ၅၂၇။

၅။ မတ်စ်အလယ်ပြဿနာ။ အကြင်သူက နည်းလမ်းမကျဘဲ နေကာဟ်ပြုခဲ့ မည်၊ ဥပမာ.... သက်သေများ အသင့်မရှိဘဲ နေကာဟ်လက်ထပ်ခြင်း ပြုခဲ့သည်ဖြစ်စေ၊ သို့မဟုတ် ခယ်မနှင့်လက်ထပ်၏၊ ၎င်း၏အစ်မမှာလည်း ယခုတိုင်အောင် သူ၏နေကာဟ်၌ ပင်ရှိ၏၊ ထို့နောက် ၎င်းလင်ယောကျ်ားသေဆုံးသွားလျှင် ဤသို့သော မိန်းမ၏ လင် ယောကျ်ား သေဆုံးပြီးနောက် လေးလဆယ်ရက် အစ်ဒတ် မဆိုင်းငံ့ရသာမက ဓမ္မတာ ရာသီသွေး သုံးကြိမ်လာသည့်တိုင် ဆိုင်းငံ့ရမည်၊ ဓမ္မတာရာသီ မလာခဲ့သော် သုံးလတိုင် အောင် ဆိုင်းရမည်၊ ၎င်းပဋိသန္ဓေနှင့် ဖြစ်သော် ကလေး ဖွားမြင်ပြီးသည့်တိုင်အောင် ဆိုင်းငံ့ရမည်။ ကန်ဇုဒ်ဒကာအစ်ကျမ်း စာမျက်နှာ-၁၄၆။

၆။ မတ်စ်အလယ်ပြဿနာ။ ဝေဒနာ စွဲကပ်လျက်ရှိသော လင်ယောကျ်ားက မိမိမယားကို တလာက်ဘာအင်န် ပေးလိုက်၏၊ ထို့နောက် တလာက်၏ အစ်ဒတ်ရက် အတွင်းမှာပင် လင်ယောကျ်ား သေဆုံးခဲ့သော် ဤအဖြစ်၌ တလာက်၏ အစ်ဒတ်ရက် ဆိုင်းရခြင်းက အခါသမယရှည်ကြာမည်၊ သို့မဟုတ် လင်သေသောအတွက် အစ်ဒတ်ရက် ဆိုင်းငံ့ရခြင်းက အခါသမယ ပိုမို၍ရှည်ကြာမည်ကို ကြည့်ရှုရပေမည်၊ ထိုသို့ကြည့်ရှုပြီး သော် အခါသမယ ပို၍ရှည်ကြာသော အစ်ဒတ်ရက်ကို ဆိုင်းငံ့ရမည်ဟူ၏၊ အဓိပ္ပါယ် ကား.... တလာက်၏ အစ်ဒတ်ရက်က လင်သေသော အတွက် ဆိုင်းငံ့ရမည်၊ သို့တည်း မဟုတ် လင်သေအတွက် ဆိုင်းငံ့ရသော အစ်ဒတ်ရက်က သာပိုခဲ့လျှင် ၎င်းအစ်ဒတ်ပင် ဆိုင်းငံ့ရမည်ဟု ဆိုလိုသည်။

အကယ်၍ဝေဒနာဖြစ်သောအခါတွင် တလာက်ရဂျ်အီပေးပြီးနောက် အစ်ဒတ်ရက် အတွင်း လင်ယောကျ်ား သေဆုံးသွားပါလျှင် ဇနီးမယားဖြစ်သူအပေါ်၌ လင်သေသည့်

အတွက် အစ်ဒတ်ရက်ဆိုင်းငံ့ရန် ထိုက်လေသည်၊ တွလာက်၏အတွက် အစ်ဒတ်ရက်ဆိုင်းရန် မလိုပေ။

ရှရိဟ်ဝေကာယဖ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၄၀။

၇။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူမသည် မိမိ လင်ယောကျ်ား သေဆုံးကြောင်းကို သေဆုံးသောနေ့မှာမသိဘဲ လေးလနှင့်ဆယ်ရက်လွန်ပြီးနောက်မှ သိခဲ့ပါမူ အစ်ဒတ်ရက် ကုန်လွန်ပြီဖြစ်လေသည်၊ သေဆုံးကြောင်း သိပြီးနောက် အစ်ဒတ်ရက်ဆိုင်းရန် မလိုချေ၊ ထိုနည်းတူစွာ မိမိလင်ယောကျ်ားက တွလာက် ပေးသော အခါသမယ နေ့ရက်တွင် တွလာက်ပေးကြောင်း မသိဘဲ ထိုက်သက်သည့်အစ်ဒတ်ရက်လွန်ပြီး နောက်မှ တွလာက်ပေးကြောင်း သိခဲ့လျှင်လည်း အစ်ဒတ်ရက်ပြည့်စုံပြီးဖြစ်လေသည်၊ အသစ်တဖန် ဆိုင်းငံ့ရန် မလိုတော့ပေ။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၁၅၀။

၈။ မတ်စ်အလဟ်ပြဿနာ။ ဇနီး ဖြစ်သူသည် အလုပ်တစ်ခုခုကို ပြုလုပ်ရန် အတွက် အိမ်မှဆင်း၍ တစ်နေရာသို့ သွားနေသောအခါဖြစ်စေ၊ သို့မဟုတ် အိမ်နီးချင်း မိတ်ဆွေ၏ အိမ်သို့ အလည်အပတ် သွားနေသောအခါမှာဖြစ်စေ လင်ယောကျ်ားသည် ကွယ်လွန်သေဆုံးခဲ့သော် ဇနီးမယားသည် အလျင်အမြန် ပြန်၍ လင်ယောကျ်ားသေဆုံးသော နေအိမ်သို့ လာနေရန် ထိုက်လေသည်။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၅၃၂။

၉။ မတ်စ်အလဟ်ပြဿနာ။ လင်သေသောကြောင့် အစ်ဒတ်ရက် ဆိုင်းငံ့ရသော မိန်းမ၏အတွက် စားရေးရိက္ခာ အဝတ်တန်ဆာသည် လင်၏ဥစ္စာပစ္စည်းမှ မသုံးအပ်ပေ၊ မိမိပစ္စည်းမှ မိမိသုံးစွဲ စားသောက်ရပေမည်။

ကို့ဒူရီကျမ်းစာမျက်နှာ-၉၀။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အချို့သောနေရာဌာနတွင် ဇနီးမယားသည် လင်ယောကျ်ား သေဆုံးပြီးနောက် အစ်ဒတ်ရက် ဆိုင်းငံ့ နေထိုင်သကဲ့သို့ ၅-နှစ်တိုင် နေထိုင်သော ထုံးစံရှိလေသည်၊ ၎င်းထုံးစံသည် (ဟရာမ်) ဖြစ်၏။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၈၉။

## အစ်ဒတ်ရက်အတွင်း မပြင်မဆင်ဘဲ ညစ်နွမ်းစွာနေရမည့် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ တွလာက်ရဂျ်အီ ရရှိသောမိန်းမ၏ အစ်ဒတ်ရက် ဆိုင်းရန် နည်းလမ်းမှာ ၎င်းအစ်ဒတ်ရက်အတွင်း အိမ်၏အပြင်သို့မထွက်ရ၊ အခြားသော ယောကျ်ားတစ်ဦးတစ်ယောက်နှင့်လည်း နေကာဟ်လက်ထပ်ခြင်း မပြုအပ်ချေ၊ သို့သော် ထိုမိန်းမသည် မိမိကိုယ်တိုင် (နံ့သာကရမက်မှ စ၍ မည်သည့် အရာမျိုးမဆို) လိမ်းကျံ ပြင်ဆင် ဝတ်စားခြင်း ပိုင်၏။

သုံးတွလာက်ရရှိသောမိန်းမဖြစ်စေ၊ သို့မဟုတ် တွလာက်ဘာအင်န်ရရှိသော မိန်းမဖြစ်စေ၊ သို့မဟုတ် အခြား တစ်မျိုးနည်းဖြင့် နေကာဟ်ပျက်သွားသော မိန်းမဖြစ်စေ၊ သို့မဟုတ် လင်ယောကျ်ားသေဆုံးသော မိန်းမဖြစ်စေ အဆိုပါ မိန်းမအပေါင်းတို့သည် အစ်ဒတ်ရက်မကုန်လွန်မီအတွင်း နေအိမ်မှအပြင်သို့ထွက်ခြင်း၊ သို့မဟုတ်အခြားယောကျ်ားတစ်ဦးတစ်ယောက်နှင့် နေကာဟ်လက်ထပ်ခြင်း၊ သို့မဟုတ် မိမိကိုယ်ကို လိမ်းကျံ ပြုပြင်ဝတ်ဆင်ခြင်းများ (ဟရာမ်)ဖြစ်လေသည်။ ထိုကဲ့သို့ မပြင်မဆင်ဘဲ ညစ်နွမ်းစွာနေခြင်းကို ရှရီအတ်တရားတော်၌ (စိုးဂ်)ဟု ခေါ်ဝေါ်ပညတ်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၃။

၂။ မတ်စ်အလဟ်ပြဿနာ။ မိန်းမဖြစ်သူသည် မိမိအစ်ဒတ်ရက် မကုန်လွန်မီအတွင်း မိမိကိုယ်ကို အမွှေးအကြိုင်လိမ်းခြင်း၊ အဝတ်တန်ဆာမှာအမွှေးအကြိုင်လိမ်းခြင်း၊ ဘယက်တန်ဆာများကိုဆင်ယင်ခြင်း၊ ပန်းပန်ခြင်း၊ စွန်မာသားခြင်း၊ ကွမ်းစား၍ နှုတ်ခမ်းနီစေခြင်း၊ (နှုတ်ခမ်းဆိုးခြင်း၊ ဒန်းဆိုးခြင်း၊ လက်သည်း-ခြေသည်းဆိုးခြင်း) ဦးခေါင်းတွင် ဆီထည့်ခြင်း၊ ခေါင်းဖီးခြင်း၊ ကောင်းမွန်လှပအဖိုးတန်သောပိုးဖဲအဝတ်အထည်တို့ကို ဝတ်ဆင်ခြင်းမှ စ၍ ထိုနည်းတူ အရာများနှင့် လှပ တင့်တယ်စေခြင်းများ (ဟရာမ်)ဖြစ်လေသည်။

အဝတ်သည် အဖိုးလည်း များစွာမတန် လှပသော အရောင်လည်း ရှိခဲ့ပါမူ ထိုအဝတ်ကို ဝတ်ပိုင်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၃။

၃။ မတ်စ်အလဟ်ပြဿနာ။ ဦးခေါင်းတွင် နာကျင်ကိုက်ခဲမှုးဝေခြင်းကြောင့် ဆီထည့်မည် ဆိုလျှင် မမွှေးကြိုင်သော ဆီကို ထည့်ခြင်း ပိုင်၏၊ ထိုနည်းတူစွာ ဆေး၏ အတွက် စွန်မာသားခြင်းလည်း မလွဲသာသော အချိန်မှာ ပိုင်၏၊ သို့ရာတွင် နေ့အချိန်၌ မသားရ၊ ညဥ့်အချိန်၌သာ သားရမည်၊ ၎င်းပြင် ဦးခေါင်းသုတ်သပ်ခြင်း၊ ရေချိုးခြင်း၊ ထိုက်သက်သော အခါမှ ခေါင်းဖီးခြင်းများလည်း ပိုင်၏၊ ဥပမာ.... အကြင်သူမ၏ ဦးခေါင်းတွင် ဆံပင်များရှုတ်ထွေး၍နေမည်၊ သို့မဟုတ် သန်းများ အလွန်များပြားစွာ ရှိနေမည်၊ ထိုအခါ၌ ခေါင်းဖီး ပိုင်သည်၊ သို့သော် ဘီးစိပ် မချရ၊ အသွားစိပ်သော ဘီးနှင့်လည်း မဖီးရ၊ ဘီးသွားကြီး၍ အသွား ကြဲသော ဘီးနှင့် ဖီးရမည်၊ သို့မှသာ လှပခြင်းမဖြစ်ရန် အကြောင်းဖြစ်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၅၃။

၄။ မတ်စ်အလဟ်ပြဿနာ။ ထိုကဲ့သို့ (စိုးဂ်)ခေါ် မပြင်ဆင်ဘဲ ညစ်နွမ်းစွာ နေခြင်းသည် 'ဗာလစ်ဂ်' အရွယ်ရောက်ပြီး သူမအပေါ်မှာ (ဝါဂျစ်ဗ်)ထိုက်၏၊ အရွယ်မရောက်သေးသော သူငယ်မအပေါ်မှာ မထိုက်ချေ၊ ပြုပြင် ဝတ်ဆင်လျက်နေခြင်းမှ စ၍ အထက်ပါ အဆိုအပေါင်း ပိုင်၏၊ သို့သော် ၎င်း'ဗာလစ်ဂ်' အရွယ်မရောက်သေးသော

သူငယ်မပင် ဖြစ်ငြားသော်လည်း အစ်ဒတ်ရက်အတွင်း အိမ်ပြင်သို့ ထွက်ခြင်း၊ အခြား ယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြုခြင်းများမူကား မပိုင်ပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၅၂။

၅။ မတ်စ်အလဟ်ပြဿနာ။ နည်းလမ်းမကျဘဲ နေကာဟ်ပြုသဖြင့် ၎င်း နေကာဟ် ဖျက်ပြီးနောက် အစ်ဒတ်ရက်ဆိုင်းရသောမိန်းမဖြစ်စေ၊ သို့မဟုတ် လင်ယောကျ်ား သေဆုံးပြီးနောက် အစ်ဒတ်ရက်ဆိုင်းရသောမိန်းမဖြစ်စေ၊ ၎င်းတို့နှစ်ဦးမှာ (စိုးဂ်)ခေါ် အမွှေး အကြိုင် အဝတ်တန်ဆာမှ စ၍ မလိမ်းကျံ မဝတ်ဆင်ဘဲ ညစ်နွမ်းစွာ နေခြင်း ဝါဂျစ်ဗ်မဟုတ်ချေ။ ကို့ဒူရီကျမ်း စာမျက်နှာ-၁၈၈။

၆။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားမှတစ်ပါးအခြားသူသေဆုံးခြင်း ဖြင့်(စိုးဂ်)ပြုလုပ်ခြင်းမပိုင်ပေ၊ သို့သော် လင်ယောကျ်ားက မတားဆီး မကန့်ကွက်ခဲ့သော် မိမိဆွေမျိုးညာတိ အရင်းအချာတို့ သေဆုံးသောအခါတွင်လည်း သုံးရက်တိုင် မပြင်ဆင် မဖီးလိမ်းဘဲ ညစ်ညူးစွာနေနိုင်၏၊ ၎င်းသုံးရက်ထက် ပိုမို၍နေခြင်း (ဟရာမ်) ဖြစ်လေ သည်၊ အကယ်၍ လင်ယောကျ်ားက တားဆီးပါလျှင် သုံးရက်တိုင်လည်း ပြင်ဆင်ခြင်း မလွှတ်အပ်ချေ။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၈၉။

# ဇနီးမယား အတွက် စားရေရိက္ခာ အဝတ်တန်ဆာ
## အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယား အတွက် စားရေရိက္ခာ အဝတ်တန်ဆာ သည် ယောကျ်ားကပေးရန်(ဝါဂျစ်ဗ်)တာဝန်ဖြစ်၏၊ အကယ်၍ ဇနီးမယားသည် မည်မျှ ပင် ဥစ္စာနေနှင့်ကုံလုံကြွယ်ဝသူ ဖြစ်ငြားသော်လည်း ၎င်းမယား စားသောက်ဝတ်ဆင်ရန် စရိတ်နှင့် နေထိုင်ရန် အိမ်ဂေဟာ ဆောက်လုပ်ပေးခြင်းများ လင်ယောကျ်ား၏ တာဝန် ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၁၇။

၂။ မတ်စ်အလဟ်ပြဿနာ။ နေကာဟ် လက်ထပ်ပြီး နောက် အခန်းအပ်၍ ကာမစပ်ယှက်ခြင်းမပြုမီ ဇနီးမယားက မိမိစားသောက် ဝတ်ဆင်ရန် စားရေရိက္ခာ အဝတ် တန်ဆာများ ပေးပါဟု လင်ယောကျ်ားထံမှာ တောင်းမည်ဆိုလျှင် တောင်းဆိုနိုင်၏၊ သို့သော် လင်ယောကျ်ားက ကာမစပ်ယှက် ပျော်ပါးလိုသော ဆန္ဒရှိပါလျက် မစပ်ယှက် မပျော်ပါးရမူ ထိုဇနီးသည် စားသောက် ဝတ်ဆင်ရန် စားရေရိက္ခာ အဝတ်တန်ဆာ လင်ယောကျ်ားထံမှ မရထိုက်ချေ။

ဟေဒါယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၁၇။

၃။ မတ်စ်အလယ် ပြဿနာ။ လင်ယောကျ်ားသည် အလွန်ငယ်ရွယ်စွာ အရွယ်မရောက်သေးသော ကာမသံဝါသ မဆက်ဆံနိုင်သည့် ဇနီးမယားကလေးကို အလုပ်အကိုင်ခိုင်းရန်ဖြစ်စေ၊ သို့မဟုတ် စိတ်နှလုံးဖျော်ဖြေရန်ဖြစ်စေ မိမိအိမ်၌ ထားခဲ့ပါမူ ထိုဇနီးမယားအတွက် စားရေရိက္ခာ အဝတ်တန်ဆာလည်း လင်ယောကျ်ားတာဝန်ဖြစ်လေသည်၊ အကယ်၍မိမိအိမ်မှာမထားဘဲ မိန်းကလေး၏မိဘ(အုပ်ထိန်းသူ)အိမ်မှာပင် မိန်းကလေးကိုထားခဲ့သော် လင်ယောကျ်ား၏တာဝန်မဟုတ်ပေ၊ လင်ယောကျ်ားသည် အရွယ်မရောက်သေးသော သူငယ်ကလေးဖြစ်၍ ဇနီးမယားသည် အရွယ်ရောက်ပြီး မိန်းမ ဖြစ်ခဲ့ပါလျှင် ထိုဇနီးမယား အတွက် စားရေရိက္ခာ အဝတ်တန်ဆာသည် အရွယ် မရောက်သေးသော သူငယ် လင်ယောကျ်ားထံမှ ရယူနိုင်သည်ဟူ၏။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၀။

၄။ မတ်စ်အလယ် ပြဿနာ။ လက်ထပ်ပြီးသောနေ့တွင် အနည်းငယ်မျှ မဟ်ရ်ပေးရန် ထုံးစံရှိသော နေရာဌာနဒ္ဒ လင်ယောကျ်ားကလည်းကောင်း၊ မဟ်ရ် ပေးသောကြောင့် ဇနီးမယားသည် လင်ယောကျ်ားအိမ်သို့ မလာဘဲ (မိမိ့မိဘအိမ်မှာနေခဲ့သော်) ထိုဇနီးအတွက် စားရေရိက္ခာအဝတ်တန်ဆာ လင်ယောကျ်ားက ပေးရမည်၊ ညွှန်ပြခဲ့သည့်အတိုင်း မဟ်ရ်ပစ္စည်း မပေးသောကြောင့် မဟုတ်၊ အချည်းနှီး အကြောင်းမရှိဘဲ လင်ယောကျ်ားအိမ်သို့ မလာဘဲ နေခဲ့သော် ထိုဇနီးသည် လင်ယောကျ်ားထံမှ စားရေရိက္ခာ အဝတ်တန်ဆာ မရနိုင်ချေ၊ လင်ယောကျ်ားအိမ်သို့သွားသောအခါမှ ရနိုင်ပေသည်။

ဒွရ်ရေ့ မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၇။

၅။ မတ်စ်အလယ် ပြဿနာ။ ဇနီးမယားသည် လင်၏ အခွင့် အမိန့်နှင့် မိမိမိဘတို့အိမ်မှာ မည်မျှကြာအောင်ပင် နေငြားသော်လည်း ထိုအခါသမယအတွင်း စားရေရိက္ခာ အဝတ်တန်ဆာတို့ကို လင်ယောကျ်ားထံမှ တောင်းယူနိုင်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၆၇။

၆။ မတ်စ်အလယ် ပြဿနာ။ ဇနီးမယားသည် လင်ယောကျ်ားအိမ်၌ ဖြစ်စေ၊ သို့မဟုတ် မိမိ့မိဘအိမ်၌ဖြစ်စေ ရောဂါဝေဒနာ စွဲကပ်လျက် ရှိနေပါလျှင် ထိုဝေဒနာ စွဲကပ်သော အခါကာလအတွင်း ဇနီးမယား အတွက် စားရေရိက္ခာ အဝတ်တန်ဆာကို လင်ကပေးရမည်၊ သို့သော် လင်ယောကျ်ားက ဇနီးမယားသည် မိဘအိမ်၌ရောဂါဝေဒနာ စွဲကပ်နေရာ မိမိအိမ်သို့လာရန် ခေါ်ပါလျက် မလာဘဲနေခဲ့ပါလျှင် လင်ယောကျ်ားထံမှ စားရေရိက္ခာ အဝတ်တန်ဆာ မရနိုင်ချေ၊ ဇနီးမယားသည် လင်ယောကျ်ား ထံမှ စားရေရိက္ခာ အဝတ်တန်ဆာအသုံးအစွဲ ရနိုင်ငြားသော်လည်း ဝေဒနာဖြစ်သောအခါ ဆေးကုသသဖြင့်ကုန်ကျသော စရိတ်ငွေများကို လင်ယောကျ်ားထံမှ မရနိုင်ပေ၊ မိမိဥစ္စာပစ္စည်းမှ

သုံးစွဲရပေမည်၊ သို့သော် ထိုဆေးကုသသည့်အတွက် ကုန်ကျသော စရိတ်ငွေများကို လင်ယောကျ်ားကပေးလိုက်လျှင်လည်း အထူးကျေးဇူးပြုရာ ရောက်လေ၏။

ဒွရ်ရေ့ မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၆၅။

၇။ မတ်စ်အလဟ် ပြဿနာ။ ဇနီးမယားသည် ဟဂ်ျပြုရန် သွားသော အခါ စားရေရိက္ခာ အဝတ်တန်ဆာ ပေးခြင်း လင်ယောကျ်ား တာဝန် မဟုတ်ပေ၊ သို့သော် ဇနီးမယားသွားစဉ် လင်ယောကျ်ားလည်း အတူပါခဲ့သော် အိမ်မှာသုံးစွဲသည်ခန့် စားရေရိက္ခာအဝတ်တန်ဆာလည်း လင်ယောကျ်ားထံမှရနိုင်သည်၊ မိမိအိမ်မှာအသုံးပြုသည်ထက် သာပို၍သုံးလျှင်(လင်ယောကျ်ားတာဝန်မဟုတ်)မိမိပစ္စည်းမှသုံးရမည်။ လေယာဉ်ပျံ၊ မီးရထား၊ သင်းဘော၊ လှေ မှ စ၍ စီးနင်းသွားလာသောအတွက် ကုန်ကျသည့် စရိတ်ကြေးငွေများမှာလည်း လင်ယောကျ်ားတာဝန်မဟုတ်ပေ၊ မိမိပစ္စည်းမှမိမိအသုံးပြုရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၃။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၆၂။

၈။ မတ်စ်အလဟ် ပြဿနာ။ ဇနီးမယားသို့ စားရေရိက္ခာအဝတ်တန်ဆာ ပေးရန်မှာ ဇနီးခင်ပွန်းနှစ်ဦးလုံးတို့အား နှင့် ထိုက်တန်သကဲ့သို့ပေးလိမ့်မည်၊ ဥပမာ....အကယ်၍ ဇနီးခင်ပွန်းနှစ်ဦးလုံး ဥစ္စာဓနနှင့်ကြွယ်ဝသူဖြစ်ကြသော် ဥစ္စာဓနကြွယ်ဝသော သူဌေးတို့ အသုံး ပြုသော စားရေ ရိက္ခာ အဝတ် တန်ဆာ ကဲ့သို့ ဇနီးမယားမှာ ရထိုက်သည်၊ အကယ်၍ ဇနီးခင်ပွန်းနှစ်ဦးလုံးပင် ဆင်းရဲနွမ်းပါးသူဖြစ်ကြသော် သူဆင်းရဲတို့ အသုံးပြုသကဲ့သို့ စားရေရိက္ခာ အဝတ်တန်ဆာ ရပေမည်၊ တိုနည်းတူစွာ လင်ယောကျ်ားက ဆင်းရဲသူဖြစ်၍-ဇနီးမယားက ကုံတန် ကြွယ်ဝသူဖြစ်လျှင်သော်လည်းကောင်း၊ သို့မဟုတ် ဇနီးမယားက ဆင်းရဲ နွမ်းပါးသူ ဖြစ်၍ လင်ယောကျ်ားက ကုံတန်ကြွယ်ဝသူ ဖြစ်လျှင်သော်လည်းကောင်း ဤအဖြစ် နှစ် မျိုး စ လုံး တွင် လင်ယောကျ်ားက ဇနီးမယားသို့ လူကုံတန်တို့ အသုံး ပြုကြသော စားရေ ရိက္ခာ အဝတ် တန်ဆာထက်လည်း လျော့၍ သူဆင်းရဲတို့ အသုံးပြုကြသော စားရေ ရိက္ခာ အဝတ် တန်ဆာထက်လည်း ပိုမိုပြီးလျှင် အလတ်စား စားရေရိက္ခာ အဝတ်တန်ဆာ ပေးရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၂။

၉။ မတ်စ်အလဟ် ပြဿနာ။ ဇနီးမယားသည် ရောဂါဝေဒနာဖြစ်သောကြောင့် အိမ်မှ အလုပ်အကိုင်များ မလုပ်မကိုင်နိုင်သည်ဖြစ်စေ၊ သို့မဟုတ် အိမ်ကြီးအိမ်ကောင်းမှ ဂုဏ်ကျက်သရေရှိသူ မွေးဖွားသောသမီးဖြစ်၍ မိမိလက်နှင့် ထောင်းခြင်း၊ ထုခြင်း၊ ထမင်းဟင်း ချက်ခြင်းများကိုမတတ်၊ ထိုကဲ့သို့အလုပ်ကို အသေးအသိမ် အပြစ်ဆိုဖွယ်ဟုထင်မှတ်သည့် သူမဖြစ်စေ၊ ဤကဲ့သို့ ဇနီးမယားများကို လင်ယောကျ်ားက ထမင်းဟင်းချက်ပြီး ပေးရမည်၊ အကယ်၍ အထက် အဆိုပါအတိုင်း ဇနီးမယား နှစ်မျိုးလုံးမှ လွဲပါလျှင် အိမ်၏ အလုပ်အကိုင်များကို ဇနီးမယားကပင် မိမိလက်နှင့် ပြုလုပ်ရန် တိုက်၏၊ လင်

ယောကျ်ား၏တာဝန်မှာ မယားချက်ပြုတ်စားသောက်ရန် မီးဖို၊ ဆန်စိမ်း ဆီစိမ်းမှ စ၍ မီးဆိုက်ရန် ထင်း၊ စားသောက်ရန် ပန်းကန်ပြားများလည်း ပေးရန်ထိုက်၏၊ ဇနီးမယားသည် မိမိလက်နှင့် ချက်ပြုတ် စားသောက်ရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၀၉၂၊၀၉၃။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ဆီ,ဘီး,ဆပ်ပြာ,ဝိုသွူပြုရန်ရေ,ချိုးရန်ရေများလည်း ဇနီးမယား အသုံးပြုရန် လင်ယောကျ်ားကပေးရန် တာဝန်ဖြစ်၏၊ စွရ်မာ,ဒန်း, ကွမ်း,ဆေးတို့ကို လင်ယောကျ်ားကပေးရန် တာဝန်မဟုတ်ပေ၊ ၎င်းပြင် ဆတ္တာသည်နှင့် ခဝါသည်တို့ အဝတ်ဖွပ်လျှော်ခလည်း လင်ယောကျ်ား၏တာဝန်မဟုတ်ချေ၊ မိမိအဝတ်ကို မိမိလက်နှင့်ဖွပ်လျှော်ရမည်၊ အကယ်၍ မိမိမှာ မထိုက်ဘဲနှင့်ပင် လင်ယောကျ်ားက ပေး လိုက်လျှင် ကျေးဇူးပြုရာပင်ဖြစ်၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၆၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ (ကလေးနို့တိုက်ရန်) နို့ထိမ်းနှင့် ဝမ်းဆွဲမိန်းမတို့၏ကူလီခသည် ခေါ်သူ့အပေါ်၌တာဝန်ဖြစ်၏၊ အဓိပ္ပါယ်ကား.... လင်ယောကျ်ားက ခေါ်ခဲ့လျှင် လင်ယောကျ်ား တာဝန်ဖြစ်၍ မယားကခေါ်လျှင် မယား၏ တာဝန်ဖြစ် သည်ဟူ၏၊ အကယ်၍ မည်သူမျှမခေါ်ဘဲနှင့်လာရောက်ခဲ့သော် လင်ယောကျ်ား၏တာဝန် ဖြစ်လေသည်။

ရှာမီကျမ်းအတွဲ-၂၊ စာမျက်နှာ-၀၉၃။

၁၂။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားသည် မိမိဇနီးမယားကို ၁-နှစ်တွက် သို့မဟုတ် ၁-နှစ်ထက် လျော့၍ သော်လည်းကောင်း၊ ပို၍ သော်လည်းကောင်း ပိုင်းဖြတ်၍ စားရေရိက္ခာအဝတ်တန်ဆာ အသုံးစရိတ် အလျင်က ကြိုတင်ပေးပါလျှင် လင်သေဆုံးသော် ၎င်းစရိတ်များကို ပြန်၍မတောင်းနိုင်ပေ။

ကို့ဒ့ရီကျမ်းစာမျက်နှာ-၁၃၂။

## ဇနီးမယားအတွက် နေအိမ်ရရန်အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားသည် ဇနီးမယား နေထိုင်ရန် အတွက် မိမိသားချင်း ဆွေမျိုးညာတိတစ်ဦးတစ်ယောက်မျှမရှိဘဲ ဇနီးခင်ပွန်းနှစ်ဦးတည်း သာ လွတ်လပ်ကောင်းမွန်စွာ နေထိုင်နိုင်သော နေရာအပိုင်းအခြားတစ်ခု လုပ်၍ပေးရန် တာဝန်ဆိုက်လေသည်၊ သို့သော် ဇနီးမယားသည် မိမိလင်၏ သားချင်းပေါက်ဖော်တစ်စု တို့နှင့်ပင် အတူနေဆိုင်လိုသောဆန္ဒရှိပါလျှင် ထိုသားချင်းပေါက်ဖော်တို့ အတူဆိုင်သော နေအိမ်မှာပင် ဇနီးမယားကို ထားနိုင်၏။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၇၆။

၂။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားသည် ဇနီးမယား၏ ဝတ္ထုပစ္စည်းကိရိယာအသုံးအဆောင်များ၊ သိမ်းဆည်း၍ထားရန် အိမ်ပေါ်၌အခန်းတစ်ခန်း သီးခြားသတ်မှတ်ပြီးလျှင် ပေးရမည်၊ ဇနီးမယားသည် မိမိ၏အသုံးအဆောင် ဝတ္ထုပစ္စည်းများကို ထိုအခန်းတွင်ပင် သိမ်းဆည်း၍ မိမိကိုယ်တိုင်လည်း ၎င်းအခန်းမှာ နေထိုင်ရန် ထိုက်၏၊ အခန်း၏သော့ကိုလည်း ဇနီးမယား၏ လက်ဝယ်မှာထား၍ ထိုအခန်းတွင် အခြားသောသူများမဝင်စေရ၊ ဤကဲ့သို့ဇနီးမယားကိုထားခဲ့ပါလျှင် လင်ယောကျ်ားတာဝန်ကျပါ၏၊ အထက်ပါအတိုင်း လင်က အခန်းသတ်မှတ်၍ပေးပါလျက် မယားသည် မိမိနေထိုင်ရန် တစ်အိမ်လုံး ရလိုသည်ဟု မပြောနိုင်ချေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၈၈။

၃။ မတ်စ်အလဟ်ပြဿနာ။ မယားသည် လင်ထံမှ ၎င်း၏ သားချင်းဆွေမျိုး တစ်ဦးတစ်ယောက်မျှ မနေရဘဲ သီးသန့် နေအိမ်တစ်လုံး တောင်းဆိုနိုင်သကဲ့သို့ လင်ယောကျ်ားလည်း ၎င်းနေအိမ်တွင် ဇနီးမယား၏အမိ,အဖ,မောင်မှစ၍ သားချင်းပေါက်ဖော် တစ်စုံတို့ မနေရန် တားဆီးနိုင်သည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၇၇။

၄။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယားသည်မိမိအမိ-အဖကိုကြည့်ရှုရန်အတွက် ရက်သတ္တပတ်လျှင် တစ်ခေါက်သွားနိုင်သည်၊ မိဘအပြင် အခြားသားချင်းဆွေမျိုးတို့ထံ ၁-နှစ်မှာတစ်ခေါက်သာလျှင်သွားနိုင်ခွင့်ရှိသည်၊ထို့ထက်ပိုမို၍မသွားနိုင်ချေ၊ ထိုနည်းတူစွာ မိဘတို့ကလည်း မိမိတို့သမီးကိုကြည့်ရှုရန်သမီး၏နေအိမ်သို့ရက်သတ္တပတ်မှာတစ်ခေါက် လာနိုင်သည်၊ ထိုကဲ့သို့ ရက်သတ္တပတ်မတိုင်မီအလျှင် ခဏခဏ ဇနီးဖြစ်သူ၏ မိဘများ လာခဲ့ပါမူ လင်ယောကျ်ားက မလာရန် တားဆီးနိုင်ခွင့်ရှိလေသည်၊ အကယ်၍ မယား၏ မိဘများအပြင် အခြားသောသားချင်းပေါက်ဖော်တို့ ၎င်းဇနီးအိမ်သို့လာကြမည်ဆိုလျှင် ၁-နှစ်မှာ တစ်ခေါက်သာလာနိုင်၏၊ ထို့ထက်ပို၍ မိမိတို့အလိုအတိုင်း မလာနိုင်ချေ။

အထက်ဆိုခဲ့သည့်အတိုင်း ဇနီးမယား၏ မိဘများနှင့် သားချင်းပေါက်ဖော်များ လာသောအခါမှာလည်း လင်ယောကျ်ားသဘောမကျပါက၊ ကြာရှည်စွာမနေရန် ပြောဆိုနိုင်ခွင့်ရှိလေသည်၊ သားချင်းပေါက်ဖော် ဆွေမျိုးညာတိဟု ရေးသားဖော်ပြခဲ့သူတို့ကို ၎င်းမိန်းမနှင့် နေကာဟ် လက်ထပ်ခြင်း မပြုအပ်၍ ဟရာမ်ဖြစ်သော အရင်းအချာတို့ကို ဆိုသည်ဟု မှတ်ယူကြပါကုန်။

ရှရီအတ်တရားတော်တွင် နေကာဟ် ဟလာလ်ဖြစ်သူတို့ကို သူစိမ်းနှင့် အတူထားလေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၂၁။
ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၇။

၅။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူဖုသည် မိမိ၏ဖခင် ဝေဒနာစွဲကပ်လျက်ရှိသောအခါ ၎င်းဖခင်က စောင့်ရှောက်ကြည့်ရှုမည့်သူမရှိသောကြောင့် လင်ယောကျ်ားအိမ်မှ ဖခင်အိမ်သို့ သွားမည်ဆိုလျှင် ထိုက်သက့်သည့် အားလျော်စွာ နေ့အချိန်၌ သွားနိုင်လေ၏၊ အကယ်၍ ၎င်းဖခင့်သည် အမျိုးခြား ကာဖွင်ရ်ဖြစ်ငြားသော်လည်း သွားနိုင်လေသည်။ ထိုကဲ့သို့သွားခြင်းကို လင်ယောကျ်ားဖြစ်သူက မတားဆီးနိုင်ချေ၊ အကယ်၍ လင်က မသွားရန် တားဆီးပိတ်ပင်မှုလည်း ဇနီးမယားသည် မိမိအလိုသဘော အတိုင်းအခါ့ ထံသို့သွားနိုင်သည်ဟူ၏၊ သို့သော် လင်ကတားဆီးပါလျက် မယားက မနေဘဲ သွားခဲ့ပါလျှင် ထိုကာလတွင် မယား အတွက် စားရေရိက္ခာ အဝတ်တန်ဆာ အသုံးအဆောင်များပေးရန် လင်၏တာဝန်မဟုတ် ဖြစ်သွားလေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ ၉၁၅။

၆။ မတ်စ်အလဟ်ပြဿနာ။ ဇနီးမယားသည် အခြားသူတစိမ်းတို့အိမ်သို့ သွားရန်မထိုက်ပေ၊ အကယ်၍ ရှာဒီလက်ထပ်ပွဲမှစ၍ အခြားကိစ္စများ၌ သွားလာလိုလျှင်လည်း မသွားအပ်ချေ၊ လင်ယောကျ်ားသွားရန် အခွင့်ပြုငြားသော်လည်း မသွားပိုင်ချေ၊ အခွင့်ပေးသည့်အတွက် လင်ယောကျ်ားအပေါ်မှာ အပြစ် ဂိုနာဟ်ဖြစ်၏၊ အချုပ်စကားမှာ အလှုအတန်း ပရိသတ်အစည်းအဝေး ပြုလုပ်သောအခါသမယတွင် မိမိ၏ အရင်းအချာ (မဟ်ရမ်) ဆွေမျိုးများထံသို့ သွားခြင်းလည်း မပိုင်ချေ။

ရှာမီကျမ်းအတွဲ-၂၊ စာမျက်နှာ-၉၁၅။

၇။ မတ်စ်အလဟ်ပြဿနာ။ လင်ယောကျ်ားထံမှ တွလာက်ရရှိပြီးသောမိန်းမသည် အစ်ဒတ်ရက်အတွင်း ၎င်းထံမှစားရေရိက္ခာ အဝတ်နှင့်နေအိမ်ရထိုက်သည်၊ သို့သော် လင်သေဆုံးသောမိန်းမမှာ စားရေရိက္ခာအဝတ်မှစ၍အားလုံးမရနိုင်ပေ၊ ဟုတ်ပါ၏ လင်၏ပစ္စည်း ထိုက်သက်သည်အတိုင်း အမွေပစ္စည်း မယားမှာ ရပေမည်။

ကို့ဒူရီကျမ်းစာမျက်နှာ-၁၉၀။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ နေကာဟ်လက်ထပ်ခြင်းသည် မယားအတွက်ပျက်မည်၊ ဥပမာ....ဇနီးမယားသည် မိမိ၏လင်ပါ့ သားနှင့် မကောင်းပြုကျင့်သည် ဖြစ်စေ၊ သို့မဟုတ် ထိုလင့်ပါ့သားကို ကာမဂုဏ်စိတ်ထားနှင့် ဆွဲကိုင်မှုသည့်အတွက် လင်ဖြစ်သူက တွလာက်ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် ဇနီးမယားလည်း ကာဖွင်ရ်ဖြစ်သွားသောကြောင့် နေကာဟ်ပျက်သည်ဖြစ်စေ ဤအဖြစ်အပေါင်းတို့တွင် အစ်ဒတ်ရက်အတွင်းမှာ ဇနီးဖြစ်သူသည် စားရေရိက္ခာ အဝတ်တန်ဆာ မရနိုင်ချေ၊ သို့သော် နေရန် အိမ်ရပေမည်၊ အကယ်၍ ဇနီးမယားသည် မိမိအလိုအလျောက်ပင် ထွက်သွားခြင်းပြုခဲ့သော် ထိုဇနီးကို လင်ယောကျ်ားက တစ်စုံတစ်ရာပေးရန် မလိုချေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၉၀။

# မွေးဖွားသော ကလေး၏ ဟလာလီ ဖြစ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ လင်ရှိဇနီးမယားမှ မည်သည့်အခါ ကလေးမွေးဖွားခဲ့သော် ထိုကလေးကိုငင်းလင်၏ကလေးဟုဆိုရပေမည်၊ တွမ်စုံတစ်ရာဒ္ဒိဟာဖြင့်ထိုကလေးသည် အခြားမည်သူတစ်ဦးတစ်ယောက်၏ကလေးဖြစ်သည် (ဟာရာမ်)ဖြစ်သည်ဟု မဆိုသင့်ချေ၊ အကယ်၍ အစ္စလာမ်ဘုရင် အုပ်စိုးသောတိုင်းပြည်ဖြစ်ပါလျှင် ထိုကဲ့သို့စွပ်စွဲပြောဆိုသူကို ကြိမ်ဒဏ် ရိုက်နှက်ရမည်။ မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၈၇။

ဖွတာဝါဟင်န်ဒီယာဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ ၂၅၂။

၂။ မတ်စ်အလဟ်ပြဿနာ။ ပဋိသန္ဓေတည်နေခြင်း၏ အ ခါ သ မ ယ သည် အနည်းဆုံး ၆-လ ဖြစ်၍ အများဆုံး ၂-နှစ် ဖြစ်လေသည်၊ အဓိပ္ပါယ်ကား.... ကလေးသည် အနည်းဆုံး အခါသမယ ၆-လတိုင် မိခင်ဝမ်းဗိုက်မှာ ကိန်းအောင်းပြီး နောက်ဖွားမြင်နိုင်သည်၊ ၎င်း၆-လထက်လျော့၍ မဖွားမြင်နိုင်ချေ၊ ထိုနည်းတူစွာ ကလေးသည် အများဆုံး အခါသမယ ၂-နှစ်တိုင် မိခင်ဝမ်းတွင်းမှာ ကိန်းအောင်း၍ နေနိုင်သည်၊ ၎င်းထက်ပို၍မနေနိုင်ချေ။ ဒွရ်မွေ့ခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၆၁။

၃။ မတ်စ်အလဟ်ပြဿနာ။ ရှရီအတ်တရားတော်၏ ပညတ်ချက် အားရှိသည်မှာ.... မည်သည့်တိုင် စွမ်းနိုင်ခဲ့သော် ကလေးကို (ဟာရာမီ)ဟု မဆိုရ၊ အဘယ်နည်းနှင့်မျှ ၎င်းကလေး၏ အဖ, ရှာဖွေ၍ မရသောအခါမှ ဟာရာမီဖြစ်သည်ဟု ပညတ်ပေးရမည်၊ ထိုအခါ ကလေး၏မိခင်ကိုလည်း အပြစ်ဂိုနာဟ်မကင်းဟု အတည်ထားရမည် ဟူ၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၅၃၆။

၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူက မိမိဇနီး မယားကို တွလာက်ရဂျ်အီပေးပြီးနောက် ၂-နှစ်ထက်လျော့သောအခါသမယအတွင်း၌ ထိုဇနီးက ကလေးဖွားမြင်ခဲ့ပါလျှင် ၎င်းကလေးကို တွလာက်ပေးသူ၏ကလေးဟုဆိုရမည်၊ ထိုကလေးကို ဟာရာမီဟု မဆိုသင့်ပေ၊ ရှရီအတ်တရားတော်အရ ကလေး၏ဖခင်အတည်ဖြစ်၏၊ ၎င်း ၂-နှစ်ထက်လျော့၍ ဆိုသော စကားမှာ အကယ်၍ ၂-နှစ်ပြည့်ရန် တစ်ရက်ထည်း လိုခဲ့လျှင်လည်း ဤပညတ်အတိုင်းဖြစ်၏၊ ကလေးကိုတွလာက်မပေးမီက ရရှိသော သန္ဓေဖြစ်၍ ၂-နှစ်တိုင် မိခင်ဝမ်းတွင်းမှာ ကိန်းအောင်းသည်ဟု ဆိုရမည်၊ ၎င်းမိန်းမသည် ကလေးမွေးဖွားပြီးသောအခါ မိမိအစ်ဒတ်ရက် ကုန်၍ နေကာဟ်မှ ကင်းကွာ ပြတ်စဲပြီဟု မှတ်ယူရာသည်၊ သို့သော် အထက်ဖော်ပြခဲ့သော တွလာက်ရဂျ်အီ ရရှိသည့်မိန်းမသည် မိမိသန္ဓေမဖွားမြင်မီကပင် ကျွန်မ အစ်ဒတ်ရက် ကုန်ပြီးပါပြီဟုမြွက်ဆိုခဲ့ပါလျှင် မစွမ်းနိုင်သောအကြောင်းကြောင့် ထိုအခါ၌ ကလေးကို(ဟာရာမီ)ဟုဆိုရပေမည်၊ ဤကဲ့သို့မဟုတ်ဘဲ ၂-နှစ်ကျော်လွန်သည်တိုင် မိမိ အစ်ဒတ်ရက် ကုန်ကြောင်း မမြွက်ဟဘဲ ကလေး မွေးဖွားခဲ့ပါလျှင် ၂-နှစ်ကျော်လွန်မှ မွေးဖွားငြားသော်လည်း (ထိုကလေးကို ဟာရာမီဟုမဆိုရပေ) တွလာက်

ရဂျ်အီပေးသော လင်ယောကျ်ား၏ ကလေးဟုဆိုရန်ထိုက်၏၊ မည်မျှပင်နှစ်ပရိစ္ဆေဒလွန်ငြားသော်လည်း ဤပညတ်အတိုင်းမှတ်ယူရာသည်၊ ၎င်းအထက်မှာ ညွှန်ပြသကဲ့သို့ ဇနီးမယားက အစ်ဒတ်ရက်ကုန်လွန်ကြောင်းမမြွက်ဆိုဘဲနှင့်ကလေးမွေးဖွားပါလျှင် ထိုကလေးကို တွလာက်ရဂျ်အီပေးသော လင်ယောကျ်ားက အစ်ဒတ်ရက်အတွင်း တဖန်ပြန်၍ မိမိဇနီးနှင့် ကာမသံဝါသ ဆက်ဆံပေါင်းသင်းသောကြောင့်သာ ဤကလေးမွေးဖွားသည်၊ ၎င်းတို့ ဇနီးခင်ပွန်းနှစ်ဦး နေကာဟ်မပျက်ဟု မှတ်ယူရာသည်၊ အကယ်၍ ယောကျ်ားဖြစ်သူက ထိုကလေး မိမိကလေး မဟုတ်သော် ကျွန်ုပ်ကလေးမဟုတ်ဟု မြွက်ဆိုရမည်၊ ထိုကဲ့သို့ ဇနီးခင်ပွန်းနှစ်ဦး အငြင်းအခုံ ရှိသောအခါ (လေအာန်)၏ အမိန့်ပေးရမည်၊ (လေအာန်၏အကြောင်း ဖေါ်ပြခဲ့လေပြီ)။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ-၁၅၆။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ လင်ယောကျ်ားက ဇနီး မယားကို တွလာက်ဘာအင်န် ပေးခဲ့ပါလျှင် ထိုသို့ပေးပြီးနောက် ၂-နှစ်အတွင်း ကလေးမွေးဖွားပါက ၎င်းကလေးကို တွလာက်ပေးသူ၏ကလေးဟုဆိုရမည်၊ အကယ်၍ ၂-နှစ်ကျော်လွန်ပြီးသည့်နောက်မှ မွေးဖွားခဲ့သော် ၎င်းကလေးကို (ဟရာမီ)ဟု ဆိုရပေမည်၊ သို့သော် ၂-နှစ်ကျော်လွန်ပြီးနောက်မှ ကလေးမွေးဖွားသောအခါမှာလည်း ပထမ လင်ဖြစ်သူက မိမိကလေးဘဲဟု မြွက်ဆိုခဲ့ပါလျှင် ဟရာမီ မဖြစ်ချေ၊ (ဟလာလီ) ဖြစ်၏၊ ထိုအခါ၌ လင်ယောကျ်ားသည် အစ်ဒတ်ရက်အတွင်း၌ မိမိ တွလာက်ပေးပြီး မယားကို မေ့မှား၍ ကာမစုပ်ယှက်သောကြောင့် ပဋိသန္ဓေရှိသည်ဟု မှတ်ယူရမည်။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၅၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ဗာလစ်ဂ် အရွယ်ရောက်ရန် နီးသော သူငယ်မသည် ၎င်းအရွယ် မရောက်မီ (မိမိလင်က တွလာက် ပေးသဖြင့်) တွလာက် ရရှိခဲ့သော် ၎င်းတွလာက်ကို ရပြီးနောက် ကိုးလပြည့်သောအခါ ကလေး မွေးဖွားပါက ထိုကလေး (ဟရာမီ)ဖြစ်၏၊ အကယ်၍ ကိုးလ မပြည့်မီမွေးဖွားခဲ့ပါလျှင် ဟရာမီမဟုတ် တွလာက်ပေးသော လင်၏သား ဖြစ်လေသည်၊ ထိုနည်းတူစွာ သူငယ်မသည် မိမိ အစ်ဒတ်ရက် သုံးလအတွင်း ကျွန်မမှာ ပဋိသန္ဓေကိုယ်ဝန်ဆောင်ရှိပါသည်ဟု မြွက်ဆိုခဲ့သော် တွလာက် ရပြီးနောက် ၂-နှစ်အတွင်း ကလေး ဖွားမြင်ပါက ၎င်းကလေးကို တွလာက်ပေးသော လင်၏သားဟု ဆိုရမည်၊ ဟရာမီ မဟုတ်ချေ။

ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၄၁၁။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၅၈။

၇။ မတ်စ်အလဟ် ပြဿနာ။ လင်ယောကျ်ား သေဆုံးသွားသော မုဆိုးမသည် ၎င်းလင်ယောကျ်ား သေဆုံးပြီးနောက် ၂-နှစ်အတွင်း ကလေးဖွားမြင်ပါက ထိုကလေး

ဟာရာမိမဖြစ်ပေ၊ သေဆုံးသော လင်ယောကျ်ား၏သား ဖြစ်သည်၊ သို့သော် ၎င်းမိန်းမသည် မိမိ အစ်ဒတ်ရက်ကုန်လွန်ကြောင်း မြွက်ဆိုပြီးမှကလေးမွေးဖွားခဲ့သော်ထိုအခါမတာတ်သာ သောအကြောင်းကြောင့် ကလေးကို ဟာရာမိဟုဆိုရပေမည်၊ထိုနည်းတူစွာ လင်ယောကျ်ား သေဆုံးပြီးနောက် ၂ နှစ်ကျော်မှ ကလေးမွေးဖွားခဲ့လျှင်လည်း ထိုကလေး ဟာရာမိဖြစ်၏။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၀၉။

ညွှန်ပြချက်။ အထက်ပါ(မတ်စ်အလဟ်)များဖြင့် သိနားလည်ကြပြီးမဟုတ်ပါ လော၊ အချို့သော ဂျာဟင်လ် မိန်းမမိုက်တို့သည် လင်ယောကျ်ား သေဆုံးသော ဇနီး မယားမှ လင်ယောကျ်ားသေဆုံးပြီးနောက် ကိုးလမှ တစ်လ, နှစ်လမျှကျော်လွန်သောအခါ ကလေးမွေးဖွားခဲ့သော် ထိုမိန်းမကို မကောင်းကျင့်သည်ဟု အထင်ရှိကြလေသည်၊ ၎င်း ကဲ့သို့ အထင်ရှိခြင်းများစွာ အပြစ်ဖြစ်၏။

၈။ မတ်စ်အလဟ်ပြဿနာ။ ။(အကြင်သူမသည်ယောကျ်ားတစ်ယောက်နှင့်) နေကာဟ်ထိမ်းမြားပြီးနောက် ခြောက်လမတိုင်မီကလေးဖွားမြင်ခဲ့သော် ထိုကလေးဟာရာမိ ဖြစ်၏၊ အကယ်၍ ခြောက်လပြည့်သောနေ့တွင်သော်လည်းကောင်း၊သို့မဟုတ် ၆-လသာက် ကျော်လွန်မှသော်လည်းကောင်းကလေးမွေးဖွားခဲ့သော်(ထိုကလေးသည်ဟာရာမိမဖြစ်ပေ) လက်ထပ်သောလင်ယောကျ်ား၏သားဖြစ်သည်၊ဤပညတ်အပေါ်၌ ဒွိဟမရှာင်း ဖြစ်ခြင်း လည်း များစွာ အပြစ်ဂိုနာဟ်ဖြစ်သေသည်၊ သို့သော် လင်ယောကျ်ားက မွေးဖွားသော ကလေးသည် ကျွန်ုပ်၏သားမဟုတ်ဟုမြွက်ဆိုလျှင်(လေအာန်)၏ပညတ်ပေးရပေမည်။

ကို့ဒူရီကျမ်း စာမျက်နှာ ၁၀၉။

၉။ မတ်စ်အလဟ်ပြဿနာ။ ။နေကာဟ်လက်ထပ်ပြီးနောက် ဇနီးခင်ပွန်းနှစ်ဦး တို့ အတူမနေသေးကြမီ ကလေးဖွားမြင်ခဲ့သော် ထိုကလေးသည် ဟာရာမိမဟုတ်၊ လင် ယောကျ်ား၏သားဖြစ်လေသည်၊ ၎င်းကလေးကို ဟာရာမိဟု မဆိုအပ်ပေ၊ အကယ်၍ လင် ယောကျ်ားသည် မိမိသား မဟုတ်ခဲ့သော် မဟုတ်ကြောင်း ငြင်းဆိုရမည်၊ ၎င်းကဲ့သို့ ငြင်းသောအခါ (လေအာန်)၏ ပညတ်ပေးရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ ၅၃၆။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ။လင်ယောကျ်ားသည် မိမိဇနီးမယားခွဲ၍ အလွန် ဝေးကွာသော တိုင်းတစ်ပါးသို့ နှစ်ပရိစ္ဆေဒပေါင်း များစွာသွား၍ နေထိုင်စဉ် ဇနီး မယားမှာ ကလေး မွေးဖွားခဲ့သော် ထိုကလေးကိုဟာရာမိဟုမဆိုရ၊ ၎င်းလင်ယောကျ်ား၏ သားဟု ဆိုရမည်၊ သို့သော် လင်ယောကျ်ားသည် မိမိဇနီးမယား ကလေးဖွားမြင်သော သတင်းကြားရသောအခါ မိမိသားမဟုတ်ကြောင်း ငြင်းပယ်ခဲ့လျှင် ထိုအခါ(လေအာန်) ၏ ပညတ် ပေးရမည်။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၂၆၃။

# သား သမီးတို့အား အုပ်ထိန်း ကျွေးမွေးခြင်းအကြောင်း

၁။ မတ်စ်အလယ်ပြဿနာ။ ။ဇနီး ခင်ပွန်း နှစ်ဦးတို့ ကွာရှင်းကြသောအခါ သား သမီး ကြွင်းကျန်လျက်ရှိပါလျှင် ထိုသားသမီးများ၏ အုပ်ထိန်းကျွေးမွေးရန်ဝတ္တရားသည် မိခင်မှာသာထိုက်၏၊ ဖခင်ဖြစ်သူက ၎င်းကလေးတို့ကို အတင်းအဓမ္မ မယူနိုင်ပေ၊ သို့သော် ၎င်းကလေးတို့၏ အတွက် သုံးစွဲရန် စရိတ် အပေါင်းကို လင်ယောကျ်ားက ပေးရမည်၊ အကယ်၍ မိခင်ဖြစ်သူသည် မိမိသားငယ် သမီးငယ်တို့ကို မအုပ်ထိန်းလိုသောကြောင့် ဖခင်ဖြစ်သူ၏လက်သို့ သားသမီးငယ်တို့ကို အပ်နှင်းလိုပါလျှင် ဖခင်ဖြစ်သူက ၎င်းကလေးများကို ယူထားရမည်၊ မိခင်လက်သို့ ကလေးများကို အတင်းအဓမ္မပြန်၍ မပေးနိုင်ပေ။ ဟေဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၄၁၄။

၂။ မတ်စ်အလယ်ပြဿနာ။ ။မိခင်သေဆုံး၍မရှိသောအခါ၌ဖြစ်စေ၊ သို့မဟုတ် မိခင်မရှိငြားသော်လည်း မိခင်က မိမိသားငယ် သမီးငယ်တို့ကို မအုပ်ထိန်းလို့ကြောင်း ငြင်းဆိုသောအခါ၌ဖြစ်စေ၊ ၎င်းမိခင်၏အမိဖြစ်သော အဘွားက ထိုကလေးတို့ကို အုပ်ထိန်းရန်ထိုက်သည်၊ ထိုအဘွားမရှိက ၎င်း၏ အမိအဘွားမက အုပ်ထိန်းရမည်၊ အထက်ဆိုခဲ့သည့် အဘွားအနေနှင့်ဘွားမတို့မရှိကြလျှင်သော်လည်းကောင်း၊ သို့မဟုတ် ရှိကြငြား သော်လည်း မအုပ်ထိန်းလိုကြလျှင် သော်လည်းကောင်း ထိုအခါ အဘ၏အမိဖြစ်သော အဘွား၊ ၎င်းနောက် ထိုအဘွား၏ အမိဖြစ်သော ဘေးမတို့ အုပ်ထိန်းရန် ထိုက်သည်၊ အကယ်၍ ဤဘွားမ ဘေးမတို့လည်း မရှိကြပြန်မူ ဘစုံမိစုံအစ်မများကမိမိမောင် (ညီမ)ကို အုပ်ထိန်းရန်ထိုက်၏၊အကယ်၍ အစ်မ အရင်းအချာများအားလုံး မရှိပြန်မူ မိစုံဘကွဲ အစ်မများ၊ ၎င်းတို့လည်းမရှိပြန်မူ၊ အမိ၏အစ်မ ညီမဖြစ်ကြသောဒွေးလေးဒွေးကြီးများ၊ ၎င်းတို့လည်း မရှိပြန်မူ အဘ၏ အစ်မ နှမဖြစ်ကြသော အရီးကြီး အရီးလေးများက အုပ်ထိန်းထိုက်သည် ဟူ၏။ ရှရ်ဟ်ဝကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၆၈။

၃။ မတ်စ်အလယ်ပြဿနာ။ ။အကယ်၍ကလေး၏မိခင်သည်ကလေးနှင့်(မဟ်ရမ်)ဆွေမျိုးရင်းချာမဟုတ်သော သူစိမ်းယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြုလိုက်သော် ယခုမိခင်ဖြစ်သူသည် ကလေးကို အုပ်ထိန်းနိုင်ခွင့်မရှိပေ၊ သို့သော် ၎င်းကလေးနှင့် မဟ်ရမ်ဆွေမျိုးရင်းချာအနက်တစ်ဦးဦးနှင့် နေကာဟ်ပြုခဲ့သော်၊ဥပမာ ..ကလေး၏အဖနှင့်ညီရင်းအစ်ကိုဖြစ်ကြသော ဘကြီး ဘထွေးမှစ၍ ထိုကဲ့သို့သူတစ်ဦးတစ်ယောက်နှင့်နေကာဟ်ပြုခဲ့မူ မိခင်၏ အုပ်ထိန်းခွင့်ရှိသည်။

၎င်းမိခင်၏အပြင် အခြားမိန်းမများ၊ ဥပမာ ကလေး၏အစ်မ၊ ဒွေးလေးမှ စ၍ ထိုနည်းတူ မိန်းမဘို့သည် သူစိမ်းယောကျ်ားနှင့် နေကာဟ်ပြုခဲ့မူ ထိုပြဋ္ဌာန်းချက်မှာလည်း အထက်ပါပြဋ္ဌာန်းချက်အတိုင်း ကလေးကိုအုပ်ထိန် နိုင်ခွင့်မရှိဟု မှတ်ယူရမည်။

ရှရ်ဟ်ဝကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၉၆။

၄။ မတ်စ်အလဟ်ပြဿနာ။ (သားငယ်သို့မဟုတ်သမီးငယ်ရှိသော မိန်းမတစ်ဦးတစ်ယောက်သည်) ၎င်းသားငယ်သမီးငယ်တို့နှင့် မဟ်ရမ် ဆွေမျိုး အရင်းအချာ မဟုတ်သော ယောကျ်ားတစ်ဦးတစ်ယောက်နှင့်နေကာဟ်လက်ထပ်သောကြောင့်မိခင်ဖြစ်သူသည် ၎င်းသားငယ်နှင့်သမီးငယ်တို့ကိုအုပ်ထိန်းခွင့်ပျက်သွား၏၊ သို့သော်ထိုဒုတိယလင်ယောကျ်ားက ကွာရှင်းလျှင်သော်လည်းကောင်း၊ သို့မဟုတ် ဒုတိယ လင်ယောကျ်ား သေဆုံးလျှင်သော်လည်းကောင်း မိခင်ဖြစ်သူသည် တဖန်ပြန်၍ သားငယ်သမီးငယ်တို့ကို အုပ်ထိန်းနိုင်ခွင့်ရှိလာပြန်လေသည်။ ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၆၉။

၅။ မတ်စ်အလဟ်ပြဿနာ။ ။ကလေး၏ ဆွေမျိုးအရင်းအချာများမှ တစ်ဦးတစ်ယောက်သောမိန်းမ အုပ်ထိန်းထိုက်သူမရှိလျှင် ထိုအခါ ကလေး၏အုပ်ထိန်းရန် အဘဖြစ်သူသာ၍ထိုက်၏၊ ၎င်းအဘမရှိပါလျှင် အဘ၏အဘဖြစ်သောအဘိုး၊ ၎င်းမရှိပြန်လျှင် အထက်သို့အစဉ်အတိုင်း ဘေးဘီတို့မှစ၍ နေကာဟ်အခန်းတွင် ညွှန်ပြခဲ့သော ဝလီများ အုပ်ထိန်းထိုက်၏၊ သို့သော် ဆွေမျိုး အရင်းအချာ (မဟ်ရမ်) မရှိဘဲ အရင်းအချာ မဟုတ်သော (နာမဟ်ရမ်) ဆွေမျိုးသာလျှင် ကြွင်းကျန်ခဲ့သော် ထိုအခါ ကလေးဖြစ်သူကို၎င်း (နာမဟ်ရမ်) ဆွေမျိုးလက်သို့ အုပ်ထိန်းရန်အပ်လျှင် ကလေး၏ဥစ္စာပစ္စည်းများ ပျက်စီးလိမ့်မည်ဟု စိုးရိမ်ဘွယ်ရှိပါကသီလ,သမာဓိနှင့် ပြည့်စုံရှိုးဖြောင့်သောသူ၏လက်သို့ ၎င်းကလေးကို အုပ်ထိန်းရန် အပ်ရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းအတွဲ-၂၊စာမျက်နှာ- ၁၆၉။

၆။ မတ်စ်အလဟ်ပြဿနာ။ ။သူငယ်ကလေးသည် (၇) နှစ်အရွယ်သို့ မတိုင်ရောက်မီ အုပ်ထိန်းခွင့် မလွှတ်သေးပေ၊ ၎င်းခုနစ်နှစ်အရွယ်သို့တိုင်ရောက်သောအခါ ဖခင်ဖြစ်သူက အုပ်ထိန်းသူထံမှ အဘင်းအဓမ္မယူနိုင်သည်၊ ထိုနည်းတူစွာ သူငယ်မကလေးမှာမူကား ကိုးနှစ်တိုင် အုပ်ထိန်းခွင့် မလွှတ်သေးပေ ၎င်းကိုးနှစ်ကျော်လွန်မှ ဖခင်ဖြစ်သူက ယူနိုင်သည် ဟူ၏။ ရှရှ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၁၇၀။

## လင်ယောကျ်ားအတွက်ဇနီးဖြစ်သူကဆောင်ရွက်အပ်သော ဝတ္တရားများ၊ အကြောင်း၊

၁။ မတ်စ်အလဟ်ပြဿနာ။ ။(အမျိုးသမီးအပေါင်းတို့ သိသာကြရန်မှာ)မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ( ဇနီးမယားအပေါ်တွင်) လင်ယောကျ်ားအတွက် ဆောင်ရွက်ရန် ဝတ္တရားများစွာထားတော်မူ၍ ၎င်းလင်ယောကျ်ားကို(ဇနီးများထက်) အကြီးအကဲပြုတော်မူလေသည်၊ (သို့အတွက်ကြောင့်အမျိုးသမီးအပေါင်းတို့သည်) မိမိလင်ယောကျ်ားကို ကျေနပ်နှစ်သက်ဖွယ် ထားခြင်းသည် အလွန်ကောင်းမြတ်သော အဇဗါဒတ်ဖြစ်၍ ထိုလင်ယောကျ်ားကို မကျေမနပ်ဖြစ်အောင် ပြုလုပ်ခြင်းသည်ကား အလွန်ကြီးသော အပြစ်ဂိုနာဟ်ဖြစ်၏။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ ...အကြင် မိန်းမသည် နမာဇ်ငါးကြိမ်ကို မပြတ်ဖတ်၍ ရမသွာန်လ၏ ရိုဇာဟ်ဥပုသ်ကိုလည်း စောင့်ထိန်းပြီးလျှင် မိမိကိုယ်ကိုလည်း နှိမ့်ချလျက် ၎င်းလင်ယောကျ်ား၏အမိန့်ကိုလည်းမဖေါက်မပြန် နာခံခဲ့မူ ထိုမိန်းမသည် ဂျန္နတ်သုခဘုံ၏ တံခါးရှစ်ပေါက်အနက်မှ အလိုရှိသောတံခါးက မဆိုင်းငံ့ဘဲ ဝင်ရောက်နိုင်ပေမည်။

ထို့ပြင် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် မိန့်တော်မူသည်မှာ အကြင်သူမသည် မိမိလင်ယောကျ်ား ကျေနပ်သော အခါသမယ၌ သေဆုံးပါလျှင် ထိုသူမသည် ဂျန္နတ်သုခဘုံ သူမဖြစ်သည်ဟူ၏။

၎င်းပြင် တဖန် ကိုယ်တော်မြတ်မိန့်တော်မူသည်မှာ အကယ်၍ ငါကိုယ်တော်မြတ်သည် အလ္လာဟ်အသျှင်မြတ်အပြင်အခြားသူကိုအဒဗ်၏(စစ်ဂျဒဟ်)ဦးချရန်ခိုင်းနိုင်းခဲ့ပါမူ ဇနီးဖြစ်သူတို့အား လင်ယောကျ်ားကို ဦးချရန်ခိုင်းခဲ့မည်၊ သို့အတွက် ဇနီးဖြစ်သူသည် မိမိလင်ယောကျ်ားက တောင်တစ်တောင်မှ ကျောက်များကို အခြား ဒုတိယ တောင်တစ်တောင်သို့ ယူပို့ရမည်၊ ၎င်းဒုတိယတောင်မှကျောက်များကိုတတိယတောင်သို့ ယူပို့ရမည်ဟု စေခိုင်းခဲ့သော် ဇနီးမယားသည် လင် အမိန့် ပေးသည့် အတိုင်း လိုက်နာဆောင်ရွက်ရမည်။

တဖန် တမန်တော်မြတ်မိန့်သည်မှာ မည်သည့်အခါ လင်ယောကျ်ားက မိမိဇနီးမယားကို အလုပ်ပြုရန်အတွက်ခေါ်ခဲ့မူ ဇနီးမယားသည် အကယ်၍မီးဖိုတွင် ထမင်းဟင်းချက်ပြုတ်လျက် ဖြစ်ငြားသော်လည်း မိမိအလုပ်ကိုလွှတ်၍ လင်ယောကျ်ား ခေါ်ရာသို့ လာရမည်၊ အလိုသဘောမှာ ဇနီးမယားသည် မည်မျှပင်အရေးကြီးသောအလုပ်ကိုပြုလုပ်လျက် နေငြားသော်လည်း လင်ယောကျ်ားခေါ်ရာသို့ မငြင်းဆန်ဘဲ လာရမည်ဟူ၏။

တဖန် မိန့်တော်မူပြန်သည်မှာ— မည်သည့်အခါ လင်ယောကျ်ားက မိမိထံတွင် အတူအိပ်စက်ရန် ဇနီးမယားကို ခေါ်ပါလျက် ဇနီးမယားသည် လင်ခေါ်သည့်အတိုင်း မလာသောကြောင့် လင်ယောကျ်ားသည် စိတ်နှစ်လုံး မကျေမနပ် ဒေါသဖြစ်ခဲ့သော် နံနက်လင်းသည့်တိုင် (မလာအေကာဟ်) ကောင်းကင်တမန်များက မိန်းမ အပေါ်၌ (လအ်နတ်) ပြုကြသည် ဟူ၏။

တဖန် မိန့်တော်မူသည်မှာ— အကြင်မိန်းမသည် ဒုန္နယာလောကတွင် မိမိ လင်ယောကျ်ားကို ညှဉ်းပန်း နှိပ်စက်ခဲ့သော် နောင် (ကေယာမတ်)၌ ထိုယောကျ်ား၏ (ဟူရ်) ကညာဖြစ်မည့် ဇနီးတို့က ၎င်းမိန်းမကို ဤသို့ပြောဆိုကြအံ့၊ အေမည်သည့်သူမ အလ္လာဟ်အသျှင်မြတ်က သင်မကို အပြစ်ပေးတော်မူပါစေ၊ထိုယောကျ်ားကို မနှိပ်စက်ပါနှင့်၊ဤယောကျ်ားမူကား အသင်မထံ ဧည့်သည်အဖြစ်ခေတ္တခဏမျှသာလာရောက်ခြင်းဖြစ်သည်၊ မျှားမကြာမီပင် အသင်မကိုလွှတ်၍ ကျွန်ုပ်တို့ထံ လာလိမ့်မည်ဟူ၏။

တဖန်မိန့်တော်မူပြန်သည်မှာ....သုံးဦးသောသူတို့သည် ဤသို့ရှိ၏၊ အကြင်သူတို့၏ ခ,ဝပ်သောနမာဇ်ဝတ်ပြုခြင်းမှစ၍ မည်သည့်ကောင်းမှုကောင်းရာမှ အသျှင်မြတ် နှစ်သက်လက်ခံတော်မမူပေ၊ ၎င်းသုံးဦးဆိုသည်ကား.... (၁)မိမိသခင်ထံမှ ထွက်ပြေးသော ကျွန်ယောကျ်ား, ကျွန်မိန်းမ၊ (၂) လင်ယောကျ်ား မကျေနပ်သဖြင့် စိတ်ဆိုးခံနေရသော မိန်းမ၊ (၃)မူးယစ်စေတတ်သော အစားအသောက်ကိုသောက်စားသဖြင့် မူးယစ်သောသူများဖြစ်လေသည်၊ တစ်ဦးသောသူက ရစူလ်ကိုယ်တော်မြတ်ထံ လျှောက်ထားတင်ဆို၍ မေးသည်မှာ အို....ကိုယ်တော်မြတ်၊ မိန်းမများတွင် အမြတ်ဆုံးသော မိန်းမသည် မည်ကဲ့သို့သောမိန်းမဖြစ်ပါသနည်း၊ ထိုအခါကိုယ်တော်ကမိန့်တော်မူသည်မှာ မိန်းမများတွင် အကောင်းမြတ်ဆုံးမိန်းမသည် မိမိလင်ယောကျ်ားရှုကြည့်သောအခါ ကြည်ရွှင်စွာမျက်နှာထားခြင်းနှင့် လင်ယောကျ်ား အမိန့်အတိုင်း နာခံဆောင်ရွက်ခြင်းမှစ၍ မိမိအသုံးအစွဲပစ္စည်းများကိုလည်း လင်ယောကျ်ားသဘော မကျေမနပ်ဖြစ်အောင် မသုံးစွဲသောမိန်းမဖြစ်သည်။

၁။ ဇနီးမယားသည် လင်ယောကျ်ားအတူရှိပါလျက် လင်၏ထံ ခွင့်ပန်ကြားခြင်းမပြုဘဲ နဖ္ဖိလ်ရိုဇာဟ်လည်း မစောင့်အပ်၊ နဖ္ဖိလ်နမာဇ်လည်း မဖတ်ရပေ။

၂။ ဇနီးမယားသည် မိမိရုပ်ကို မပြင်မဆင်မပြုပြင်ဘဲ ညစ်နွမ်းစွာမနေရ (လင်ယောကျ်ား ကျေနပ်နှစ်သက်စေရန်) မိမိကိုယ်ကို ဖီးလိမ်းပြင်ဆင်၍ သန့်ရှင်းစွာနေရန်ခိုင်းပါလျက် မယားသည် (လင်၏အမိန့်ကိုမတည်ဘဲ) ညစ်ပေစွာ နေထိုင်ခဲ့သော် လင်ယောကျ်ားသည် ထိုဇနီးကို ရိုက်နှက်၍ ဆုံးမနိုင်ခွင့်ရှိ၏။

၃။ ဇနီးမယားသည် လင်ယောကျ်ား ခွင့်မပြုဘဲ အိမ်အပြင်သို့ ထွက်၍ အခြားတစ်နေရာသို့မသွားရ၊ အဓိပ္ပါယ်ကား.... မိမိဆွေမျိုးညာတိများ အိမ်ကိုဖြစ်စေ၊ အခြားသူစိမ်းတို့အိမ်ကိုဖြစ်စေ လင်အခွင့်မပြုဘဲ မသွားအပ်ချေ။

## ခင်ပွန်းဖြစ်သူနှင့် သင့်တင့်စွာ နေထိုင်ရန် နည်းလမ်း

### အကြောင်း

(အို ...အမျိုးသမီးအပေါင်းတို့)မှတ်သားကြပါကုန်၊ ဇနီးခင်ပွန်းဆိုသည်မှာမိမိတို့ ရှင်လျက် နေထိုင်ကြသမျှ ကာလပတ်လုံး အတူတကွနေထိုင်ကြရန်အကြောင်းဖြစ်ပေသည်၊ (သို့အတွက်) အကယ်၍ ဇနီးခင်ပွန်းနှစ်ဦးတို့၏ စိတ်သဘောသည် နှောလျက် တစ်ယောက်တစ်ယောက် ချစ်ခင်ပြီးလျှင် နေထိုင်ကြပါက ထို့ထက်သာပိုကြီးကဲ ကောင်းမြတ်သော

စည်းစိမ်မရှိချေ၊ ၎င်းပြင် အလ္လာဟ်အသျှင်မြတ်ဖယ်ရှားပါစေ၊ အကယ်၍ ဇနီးခင်ပွန်း နှစ်ဦးတို့၏စိတ်နှလုံးများသည် မညီမညွတ်ကွဲပြား၍ အချစ်အခင်မရှိကြပါလျှင် ဤထက်ပိုမိုနှစ်နာသော ဒုက္ခအန္တရာယ်မရှိပေ၊ သို့အတွက်ကြောင့် အမျိုးသမီးတို့သည် စွမ်းနိုင်သမျှ မိမိလင်ယောကျ်ား စိတ်သဘောဆန္ဒအတိုင်း လိုက်နာပြီးလျှင် ၎င်းလင်ယောကျ်ား မျက်ရိပ်မျက်ကဲဖြင့် ညွှန်ပြသည့်အတိုင်း မဖေါက်မပြန် လိုက်နာ ဆောင်ရွက်ရာသည်၊ ထိုနည်းတူစွာ ဇနီးမယားသည် မိမိလင်ယောကျ်ားက တစ်ညဉ့်လုံးမအိပ်ဘဲ လက်ပိုက်နေရမည်ဟု စေခိုင်းပါလျှင် ၎င်းလင်ယောကျ်ား သဘောကျအတိုင်း လောကီလောကုတ္တရာ နှစ်ဌာနဉ္စကောင်းမြတ်စေရန်လိုက်နာဆောက်ရွက်ရမည်၊အဘယ့်ကြောင့်ဆိုသော်ဒွန္နယာလောက၏ အနည်းငယ်မျှဒုက္ခကို နှစ်သက်စွာခံ၍ နောင်အာခေရတ်၏ ကုသိုလ်အကျိုး (သဝါဗ်)နှင့် ဂုဏ်ကို ယူရမည်။

အဘယ်အခါမှ လင်ယောကျ်ားသဘောမကျသောစကားကိုမပြောနှင့်၊ အကယ်၍ လင်ယောကျ်ားက နေ့ကို ညဖြစ်သည်ဟု မြွက်ဆိုခဲ့သော် အသင်မကလည်း လင်၏သဘောအတိုင်း ညဖြစ်သည်ဟုမြွက်ဆိုရမည်၊ ၎င်းအပြင် အချို့သောမိန်းမတို့သည် အသိအလိမ္မာ ဉာဏ်ပညာနည်းပါး၍ အဆုံးတိုင်စဉ်းစားဆင်ခြင် ရှုမြော်၍မကြည့်ကြသောကြောင့် လင်ယောကျ်ားစိတ်နှလုံး ညစ်နွမ်းအောင် စကားများကို မြွက်ဆိုကြလေသည်၊ အကြောင်းအားဖြင့်ဆိုသော် တစ်ခါတစ်ရံမလျော်သောစကားများကိုပြောဆိုလျက် လင်ယောကျ်ားကိုကဲ့ရဲ့ရှုတ်ချသော စကားများကို ပြောဆိုလေသည်၊ ထိုသို့ ပြောသောကြောင့် လင်ယောကျ်ား၏စိတ်နှလုံးညစ်နွမ်းလျက် ဒေါသဖြစ်သဖြင့် ၎င်းမိန်းမကိုဆုံးမသြဝါဒစကား ပြောဆိုပါလျှင် မိမိအလိုမကျသောကြောင့် ငိုယိုဆောင့်အောင့်၍ နေလေသည်။

အို....အမျိုးသမီးအပေါင်းတို့၊ မှတ်သားကြပါကုန်၊ ဇနီးခင်ပွန်း နှစ်ဦးတို့သည် တစ်ယောက်နှင့်တစ်ယောက် မကျေမနပ်ဖြစ်ပြီးသည့်နောက် တဖန်ပြန်၍ သင့်တင့်ကြငြားသော်လည်း ပထမအဖြစ်ကဲ့သို့မဖြစ်နိုင်ပေ။ အမိပွါယ်ကား....အသင်မတို့သည် မိမိခင်ပွန်း ဒေါသဖြစ်လောက်အောင် စကားများပြောဆိုပြီးနောက် တဖန် ထောင်ပေါင်းများစွာသောစကားများဖြင့်တောင်းပန်ကြငြားသော်လည်း၎င်းလင်၏စိတ်၌ပထမကဲ့သို့တသမတ်ထည်းစင်ကြယ်စွာ ချစ်ခင်ဒတော့မည်မဟုတ်ပေ၊ ဘယ်အခါ၌မဆို လင်ယောကျ်ားစိတ်တွင် ဤသူမသည် ငါ့အား မည်သည့်နေ့ရက်၌ မည်သို့နစ်နာအောင်ပြောဆိုသည်ကို ဝမ်းနည်းစိတ်ဆိုးဖြစ်နေရန်အကြောင်းရှိသည်၊ သို့အတွက်အမျိုးသမီးတို့သည် အလ္လာဟ်အသျှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် နှစ်သက်သဘောတူတော်မူ၍ လောကီ လောကုတ္တရာ နှစ်ဖြာသော အဖြစ်မှာ ကောင်းမြတ်သောအဖြစ်နှင့်ရှိနေရန် လင်ယောကျ်ားနှင့်တကွ အမျက်ဒေါသမဖြစ်ဘဲ သင့်တင့်စွာ စဉ်းစားဆင်ခြင်လျက် ပေါင်းသင်း နေထိုင်အပ်ပေသည်၊ အသိအလိမ္မာဉာဏ်ပညာနှင့်ပြည့်စုံသောအမျိုးသမီးတို့ကိုမူကား ပြောပြဆုံးမရန်မလိုတော့ပေ၊ အသိအလိမ္မာဉာဏ်ပညာဖြင့်ပင် အကောင်း,မကောင်းကို စဉ်းစားဆင်ခြင်ရှုမြော်ကြ

ပေမည်၊ သို့သော် အချို့ထိုက်သက်အသုံးဝင်သောစကားများကို အမျိုးသမီးအပေါင်းတို့ သိနားလည်ကြရန်ကျွန်ုပ်အကြောင်းပြုခဲ့သည်၊ ၎င်းအကြောင်းများကို အသင်မတို့ရှုကြည့်ပြီးလျှင် ထို့ထက်ပို၍ အခြားအကြောင်းများ သိရှိကြပေလိမ့်မည်။

ဆုံးမချက်စကားများ.... လင်ယောကျ်ား အင်အားနှင့် မတန်သော အသုံးအစွဲကို လင်၏ထံမှ မတောင်းနှင့်၊ ထိုက်သက်သည့်အားလျော်စွာ ရှိသော ထမင်းဟင်းနှင့် ချက်ပြုတ်၍စားပါလော့၊ အကယ်၍တစ်စုံတစ်ခုသော ဘယက်တန်ဆာကိုသော်လည်းကောင်း၊ အဝတ်အစားကို သော်လည်းကောင်း နှစ်သက်သဖြင့် ဝယ်ယူလိုသော် လင်ယောကျ်ား ထံမှာ ဝယ်ရန် ကြေးငွေမရှိပါက လင်သို့မပြောနှင့်၊ ၎င်းဝတ္ထုပစ္စည်းများကို မရသဖြင့် ပူပင်သောကဖြစ်ပြီးလျှင် နှုတ်မှတစ်စုံတစ်ရာ မြည်တွန်တောက်တီးပြော်ဆိုခြင်းမပြုနှင့်၊ မိမိစိတ်တွင်းမှာသာ စဉ်းစား ဆင်ခြင်၍ ထားရမည်၊ အဘယ့်ကြောင့်ဆိုသော် အကယ်၍ သင်မက ရလိုကြောင်း မြွက်ဟ ပြောဆို မြည်တွန်တောက်တီးခဲ့သော် လင်ယောကျ်ား၏ စိတ်နှလုံးတွင် ထိုသူမသည် ငါ့အားအရှိအသေအခန့်အငြားမရှိ၊ မတတ်နိုင်သော အသုံးအစွဲကို တောင်းဆိုသည်ဟု မှတ်ယူလိမ့်မည်။

အချုပ်စကားမှာ.... လင်ယောကျ်ားသည် အကယ်၍ ဥစ္စာနေနှင့် ကြွယ်ဝသော သူဌေးပင်ဖြစ်ငြားသော်လည်း မိမိစွမ်းနိုင်သမျှ ချုပ်တီးပြီးလျှင် တစ်စုံတစ်ရာဝတ္ထုပစ္စည်း ရလိုကြောင်း၎င်းလင်ယောကျ်ားထံမှာမပူဆာလင့်၊ သို့သော်လင်ယောကျ်ားကပင်အသင်မအဖို့ အဘယ်အရာဝယ်ခဲ့ရမည်နည်း၊ အဘယ်အရာ ရလိုသနည်းဟုမေးပါလျှင် ထိုအခါ၌ မိမိအလိုရှိသော ဝတ္ထုပစ္စည်းကို ပြောလိုက်ပါက" ကိစ္စမရှိပေ၊ သင့်လျော်၏၊ အဘယ့်ကြောင့်ဆိုသော် ရလိုကြောင်းပူဆာ၍ တောင်းဆိုခြင်းသည် လူတို့၏ရှေ့၌ သေးသိမ်ခြင်း ဖြစ်၍ ပြောဆိုသောစကားလည်း အချည်းနှီးဖြစ်သွားလေသည်။

၎င်းပြင် လင်ယောကျ်ား၏စကားကို အဘယ်အခါမှ ဇွတ်မငြင်းနှင့်၊ အကယ်၍ အသင်မနှင့် ဆန့်ကျင်ဘက်စကားကိုပြောလိုက်လျှင်လည်း အသင်မက လျှော့လိုက်ရမည်၊ ထိုသို့လျှော့ပြီးနောက် လင်ယောကျ်ား၏ စိတ်ကျေနပ်ရန် ဖျော်ဖြေပါကုန်၊ အကယ်၍ လင်ယောကျ်ားထံ၌ နေရခြင်း ဒုက္ခရောက်လျှင်လည်း အဘယ်အခါမှ နှုတ်ကညည်းညူ မြွက်ဟခြင်းမပြုလင့်၊ အမြဲပင်မျက်နှာသာချိုချိုထား၍ ပျော်ရွှင်ဝမ်းမြောက်စွာနေရမည်၊ လင်ယောကျ်ားစိတ်တွင် ဒုက္ခမရောက်စေရ၊ အသင်မ၏ဖျော်ဖြေခြင်းဖြင့် ယောကျ်ား စိတ်ကို ပျော်ရွှင်အောင်ပြုကုန်၊ ထိုလင်ယောကျ်ားက အသင်မအဖို့တစ်စုံတစ်ရာယူဆောင်ခဲ့လျှင်လည်း နှစ်သက်သည်ဖြစ်စေ၊ မနှစ်သက်သည်ဖြစ်စေ သဘောကျ ကျေနပ် ပျော်ရွှင်ဝမ်းမြောက်စွာနေရမည်၊ ဤဝတ္ထုပစ္စည်းမကောင်းပါ၊ ကျွန်မမနှစ်သက်ပါဟုမပြောနှင့်၊ ထိုသို့ပြောပါလျှင် လင်ယောကျ်ားစိတ်ငယ်ရန်အကြောင်းရှိသည်၊ နောက်ကိုလည်းအသင်မအဖို့ တစ်စုံတစ်ခုပစ္စည်းယူဆောင်ခဲ့တော့မည်မဟုတ်၊ ထိုသို့ဝတ္ထုပစ္စည်းယူဆောင်ခဲ့သောအခါ အသင်မက ကောင်းပေသည်ဟုချီးမွမ်း၍ ဝမ်းမြောက်စွာယူပါလျှင် နောက်ကို ၎င်းဝတ္ထုပစ္စည်းထက် သာပိုကောင်းမြတ်သော ဝတ္ထုပစ္စည်း အသင်မအဖို့ ယူဆောင်လာလိမ့်မည်။

အဘယ်အခါမျှ ဒေါသဖြစ်၍ လင်ယောကျ်ား၏ကျေးဇူးမကန်းနှင့်၊ ရှင်းပြင် ဤမကောင်းသောအိမ်တွင်လာရောက်နေထိုင်ရခြင်းမှာ တသက်လုံးဒုက္ခဖြစ်ခြင်းကိုသာ ရှုမြင်ရသည့် ကျွန်မ၏မိဘများက ကျွန်မကို မ[illegible]ကာဝင်းသည့်နေရာမှာ ပို့လိုက်သည်၊ ကျွန်မကို ဘေးအန္တရာယ်၏ကြော့ကွင်း၌မိစေတာဘဲ၊ ကျွန်မကို မီးလောင်တိုက်သွင်းတာဘဲ စသဖြင့် ထိုကဲ့သို့စကားများကို ညည်းညူ မြည်တွန်တောက်တီး၍ မပြောလင့်။

ဟာဒီးသ်ဩဝါဒတော်၌ လာရှိသည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မိန့်တော်မူသည်မှာ.... ငါကိုယ်တော်မြတ်သည် ဒိုဇခ်ငရဲ၌ များစွာသော မိန်းမများကို ရှုမြင်ရ၏၊ ထိုအခါ တစ်ဦးသူက ရစူလ်ကိုယ်တော်မြတ်အား လျှောက်ထားတင်ဆို၍မေးသည်မှာ.... အိုရစူလ်သခင်၊ ဒိုဇခ်ငရဲတွင် အဘယ်ကြောင့် မိန်းမများ များစွာကျရောက်ရပါသနည်းဟု မေး၏၊ တဖန်ကိုယ်တော်မြတ်က ပြန်ကြားမိန့်တော်မူသည်မှာ.... မိန်းမတို့သည် အများအားဖြင့် အခြားသူတို့အပေါ်၌ လအ်နတ်ပြုပို့ကြ၍ မိမိလင်ယောကျ်ားကိုလည်း ကျေးဇူးကန်းလျက် တော်လှန်ကြသည်ဟူ၏၊ ၎င်းဟာဒီးသ်ဩဝါဒတော်၏ပညတ်ချက်အရ အို....အမျိုးသမီးအပေါင်းတို့ စဉ်းစား ဆင်ခြင်ကြပါကုန်၊ လင်ယောကျ်ား၏ ကျေးဇူးကန်းခြင်းသည် မည်မျှ မကောင်းသော အရာ ဖြစ်သနည်း၊ သူတထူးအပေါ်၌ လအ်နတ်ပြုပို့ခြင်း၊ သို့မဟုတ် မည်သူ့ကို အသျှင်သတ်ပါစေ၊ အသျှင်မြတ်က အရှက်ခွဲပါစေ၊ သို့မဟုတ် မည်သူ၏မျက်နှာသည် လအ်နတ်ပြုခံရသောမျက်နှာဖြစ်သည်၊ မျက်နှာအပေါ်၌ လအိနတ်ရောက်နေသည်မှစ၍ ထိုနည်းတူစွာစကားများ မြွက်ဟ ပြောဆိုခြင်း အလွန်ပင် မကောင်းယုတ်မာ ဆိုးသွမ်းလေသည်။

လင်ယောကျ်ားဒေါသဖြစ်၍ စိတ်ဆိုးသောအခါ တိုးတက်၍ ဒေါသဖြစ်စေရန် စကားကို အသင်မက မပြောနှင့်၊ အချိန်ဟူဟူသမျှ လင်ယောကျ်ား၏ အလိုသဘောကို ရှုကြည့်၍သာ စကားကိုပြောဆိုရမည်၊ ဥပမာ....လင်ယောကျ်ား ပြုံးရယ်ပျော်ရွှင်လျက် စိတ်ကျေနပ်စွာရှိနေမူ၊ အသင်မလည်း လင်၏သဘောအတိုင်း ပြုံးရယ်ပျော်ရွှင်စွာ နေရမည်၊ ထိုသို့လင်က မနေလျှင်လည်း ၎င်းလင်အလိုကျစေရန် စကားများဖြင့် အသင်မက ဖျော်ဖြေလျက် နေရမည်၊ အကယ်၍ အကြောင်း တစ်ခုခုကြောင့် လင် ယောကျ်ားက အသင်မကို ဒေါသထွက်လျက်နေမူ အသင်မကလည်း ငြူစူစောင်းမြောင်းလျက် လင်ယောကျ်ားအပေါ်မှာ ပြန်၍ဒေါသအမျက်ဖြစ်မနေနှင့်၊ သို့သာမက ကြည်ရွှင်စွာ မျက်နှာထားနှင့် လင်ယောကျ်ားပျော်ရွှင်အောင် တောင်းပန်ရမည်၊ အကယ်၍ ကျူးလွန်ခြင်းသည် အသင်မက ကျူးလွန်သည်မဟုတ်ဘဲ လင်ယောကျ်ားကဘဲကျူးလွန်ငြားသော်လည်း မိမိလင်ဖြစ်သူကို တောင်းပန်ဝန်ချခြင်းကို မိမိဂုဏ်ကျက်သရေဟု မှတ်ယူပါကုန်။

ထို့ပြင်တဝ ကောင်းစွာ မှတ်သားကြရန် အကြောင်းမှာ ဇနီးမောင်နှံ နှစ်ဦးတို့သည် သက်သက်ချစ်ခင်ရုံမျှနှင့်တစ်ဦးနှင့်တစ်ဦးသင့်တင့်စွာနေနိုင်သည်မဟုတ်ပေ၊ ဇနီးဖြစ်သူသည် အချစ်နှင့်တကွ လင်ယောကျ်ားကို အရိုအသေထားအပ်၏၊ ဇနီးဖြစ်သူသည်

မိမိလင်ယောကျ်ားကို မိမိထက် ဘာမျှသာသည်မဟုတ်၊ ဒရိဂျာ တန်းတူဘဲဟု မှတ်ယူခြင်း အလွန်ပင်မှောက်မှား၍ မကောင်းသောအယူအဆ ဖြစ်ပေသည်၊ အဘယ်အခါမျှ လင်ယောကျ်ားကို အလုပ်မစေခိုင်းနှင့်၊ အကယ်၍ ၎င်းလင်ယောကျ်ားက ချစ်ခင်သော သဘောဖြင့် အသင်မ၏လက်ကိုဖြစ်စေ ချိုးဖွဲ့နှိပ်နယ်၍ပေးပါလျှင် အသင်မကမလုပ်စေရန် ပြောရမည်၊ စားစားရန်အကြောင်းမှာ အသင်မ၏အဖက အသင်မကို ဤသို့ပြုလုပ်ပေးပါလျှင်နှစ်သက်နိုင်ပါမည်လော (လုံး၀နှစ်သက်နိုင်မည်မဟုတ်ပေ) လင်ယောကျ်ား၏ ဂုဏ်တန်ခိုးသည် ၎င်းအဖထက် သာသည်ဟု မှတ်ယူရာ၏၊ ထို့ကြောင့် ထရာထိုင်ရာ၌ဖြစ်စေ၊ စကားအပြောအဆို၌ဖြစ်စေ၊ အားလုံး အစစအရာရာတွင် လင်ယောကျ်ားကို အရှိအသေဖက်၍ထားရမည်၊ လင်ယောကျ်ားက အပြစ်ကျူးလွန်သည်မဟုတ်ဘဲ အကယ်၍ အသင်မက ကျူးလွန်ခဲ့ပါမူ ထိုင်လင်ယောကျ်ားကို စိတ်ဆိုး၍ အသင်မ ဒေါသအမျက်ထွက်နေပါက အလွန်ပင်ဆိုးသွမ်းရိုင်းပြခြင်း ဖြစ်လေသည်၊ ဤကဲ့သို့အကြောင်းများမှ လင်သောကျ်ားသည် စိတ်ပျက်သွားတတ်၏။

ထို့ပြင် လင်ယောကျ်ားအဝေးခရီးကပြန်လည်၍လာပါလျှင် ကျန်းမာပါ၏လား သွားရာခရီး၌ ဒုက္ခကင်းငြိမ်း၍ ဘေးအန္တရာယ်များ ရှင်းပါ၏လားမှစ၍ အလုပ်အကိုင် ဖြောင့်သည် မဖြောင့်သည်များကိုပါ မေးမြန်းပြီးလျှင် လင်မောပန်းသည့်အတွက် လင်ယောကျ်ား၏ ခြေလက်များကို နှိပ်နယ်၍ပေးရမည်၊ လင်ယောကျ်ား ထမင်းဆာမှတ်မူ ထမင်း ဟင်း ရေမှစ၍ အားလုံးကိုစီစဉ်ပေးရမည်၊ ပူပြင်းသော နွေရာသီဖြစ်ခဲ့လျှင် ယပ်တောင်ဖြင့် အေးချမ်းအောင် ခတ်ပေးရမည်။

အချုပ်သဘောမှာ- လင်ဖြစ်သူ စိတ်နှလုံးချမ်းမြေ့ သာယာသော စကားများကိုသာ ပြောဆိုရမည်၊ ဥစ္စာကြေးငွေ၏ စကားများ၊ဥပမာ . ကျွန်မအတွက် ဘယ်အရာယူဆောင်ခဲ့သနည်း၊ မည်မျှသုံးစွဲဖို့ရာ ငွေကြေး အဘယ်မှာနည်းမှစ၍ ထိုကဲ့သို့စကားမျိုးကိုမမေးနှင့် အကယ်၍ အသင်မက ဘာမျှမတောင်းဘဲနှင့် လင်သဘောအတိုင်း တစုံတရာပေးခဲ့လျှင် ယူလေကုန်၊ သို့သော် ရှင်လင်ဖြစ်သူမှာ ၀င်သောလစာကြေးငွေများပြားပါလျှက် ကျွန်မဖို့ပေးသော ငွေနည်းသည်ဟုမပြောမဆိုနှင့်ထို့ပြင်အသင်လင်ဖြစ်သူသည် မိမိအတွက်သာ များစွာသုံးစွဲခြင်းပြု၍ ကျွန်မအတွက် ဘာမျှဝယ်မပေးပါဟုလည်း မပြောရ၊ ရန်ဖန်ရန်ခါ ဇနီးမောင်နှံ သင့်တင့်ပျော်ရွှင်စွာနေသောအဖြစ်၌စကား စမြဲပြောဆိုကြစဉ် မေးမြန်း၍ကြည့်လျှင်လည်း ကိစ္စမရှိပေ။

လင်ယောကျ်ားတွင် မိဘများရှင်လျှက်ရှိသောကြောင့်သူ၏ ဥစ္စာပစ္စည်းကြေးငွေများကိုအသင်မလက်သို့မပေးအပ်ဘဲသူ၏မိဘများလက်သို့ ပေးအပ်၍ထားပါလျှင်အနည်းငယ်မျှ မကောင်းသောအထင် မထားလင့်၊ အကယ်၍ အသင်မလက်သို့ အပ်လျှင်လည်း ဉာဏ်ပညာနှင့် ရှုမျှော်ပြီးလျှင် မိမိလက်တွင်မထားဘဲ အသင်လင်ဖြစ်သူ၏မိဘများထံမှာသာ ထားပါဟု ပြန်ပြောရမည်၊ သို့မှသာ လင်ယောကျ်ား၏စိတ်နှလုံး မညစ်ညူးရန်

အကြောင်းဖြစ်၏၊ ထိုသို့မဟုတ်ဘဲ အသင်မ၏လက်တွင်ပင် ယူထားခဲ့မူ မေ့လျော့သော ကြောင့် ထိုကြေးငွေမှ သားငယ်သမီးငယ်တို့အတွက် တစုံတရာဝယ်၍မပေးမိပါလျှင် အပြစ် တာဝန်မကင်းရန် အကြောင်းဖြစ်သည်၊ မည်မျှတိုင် ယောက္ခမများ ရှင်သန်လျက်ရှိသော် ထိုမျှတိုင် ယောက္ခမများ၏ အမိန့်အတိုင်းနာခံ၍ (ခစ်ဒ်မတ်) ပြုစုသမှုပြုခြင်းကို ထိုက်သင့် သည်ဟု မှတ်ယူပါကုန်။

ထိုယောက္ခမတို့ အစုံအလင်နှင့် နေရခြင်းကို မိမိဂုဏ်ကျက်သရေ တင့်တယ်ခြင်း ရှိသည်ဟု မှတ်ယူရမည်၊ ထိုယောက္ခမတို့နှင့်ခွဲ၍ မိမိဘာသာနေထိုင်ရန် သဘောမထားနှင့် အဘယ့်ကြောင့်ဆိုသော် ယောက္ခမ မိဘတို့နှင့်ခွဲ၍ မိမိတို့အိမ် သီးခြားဖြင့် နေရသော် မည်သို့ ဖြစ်မည်နည်းဟု စဉ်းစားကုန်၊ ကေန်မုခ၍ အောက်ပါအတိုင်း ဖြစ်လေသည်၊ အကြောင်းမှာ ထိုလင်ယောကျ်ား၏ မိဘတို့သည် မိမိလင်ကို ငယ်စဉ်ကပင် ကျွေးမွေး သုတ်သင်ခဲ့၍ ယခုကြီးပြင်းသောအခါ မိမိနှင့် ရာဒီ လက်ထပ်ခြင်းပြုပြီးလျှင် ချမ်းမြေ့ သာယာသော နေရာဌာနသို့ရောက်၍ မိဘအုပ်ချုပ်မှုတို့မှလွတ်လျက် ယခုယောက္ခမများနှင့် နေခြင်းသည် မိဘသဖွယ်ဖြစ်သည်ဟု မှတ်ယူရမည်။

ထို့ပြင် အကယ်၍ ယောက္ခမ မိဘများနှင့်ခွဲ၍ တကွဲနေခဲ့ပါလျှင် ထိုယောက္ခမ မိဘတို့၌ ညှိုးနွမ်း၍ ဆူညံခြင်း ဖြစ်လိမ့်မည်၊ သို့အတွက် ယောက္ခမ မိဘတို့နှင့် မခွဲဘဲ တအိမ်တည်း အတူနေခြင်းသင့်လျော်သည် မိဘ၏အလုပ်များ ပြုလုပ်သောအခါ ရှိသေ သမှု ပြုလုပ်ရမည်၊ လူကြီးလူကောင်းတို့နှင့် တွေ့ဆုံလျှင် အရှိအသေပေး၍ သူငယ်တို့နှင့် တွေ့လျှင်လည်း ဂရုဏာမေတ္တာဖြင့် ပေါင်းသင်းနေထိုင်ရမည်။

မိမိ၏အလုပ်ကို သူတထူးပြုလုပ်ရန်တာဝန်မထားနှင့် မိမိ၏ တစုံတရာဝတ္တုပစ္စည်း ကိုလည်း မကျန်ရစ်စေနှင့် သူတထူးတွေ့ပါက ကောက်ယူသွားလိမ့်မည်၊ အကြင်အလုပ်ကို ယောက္ခမ မိဘများ ပြုလုပ်၍နေသော် အသင်မအား မခိုင်းငြားသော်လည်း ကူညီပြုလုပ် ကုန်၊ အရှက်မထားနှင့် သို့မှသာလျှင် ထိုယောက္ခမမိဘတို့စိတ်၌ အသင်မအား အချစ် အခင်တိုးတက်ရန် အကြောင်းဖြစ်သည်။

မည်သည့်အခါ နှစ်ဦးသော သူ/မတို့ တိတ်တဆိတ် တီးတိုးစကားများ ပြောဆို လျက်နေပါလျှင် ၎င်းအနီးသို့ အသင်မ မချဉ်းကပ်နှင့် ဝေးကွာစွာနေကုန်၊ ထိုသူတို့အချင်း ချင်း ဘာစကားပြောသနည်းဟု အနားသို့ချဉ်းကပ်၍ နားထောင်ပါက ၎င်းတို့ကလည်း အသင်မကို တလွဲထင်ရန် အကြောင်းရှိသည်၊ ထို့ပြင် သဘောထားရန် အကြောင်းမှာ နေဌာနဟူသမျှတွင် စိတ်မပါဘဲမနေနှင့်အကယ်၍အခဆောက်အအုံသစ်များဖြင့်သူတဦး တို့ နေထိုင်ကြလည်း အသင်မ လိုချင်စွဲလမ်းတပ်မက်ခြင်းမပြုနှင့် သို့သော် မိမိ၏စိတ်နှလုံး တွင် ဤအိမ်ရာ အဆောက်အအုံများသည် နောက်ဆုံးတစ်ရက်၌ အသုံးမဝင်ပါဟု ငိုယို လျက် စွန့်လွှတ်သွားရမည်ဟု ဆင်ခြင်အောက်မေ့ရမည်။

ထို့ပြင် စကားအပြောအဆိုမှာလည်း ဆင်ခြင်ရန်မှာ မိမိသဘော အလျောက် ထင်ရာသို့ ရှည်လျားစွာ အများက မကောင်းထင်လောက်အောင် ပြောဆို၍ မနေနှင့် ထိုနည်းတူစွာ လူအပေါင်းတို့က ကောင်းချီးဩဘာပေးလျက် စကားပြောစေချင်သော အခါ၌လည်း မပြောမဆိုဘဲမနေနှင့် ထိုသို့နေခြင်းဖြင့်အခြားသူတို့ကဂုဏ်မာနကြီးသည်ဟု အထင်ရှိတတ်သည်။

ထို့ပြင်တဝ ယောက္ခမဖြစ်သူကို စိတ်မကျေနပ်သောကြောင့် သင်မ၏မိဘအိမ်မှာ လာ၍ဂုံးမတိုက်နှင့် အနည်းငယ်မျှ မကျေနပ်ခြင်းကြောင့် သမီးဖြစ်သူက အမိထံလာ၍ ဂုံးတိုက်ပြောဆိုခြင်းကိုမိခင်ဖြစ်သူကလည်း သမီးကို့ချဲ့ထွင်၍ မေးမြန်းခြင်းများသည် မလျော်ကသောစကားဖြစ်၏၊ ထိုအကြောင်းကြောင့် တစ်ဦးနှင့်တစ်ဦး ရန်ညိုးဖြစ်ပြီးလျှင် အကြီးအကျယ်ရန်ဖြစ်တတ်၏၊ အကျိုးဖြစ်ခန် ရှာဖွေမည်ဆိုလျှင် တစုံတရာ မရနိုင်ချေ၊ ထို့နောက် လင်ယောကျ်ား၏ ဝတ္ထုပစ္စည်း ပရိဘောဂများကို ကောင်းမွန်သော အကြံ အစီများဖြင့် သိမ်းဆည်းလျက် အိမ်ခန်းကိုလည်း သန့်ရှင်းစင်ကြယ်စွာထားပါလေ၊ အိမ်ခန်းနှင့်အိပ်ရာခင်းတို့ကို ညစ်ညမ်းစွာမရှိစေရ၊ ခေါင်းအုံးညစ်နွမ်း၍အညစ်အကြေးများ တင်ခဲ့လျှင်လည်း ခေါင်းအုံးဖုန်းလဲလိုက်ရမည်၊ အကယ်၍ အဝတ်များ စုတ်သွားလျှင် လည်းချုပ်ထားရမည်၊ ၎င်းကဲ့သို့အလုပ်အပေါင်းကို လင်ယောကျ်ားကခိုင်းအောင်စောင့် ဆိုင်းမနေနှင့်၊ မခိုင်းမီပြည့်စုံအောင်ပြုလုပ်ထားမှသာလျှင်လင်ကသနားကြင်နာချစ်မြတ်နိုး ခြင်းရှိမည်၊ အကြင်ပရိဘောဂများအသင်မထံ လင်ယောကျ်ားက ပေးအပ်၍ထားပါလျှင် ထိုဝတ္ထုပစ္စည်းများကို မပျောက်ပျက်စေရန် စောင့်ရှောက်၍ထားရမည်။

ဥပမာ… လင့်ဝတ်ဆင်သော အဝတ်အထည်ဖြစ်မူ ထိုအဝတ်များကို ကောင်းမွန်စွာ ခေါက်၍ထားရမည်၊ မခေါက်ဘဲပစ်လွှတ်၍အခြားနေရာမှာတင်မထားနှင့် အဘယ်အခါမျှ အလုပ်အကိုင်များကိုလည်း အပေါ့တစားမပြုလုပ်နှင့်၊ မုသားစကားလည်း မပြောဆိုနှင့် ထိုသို့မုသားစကားပြောဆိုခြင်းသည် နောက်ကို အသင်မ မှန်ကန်သောစကားများပြောဆို ငြားသော်လည်း အယုံအကြည် ထားကြတော့မည်မဟုတ်၊ အကယ်၍ လင်ယောကျ်ားက စိတ်ဆိုး၍အသင်မကို ငေါက်ငန်းကာ ကြမ်းတမ်းသောစကားများ ပြောငြားသော်လည်း အသင်မက လင်ကိုပြန်၍မပြောနှင့်၊ မည်မျှပင် ပြောစေကာမူ အသင်မ အောင့်၍သာ ခံနေကုန်၊ လင်ယောကျ်ားသည်ထိုသို့ဒေါသဖြစ်ပြီးနောက် ပြေငြိမ်းသောအခါ မိမိကိုယ်ကို မိမိစဉ်းစားပြီးလျှင်နောင်တရရန်အကြောင်းရှိသည်၊ ၎င်းနောက်အသင်မကိုလည်း များစွာ နှစ်သက်ချစ်ခင်၍အင်ရှာအလ္လာဟ်ဘယ်အခါမျှ နောက်ကိုဒေါသထွက်တော့မည်မဟုတ်ပေ၊ လင်ယောကျ်ား ဒေါသဖြစ်၍ ပြောဆိုသောအခါ အကယ်၍ အသင်မကလည်း လင် ယောကျ်ားကို ပြန်၍ ရန်တွေ့လိုက်ပါလျှင် စကားသည် ရှည်လျား၍ အချစ်ပျက်ရန် အကြောင်းဖြစ်၏။

ထို့ပြင် ဒွိဟမကင်းသောသဘောဖြင့် လင်ယောကျ်ားကို အသင်လင်ဖြစ်သူသည် မည်သည့်သူမနှင့် များစွာပြုံးရယ်ခြင်းပြုသည်၊ မည်သည့်နေရာသို့ များစွာသွားလာသည်၊

ထိုနေရာသို့ အဘယ်အလုပ်အတွက်သွားပါသနည်းမှုစ၍ ၎င်းကဲ့သို့ အထင်လွဲသောစကား မျိုးကိုမပြောမဆိုနှင့်၊ အမျိုးသမီးတို့ စဉ်းစားဆင်ခြင်ကြကုန်၊ ထိုကဲ့သို့ လင်ယောကျ်ား ကိုပြောပြီးနောက် လင်ယောကျ်ားမှာ မိမိတို့ ထင်သည့်အတိုင်း အပြစ်တာဝန် မရှိပါက မည်မျှ မကောင်းသောအဆိုဖြစ်မည်နည်း၊ အကယ်၍ အထင်လွဲသည့်အတိုင်း လင်သည် မကောင်း ဖောက်ပြန်သူဖြစ်ပါလျှင်လည်း အသင်မတို့ ပြောရုံမျှဖြင့် အကျိုးမရှိရုံမက အသင်မတို့ကိုပင် နစ်နာဒုက္ခရောက်အောင် ပြုလုပ်၍ ၎င်းလင်၏စိတ်မှာလည်း မကျေမနပ် ဖြစ်လိမ့်မည်၊ ထိုကဲ့သို့ မိမိထင်ရာကို လင်အပေါ်၌ ရန်တွေ့၍ ပြောငြားသော်လည်း လင် သည် မိမိခလေ့ကို စွန့်လွှတ်မည် မဟုတ်ပေ။

သို့အတွက် လင်ယောကျ်ား၌ မကောင်းသော စာရိတ္တရှိပါက ဇနီးမယားသည် ၎င်းလင်ယောကျ်ားကို ဇနီးခင်ပွန်း နှစ်ဦးတည်း နေထိုင်ကြသောအခါ တိတ်တဆိတ် တီးတိုးဖြင့် ထိုခလေ့မလျော်အပ်ကြောင်း ပြောဆိုသင့်သည်၊ ၎င်းကဲ့သို့ ပြောဆိုခြင်းနှင့် လင်ယောကျ်ားသည် မိမိခလေ့ကို မစွန့်လွှတ်ဘဲ သွားမြဲ လာမြဲအတိုင်း သွားလာ နေ ထိုင်လျက် ရှိပြန်သော် သင်မှ သည်းခံ၍သာ နေကုန်၊ လူတို့ရှေ့မှာ အရှက်ခွဲခြင်း၊ မြည်တွန်တောက်တီးခြင်း မပြုပါနှင့် စိတ်တွင်းမှာ အလွန်တရာ မခံချင်သောသဘောနှင့် လင်ယောကျ်ားကို အတင်းအဓမ္မ ကြိမ်းဝါး ပုတ်ခတ်ရန် အလိုမပြုနှင့်၊ ထိုသို့ပြုလုပ်ခြင်း ဖြင့် လင်၏စိတ်တွင် ဒေါသပိုပြီးလျှင် အလျှင်ကထက် ဇွတ်ပြုလုပ်တတ်သည်၊ အကယ်၍ အသင်မက သည်းခံ၍မနေဘဲ လင်ယောကျ်ားအပေါ်မှာ ဖိစီး၍ အရှက်ကွဲအောင်ပြောဆို ရန်တွေ့ခဲ့ပါမူ အသင်မကိုဂရုစိုက်၍ လင်က စကားပြန်ပြောမည်မဟုတ် ထိုအခါ အသင်မ စိတ်ညစ်လျက်ငိုယိုပြီးနေရလိမ့်မည်။

ဤအကြောင်းကို ကောင်းမွန်စွာမှတ်သား၍ ထားပါကုန်၊ ယောကျ်ားများကို အလ္လာဟ်အသျှင်မြတ်က ကျားသဖွယ်စွမ်းအားနှင့် ပြုပြင်တော်မူသည်၊ ၎င်းတို့ကို ငေါက်ငမ်းဖိစီး၍ ရန်တွေ့ခြင်းမှ အောက်ကျလိမ့်မည်မဟုတ်၊ ထိုသူကို အောက်ကျစေရန် အလွယ်ဆုံးနည်းလမ်းမှာ ပျော့ရှင်ဝမ်းမြောက်စွာ ချီးမြှင့် ထောပနာပြုခြင်းနှင့် ၎င်းတို့အမိန့် အတိုင်း နာခံခြင်းဖြစ်သည်၊ လင်ယောကျ်ားကို အတင်းအဓမ္မဒေါသဖြင့် ရန်တွေ့ဖိစီး ခြင်းသည် အလွန်ပင်မှောက်မှား၍ မိုက်မဲခြင်းဖြစ်လေသည်။

ဤအကြောင်းကို ရုတ်ချင်းပင် နစ်နာကြောင်း မသိငြားသော်လည်း ဇနီးခင်ပွန်း နှစ်ဦးတို့ မသင့်မတင့်၍ ဆူညံရန်ဖြစ်သောအခါ မကောင်းသောစကားများပေါ်ပေါက် လာလိမ့်မည်၊ အမျိုးသမီးတို့ စဉ်းစားကြကုန်၊ လခ်နောင်မြို့တွင် ဇနီးတစ်ဦး၏ ခင်ပွန်း တစ်ယောက်သည် မကောင်းသောစာရိတ္တဖြင့် နေ့ညဉ့်မပြတ် အိမ်တွင်မနေဘဲ ဈေးတွင် အပျော်လိုက်စားသောမိန်းမများနှင့်ဈေးရောင်းပျော်ပါး၍နေလေသည်၊ ထိုအခါလင်ဖြစ် သူကဇနီးမယားကိုယနေ့ဒန်ပေါက်ထမင်းချက်ရမည်၊ နက်ဖန်ထောပတ်ထမင်းချက်ရမည်မှ စ၍ ခိုင်းသရွေ့ အပေါင်းတို့ကို ဝတ္တရားမပျက် ချက်ပြုတ်ပြီးလျှင် လင်ယောကျ်ားထံသို့ ပို့လိုက်၏၊ လင်ကိုမူကား တစုံတရာ ငေါက်ငန်း ရန်တွေ့ခြင်း မပြုချေ၊ ထိုဇနီးသည်

မည်မျှ သည်းခံသော မိန်းမဖြစ်ပါသနည်း၊ ထိုသို့သောဇနီးသည် အလ္လာဟ်အသျှင်မြတ်ထံ၌ ဂုဏ်တန်ခိုးရရန် အကြောင်းရှိသည်။

တစ်နေ့သ၌ မြင့်မြတ်တော်မူသော အသျှင်က 'ဟောဒါယတ်' လမ်းမှန်သို့ ပြခြင်းကြောင့် လင်ယောကျ်ားမှာ မကောင်းသောစာရိတ္တ ပ,ပျောက်၍သွားခဲ့သော် ထိုနေ့တွင် ၎င်းလင်သည် ဇနီးမယား၏ အလိုရှိသော အလုပ်များကို ကျွန်ကဲ့သို့ လုပ်ကိုင်ဆောင်ရွက်ပေးလိမ့်မည်။

# သားသမီးတို့ကို အုပ်ထိန်း ကျွေးမွေးရန် နည်းလမ်း အကြောင်း

မိဘဖြစ်သူတို့ သိရန်ထိုက်ကြသည်မှာ– သားငယ်, သမီးငယ်တို့သည် ငယ်စဉ်အခါကာလ၌ အကျင့်ဓလေ့တည်ရှိသကဲ့သို့ ကြီးပြင်းလာသည့်တိုင်အောင် ထိုအကျင့်ဓလေ့များစွဲနေတတ်ကြ၏၊ အဓိပ္ပါယ်ကား.... ငယ်စဉ်ကာလ၌တည်ရှိသော ကောင်း,မကောင်း အကျင့်ဓလေ့တို့သည် အသက်ထက်ဆုံးတိုင် ထာဝရတည်မြဲသွားသောကြောင့် မိဘဖြစ်သူတို့သည် မိမိတို့သားငယ်များကို ငယ်စဉ်ကာလ၌ အောက်ပါအချက်များနှင့် လျော်ညီစွာ အုပ်ထိန်း ကျွေးမွေး စောင့်ရှောက်သွားရသည်။

၁။ သားငယ်သမီးတို့ကို သီလသမာဓိနှင့်ပြည့်စုံသော သူတော်စင်မိန်းမ၏ နို့ကိုသာ တိုက်ရမည်၊ (သူယုတ်မာ မိန်းမ၏နို့ကို မစို့စေရ) အဘယ့်ကြောင့်ဆိုသော် ၎င်းနို့ရေများသည် များစွာ အကျင့်လိုက်တတ်သော ဓါတ်သဘာဝရှိ၏။

၂။ အများအားဖြင့်မိန်းမတို့ဓလေ့ရှိကြသည်မှာမိမိတို့သားငယ်သမီးငယ်များကို ရဲများ၊ စစ်သားများကိုပြ၍သော်လည်းကောင်း၊ သို့မဟုတ်(တစ္ဆေသူရဲ စသည်) ကြောက်လန့်ဖွယ်ရာဖြင့် သော်လည်းကောင်း၊ အမျိုးမျိုး နည်းလမ်းများဖြင့် ကလေး များကို ခြောက်ခြင်းပြုတတ်လေသည်၊ ထိုဓလေ့သည် မကောင်းသော ဓလေ့ ဖြစ်၏၊ ခြောက်လှန့်ခြင်းဖြင့် သားသမီးတို့၏စိတ်နှလုံးအင်အား လျော့နည်းတတ်လေသည်။

၃။ သားငယ် သမီးငယ်တို့ကို နို့တိုက်သောအချိန်၊ အစာကျွေးမွေးသောအချိန် အတည် သတ်မှတ်၍ထားပါ၊ သို့မှသာ ၎င်းသူငယ်များသည် ကျန်းမာရန် အကြောင်းဖြစ်၏။

၄။ ထိုသားငယ်သမီးငယ်တို့ကို သန့်ရှင်းစင်ကြယ်စွာထားပါ၊ ညစ်ပေစွာမထားပါနှင့်၊ သန့်ရှင်း စင်ကြယ်ခြင်းလည်း ကလေးသူငယ်တို့ ဝေဒနာကင်း၍ ကျန်းမာရန် အကြောင်း ဖြစ်လေသည်။

၅။ သားငယ်သမီးငယ်တို့ကို များစွာပြင်ဆင်ဝတ်စား လိမ်းကျံ ပြုလုပ်၍မပေးနှင့်၊ သင့်လျော်ရုံသာ ဆင်ယင်၍ပေးရမည်။

၆။ အကယ်၍ သားငယ်ဖြစ်မူ ထိုကလေး၏ဦးခေါင်းထက်၌ ဆံပင်ရှည် မထားနှင့်၊ သမီးငယ်ဖြစ်မူ ထားနိုင်သည်။

၇။ ၎င်းသမီးငယ်ကို အချိန်အရွယ်ရောက်၍ ပရိဒဟ် အကာနှင့်မနေရမီအလျင် ဘယက်တန်ဆာများ ဝတ်ဆင်၍မပေးနှင့်၊ အဘယ့်ကြောင့်ဆိုသော် ၎င်းကဲ့သို့ အချိန်အရွယ်မတိုင်မီ ဆင်ယင်၍ပေးခြင်းသည် ကလေးမ၏အသက်အန္တရာယ် ဖြစ်စေတတ်သည်၊ ၎င်းကလေးမ ငယ်ရွယ်စဉ်ကပင် ဘယက်တန်ဆာများကို ရလိုသော မက်လည်းနှင့် စွဲသွားမည်ဖြစ်၍ ထိုကဲ့သို့စွဲမက်ခြင်း မကောင်းပေ။

၈။ ဆင်းရဲနွမ်းပါးသူတို့အား စားသောက်ဝတ်ဆင်ရန်အစားအသောက်အဝတ်အထည်ပိုက်ဆံကြေးငွေများကို ကလေးသူငယ်တို့၏လက်ဖြင့် ပေးစေရမည်၊ ထိုနည်းတူစွာ စားသောက် ဝတ်ဆင်ရန် ဝတ္ထုပစ္စည်းတို့ကိုလည်း ၎င်းကလေး၏ အစ်ကို အစ်မတို့ကို ဖြစ်စေ၊ သို့မဟုတ် အခြားသောကလေးသူငယ်တို့ကိုဖြစ်စေ ပေးကမ်းဝေငှစေရမည်၊ သို့မှသာ သားငယ်သမီးငယ်တို့ပေးကမ်းစွန့်ကြဲသောဓလေ့ စွဲမြဲသွားရန်အကြောင်းရှိပေသည်။"

(မှတ်ရန်) ထိုသို့ ပေးကမ်းဝေငှသော ဝတ္ထုပစ္စည်းများမှ မိဘဖြစ်သူတို့ ဝတ္ထုပစ္စည်းမှ ပေးကမ်း ဝေငှစေရမည်၊ ရှရီအတ်တရားတော်က ကလေးသူငယ်တို့အဖို့ ပိုင်းခြားသော ဥစ္စာပစ္စည်းများမှ တစ်ဦးတစ်ယောက်ကို ပေးကမ်းစေခြင်း မပိုင်ပေ။

၉။ သားငယ်သမီးငယ်တို့၏ ရှေ့ဝယ်တွင် များစွာ စားသောက်သူတို့ မကောင်းကြောင်းပြောပြရမည်၊ သို့သော် မည်သူမည်ဝါ အစားအသောက်ကြီးသည်ဟု နာမည်ကို မထုတ်ဖေါ်ရ၊ ပြောဆိုရမည့် ဥပမာမှာ...အစားအသောက်ကြီးသောသူကို လူအများက သူမိုက်ဟု မှတ်ယူကြ၍ နွားတိရစ္ဆာန် ထင်မှတ်ကြသည်ဟု ပြောဆိုရသည်။

၁၀။ အကယ်၍ ယောကျ်ားသူငယ်ကလေး ဖြစ်ခဲ့ပါလျှင် ဖြူစင်စွာ အဝတ်ကို ဝတ်ဆင်လိုသောဆန္ဒ ထိုကလေး၏စိတ်တွင် ဖြစ်စေရမည်၊ အရောင်အဆင်းနှင့် လှပအဖိုးတန်သော အဝတ်များကို ဝတ်ဆင်လိုသောဆန္ဒ မဖြစ်စေရ၊ ဥပမာ....အရောင်အဆင်းနှင့် လှပအဖိုးတန်သော အဝတ်တန်ဆာများသည် မိန်းမများသာ ဝတ်ဆင်ကြ၍ ယောကျ်ားများဝတ်ဆင်ခြင်း မပြုကြချေ၊ ငါ၏သားက ယောကျ်ားဖြစ်သောကြောင့် ၎င်းအဝတ်များကိုမဝတ်သိုနှင့်ဟု အမြဲထာဝရ ကလေး၏ရှေ့ဝယ်၌ ပြောပြဆုံးမရမည်။

၁၁။ အကယ်၍ သမီးဖြစ်မူ ထိုသမီးငယ်ကို ဆံပင်များ ဖီးလိမ်းခြင်း၊ ဆံထုံးထုံးခြင်းနှင့် အဖိုးထိုက်တန်သော အဝတ်တန်ဆာများ ဝတ်ဆင်ခြင်းဓလေ့ မပြုနှင့်။

၁၂။ သားငယ်သမီးငယ်တို့ အလိုဆန္ဒအတိုင်း နေရာတိုင်းမှာ အလိုမလိုက်နှင့်၊ ထိုသို့ အလိုလိုက်ခြင်းဖြင့် သားသမီးတို့ သဘောထားပျက်တတ်သည်။

၁၃။ ဟစ်အော်၍ကျယ်လောင်စွာစကားပြောဆိုခြင်းကိုတားမြစ်ပါ၊ အကယ်၍ သမီးငယ်ဖြစ်ပါလျှင် ၎င်းကဲ့သို့ဟစ်အော်၍ ပြောဆိုတတ်သောဝါသနာမှတားရန် အလွန်အရေးကြီးသည်။

၁၄။ အချို့သော ကလေးသူငယ် တို့သည် ပညာ မသင်ကြားလိုသောကြောင့် စာသင်ကျောင်းမှ ထွက်ပြေးတတ်သော ဓလေ့ ဖြစ်စေ၊ သို့မဟုတ် အဖိုးထိုက်တန်သော အစားအသောက်အဝတ်တန်ဆာတို့ကိုဖြစ်စေ များစွာစားသောက်ဝတ်ဆင်သော ဓလေ့ ရှိတတ်၏၊ ထိုကဲ့သို့သော ကလေးများနှင့်အတူ နေထိုင်ခြင်း၊ အတူကစားခြင်းတို့မှ (မိမိသားသမီးကို) တားမြစ် ပိတ်ပင်ရမည်။

၁၅။ (ထို့ပြင် သားသမီးတို့ကို) ဤသို့ ဒုစရိုက်မကောင်းမှုများမှ ရှောင်ကျဉ်စေရမည်၊ ဥပမာ.... ဒေါသအမျက်ထွက်ခြင်း၊ မုသားပြောဆိုခြင်း၊ သူတထူးကိုမြင်၍ တပ်မက်ခြင်း၊ သို့မဟုတ် လောဘထွက်ခြင်း၊ ခိုးဝှက်ခြင်း၊ ဂုံးတိုက်ခြင်း၊ မိမိစကားကို အနိုင်ယူခြင်း၊ အချည်းနှီးသော အကျိုးမရှိသော များစွာသောစကားများ ပြောဆိုခြင်း၊ နေရာတိုင်းမှာရယ်မောခြင်း၊ များစွာရယ်မော၍ သရော်ပြောင်လှောင်ခြင်း၊ အကောင်းမကောင်း ဗရုတ်သုက္ခ စကားများကို ပြောဆိုခြင်း စသော အထက်ဆိုခဲ့သည့်အချက်များ အနက် တစ်ချက်ချက်နှင့်မကင်းကြောင်းရှုမြင်ခဲ့ပါလျှင် လျှင်မြန်စွာ မိမိသားသမီးများကို တားမြစ်ဆုံးမရသည်။

၁၆။ အကယ်၍ တစ်စုံတစ်ခုသော ဝတ္ထုပစ္စည်းကို ဖျက်ဆီးလိုက်လျှင်သော်လည်းကောင်း၊ သို့မဟုတ် သူတထူးစော်ကားသဖြင့် ရိုက်နှက် ပုတ်ခတ်ခြင်းပြုလျှင်သော်လည်းကောင်းသင့်လျော်သော အပြစ်ဒဏ်တစ်ခု ပေးလိုက်ရမည်၊ သို့မှသာ နောက်ကို ဤသို့ မလုပ်ရန် အကြောင်းဖြစ်၏၊ အဆိုပါအတိုင်းပြုလုပ်ခြင်းများကို မိဘဖြစ်သူတို့က နှစ်သက်သော သဘောဖြင့်ရှုကြည့်လျက် နေခြင်းများသည် အမြဲထာဝရ သားသမီးတို့ကိုဖျက်ဆီးသည်ဟု မှတ်ယူပါကုန်။

၁၇။ ညဉ့်အချိန်၌ စောစောမအိပ်စေနှင့်။

၁၈။ နံနက်စောစော နိုးကြားသော ဓလေ့ ထုံးစံ ဖြစ်စေရမည်။

၁၉။ (သားသမီးငယ်တို့) ခုနစ်နှစ် အရွယ်သို့ ရောက်ပါလျှင် နမာဇ်ဝတ်ပြုရန် ဓလေ့ပြုပေးရမည်။

၂၀။ ပညာသင်ကြားရန် အချိန် အရွယ်သို့ရောက်မူ စာသင်ကျောင်း၌ အပ်နှံ၍ ဦးစွာပထမ ကုရ်အာန်ကျမ်းမြတ်ကို ဖတ်ရွတ်သင်ကြားစေရမည်။

၂၁။ ပညာသင်ကြားရာမှာ သီလသမာဓိနှင့် ပြည့်စုံသော ဆရာထံ၌ အပ်နှံ၍ သင်ကြားစေရမည်။

၂၂။ စာသင်ကျောင်းသို့ သွားရန်အတွက် သားသမီးတို့အပေါ်မှာ ထောက်ညှာသဖြင့် သက်သာခွင့်မပေးနှင့်၊ နေ့စဉ်မပြတ် ကျောင်းသို့ သွားစေရမည်။

၂၃။ တစ်ရံတစ်ခါသားသမီးတို့ကို ရှေးသူတော်ကောင်းတို့၏ ပုံပြင်ဝတ္ထုများကို ပြောပြပါ။

၂၄။ သားသမီးတို့ကို ရှရီအတ်တရားတော်နှင့်ဆန့်ကျင်ဘက်ဖြစ်သော သမီးရည်းစားများအကြောင်း၊ သို့မဟုတ် အလဟဿအသုံးမဝင်သော ဝတ္ထု ကဗျာ လင်္ကာကို ရေးသားထားသော စာအုပ်များကို မရှုကြည့်စေနှင့်။

၂၅။ ဒီန်သာသနာတော်နှင့်ပတ်သက်၍ ညွှန်ပြပြီးလျှင် ဒွန္နယာလောကဥ္စ ထိုက်သက်သော အလုပ်ဝတ္တရားများပြည့်စုံသည့် ကျမ်းစာများကို ဖတ်ရှုတ်စေရမည်။

၂၆။ စာသင်ကျောင်းက ပြန်သောအခါ ခေတ္တခဏ စိတ်ပျော်ရန်အတွက် ရင်းကလေးတို့ကို ကစားရန် အခွင့်ပေးပါ၊ သို့မှသာ ကလေးတို့ ဉာဏ်မထိုင်းမှိုင်းရန်ဖြစ်၏၊ သို့သော် အခွင့်ပေးရမည့်ကစားခြင်းမှာ မည်သည့်အပြစ်ဂိုနာဟ်မျှမရှိသောကစားခုန်စားမျိုးဖြစ်ရမည်၊ (အပြစ်ဖြစ်မည့် အကစားမျိုးကို အခွင့်မပေးရ)။

၂၇။ မီးပန်းကစားရန်ဖြစ်စေ၊ ဗာဂျာ ဝယ်ရန်ဖြစ်စေ၊ သို့မဟုတ် ထိုနည်းတူ အသုံးမဝင်သော အပိုဝတ္ထုပစ္စည်းများဝယ်ရန်ဖြစ်စေ သားသမီးတို့ကို ပိုက်ဆံကြေးငွေ မပေးနှင့်။

၂၈။ ပွဲလမ်းသဘင် ရှုကြည့်သော ဓလေ့ မဖြစ်စေနှင့်။

၂၉။ အရေးကြီးစွာ ကြုံကြိုက်သောအခါ၌ ငွေကြေးအနည်းငယ်မျှနှင့်ပင် မိမိနှင့် သားသမီးတို့ပါ စားသောက်နေထိုင်နိုင်လောက်သောပညာ သင်ပေးပါ။

၃၀။ သမီးဖြစ်သူများအား အရေးကြီးသောစာများရေးရန်နှင့် အိမ်၏မှတ်သားရန်ရှိသောစာရင်းများ မှတ်သားနိုင်လောက်ရုံ ပညာသင်ပေးပါ။

၃၁။ သားသမီးတို့ကိုမိမိတို့လက်နှင့်အလုပ်လုပ်ကိုင်ရန်ဓလေ့ဖြစ်အောင်ခိုင်းပါ၊ ပျင်းရိပေါ့ဆ၍မနေစေနှင့်၊ (ဥပမာ....ညဥ့်အချိန်၌ အိပ်ရာခင်းကို မိမိလက်နှင့် ခင်းစေခြင်း၊ နံနက်အချိန်၌ စောစောထ၍ အိပ်ရာခင်းကိုလိပ်ပြီးလျှင် သိမ်းဆည်းထားစေရမည်၊ အဝတ်တန်ဆာများ အထုတ်အထည်တို့ကိုလည်း မိမိကိုယ်တိုင် စောင့်ရှောက် ထိန်းစေ၍ ရင်းအဝတ်များ စုတ်ပြဲကျသောအခါမှာလည်း မိမိလက်နှင့် ချုပ်ဖာစေရမည်၊ ထို့ပြင် ညစ်ပေသောအဝတ်ကိုဖြစ်စေ၊မညစ်ပေသောအဝတ်ကိုဖြစ်စေ ကြွက်များကိုက်ဖြတ်ခြင်းမှ အစိုးရိမ်ကင်းသောနေရာမှာ ထားစေရမည်၊ အဝတ်များဖွပ်လျှော်ရန် ခဝါသည်သို့ပေးအပ်သောအခါ မိမိကိုယ်တိုင် ရေတွက်၍ အဝတ်စာရင်းကို မှတ်သားလျက် ထားရမည်၊ ထိုနည်းတူစွာ ခဝါသည် ထံမှ ပြန်ယူသော အခါမှာလည်း အဝတ်များကို ရည်တွက်ဆန်းစစ်၍ ယူရာ၏။

၃၂။ သူငယ်မတို့အား ကျပ်တည်းစွာ ပညတ်ရမည်မှာ ကိုယ်ကာယ အပေါ်၌ ဆင်ယင်သျှက်ရှိသော ဘယက်ထန်ဆာများကို ညဥ့်အချိန်တွင် မအိပ်မီအလျင်နှင့် နံနက် အိပ်ရာမှ ထသောအခါ ကောင်းမွန်စွာကြည့်ရှု သတိထားရမည်။

၃၃။ သမီးငယ်တို့ကို ထမင်းဟင်းချက်ပြုတ်သောအလုပ်နှင့်အပ်ချုပ်ခြင်း၊ အဝတ်ဆေးဆိုးခြင်းမှစ၍ အိမ်၏လုပ်ငန်းများကို စဉ်းစား ကြည့်ရှုတတ်မြောက်စေရမည်။

၃၄။ မည်သည့်အခါ သားငယ်သမီးငယ်တို့ ကောင်းသောစကားကောင်းသောအလုပ် ပြောဆိုပြုလုပ်ခြင်း ထင်ရှားခဲ့သော် ၎င်းတို့ကို ကောင်းချီးဩဘာပေး၍ ချစ်ခင်သောစကား မြွက်ဆိုရမည်၊ သို့သာမက တစုံတရာဆုပေးရန်လည်း သင့်လေသည်၊ သို့မှသာ ကလေးသူငယ်တို့ စိတ်နှလုံး ပျော်ရွှင်ဝမ်းမြောက်ရန် အကြောင်းဖြစ်လေသည်။

အကယ်၍ သားငယ် သမီးငယ်၌ မကောင်းသောအမှုအရာ အလေ့အကျင့်ကိုမြင်ခဲ့သော် အခြားသူတစ်ဦးတစ်ယောက်မျှ မရှိသောအခါတိတ်တဆိတ်တီးတိုးစွာ၍သို့ဆုံးမရာ၏၊ အို ... ငါ၏ သား/ သမီး အသင် ပြုလုပ်သော အလေ့အကျင့်ကို လူအပေါင်းတို့ မနှစ်သက်ချေ၊ မကောင်းသော အလေ့အကျင့်ဖြစ်ပေသည်၊ နောက်ကို မကောင်းသော အလေ့အကျင့် မပြုလုပ်မိရန် သတိပြုပါ၊ ကောင်းသော ကလေးသူငယ်တို့ ထိုသို့သောအလေ့အကျင့်ကိုမပြုလုပ်ဟု ပြောဆိုဆုံးမအပ်သည်၊ ယင်းသို့ ပြောဆိုဆုံးမပါလျက် မကောင်းသော အလေ့အကျင့်ကို မစွန့်လွှတ်ပါလျှင် သင့်လျော်သော အပြစ်ဒဏ်ကို ပေးလိုက်ရမည်။

၃၅။ မိခင်ဖြစ်သူသည် သားသမီးတို့အား ဖခင်ကိုကြောက်ရွံ့အောင် ခြောက်လှန့်လျှက် နေရမည်။

၃၆။ ကစားသောအလုပ်ကိုဖြစ်စေ၊ အစားအသောက်ကိုဖြစ်စေ၊ အခြားသောအလုပ် တစုံတရာကိုဖြစ်စေ၊ တိတ်တဆိတ် ပုန်းလျှိုးကွယ်လျှိုး သားငယ်သမီးငယ်တို့အား ပြုလုပ်ခြင်း၊ စားသောက်ခြင်း မပြုကြစေနှင့် အကယ်၍ ပုန်းလျှိုးကွယ်လျှိုးပြုလုပ်သောအလုပ်များသည် မကောင်းသောအလုပ်များဖြစ်ပါလျှင် တားမြစ်ပိတ်ပင်ရမည်၊ သို့တည်းမဟုတ် ကောင်းသောအလုပ် (ဥပမာ) စားခြင်းသောက်ခြင်းကဲ့သို့ အလုပ်ကို ပုန်းလျှိုးကွယ်လျှိုး ပြုလုပ်လျှင်လည်း ရှေ့တွင်စားသောက်ရန် ပြောပြရမည်။

၃၇။ သားငယ် သမီးငယ်တို့ ကျန်းမာ၍ မပျင်းမရိစေရန် ကြိုးပမ်း၍ပြုလုပ်ရသော အလုပ်တစ်ခု သတ်မှတ်ပေးထားပါ၊ ဥပမာ - သားငယ်တို့အား လေးလန်သောဝန်များထမ်းစေခြင်း၊ တစ်မိုင်နှစ်မိုင်ခန့်မျှ ခရီးသွားလမ်းလျှောက်စေခြင်း၊ သမီးငယ်တို့အတွက် ကြိတ်ထိုး မောင်းထောင်းနှင့် ရေစက်ဆွဲစေခြင်းများ စေခိုင်းရန် ထိုက်သည်၊ ၎င်းကဲ့သို့ စေခိုင်းခြင်း၌ ထိုအလုပ်များကိုလည်း မကောင်းသောအလုပ်ဟု မမှတ်ယူရန် အကြောင်းဖြစ်သည်။

၃၈။ သွားလာသောအခါမှာလည်း များစွာအလျှင်အမြန် မသွားစေရ၊ မျက်စိကိုလည်း အထက်သို့မကြည့်ဘဲ (အောက်သို့) ကြည့်ရှုသွားရန် ဆုံးမရမည်။

၃၉။ ထိုသားသမီးတို့ကိုကျိုးငယ်သော ဓလေ့လည်း ဖြစ်စေရမည်၊ နှုတ်လျှာ၏ မြွက်ဟခြင်း အလေ့အကျင့် အမှုအရာများမှစ၍ မကြမ်းတမ်းစေရ၊ မိမိနှင့် အသက်

အရွယ်တူမျှသော ကလေးတို့နှင့်တွေ့လျှင်လည်း မိမိအဝတ်၊ သို့မဟုတ် မိမိအိမ်၊ သို့မဟုတ် အသက်အရွယ်၊ သို့မဟုတ် မိမိ၏စက္ကူ, စာအုပ်, ခဲတန်, မှင်အိုးမှစ၍ ထိုနည်းတူ အရာများကို ချီးကျူးထောပနာပြု၍ မကြွားစေရ။

၄၀။ ရ်ဖန်ရ်ခါ သားသမီးတို့ကို ပိုက်ဆံငါးပြား ဆယ်ပြားမှစ၍ထိုက်သည့်အားလျော်စွာ သဘောအတိုင်း သုံးစွဲဖို့ပေးလိုက်ပါ၊ သို့သော် မိဘတို့မသိဘဲတိတ်တဆိတ်ဝယ်ယူသောစလေ့မှ ရှောင်ကြဉ်ရန် သင်ကြားထားပါ။

၄၁။ သားသမီးတို့ကို စားသောက်ရန်နည်းလမ်းနှင့် ပရိသတ်တွင် နေထိုင်သောနည်းလမ်းများ သင်ပြပါ၊ ထိုအကြောင်းကို ရှေ့တွင် အနည်းငယ်ဖော်ပြပါအံ့။

## စားသောက်ရန် နည်းလမ်း

လက်ယာလက်ဖြင့်စားပါ၊ အစဦးတွင် (ဗစ်မစ်လ္လာဟ်) ဖတ်ပါ၊ မိမိရှေ့ဘက်မှရှိသောနေရာမှ စ၍စားပါ၊ အခြားသူတို့အလျင်မစားနှင့်၊ အစာကိုစိုက်၍ကြည့်မနေနှင့်စားသောက်လျက်နေသူများ ဘက်ကိုလည်းမကြည့်နှင့်၊အလွန်လျှင်မြန်စွာလည်းမစားနှင့်အစာကို ကောင်းစွာဝါး၍စားပါ၊အစာတစ်လုပ်မျို၍မပြီးမီ အခြားအစာတစ်လုပ်အာခံတွင်းမှာ မသွင်းနှင့်၊ ဟင်းရည်ဟင်းဖတ်များ အဝတ်ပေါ်သို့ မကျစေနှင့်၊ လက်ချောင်းများကို အားလုံးလိုသည်ထက်ပို၍မသွင်းနှင့်။

## ပရိသတ်အလည်တွင် ထခြင်း ထိုင်ခြင်း နည်းလမ်း

မည်သူနှင့်မဆို တွေ့ခဲ့သော် အရှိအသေပေးပါ၊ နူးညံ့သာယာသော စကားပြောပါ၊ ပရိသတ်အလည်တွင် တံတွေးထွေးခြင်းနှင့် နှပ်ညှစ်ခြင်း မပြုနှင့်၊အကယ်၍ တံတွေးထွေးလိုလျှင် သို့မဟုတ် နှပ်ညှစ်လိုသော် ထိုနေရာမှ ထွက်သွားပါ၊ ထိုပရိသတ်အလည်၌ သမ်းဝေလိုလျှင် သို့မဟုတ် ချေဆပ်လိုမူ ပါးစပ်ကိုလက်ဖဝါးဖြင့် ပိတ်ထားပါ၊ အသံတိုးတိုးစွာဖြင့်ချေပါ၊ မည်သူ၏ဘက်သို့မျှ ကျောမပေးပါနှင့် ၎င်းပြင် ခြေလည်း မဆင်းပါနှင့်၊ မေးအောက်သို့ လက်ထောက်၍မထိုင်နှင့် လက်ခြေချောင်းမချိုးနှင့် အရေးမကြီးဘဲ အကြိမ်ကြိမ် သူတထူးဘက်သို့ မကြည့်နှင့် ရှိသေစွာထိုင်နေပါ၊ စကားများစွာမပြောနှင့် စကားတိုင်းတွင် (ကဆမ်) ကြိမ်ဆိုခြင်းမပြုနှင့် မည်မျှတိုင်စွမ်းနိုင်သည်ဖြစ်စေ မိမိဘက်က စကားအစမပြုနှင့် အခြားသူ စကားပြောဆိုသောအခါ ကောင်းမွန်စွာ စိတ်စိုက်၍နားထောင်ပါ၊ သို့မှသာ ထိုသူ၏စိတ်ကျေနပ်ရန်ဖြစ်သည်၊သို့သော် အပြစ်ဂိုနာဟ်စကားကို နားမထောင်ရ၊ တားမြစ်နိုင်လျှင် တားမြစ်လိုက်ရမည်၊ မတားမြစ်နိုင်လည်း ၎င်းနေရာက ထသွားရမည်၊ သူတထူးပြောဆိုသော စကားမဆုံးမီ အလည်ကြားဖြတ်၍စကားမပြောနှင့်လူတစ်ဦးတစ်ယောက်လာသောအခါ ပရိသတ်အတွင်း၌ထိုင်ရန်နေ

ရလွတ် မရှိမူ မိမိနေရာက အနည်းငယ် ဆုတ်ခွာပြီးလျှင်အတူရောနှော၍နေထိုင်ရန် နေရာပေးပါ၊လူတစ်ဦးတစ်ယောက်နှင့်တွေ့သောအခါဖြစ်စေ၊သို့မဟုတ်တစ်နေရာကသွားသောအခါ၌ဖြစ်စေ(အတ်စ်စလာမို့ အလိုင်ကွန်းမ်)ဟု မြွက်ဆိုပါ ၊ထိုစလာမ်ကို ပြန်ကြားရာ၌(ဝအလိုင်ကို့ မွတ်စလာမ်)ဟု မြွက်ဆိုပါ။

အမျိုးမျိုးအဖုံဖုံသောစကားများကို ပြောဆိုခြင်းမပြုနှင့်။

# ဝတ္တရားများအကြောင်း

မိဘတို့၏ ဝတ္တရားများ....

၁။ မိဘကိုဒုက္ခမရောက်စေနှင့်၊ အကယ်၍မိဘတို့က နှိပ်စက် ညှဉ်းပန်းငြားသော်လည်း (ပြန်လှန်ခြင်းမပြုရ)။

၂။ နူတ်လျှာ၏ မြွက်ဟခြင်းဖြင့် ၎င်းမိဘတို့ကို အရိုအသေပေးရမည်။

၃။ ရှရီအတ်တရားတော်အရ ပြုလုပ်ပိုင်ခွင့်ရှိသော အလုပ်ကိစ္စအပေါင်းတို့တွင် မိဘတို့၏ အမိန့်အတိုင်း နာခံဆောင်ရွက်ပါ။

၄။ အကယ်၍ မိဘနှစ်ပါးတို့သည် ကာဖွင်ရ်ဖြစ်ကြငြားသော်လည်း ၎င်းတို့ဥစ္စာပစ္စည်း အသုံးလိုသောအခါ ဥစ္စာပစ္စည်းနှင့် ဝတ်ပြုပါ၊ မိဘတို့ သေဆုံးပြီးသည့်နောက် ဝတ္တရားများမှာ.... (၁) ထိုမိဘတို့အတွက် ချမ်းသာရရန် ဒိုအာတောင်းဆုပတ္ထနာပြုနေရမည်၊ နဖွ်လ်အေဗာဒတ်နှင့် ခိုင်ရာတ်လှူဒါန်း၍လည်း ပို့ပါလေ၊ (၂) မိဘတို့နှင့် မိတ်သင်္ဂဟဖြစ်ခဲ့သူတို့နှင့်တကွ အနွ အတာခံ၍ချစ်ခင်စွာ ပေါင်းသင်းပါ၊ (၃)မိဘ၏တာဝန်တင်ရှိသောကြွေးမြီ ကျန်ရစ်သည်ဖြစ်စေ၊ သို့မဟုတ် ရှရီအတ်တရားတော်အရ ပြုလုပ်ပိုင်သော အခွင့်ကိစ္စတစ်ခုခုကိုပြုလုပ်ရန် မှာတမ်းထားခဲ့သည်ဖြစ်စေ၊ စွမ်းနိုင်သမျှဖြစ်လျှင် ထိုအခွင့်ကိစ္စကြွေးမြီများကို ပြုလုပ်ဆောင်ရွက်ပေးရမည်။

၅။ ၎င်းမိဘတို့က ကွယ်လွန်သေဆုံးပြီးနောက် ရှရီအတ်တရားတော်နှင့် ဆန့်ကျင်ဘက် ငိုယိုဟစ်အော်ခြင်းမပြုနှင့်၊ အကယ်၍ ဤသို့ပြုလျှင် မိဘတို့ဝိညာဉ်ကို ဒုက္ခရောက်လိမ့်မည်၊ မိဘနှစ်ပါးတို့၏ မိဘဖြစ်ကြသော နှစ်ဘက်ဘိုးဘွားတို့လည်း မိဘနှစ်ပါးနှင့်ပင် အတူဖြစ်သောကြောင့် ၎င်းတို့ကို မိဘတို့၏ဝတ္တရားကဲ့သို့ မှတ်ယူရသည်၊ ထိုနည်းတူစွာ အမိ၏ မောင်ကြီး,မောင်ငယ်,အစ်မ,ညီမဖြစ်ကြသော ဦးကြီး,ဦးလေး,ဒွေးကြီး,ဒွေးလေး တို့လည်း မိခင်၏ဝတ္တရားအတိုင်းဖြစ်၍ အဘ၏ ညီအစ်ကိုမောင်နှမ တော်စပ်ကြသော ဘကြီး, ဘထွေး, အရီးလေး, အရီးကြီးတို့လည်း အဘ၏ဝတ္တရားအတိုင်း ဖြစ်ကြ၏၊ ၎င်းအဆိုများကို ဟဒီးသ်တော်၏အလိုဖြင့် သိရလေသည်။

နို့ထိန်းမိခင်၏ ဝတ္တရားများမှာ....

(၁) ထိုနို့ထိန်းအား ရိုသေသမှုပြုရမည်၊ (၂)အကယ်၍ မိမိ၌ဥစ္စာပစ္စည်းချောင်လည်စွာရှိပါလျှင် ထိုနို့ထိန်းအသုံးလိုပါက တတ်အားသမျှ ကူညီထောက်ပံ့ပါ။

မိထွေး၏ ဝတ္တရားများမှာ....

ထိုမိထွေးသည် (မိမိ၏မိခင်ရင်း မဟုတ်ငြားသော်လည်း) အဖ၏မယားဖြစ်သော ကြောင့်၎င်းအဖ၏အချစ်နှင့်တကွ ကျေးဇူးပြုရန် အမိန့်ပညတ်ထားရှိလေသည်၊ သို့အတွက် မိထွေး၏ ဝတ္တရားများမှာလည်း မိခင်ရင်း၏ဝတ္တရားများကဲ့သို့ မှတ်ယူရသည်။

အစ်ကို၏ဝတ္တရားများ .

ဟဒီးသ်တော်၏အလိုသဘောဖြင့် အစ်ကိုသည် အဖကဲ့သို့ဖြစ်လေသည်၊ သို့အတွက် ညီဖြစ်သူသည် သားသမီးကဲ့သို့မှတ်ယူရ၏၊ ထို့ကြောင့် မိဘနှင့်သားသမီးတို့ ထိုက်သော ဝတ္တရားများကဲ့သို့ ညီအစ်ကိုတို့ ဝတ္တရားဖြစ်လေသည်၊ ထိုနည်းတူစွာ အစ်မ,ညီမတို့၏ ဝတ္တရားများကိုလည်း သိအပ်၏။

ဆွေမျိုးညာတိတို့၏ဝတ္တရားများ ..

၁။ မိမိ၏ဆွေမျိုးညာတိအရင်းအချာတို့သည်မစွမ်းသူဖြစ်၍ လုပ်ကိုင်စားသောက်ရန်လည်း စွမ်းအား မရှိခဲ့သော် မိမိ တတ်အားသမျှ ထိုသူတို့ကို အသုံးအစွဲ ပေးကမ်းထောက်ပံ့ပါ။

၂။ ရံဖန်ရံခါ ၎င်းတို့နှင့် တွေ့ဆုံလျက်နေပါ။

၃။ အကယ်၍ ၎င်းတို့က(အသင်/မ)တို့အပေါ်မှာနစ်နာအောင်ပင်ပြုငြားသော်လည်း သည်းခံပါ၊ ဆွေမျိုးတော်စပ်ခြင်း မဖြတ်နှင့်။

ယောက္ခမတို့နှင့် ၎င်းတို့၏ အဆက်အနွယ်များ၏ ဝတ္တရားများ။

ကုရ်အာန်ကျမ်းမြတ်တွင် အသျှင်မြတ်က အမျိုးအနွယ်၏အကြောင်း ညွှန်ပြခြင်းဖြင့် သိရသည်မှာ ယောက္ခမများနှင့် ယောက်ဖ, မရီး, သားမက်, ချွေးမ, ခဲအို့,မတ်မှစ၍ မယားပါသား လင်ပါသားတို့ ထိုက်သက်သော ဝတ္တရားများလည်း ရှိလေသည်၊ ထို့အတွက် ၎င်းတို့နှင့်လည်း ကောင်းမွန်စွာစောင့်ရှောက်၍ ထိန်းသိမ်း၍ အခြားသူစိမ်းတို့ထက် သာပို၍ကောင်းမြတ်သော ဆက်ဆံမှုပြုရမည်။

## မွတ်စလင်မ်များအပေါ်၌ပြုအပ်သော ဝတ္တရားများ အကြောင်း

၁။ မွတ်စလင်မ်တစ်ဦးတစ်ယောက်အား မှားယွင်းကျူးလွန်မိသည်ကို ခွင့်လွှတ်ရမည်။

၂။ မွတ်စလင်မ်တစ်ဦးတစ်ယောက် ငိုယိုလျက်နေပါက ကရုဏာသက်ရောက်ကြရမည်။

၃။ မွတ်စလင်မ် အချင်းချင်း၏ အပြစ်ကို ဖုံးအုပ်ပါ။

၄။ အကယ်၍ မွတ်စလင်မ်တစ်ဦးက တောင်းပန်လျှင် ကျေနပ်ပါ။

၅။ ထိုသူတို့ကို ဒုက္ခအန္တရာယ်မှ ကင်းဝေးစေရမည်။
၆။ အမြဲထာဝရ မွတ်စလင်မ်အချင်းချင်း ကောင်းသောသဘောထားရမည်။
၇။ ၎င်းတို့ကို ချစ်ခင်နှစ်သက်ရမည်။
၈။ ၎င်းတို့နှင့် ကတိမပျက်ရန် ဂရုပြုပါ။
၉။ မကျန်းမာသူကို မေးမြန်းပါ။
၁၀။ သေဆုံးမှု ဆုမွန်ကောင်းတောင်းပေးပါ။
၁၁။ ထမင်းစားရန် ဖိတ်ခေါ်လျှင်သွားပါ။
၁၂။ လက်ဆောင်တစ်စုံတစ်ရာပေးလျှင်နှစ်ခြိုက်စွာယူပါ။
၁၃။ ၎င်းတို့ တစ်စုံတစ်ရာကျေးဇူးပြုလျှင် ကျေးဇူးပြန်၍ဆပ်ပါ။
၁၄။ ထိုသူတို့၏ ဆောင်ကျဉ်းသော စည်းစိမ်အပေါ်၌ ကျေးဇူးတင်ပါ။
၁၅။ လိုအပ်သောအချိန်အခါ၌ ၎င်းတို့ကိုကူညီပါ။
၁၆။ ၎င်းတို့၏ သားငယ်သမီးငယ်များကို စောင့်ရှောက်ပေးပါ။
၁၇။ ထိုသူတို့၏အလုပ်ကို ကူညီပြုလုပ်ပါ။
၁၈။ ၎င်းတို့၏စကားကို နားထောင်ပါ။
၁၉။ ထိုသူတို့၏ တောင်းပန်ပေးခြင်းကို လက်ခံပါ။
၂၀။ ၎င်းတို့အလိုကို လက်မခံ မပြုနှင့်။
၂၁။ ၎င်းတို့ချေဆပ်၍(အလ်ဟမ်ဒို လစ်လ္လာဟ်)ဆိုခဲ့လျှင်( ယရ်ဟမို ကလ္လာဟ်) ဟု ပြန်၍မြွက်ဆိုပါ။
၂၂။ အကယ်၍ မွတ်စလင်မ်တစ်ဦးတစ်ယောက်၏ပျောက်ဆုံးသော ဝတ္ထုပစ္စည်း တစ်ခုခုရှိပါက ၎င်းသူကို ပြန်၍ပေးရမည်။
၂၃။ စလာမ်ပေးခဲ့သော် စလာမ်ပြန်ကြားပါ။
၂၄။ စကားပြောသောအခါ ၎င်းတို့နှင့် နူးညံ့သာယာစွာပြောပါ။
၂၅။ ၎င်းတို့အား သနားကြင်နာမှု ထားရှိပါ။
၂၆။ သင့်အား ယုံကြည်ပြီး ကျိန်ခဲ့သော် ထိုသူ၏အလိုကို ဖြည့်ပေးပါ။
၂၇။ သူတထူးက မွတ်စလင်မ် တစ်ဦးတစ်ယောက်ကို ညှဉ်းပမ်းနှိပ်စက်ခဲ့သော် မနှိပ်စက်ရန် ကူညီပါ၊ ထိုသူကတစ်စုံဦးကိုနှိပ်စက်လျှင်လည်းတားမြစ်ပါ။
၂၈။ ထိုသူတို့နှင့် ချစ်ခင်စွာနေပါ၊ ရန်ငြိုးမပြုနှင့်။
၂၉။ ထိုသူတို့၏ အရှက်ကိုလည်း မခွဲနှင့်။
၃၀။ မိမိနှစ်သက်သောအရာကို ၎င်းတို့နှစ်သက်သည်ဟု အောက်မေ့ရမည်။
၃၁။ တွေ့ဆုံသောအခါ စလာမ်ပေးဆိုပါ၊ ယောကျ်ားအချင်းချင်း မိန်းမ အချင်းချင်း လက်ဆက်ခဲ့လျှင်လည်း သာ၍ကောင်း၏။
၃၂။ အကယ်၍တစ်ယောက်နှင့်တစ်ယောက်သဘောမမျှသဖြင့်ရန်ငြိုးဖြစ်ခဲ့သော် သုံးရက်ထက်ပို၍ စကားမပြောဘဲမနေနှင့်၊ သုံးရက်မတိုင်မီခေါ်ပါ။

၃၃။ ၎င်းတို့ကို မကောင်းသောအထင်မထားရ။
၃၄။ ၎င်းတို့ကို မလိုမုန်းခြင်း မပြုရ။
၃၅။ ထိုသူတို့အား ကောင်းသောအကျင့်ကို ညွှန်းပြ၍မကောင်းသော အကျင့်မှ တားမြစ်ပါ။
၃၆။ လူငယ်တို့အပေါ်မှာ ကရုဏာထား၍ လူကြီးများကို ရှိသေပါ။
၃၇။ မွှဘ်စလင်မ်နှစ်ဦးတို့ အချင်းချင်း မသင့်မတင့် ဖြစ်နေလျှင် ၎င်းတို့အား သင့်မြတ်အောင်စေ့စပ်ပေးပါ။
၃၈။ မွှတ်စလင်မ်ဘိုု၏ အတင်း မပြောနှင့်။
၃၉။ ၎င်းတို့၏ဥစ္စာပစ္စည်းကိုဖြစ်စေ၊ ဂုဏ်ကျက်သရေကိုဖြစ်စေ၊ အဘယ်နည်းနှင့်မျှ ပျက်စီးအောင် မပြုလုပ်နှင့်။
၄၀။ မွှတ်စလင်မ် တစ်ဦးတစ်ယောက်ကို မိမိနေရာမှ ထစေ၍ ၎င်းသူ၏ နေရာ၌ မထိုင်နှင့်။

# အိမ်နီးချင်းတို့၏ ဝတ္တရားများ အကြောင်း

၁။ အိမ်နီးချင်းများနှင့် သင့်တင့်စွာဆက်ဆံလျက် ကျေးဇူးပြုလျက် နေရမည်။
၂။ အိမ်နီးချင်းဖြစ်သူ၏သားမယားနှင့်ကလေးသူငယ်များတို့၏ဂုဏ်ကျက်သရေကို စောင့်ရှောက်ပါ။
၃။ ရံဖန်ရံခါ ၎င်းတို့အိမ်သို့ တစ်စုံတစ်ရာ လက်ဆောင်ပေးပို့ပါ၊ အကယ်၍ အိမ်နီးချင်းများ အလွန်ပင်ဆင်းရဲနွမ်းပါး ငတ်မွတ်ပါလျှင် ထိုအခါ၌ နည်းများမဆို အစားအသောက် ပေးပို့ထောက်ပံ့ပါ။
၄။ ၎င်းတို့ကို ဒုက္ခမပေးနှင့်၊ အရေးမယူလောက်သော စကားများနှင့် အချင်းချင်း ရန်ငြိုးမထားနှင့်၊ ထို့ပြင် မိမိဌာနမှာ အတူနေထိုင်သော အိမ်နီးချင်း မိတ်ဆွေတို့ကဲ့သို့ ခရီးသွားရာ၌ ဆက်ဆံပေါင်းသင်းသော မိတ်ဆွေတို့၏ ဝတ္တရားများလည်း အတူဟုမှတ်ယူရမည်၊ ထိုမိတ်ဆွေတို့၏ ဝတ္တရားများမှာ မိမိချမ်းမြေ့စွာရှိခြင်းထက် ၎င်းတို့ကို ချမ်းမြေ့စွာရှိစေရမည်၊ အချို့သော သူတို့သည် မီးရထား၌ဖြစ်စေ၊ သို့မဟုတ် အခြားသောအစီးအနင်းမှာဖြစ်စေ အတူ စုံဆည်းကြသော မိတ်ဆွေတို့ကို အရေးဂရုမပြုဘဲ ရှိနေတတ်ကြ၏၊ ၎င်းဓလေ့သည် အလွန်မကောင်းသောဓလေ့ ဖြစ်လေသည်၊ ထိုနည်းတူစွာ အခြားသူများထံသို့ တောင့်တရသူများ၊ ဥပမာ.... (ယတီမ်) အဘမဲ့သော ကလေး၊ မုဆိုးမ သို့မဟုတ် မစွမ်းနိုင်သောသူ၊ ဆင်းရဲနွမ်းပါးသူ၊ ဝေဒနာစွဲကပ်သူ၊ ခြေလက်မသန်စွမ်းသူ၊ ခရီးသည် သူတောင်းစားမှစ၍ ထိုနည်းတူ လူများ ဖြစ်ကြ၏။

၎င်းတို့၏ ဝတ္တရားများမှာ —
၁။ ဥစ္စာပစ္စည်း တတ်အားသမျှ ပေးကမ်းပါ။
၂။ ၎င်းတို့၏အလုပ်ကို မိမိလက်ခြေဖြင့် ပြုလုပ်၍ပေးပါ။
၃။ ၎င်းတို့စိတ်နှလုံးအလိုအတိုင်း ကျနအောင်ဆောင်ရွက်ပါ။
၄။ ၎င်းတို့တောင်းဆိုခြင်းကို မငြင်းပယ်ပါနှင့်။

# လူလူချင်းပြုအပ်သောဝတ္တရားများအကြောင်း

မွတ်စလင်မ်မဟုတ်သူ၏ ဝတ္တရားများ ...
၁။ သူတထူး၏အသက်ကိုခိုသော်လည်းကောင်း၊ ဥစ္စာပစ္စည်းကိုသော်လည်းကောင်း ဒုက္ခဖြစ်အောင်မပြုနှင့်။
၂။ ရှရီအတ်တရားတော်၏အခွင့်ကိစ္စမရှိဘဲ အလဟဿစကားပြောမနေနှင့်။
၃။ အကယ်၍ တစ်ဦးသောသူမှာ ဒုက္ခအန္တရာယ် ဆေးဘယာဝေဒနာ တစ်ခုခုကျရောက်နေသော် ထိုသူကိုစောင်မပါ၊ အစားအသောက်တို့ကိုတတ်အားသမျှ ထောက်ပံ့၍ ဆေးကုသပါ။
၄။ ရှရီအတ်တရားတော်က အပြစ်ပေးရန် အခွင့်ပေးသော ကိစ္စများတွင်လည်း လွန်ကျူး၍ ညှဉ်းပန်းနှိပ်စက်ခြင်းမပြုရ။

# တိရစ္ဆာန်များ၏ ဝတ္တရားများအကြောင်း

၁။ အကြင်တိရစ္ဆာန်သည် မည်သည့်အကျိုးမျှ မခံစားရသော် ထိုတိရစ္ဆာန်ကို ချည်နှောင်၍ လှောင်၍ ဒုက္ခပေးပြီးမထားနှင့်၊ အချို့သော သူတို့သည် ငှက်တိရစ္ဆာန်တို့၏ အသိုက်အတွင်းမှ ငှက်ကလေးများကို ယူဆောင်ခဲ့ပြီးလျှင် ၎င်းငှက်ကလေးများ၏ မိဘတို့ကိုဒုက္ခပေးကြ၏၊ ယင်းကဲ့သို့ ပြုလုပ်ခြင်းသည် အလွန်မကောင်းသော အလုပ်ဖြစ်၍ ကရုဏာမဲ့ခြင်း ဖြစ်လေသည်။
၂။ အသားစားပိုင်သော တိရစ္ဆာန်များကိုလည်း သက်သက်စိတ်နှလုံးဖျော်ဖြေရန် မသတ်နှင့်၊ စားရန်သတ်နိုင်သည်။
၃။ မိမိ၏အလုပ်စေခိုင်းရသော တိရစ္ဆာန်များကို အစားအသောက်များမှ စ၍ အားလုံးပြည့်စုံစွာထားရမည်၊ ၎င်းတို့ကိုအဆမတန်သော အလုပ်ကို မခိုင်းနှင့်၊ စည်းကမ်းထက်ပို၍လည်း မရိုက်နှက်နှင့်။
၄။ အကြင်တိရစ္ဆာန်များကို (သဗ်ဟ်) ပြုလိုသော် သို့မဟုတ် ညှဉ်းပန်း နှိပ်စက်သောတိရစ္ဆာန်ဖြစ်ခြင်းကြောင့် သတ်လိုသော်ထက်မြက်သော လက်နက်ဖြင့် လျင်မြန်စွာကိစ္စပြီးငြိမ်းစေရမည်၊ ၎င်းတို့ကို ဝေတ်မွတ်စွာထားပြီးဒုက္ခရောက်၍ မသေစေနှင့်။

## အရေးကြီး အသုံးဝင်သော စကားများ

အကယ်၍ သူတထူးအပေါ်၌ ကျူးလွန်မိသည်ဖြစ်စေ၊ သို့မဟုတ် တစုံတရာပေးရန် ဝတ္တရားရှိသည်ဖြစ်စေ၊ တောင်းပန်တိုးလျှိုးပေးဆပ်ရမည်၊ ဥပမာ - သူတထူး၏ ကြွေး ဆပ်ရန်ရှိလျှင်သော်လည်းကောင်း၊ သို့မဟုတ် သူတထူးအပေါ်၌ ထိမ်ချန် လျှို့ဝှက်ခြင်း ရှိခဲ့လျှင်သော်လည်းကောင်း၊ တောင်းပန်ထိုက်လျှင် တောင်းပန်ရမည်၊ ဥပမာ နောက်ကယ် အတင်းပြောခြင်းမှစ၍ ထိုနည်းတူ အရာများဖြစ်ခဲ့သော် အကြောင်းခံ တစ်ခုခု ကြောင့် မတောင်းပန် မပေးဆပ်နိုင်ပါက အမြဲထာဝရ မြင့်မြတ်တော်မူသော အသျှင့်ထံက ချမ်းသာရရန် 'ဒိုအာ' တောင်းပေးရမည်၊ ကေယာမတ်နေ့၌ မြင့်မြတ်တော်မူသော အသျှင်မြတ်က ထိုသူတို့အား ကျေနပ်အောင်ပြုပေးတော်မူလိမ့်မည်။

သို့သော် ထိုအခါ၌လည်း ပေးဆပ်ရန် ရင်းတောင်းပန်ရန် အစိုးရိမ်မဲ့မနေနှင့်၊ သူတထူးသို့ ဆောင်ကျဉ်းရန်ရှိသော အခွင့်ကိစ္စတို့ကို နူးညံ့သာယာစွာပြုလုပ် ဆောင်ကျဉ်း ပါ၊ ထိုနည်းတူစွာ မိမိအပေါ်၌ သူတထူးက ပြောဆိုမိခြင်းများ၊ ဥပမာ.... နောက်ကွယ် အတင်းမှစ၍ ထိုကဲ့သို့ တစ်ခုခုကျူးလွန်မိသဖြင့် တောင်းပန်ပါလျှင်လည်း ကျေနပ်ဖို့သင့် သည်၊ အကယ်၍ဒွန်နယာလောကမှာမကျေနပ်မူနောင်အာခေရတ်၌ ကောင်းမှုကုသိုလ်များ ရမည်မှာတော့ ဟုတ်ပါ၏၊ ဟုတ်ပင် ဟုတ်ငြားသော်လည်း ကျေနပ်လိုက်ခြင်း သာပို၍ သဝါဗ် ရပေသည်။

## တဂျီဝီးဒ် ခေါ် ကုရ်အာန်ကျမ်းတော်မြတ်ကို

### နှာန်ကရိုဏ်းကျအောင် ဖတ်နည်းအကြောင်း

(၁)

ကုရ်အာန် ကျမ်းတော်မြတ်ကို ကျနမ်မှန်ကန်စွာ ဖတ်ရွတ်နိုင်ရန် ကြိုးပမ်းခြင်း (ဝါဂျစ်ဗ်) ဖြစ်၏၊ ဂရုမစိုက်ဘဲ ဖတ်ရွတ်ခြင်းသည် အပြစ်ဖြစ်၏။

အကျိုးမှာ.... တဂျီဝီးဒ် ခေါ် ဖတ်ရန်နည်းလမ်းသည် များစွာရှိ၏၊ သို့ရာတွင် အလွန်အရေးကြီး၍ လွယ်ကူသော ဥပဒေစည်းကမ်းများကို ရေးသားဖော်ပြပါအံ့။

သတိပေးချက်....ထိုအက္ခရာများကို ကောင်းမွန်စွာခွဲခြား၍ ဖတ်ရန်ထိုက်လေသည်၊ အလစ်ဖ် အိုင်န်၊ ဟမ်ဇာတို့ကိုလည်းကောင်း၊ တေနှင့်တွေကိုလည်းကောင်း၊ သေနှင့်စွားဒ် တို့တွင် လည်းကောင်း၊ ဟေကြီးနှင့် ဟေလေးကိုလည်းကောင်း၊ ဒါလ်နှင့်သွားဒ်ကိုလည်း ကောင်း ဿာလ်နှင့်ဇေဇွေတို့ကိုလည်းကောင်းအဆိုပါအက္ခရာများကို အသံထွက်အားဖြင့် ခွဲခြား၍ဖတ်ရမည်။

တေသည် (ပွရ်) အသံပြည့် ဖတ်ရသောအက္ခရာမဟုတ်၊ တွေသည် (ပွရ်) အသံပြည့် ဖတ်ရသောအက္ခရာဖြစ်လေသည်။

သေသည် ပျော့ပျောင်းသောအသံထွက်၍ စိန်သည် မာမြင်းသော အသံထွက်လေသည်၊ စွားဒ်သည် အသံပြည့်ဖတ်ရသော အက္ခရာဖြစ်သည်၊ သွားဒ်အက္ခရာသည် လျှာကို ဘေးဘက်သွားများမှာ ကပ်လျက်ထုတ်ရသည်ဖြစ်၍ လက်စဲဘက် အံသွားများမှာ လျှာကို ကပ်လျက်ထားရသည်၊ ထိုအက္ခရာကို ရှေ့သွားများမှာ လျှာကပ်၍ ဖတ်ရွတ်ခြင်းများ၏၊ ၎င်းအက္ခရာသည် အထုတ်ရခက်ခဲသောအက္ခရာဖြစ်ခြင်းကြောင့် ကောင်းမွန်စွာ လေ့ကျင့်ယူသင့်သည်။

သာလ်အက္ခရာသည် ပျော့ပျောင်း၍ဇေအက္ခရာမှုကား မာမြင်းသောအသံ ထွက်သည်၊ ဇွေအက္ခရာမှာ အသံပြည့် ဖြစ်လေသည်။

(နည်းလမ်း နိုသာရည်း)

ဤအက္ခရာများသည် အမြဲထာဝရ (ပွါရ်) အသံပြည့်ဖတ်ရမည်၊ ခေါ၊ စွားဒ်၊ သွားဒ်၊ တွေ၊ ဇွေ၊ ဂိုင်န်၊ ကာဖ် (ကြီး)။

(နိုသာရည်း)နူန်အက္ခရာနှင့် မီးမ်အက္ခရာအပေါ်၌ အကြင်အခါ တရှ်ဒီးဒ်ရှိခဲ့သော် ၎င်းအက္ခရာတိုကို ဂွန်နဟ်နှင့်ဖတ်ရမည်၊ အဓိပ္ပါယ်ကား ထိုအက္ခရာ၏အသံကို တန်ကြာတိုင် နှာခေါင်းဖွင့် ထုတ်လျက်နေရမည်ဟု ဆိုလိုသည်။

(နိုသာရည်း)အကြင်အက္ခရာများအပေါ်၌(ဇဗရ်)ဖြစ်စေ၊ (ဇေရ်)ဖြစ်စေ၊ (ပေရှ်) ဖြစ်စေ ရှိခဲ့သော် ၎င်းအက္ခရာများ၏ရှေ့တွင် (အလစ်ဖ်) (ယေ) (ဝါဝ်) အက္ခရာများ အနက်မှ အက္ခရာတစ်လုံးလုံးမပါရှိလျှင် ထိုအက္ခရာကိုဆွဲ၍ မဖတ်ရ၊ များသော အားဖြင့် လူတို့သည် ဤသို့ ဆွဲငင်လျက် ဖတ်သောဓလေ့ ရှိကြလေသည်။

ယင်းသို့ဖတ်ခြင်းများ၏၊ ဥပမာ... اَلْحَمْدُ အလ်ဟမ်ဒို့ကို اَلْحَمْدُو

အလ်ဟမ်ဒူ ဟု ဖတ် ခြင်း مَالِكِ မာလေ့ကေ့ကို مَالِكِي

မာ လေ့ ကီ ဟု ဖတ် ခြင်း اِيَّاكَ အီယာကကို اِيَّاكَا အီယာကာဟု ဖတ်ခြင်းတို့ ဖြစ်လေသည်။

အကြင်နေရာ၌ အလစ်ဖ်၊ ယေ၊ ဝါဝ်အက္ခရာများရှိခဲ့လျှင် ဖြတ်၍ မဖတ်သင့်၊ ဆွဲလျက် ဖတ်ရမည်၊ အချုပ်အဘောမှာ အရပ်အဆိုင်း အဆွဲအငင်ကို ကောင်းစွာ သဘောထားရမည်။

# နိုသာရည်း

ပေးရှ်ကို ဝါဝ် အက္ခရာ၏ အသံပေး၍ ဇေရ်ကို ယေအက္ခရာ၏ အသံပေးကာ ဖတ်ရမည်။

အကြင်နေရာ၌ နွန်အက္ခရာ အပေါ်တွင် ဂျဇမ်ရှိ၍ နွန် အက္ခရာ၏နောက်တွင် (တေ၊ သေ၊ ဂျီးမ်၊ ဒါလ်၊ ဇာလ်၊ ဇေ၊ စီန်၊ ရှီန်၊ စွာဒ်၊ တွေ၊ ဇွေ၊ ဖွေ၊ ကာဖ် (ကြီး)၊ ကာဖ် (လေး) တို့ အနက်မှအက္ခရာတစ်လုံးလုံး ပေါ်ရှိမူ ၎င်းနွန်ကို ဂွန်နဟ်သံဖြင့် (ဝါ) နှာသံဖြင့် ဖတ်ရမည်။ ဥပမာ....

## နိုသာရည်း

اَنْتُمْ مِنْ ثَمَرَةٍ فَاَنْجَيْنَاكُمْ اَنْدَادًا اَنْذَرْتَهُمْ اَنْزَلَ مِنْسَاتَهُ يَنْشُرُ كُنْتُ صَبْرٌ مَنْضُوْدٍ فَاِنْ طِبْنَ فَانْظُرْ يُنْفِقُوْنَ مِنْ قَبْلِكَ اِنْ كُنْتُمْ

အန်တွန်မ်၊ မင်န်သမရတင်၊ ဖအန်ဂျိုင်နာကွန်မ်၊ အန်ဒါဒန်၊ အန်သရ်တဟွန်မ် အန်ဇလ၊ မင်န်စအတဟူ၊ ယန်ရှုရ်၊ ကမန်စွဗရ၊ မန်သွူဒင်၊ ဖအင်န်တွစ်ဗ်န၊ ဖွာန်ဇွရ်၊ ယွန်ဖွေ့ကူန၊ မင်န်ကာဗ်လေ့က၊ အင်န်ကွန်တွန်မ်။

## နိုသာရည်း

ထိုနည်းတူစွာ အကြင်အက္ခရာ၏ အပေါ်၌ ဒိုဇဗရ်၊ ဒိုဇေရ်၊ ဒိုပေးရ်၊ နွန်သံ ထွက်သော အက္ခရာများရှိခဲ့သော် ၎င်းအက္ခရာ၏ နောက်၌ အထက်ညွှန်ပြခဲ့သည့် အက္ခရာ ၁၅-လုံးအနက် တစ်လုံးလုံးပါရှိပါက ထိုအက္ခရာလည်း နွန်၏အသံကို ဂွန်နဟ် နှာသံ ပေး၍ ဖတ်ရမည်။ ဥပမာ....

جَنّٰتٍ تَجْرِيْ جَمِيْعًا ثُمَّ اسْتَوٰى مِنْ نَفْسٍ شَيْئًا رِزْقًا قَالُوْا رَسُوْلٌ كَرِيْمٌ

ဂျန်နာတင်၊ တဂျ်ရီ၊ ဂျမီအန်၊ သုန်မတ်စ်တဝါ၊ မင်န်နဖ်စင်၊ ရှိုင်အန်၊ ရစ်ဇ်ကန် ကာလူ၊ ရစူလွန်၊ ကရီမွန်။

ထိုနည်းတူစွာ အခြားသော ဥပမာများကိုလည်း ရှာဖွေကြည့်ရှုပါ။

## နိသာရည်း

အကြင်နေရာမှာနူန်အက္ခရာပေါ်၌ ဂျဇမ်ရှိ၍ ၎င်း၏နောက်တွင် (လေ) အက္ခရာဖြစ်စေ၊ (လာမ်)အက္ခရာဖြစ်စေ ပါရှိခဲ့မူ ထို(နူန်)၌ နူန်၏အသံ လုံးဝမထွက်ပေ၊ သာမက (ရေ) သို့မဟုတ် (လာမ်) နှင့်အတူ ရောရှက်လျက် အသံထွက်လေသည်။

ဥပမာ....

مِنْ رَّبِّهِمْ မင်ရ်ရဗ်ဗေဟင်မ် وَلَاكِنْ لَّا يَشْعُرُوْنَ ဝလာကင်လိ ကာယတ်ရှ်အိုရူးန။

## နိသာရည်း

ထိုနည်းတူစွာ အကြင်အက္ခရာပေါ်၌ နူန်သံထွက်သော ဒိုဇဗရ်၊ ဒိုဇေရ်၊ ဒိုပေးရှ်တို့အနက် တစ်ခုခုသော လက္ခဏာပါရှိခဲ့၍ ၎င်းအက္ခရာ၏ နောက်တွင်(ရေ)ဖြစ်စေ၊ (လာမ်)ဖြစ်စေ ပါရှိခဲ့လျှင်လည်း (နူန်) ၏ အသံမထွက် (ရေ) မှာဖြစ်စေ၊ သို့မဟုတ်(လာမ်)မှာဖြစ်စေ နှော၍ဖတ်ရမည်။

ဥပမာ....

غَفُوْرٌ رَّحِيْمٌ ဂဖူရှရ်ရဟီးမွန် هُدًى لِّلْمُتَّقِيْنَ ဟွိုဒလ် လင်လ်မွတ်တကီးန။

## နိသာရည်း

အကယ်၍ (နူန်) အက္ခရာပေါ်၌ဂျဇမ်ရှိ၍ ၎င်း၏နောက်တွင် (ဗေ) အက္ခရာရှိခဲ့သော် ထို(နူန်) ကို (မီမ်) ကဲ့သို့ဖတ်၍ ဂွန်နဟ် နှာသံပေးရမည်။

ဥပမာ.... اَنْبِئْهُمْ အန်ဘဲအ်ဟွန်မ်ကို၊ اَمْبِئْهُمْ အမ်၊ ဘဲအ်ဟွမ် ဟု ဖတ်ဆိုရမည်။

ထိုနည်းတူစွာ အကြင်အက္ခရာပေါ်၌ (နူန်) သံထွက်သော ဒိုဇဗရ်၊ ဒိုဇေရ်၊ ဒိုပေးရှ်တို့အနက်မှ တစ်ခုခုလက္ခဏာရှိသောအခါ ၎င်းအက္ခရာ၏ နောက်မှ (ဗေ)အက္ခရာရှိခဲ့ပါလျှင်လည်း (မီမ်) သံထုတ်၍ ဖတ်ရမည်။

ဥပမာ.... اَلِيْمٌۢ بِمَا အလီမွန်မ်ဗေမာကို اَلِيْمٌ بِمَا အလီမွန် ဗေမာဟု ဖတ်ရမည်။

အချို့သော ကုရ်အာန်ကျမ်းစာအုပ်များတွင် ဤသို့သော နေရာများ၌ငယ်သော (မီမ်) အက္ခရာ အငယ်စားဖြင့် ညွှန်ပြလျက် ရေးသားပါရှိ၍ အချို့ကျမ်းများတွင် မပါချေ၊ သို့သော် ပါရှိသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ထိုကဲ့သို့နေရာများ၌ ညွှန်ပြခဲ့သည့် နိယာမအတိုင်း ဖတ်ရမည်။

# နိယာမ

အကြင်နေရာ၌ (မီမ်) အက္ခရာပေါ်မှာဂျဇမ်ရှိ၍ ထိုအက္ခရာ၏ နောက်၌ (ဗေ) အက္ခရာ ရှိခဲ့ပါလျှင် ၎င်း (မီမ်) ကို အထုံ့ချို၍ဖတ်ရမည်။

ဥပမာ.... يَّعْتَصِمْ بِاللّٰهِ ယအ်တစွင်မ်ဗစ်လ္လာဟေ့၊ ဤဖတ်နည်းကို အစ်ခ်ဖွာအေ့ရှဖဝီဟု ခေါ်လေသည်။

# နိယာမ

အကြင်အက္ခရာပေါ်၌ ဒိုဇဗရ်ဖြစ်စေ၊ ဒိုဇေရ်ဖြစ်စေ၊ ဒိုပေးရှ်ဖြစ်စေ တစ်ခုခုရှိ၍ ၎င်းနောက်အက္ခရာအပေါ်တွင် ဂျဇမ် ရှိခဲ့မူ ထိုနေရာ၌ ဒိုဇဗရ်၏နေရာတွင်ဇဗရ်တစ်ခုတည်းဖြင့်ဖတ်ရမည်၊ နောက်တွင် ရေးထားသော (အလစ်ဖ်) ကိုလည်းမဖတ်ရ၊ မိမိဘက်မှ (ဇေရ်) ရှိသော(နူန်)တစ်လုံးကိုထုတ်၍ ထိုဂျဇမ်ရှိသော အက္ခရာနှင့်နှောလျက် ဖတ်ရမည်။

ဥပမာ.... خَيْرًا الْوَصِيَّةُ ခိုင်ရလ်ဝစွိယတ္တုကို خَيْرَنِ الْوَصِيَّةُ ခိုင်ရနင်လ်ဝစွိယတ္တုဟု ဖတ်ရမည်။

ထိုနည်းတူစွာ ဒိုဇေရ်၏နေရာမှာလည်း ဇေရ်တစ်ခုတည်းပေး၍ ဒိုပေးရှ်၏ နေရာမှာလည်း ပေးရှ်တစ်ခုတည်းဖြင့် ဖတ်ရမည်၊ အထက်နည်းအတိုင်း ဇေရ်ရှိသော(နူန်)ကို ထည့်ပေးရသည်။

ဥပမာ.... فَخُوْرٌ الَّذِيْنَ ဖခူရလ်လသီနကို فَخُوْرُنِ الَّذِيْنَ

ဖွခူရနင့်လသီန ဟူ၍လည်းကောင်း نُوْحٍ اِلَيْ نူဟွဗိနုဟူကို نُوْحُ اِلَيْ နူဟိုနစ်ဗိနဟူ ဟူ၍လည်းကောင်း ဖတ်ဆိုရမည်။

အချို့သော ကုရ်အာန်ကျမ်းတော်များတွင် သေးငယ်သော (နူန်)ကလေးတစ်လုံး အလယ်ကြားတွင် ရေးသားပါရှိသည်၊ အကယ်၍ အချို့ကုရ်အာန်တွင် ရေးသားလျက် မပါရှိငြားသော်လည်း ထည့်သွင်း၍ ဖတ်ရန်ထိုက်၏။

# နိဿရည်း

ရေ အက္ခရာအပေါ်၌ ဇဗရ် သော်လည်းကောင်း၊ ပေးရှ် သော်လည်းကောင်း အကယ်၍ ရှိခဲ့သော် (ပွရ်)ခေါ် လေးလေးဖတ်ရန် ထိုက်၏။

ဥပမာ.... رَبِّ الْعٰلَمِيْنَ ရဗ်ဗင်လ်အာလမီန၊ اَمْرَهُمْ အမရှဟွန်မ်

အကယ်၍ (ယေ)၏ အောက်တွင် (ဇေရ်) ရှိခဲ့မူ ပေါ့ပေါ့ဖတ်ရမည်။

ဥပမာ.... غَيْرِالْمَغْضُوْبِ ဂိုင်ရင်လ်မင်္ဂသူဗေ။

အကယ်၍ ရေပေါ်မှာ ဂျဇမ် ရှိလျှင် ၎င်း၏အလျှင်ရှိသော အက္ခရာကို ကြည့်ရမည်၊ အကယ်၍ ၎င်း အက္ခရာပေါ်တွင် ဇဗရ်ဖြစ်စေ၊ ပေးရှ်ဖြစ်စေ ရှိခဲ့သော် (ယေ)ကို (ပွရ်) အပြည့်ဖတ်ရမည်။

ဥပမာ.... اَنْذَرْتَهُمْ အန်သရ်တဟွန်မ် مُرْسَلُ မွရ်စလွန်

အကယ်၍ ၎င်း၏ အလျှင် အက္ခရာ၌ ဇေရ် ရှိခဲ့လျှင် ထို ဂျဇမ် ရှိသော ယေကို ပေါ့ပေါ့ဖတ်ရမည်။

ဥပမာ.... لَمْ تُنْذِرْهُمْ လမ်တွန်သင်ရ်ဟွန်မ်၊ အချို့အချို့ နေရာများ၌လည်း ဤနည်းလမ်းအတိုင်း မဖတ်ရချေ၊ သို့သော် ၎င်းနည်းလမ်းအတိုင်း မဖတ်ရမည့် နေရာများကို သိနားလည်ရန် ခက်ခဲ၍ မရေးတော့ပြီ၊ ဆင်ခြင် မေးမြန်း၍ ဖတ်ရွတ်ကြပါကုန်။

اَللّٰهُ အလ္လာဟို နှင့် اَللّٰهُمَّ အလ္လာဟုန်မ်မမှာ ရှိသော (လာမ်) အက္ခရာသည် အကယ်၍ မိမိအလျင်၌ရှိသော အက္ခရာအပေါ်တွင် ဇဗရ်ဖြစ်စေ၊ ပေးရ် ဖြစ်စေ ရှိခဲ့သော် ၎င်း(လာမ်)အက္ခရာကို (ပွ်ရ်)အပြည့်ဖတ်ရမည်။

ဥပမာ..... خَتَمَ اللّٰهُ فَزَادَهُمُ اللّٰهُ وَاِذْ قَالُوا اللّٰهُمَّ ခတမလ္လာ ဟို၊ ဖဇာဒဟုမုလ္လာဟို၊ ဝအစ်သ်ကာလုလ္လာဟုန်မ်မ။

အကယ်၍ အလျင်အက္ခရာ၌ ဇေရ်ရှိခဲ့သော် (ပွ်ရ်)အပြည့်ဖြင့်မဖတ်ရ၊ ပေါ့ပေါ့ ဖတ်ရမည်။

ဥပမာ..... اَلْحَمْدُ لِلّٰهِ အလ်ဟမ်ဒို၊ လင်္လာဟေ။

# နိုသရည်း

အကြွင်နေရာ၌ တေ အက္ခရာကို အဝိုင်းဖြင့် ရေးခဲ့သော် ခွဲ၍ဖြစ်စေ၊ ဥပမာ.... (တေဟေ)ဆက်တွဲလျက်ဖြစ်စေ၊ ဥပမာ....(ဗေတေ)ထိုနေရာတွင် ရပ်ဆိုင်းရန် ဖြစ်ခဲ့သော် ထို(တေ)ကို ہ ဟေကလေးသံ ကဲ့သို့ ဖတ်ရမည်၊ ဥပမာ.... تَسْوَةً ကို تَسْوَةْ ကပ်စ်ဝဟ်ဟု ဖတ်ရမည်၊ ဤနည်းပုင် وَاٰتُوا الزَّكٰوةَ ဝအာတွတ်ဇကာဟ် طَيِّبَةً တွ ိက်ယေဗဟ် တို့တွင် (ဟေ) အဖြစ် ဖတ်ရမည်။

# နိုသရည်း

အကြွင်အက္ခရာအပေါ်၌ ဒိုဇဗရ်ရှိ၍ ၎င်းအက္ခရာသည် ရပ်ဆိုင်းရန်ဌာနဖြစ်ခဲ့သော် ထိုအက္ခရာ၏အလျင် (အလစ်ဖ်)နှင့် ဖတ်ရမည်။

ဥပမာ.... ﻼ ﺍﻏ ﺍﺫ နေဒါအန်ကို ﺍﻏ ﺍﺫ နေဒါအာဟု ဖတ်ရမည်။

## နိဿရည်း

ကုရ်အာန် ကျမ်းတော်မြတ်တွင် အကြင် နေရာ၌ ـ ـ ဤသို့သော လက္ခဏာများ ညွှန်ပြ၍ထားသော် ထိုနေရာတွင် အနည်းငယ်မျှ ဆွဲ၍ဖတ်ရမည်။

ဥပမာ.... وَلَا الضَّالِّيْنَ ဝလဒ္ဓ၊ သွာလ်၊ လီန်၊ အပိုဒ်၏ အလစ်ဖ်ကို အခြားသော (အလစ်ဖ်)များထက် သာပို၍ ဆွဲရမည်၊ قَالُوْٓا اٰمَنُوْا ကာလူ အနအ်မေ နို့ အပိုဒ်၏(ဝါဝ်)ကိုလည်း အခြားသော(ဝါဝ်)များထက် ဆွဲရမည်။

ထိုနည်းတူစွာ فِيْٓ اٰذَانِهِمْ (ဖွီ-အာသာနေဟင်မ်)စာပိုဒ်၏ (ယေ)ကိုလည်း အခြားသော(ယေ)များထက် ဆွဲ၍ဖတ်ရမည်။

## နိဿရည်း

ကုရ်အာန် ကျမ်းတော်မြတ်တွင် အကြင် နေရာ၌ ك قف ط م ဤသို့သော အထိမ်းအမှတ်များ ရေးသားညွှန်ပြထားခဲ့သော် ရပ်ဆိုင်းရမည်။

အကယ်၍ အကြင်နေရာ၌ وقفه سكته ဤသို့သော အထိမ်းအမှတ် များ ညွှန်ပြခဲ့လျှင် ထိုနေရာများတွင် အသက်ရှူကို မရပ်ဘဲ အနည်းငယ် အောင့်၍ ဖတ်သွားရမည်။

အကြင် နေရာ၌ တစ်အာယတ်ထည်း၌ နှစ်နေရာတွင် ( ∴ ) အပျောက် သုံး ပျောက်ခန့်ပြခဲ့လျှင် တစ်နေရာတွင်ရပ်၍ တစ်နေရာတွင်မရပ်ရန်ဖြစ်လေသည်၊ ၎င်းနေရာ နှစ်ခုအနက် အလိုရှိသောနေရာတွင်ရပ်နိုင်သည်၊ ပထမနေရာတွင် ရပ်လိုကရပ်၍၊ ဒုတိယ နေရာတွင် ရပ်လိုကလည်း ရပ်နိုင်လေသည်။

(လာ) ရေးသားလျှင်လည်း မရပ်ရ။

အကြင်နေရာ၌ အခြားသောအထိမ်းအမှတ်များပြုလုပ်ထားလျှင် ရပ်လိုက ရပ်၍ မရပ်လိုက မရပ်နှင့်၊ ၎င်းပြင် အကြင်နေရာ၌ အထက်ရော အောက်မှာပါ အထိမ်းအမှတ် နှစ်မျိုးပြထားလျှင် အပေါ်က ညွှန်ပြချက်ကို လိုက်နာရမည်။

## နိုသရည်း

အကြင်အက္ခရာအပေါ်၌ ဂျဇမ်ရှိ၍ ၎င်း၏နောက် အက္ခရာအပေါ်တွင် တရှ်ဒီးဒ် ရှိခဲ့သော် ထိုနေရာ၌ အလျှင်အက္ခရာကို မဖတ်ရ။

ဥပမာ.... قَدْ تَبَيَّنَ ကဒ်တဗိုက်ယနန္ဒ (ဒါလ်)ကို မဖတ်ရ၊ ကတ်တဗိုက် ယန၊ ဟု ဖတ်ရမည်၊ قَالَتْ طَّائِفَةٌ ကာလတ်တွာအေ့ဖွတွန်၌ (တေ) ကို မဖတ်ရ၊ ကာလတ္တ်တွာအေ့ဖွတွန်၊ ဟု ဖတ်ရမည်။

وَلَئِنْ بَسَطْتَّ ၌ တေ့ကို မဖတ်ရ၊ ဝလအင့်မ်ဗစတ်တ၊ ဟု ဖတ်ရမည်။

اَثْقَلَتْ دَّعَوَااللّٰهَ အသ်ကလတ်၊ ဒအာဝလ္လာဟ၊ ၌ တေကို မဖတ်ရ၊ အသ်ကလဒ်ဒအာဝလ္လာဟ၊ ဟု ဖတ်ရမည်။

اُجِيْبَتْ دَّعْوَتُكُمَا အိုဂျီဗတ်၊ ဒအာဝတ္တိုကို့မာ၌ တေကို မဖတ်ရ၊ အိုဂျီဘဒ်၊ ဒအ်ဝတ္တိုကို့မာ ဟု ဖတ်ရမည်။

اَلَمْ نَخْلُقْكُمْ အလမ်နခ်လွတ်က်ကွန်မ်၊၌ ကာဖ်ကြီးကိုမဖတ်ရ၊ အလမ်၊ နခ်လွတ်ကွန်မ်၊ ဟု ဖတ်ရမည်။

သို့သော် ဂျဇမ်သည် နူန် အက္ခရာအပေါ်၌ရှိခဲ့သော် သို့မဟုတ် ဒိုဇဗရ်၊ ဒိုဇေရ်၊ ဒိုပေးရှ် တစ်ခုခုမှ နူန်ဖြစ်သွားသော် ထိုနေရာတွင် ၎င်း အက္ခရာ၏ နောက်၌ တရှ်ဒီးဒ် ရှိသောအက္ခရာ ယေ-နှင့်-ဝါဝ် ရှိပါမူ ထိုနေရာ၌ဖတ်ရွတ်ခြင်းတွင် နူန်၏အသံ ကင်းမည် မဟုတ်။

ဥပမာ.... مَنْ يَّقُوْلُ မန်ယ်ယကူလို့ ظُلُمَاتٌ وَّرَعْدٌ ဇိုလို့မာတွန်ဝ် ၊ဝရအ်တွန် စသော စာပိုဒ်တို့၌ နူန်၏အသံ နှာခေါင်းကထွက်၏။

## ဖွာအေဒဟ် အကျိုး

(၁)

ဝမာမင်န်ဒါဗတ္တင်ဂျွင်၏ စတုတ္ထရိုကူအ် ဆဋ္ဌမ အာယတ်တွင် مَجْرٖيهَا ရေတွင် ဇေရ်ရှိရာ ၎င်းဇေရ်ကို အခြားသော ဇေရ်များကဲ့သို့ မဖတ်ရ၊ သာမက စတာရေ ဟူသောအက္ခရာတွင် ဖတ်ရသောယေ၏ ဇေရ်ကဲ့သို့ မကျဲရေဟာဟုဖတ်ရမည်။

## ဖွာအေဒဟ် အကျိုး

(၂)

ဟာမိမ်ဂျွင် စူရဟ် ဟိုဂျိုရာတ်၏ ဒုတိယ ရိုကူအ်၏ ပထမ အာယတ်တွင် بِئْسَ الِاسْمُ ဤသို့ ရေးထားသော ဘဲအ်စ၏ စီန် အက္ခရာသည် မည်သည့် အက္ခရာနှင့်မျှ မနှောပါ၊ သို့အတွက် လာမ်အက္ခရာသည် မိမိအလျင် မှာရှိသော စီန် အက္ခရာနှင့်နှော၍ بِئْسَ لِسْمُ ဘဲအ်စလစ်မို့ဟုဖတ်ရမည်။

## ဖွာအေဒဟ် အကျိုး

(၃)

တင်လ် ကရ်ရှိစို့လို့ဂျွင် စူရဟ် အာလေ့ အင်မ်ရာန် အစတွင် الٓمٓ ထိုသို့ ရေးထားသော မိမ် အက္ခရာကို ရှေ့၌ပါသော اَللّٰهُ အလ္လာဟ် အက္ခရာ၏ (လာမ်)ဖြင့် ဤသို့ တွဲရသည်၊ ၎င်း၏ ဟေရျဲဖော် ၍ ဖတ်ရာတွင် မိမ် ယေဇေးရ်၊ မီ၊ မိမ်လာမ်ဇဗရ်မလ်၊ မီမလ်ဖြစ်သွား၏၊ အချို့သောသူတို့သည် မိမ်မလ်ဟု ဖတ်ကြသည်၊ ယင်းကဲ့သို့ဖတ်ခြင်း မှား၏။

## ဖွာအေဒဟ် အကျိုး

(၄)

ကုရ်အာန်ကျမ်းတော်မြတ်တွင် အချို့သောနေရာများ၌ရေးသော သရုပ်တစ်မျိုး ရေး၍ဖတ်သောအခါ တစ်မျိုးဖတ်ရလေသည်၊ ၎င်းနေရာများကို ကောင်းစွာ ဂရုစိုက်

ရမည်၊ သူငယ် သူငယ်မတို့အား ကျမ်းမြတ်ကုရ်အာန်ကိုဖွင့်၍ မှတ်သားရန် ပြသပေးကြရမည်၊ နားလည်အောင်ပြောပြကြရမည်၊ ထိုနေရာများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ပထမနေရာ ကုရ်အာန် ကျမ်းမြတ်တွင် မည်သည့် နေရာတွင် ဖြစ်စေ၊

أَنَا (အနာ) ဟူသော စာလုံးကို တွေ့ရှိသော် (နူန်) အက္ခရာ၏ နောက်က (အလစ်ဖွ)ကို မဖတ်ရချေ၊ သာမက ပထမ အလစ်ဖွ နှင့် နူန်ကို ဇဗရ်ဖြင့် ဖတ်ရမည်။

ဥပမာ.... أَنَا (အန)ဟု ဖတ်ရမည်။

၂။ ဒုတိယနေရာ စယကူလ်ဂျွဇ် ရိုကူအ် (၁၆) တ တိ ယ အာ ယတ် ၌

يَبْصُطُ ကို (စွာဒ်)ဖြင့် ရေး၏၊ သို့ရာတွင် (စွာဒ်)ကို မဖတ်ရ၊ يَبْسُطُ

ယဗ်စိုး တွ ု ဟု (စီန်)နှင့် ပြောင်း၍ဖတ်ရမည်။

များစွာသော ကုရ်အာန်ကျမ်းမြတ်၌ (စွာဒ်)ပေါ်တွင် စီန် သေးသေးကလေးကိုလည်း ထည့်သွင်း၍ ရေး၏။

အကယ်၍ မရေးခဲ့လျှင်လည်း (စီန်)အက္ခရာ ထည့်သွင်းလျက် ဖတ်ရမည်။

ထိုနည်းတူစွာ وَلَوْ أَنَّا ဂျွဇ်ရိုကူအ် (၁၆)၊ အာယတ် ၅-တွင်

بَصْطَةً ဗတ်စွ တွတန် ဟူသော စာလုံးမှ (စွာဒ်) ကိုလည်း (စီန်) နှင့် ပြောင်း

လဲ၍ بَسْطَةً ဗတ်စ်တွတန်ဟု ဖတ်ရလေသည်။

၃။ တတိယနေရာ လန်တနာ ဂျွဇ် ရိုကူအ် (၆) ပထမအာယတ်၌ ပါသော

أَفَإِيْنْ အဖွာအင်တွင် (ဖွေ)အက္ခရာ၏ နောက်တွင် ပါသော အလစ်ဖွ ကို ရေး

ထားခြားသော်လည်း မထည့်သွင်းဘဲ أَفَإِنْ အဖွအင်န်ဟု ဖတ်ရမည်။

၄။ စတုတ္ထနေရာ လန်တနာ ဂျွဇ် ရိုကူအ် (၇) တ တိ ယ အာယတ်တွင်

لَآاِلٰی اللّٰهِ လာအေ လ်လ္လာဟေ ၌ ပထမ (လာမ်)၏နောက် (အလစ်ဖွ) နှစ်လုံး ရှိသည့်အနက် အလစ်ဖွ တစ်လုံးကိုသာ ဖတ်ရမည်။

ဥပမာ.... لَآاِلَی اللّٰهِ လအေ လလ္လာဟေ ဟု ဖတ်ရမည်။

၅။ ပဉ္စမနေရာ လုံသယို ဟစ်ဖ္သလ္လာဟ်ဂျွင် ရှိကူအ်(၉)၏ တတိယအာယတ်တွင် تَبُوْءَا ၌ ဟမ်ဇာ၏ နောက်တွင်ပါသော အလစ်ဖွ ရေးထားရာ ရှင်းကို မဖတ်ရ၊ تَبُوْءَ တိုဗူအ၊ ဟူ၍ ဖတ်ရမည်။

၆။ ဆဋ္ဌမနေရာ ကာလလ်မလအို ဂျွင်၏ ရှိကူအ် (၃) စတုတ္ထ အာယတ်၌ مَلَا۟ئِهٖ မလာအေ ဟီတွင် (လာမ်)၏နောက် (အလစ်ဖွ) ရေးထား၏ ညွှန်ရာတွင် ထို(အလစ်ဖွ)ကို ထည့်မဖတ်ရ၊ مَلَئِهٖ မလအေ ဟီ ဟု ဖတ်ရမည်၊ ဤနည်း အတိုင်း ဤစာလုံးကို ကုရ်အာန်ကျမ်းမြတ်တွင် တွေ့သော နေရာတိုင်း၌ ဖတ်ရမည်။

၇။ သတ္တမနေရာ ဝဒ်အိလမူ ဂျွင်၊ ရှိကူအ် (၁၃) ပဋ္ဌမ အာယတ်တွင် لَا۟اَوْضَعُوْا လာအောင်သွအူ၌ (လာမ်) ၏ နောက် ပါသော (အလစ်ဖွ)ကို မဖတ်ရ၊ لَاَوْضَعُوْا လအောင်သွအူ ဟု ဖတ်ရမည်။

၈။ အဋ္ဌမနေရာ ဝမာမင်န်ဒါဗ်ဗတင်ဂျွင် ရှိကူအ်(၆) အဋ္ဌမ အာယတ်တွင် ثَمُوْدَا သမူဒါ၌ (ဒါလ်) ၏ နောက် ပါသော (အလစ်ဖွ) ကို မဖတ်ရ၊ သမူဒ ثَمُوْدَ ဟု ဖတ်ရမည်။

ဤနည်းပင် ကာလဖွဲ့မာဂျစ် စူရဲဟ် ဝါန်နဂျ်မေ့၏ တတိယ ရိုကူအ် အာယတ် (၁၉)အာယတ်၌ ပါရှိသော (သမူဒ)ကိုလည်း (အလစ်ဖွဲ့)ထည့်မဖတ်ရချေ။

၉။ နဝမနေရာ ဝမာအို့ဗရ်ရေ့ အိုဂျင်၏ ရိုကူအ်(၁၀) စတုတ္ထအာယတ်တွင် لِيَتْلُوَا၌ ဝါဝ်၏နောက် ပါသော (အလစ်ဖွဲ့)ကို မဖတ်ရ၊ لِيَتْلُوَ လေတတ်လို့ဝဟု ဖတ်ရမည်။

၁၀။ ဒသမနေရာ စွဗ်ဟာနလ္လသီဂျင် ရိုကူအ် (၁၄) ဒုတိယတွင် အာယတ် لَنْ نَدْعُوَا ၌ ဝါဝ် ၏ နောက် ပါ ရှိ သော ( အလစ်ဖွဲ့ ) ကို မဖတ်ရ၊ لَنْ نَدْعُوَ လန်နဒ်အို့ဝဟု ဖတ်ရမည်၊ ထိုနည်းတူစွာ ၎င်းဂျင်ရိုကူအ် (၁၆) ပထမ အာယတ် ဖြစ်သော لِشَاْيءٍ ၌ပါရှိသော (အလစ်ဖွဲ့)ကို မဖတ်ရ၊ لِشَيْءٍ လေ့ရှိုင်အင်ဟု ဖတ်ရမည်။

၁၁။ ဧကဒသမနေရာ စွဗ်ဟာနလ္လသီဂျင်ရိုကူအ်(၁၇)၏သတ္တမအာယတ်တွင် လာကင်နာ (နူန်)၏နောက် ရေးထားသော (အလစ်ဖွဲ့)ကို မဖတ်ရ၊ لٰكِنَّ လာကင်နဟု ဖတ်ရမည်။

၁၂။ ဒွါဒသမနေရာ ဝကာလလ္လသီနဂျင် ရိုကူအ်(၁၇) သတ္တမ အာယတ်တွင် لَا اَذْبَحَنَّهٗ လာအသ်ဘဟာန်နဟူ၌ (လာမ်) ၏ နောက် (အလစ်ဖွဲ့) နှစ်လုံး ရေးထား၏၊ ထိုအနက် တစ်လုံးကိုပယ်၍ لَاَذْبَحَنَّهٗ လအသ်ဗဟန္နဟူ ဟု ဖတ်ရမည်။

၁၃။ တေရသနေရာ ဝမာလေ့ယဂျင် ရိုကူအ် (၆) အာယတ် (၄၇) တွင် لَاِلَى الْجَحِيْمِ လာအေ့လလ်ဂျဟီမေ့၌ ပထမ(လာမ်)၏ နောက် (အလစ်ဖွဲ့)

နှစ်လုံးပါရှိရာ တစ်ခုကိုအတည်ပြု၍ لَدَى الْجَحِيمِ 'လဒဲလလ်ဂျဟီမေ့ ဟု ဖတ်ရမည်။

၁၄။ စဒုဒသနေရာ။ ဟာမီမ် ဂျဇ် စူရဟ်မုဟမ္မဒ်၏ ပထမ ရိုကူအ် စတုတ္ထ အာယတ်တွင် لِيَبْلُوَا ၌ ဝါဝ်၏ နောက်ပါသော (အလစ်ဖွ်) ကို မဖတ်ရ။

لِيَبْلُوَ လေ့ယဗ်လို့ဝ ဟု ဖတ်ရမည်။

ထိုနည်းတူစွာ ၎င်း စူရဟ်၏ ရိုကူအ် (၄) တတိယ အာယတ်တွင် ပါသော نَبْلُوَا ၌ (ဝါဝ်)၏ နောက်(အလစ်ဖွ်)ပါရှိရာ نَبْلُوَ နဗ်လို့ဝဟု ဖတ်ရမည်။

၁၅။ ပဥ္စဒသနေရာ။ တဗာရကလ္လသီဂျဇ် စူရဟ်ဒဟ်ရ်၏ ပထမ ရိုကူအ်စတုတ္ထ အာယတ်တွင် سَلَاسِلَا ၌ ဒုတိယ(လာမ်)၏ နောက်မှာပါသော(အလစ်ဖွ်) ကို မဖတ်ရ၊ سَلَاسِلَ စလာစေ့လဟု ဖတ်ရမည်။

ထိုနည်းတူစွာ ၎င်းရစူဟ်၏ ရိုကူအ် (၁၅) အာယတ် (၁၆) တွင် ပါရှိသော قَوَارِيرَا قَوَارِيرَا ၌ နှစ်နေရာတွင် (ရေ) အက္ခရာ၏နောက် (အလစ်ဖွ်) အက္ခရာ ရေးသားပါရှိ၏၊ ထိုသို့ ရေးသား ပါရှိငြားသော်လည်း ၎င်းအာယတ်တော် စာပိုဒ်၏ ဖတ်ရန် နည်းလမ်းမှာ ပထမ 'ကဝါရီရ'မှာ မရပ်ဆိုင်းဘဲ(အလစ်ဖွ်)ကိုဖြုတ်၍ ဖတ်ခဲ့လျှင် ဒုတိယ ကဝါရီရာမှာ (အလစ်ဖွ်) ကို ထည့်၍ قَوَارِيرَ قَوَارِيرْا ကဝါရီရ၊ ကဝါရီရာဟု ဖတ်ရမည်။

အကယ်၍ ပထမ စာပိုဒ်တွင်ရပ်ခဲ့ပါမူ ကဝါရီရာ ကဝါရီရ ဟု ဖတ်ရမည်။

## ဖွာခအဒဲဟ် အကျိုး

ဝအ်လမူ ဂျစ်စူရဟ် တောင်ဗဟ် အစ၌ بَرَآءَةٌ مِّنَ اللهِ ဟု ရေးသား ပါရှိ၏၊ ထိုစူရဟ်၏အစတွင် ဗစ်မစ်လ္လာဟ်၊ ရေးသားလျက် မပါရှိချေ၊ ၎င်းစူရဟ်၏ ဖတ်ရန်နည်းမှာ အကြင်သူသည် အထက်စူရဟ်များနှင့် ဆက်တွဲလျက်, ထိုစူရဟ်ကို ဖတ်မူ စူရဟ်အစတွင် ဗစ်မစ်လ္လာဟ် ဖတ်ရန် မလိုပေ၊ သို့တည်းမဟုတ် အထက်စူရဟ် များနှင့် မတွဲမဆက်ဘဲ ဖတ်သည် ဖြစ်စေ၊ သို့မဟုတ် စူရဟ်များ ဖတ်ခဲ့ပြီးနောက် ထိုနေရာတွင် ရပ်ဆိုင်းထားပြီးမှ အစပြုသည်ဖြစ်စေ၊ နှစ်မျိုးစလုံး၌ စူရဟ်အစတွင် بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ ဖတ်ရန် ထိုက်သည်။

## ဤတွင်ရှိကား ဘာဟာစ်ရှ်တိဇေဝရိကျမ်း

စတုတ္ထတွဲ ပြီး၏။






# ဘဟာစ်ရှိတိ ဇျောင်ဟာရ်ကျမ်း

## စတုတ္ထတွဲ

### နေကာဟ်၏ ထွတ်မြတ်ခြင်းနှင့် ဝတ္တရားများ

### အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ....ဒွန်နယာ လောက သည် အသုံးချရန် နေရာဌာနတစ်ခုဖြစ်လေသည်၊ အသုံးချသင့်သော အရာများအနက် မွန်မြတ်ဆုံးသည် ကောင်းမွန်ဆုံး အမျိုးသမီးဖြစ်လေသည်။

တရ်ဂီဗ်ကျမ်း အတွဲ-၃၊ စာမျက်နှာ ၅။

ဆိုလိုတော်မူသည်မှာ .. လောကဌ် အကျင့်စာရိတ္တကောင်းမွန်သော အမျိုးသမီး နှင့် အိမ်ထောင်ဘက်ဖြစ်ရခြင်းသည် စည်းစိမ်ကြီးတစ်ခုဖြစ်လေသည်၊ ၎င်းအသျှင်မြတ်၏ ရဟ်မတ်မဟာကရုဏာတော်လည်း ဖြစ်လေသည်၊ ခင်ပွန်းသည်အား ချမ်းမြေ့စေခြင်း သည် ထိုသူမအတွက် လောကီ, လောကုတ္တရာ နှစ်ဌာနတွင် ကောင်းမွန်သောအကြောင်းခံ ဖြစ်လေသည်၊ ဤသို့သော အမျိုးသမီးဖြင့် လောကတွင် စိတ်အေးချမ်းမှုရသည့်အပြင် နောင်အာခေရတ်အတွက် ကောင်းမှုကုသိုလ် ပြုမှုဆောက်တည်ရာတွင်လည်း အကူအညီ ရရှိလေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... **နေကာဟ်ပြု** ခြင်းသည် ငါရစူလ်၏ လမ်းစဉ် ဖြစ်သည်၊ ၎င်းငါရစူလ်၏ စွန္နတ် (မို့အတ်က်ကဒဟ်) ဖြစ်လေသည်၊အကြင်သူငါရစူလ်၏စွန္နတ်(မို့အတ်က်ကဒဟ်) ကိုမလိုက်နာလျှင်ထိုသူသည် ငါရစူလ်၏ အမွတ်သားထဲမှ မဟုတ်၊ ငါရစူလ်နှင့် ၎င်းသူမှာ မည်သို့မျှ မပတ်သက်ဟု မိန့်ဆိုတော်မူခြင်း ဖြစ်လေသည်။

ဤသည်မှာ စုန္နတ်တော်မြတ်ကို မလိုက်နာသူတို့အား ဧေါက်ငမ်း ခြိမ်းခြောက်တော်မူခြင်းသာ ဖြစ်လေသည်၊ ၎င်းရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ပြုထိုက်ပါလျက်နှင့် ဆိမ်ဆောင်မပြုသူအား စိတ်ဆိုးတော်မူလေသည်၊ ထို့ကြောင့် မွတ်စလင်မ်တို့သည်တတ်နိုင်ပါက နေကာဟ်ပြုကြရန် သင့်ပေသည်၊ မွတ်စလင်မ်များသည် ရစူလ်ကိုယ်တော်၏စိတ်ဆိုးတော်မူခြင်းကိုမခံထိုက်ကြပေ၊ အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ စိတ်ဆိုးတော်မူခြင်းမခံရဘဲ သေဆုံးသွားသည်က ကောင်းလေသည်။

နေကာဟ်ပြုကြကုန်၊ကေယာမတ် တမ္မာ့တရားခွင်နေ့၌ သင်တို့ဖြင့် အခြားသော အုမ္မတ်သားများအပေါ်တွင် ၄ါရစူလ် ဂုဏ်ယူတော်မူမည်။

ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်က အုမ္မတ်သားများသည် အခြားအုမ္မတ်သားများထက် များပြားသည်ကို နှစ်သက်တော်မူလေသည်၊ အုမ္မတ်သားများအလွန်များပြားလျှင် ကုသိုလ်အမင်္ဂလ်များလည်းများပြားမည်ဖြစ်ရာရစူလ် ကိုယ်တော်မှာလည်း သဝါဗ်များစွာရရှိကာ အလ္လာဟ်အသျှင်မြတ်နှင့် ပိုမိုနီးကပ်မည် ဖြစ်လေသည်။

အုမ္မတ်သားများအနက် အကြင်သူသည် အမလ် ကောင်းမှုပြုမူလျှင်ထိုသူ သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ သွန်သင်ပြသမှုကြောင့်သာ ပြုမူဆောက်တည်သဖြင့် အမလ်ပြုမှု များလေလေ ရစူလ်ကိုယ်တော်မှာ သင်ပြမှုအတွက် ကုသိုလ် သဝါဗ်ပိုမိုရရှိလေသည်၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်နှင့် နီးကပ်စေရန်အလို့ငှါ အမလ်အဗာဒတ် များမြောင်စွာပြုမူကြရန်သင့်ပေသည်၊ ပေါ့လျော့ပျင်းရိမှုမပြုသင့်ကြပေ။

ဟဒီးသ်တော်မြတ်တွင် လာရှိသည်မှာ... ကေယာမတ် ကမ္မာ့တရားခွင်နေ့၌ ရှိရှိသမျှသော အုမ္မတ်သား အားလုံးတို့သည် အတန်းပေါင်း ၁၂၀-တန်းကြရ ပေမည်၊ ထိုအတန်းများ အနက် အတန်း ၄၀-သာ အခြားသော နဗီရစူလ်များ၏ အုမ္မတ်သားများဖြစ်ပြီး ကျန်အတန်း ၈၀-သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အုမ္မတ်သားများ ဖြစ်ကြမည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်အား ဂုဏ်ပေးချီးမြှောက်ခြင်းပင် ဖြစ်လေသည်။

အကြင်သူသည် ဇနီးမယားအား ကျွေးမွေး၀တ္တရားကျေပွန်နိုင်လျှင် နေကာဟ်လက်ထပ်ရမည်၊ ၎င်းကျွေးမွေးမှုစ ၀တ္တရားမကျေပွန်နိုင်လျှင် ရိုဇဟ် ဥပုသ် စောင့်ထိန်းရမည်၊ (ရိုဇဟ်ထားခြင်းဖြင့် ရာဂစိတ်လျော့နည်းသွားပေမည်၊) သူတစ်ဦးတစ်ယောက်သည်အိမ်ထောင်ပြုချင်စိတ်အလွန်အမင်းမပြင်းပြလျှင်၎င်းဇနီးမယားကို ကျွေးမွေးပြုစုနိုင်လျှင်ထိုသူအတွက်နေကာဟ်လက်ထပ်ခြင်း၊စုန္နတ်မုအပ်ကက်ဒဟ်ဖြစ်လေသည်၊၎င်းအကြင့်

သူသည် အိမ်ထောင်ပြုချင်စိတ် အလွန်အမင်းပြင်းပြနေလျှင် ထိုသူ့အတွက် နေကာဟ်ပြုခြင်း ' ဝါဂျစ်ဗ် ' အလွန်အရေးကြီးလေသည်၊ သို့မဟုတ် ဇနာမှု ကျူးလွန်မိဖေမည်၊ အကယ်၍ အလွန်အမင်း စိတ်ပြင်းပြနေသော်လည်း မယားအား ကျွေးမွေးမြူစုနိုင်သော စွမ်းအားမရှိလျှင် ၎င်းသူရှိဇဟ်ဥပုသ် များစွာစောင့်ထိန်းရမည်၊ တတ်နိုင်သောအခါကျမှ နေကာဟ်ပြုရမည်။

မစ်ရှ်ကာတ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ ၂၆၇။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ— သား၊ သမီးတို့သည် ဂျန္နတ်ဥယျာဉ်ဘု နန်း၏ပန်းမန်များ ဖြစ်ကြလေသည်။ တင်ရ်မေသီကျမ်း။

ဂျန္နတ် ဥယျာဉ်ဘုံ နန်း၏ ပန်းမန်များဖြင့် စိတ်ကြည်နူး အေးမြစေ အကဲ့သို့ သား၊ သမီးကို မြင်ရခြင်းဖြင့် စိတ်ကြည်လင် အေးမြစေလေသည်၊ ၎င်းသား၊ သမီးသည် နေကာဟ် လက်ထပ်မှသာ ရမြဲဖြစ်၏။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အမှန် မုချ လူသား၏ အဆင့်အတန်းသည် ဂျန္နတ်၌ တိုးတက်သွားလေရာ ၎င်းက ကျွန်တော်မျိုး ဤမျှ အကျိုးကျေးဇူး ခံစားရလောက်အောင် လောကီ၌ ကောင်းမှု ဤမျှ မပြုခဲ့ပါ၊ အဘယ့်ကြောင့် ဤမျှ ကြီးမားသောအဆင့်သို့ ရောက်ရပါသနည်းဟု မေးလျှောက်ရာ သင်၏သား၊ သမီးများက သင့်အား 'မဂ်ဖွေရတ်' လွတ်ငြိမ်းချမ်းသာခွင့်ပေးရန် တောင်းဆိုကြ၍ သင်ဤအဆင့်အတန်းသို့ ရောက်လာသည်ဟု သက်ဆိုင်ရာက ဖြေကြားလေသည်။

အဟ်မဒ်ကျမ်း။

ဟဒီးသ်တော်လာရှိသည်မှာ.... ရက်မပြည့်ဘဲ သားလျှော့သွားသော ကလေးသည် မိဘ ဂျဟန္နမ်အပါယ်ငရဲဘုံ သို့ကျနေလျှင်ငရဲမှလွတ်မြောက်စေရန် အလ္လာဟ်အသျှင်မြတ် ထံတော်တွင် တောင်းဆိုအသနားခံမည် ဖြစ်လေသည်၊ ထိုအခါ အလ္လာဟ်အသျှင်မြတ်က အို....လျှောသားကလေး သင်သည် မိဘကို ဂျန္နတ်သို့ ပို့လိုက်လော့ဟု မိန့်တော်မူမည် ဖြစ်လေ၏၊ ဤသို့သောဆုလာဘ်မှာ နေကာဟ်အတွက်ကြောင့် ရခြင်းဖြစ်လေသည်။

အစ်ဗ်နို့မာဂျဟ်ကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ....

عَنِ ابْنِ سَعِيْدٍ مَرْفُوْعًا بِلَفْظِ اَنَّ الرَّجُلَ اِذَا نَظَرَ اِلٰى اِمْرَأَتِهٖ

وَنَظَرَتْ اِلَيْهِ نَظَرَ اللّٰهُ تَعَالٰى اِلَيْهِمَا نَظْرَةَ رَحْمَةٍ

မည်သည့်အခါ လင်ဖြစ်သူက ဇနီးကိုကြည့်လျှင်၊ ဇနီးက လင်ကို ကြည့်လျှင် အလ္လာဟ်အသျှင်မြတ်က ၎င်းတို့နှစ်ဦးအား ရဟ်မတ်တော်၏ အရှုဖြင့် ကြည့်တော်မူလေသည်။

ဟာဒီးသ်တော်တွင် လာရှိသည်မှာ.... အကြင်သူသည် ဇနာ ကာမေသုကျူးလွန်ပြီးသည့်ကို စိုးရိမ်သဖြင့် နေကာဟ်ပြု လက်ထပ်လျှင် အလ္လာဟ်အသျှင်မြတ်က ၎င်းသူအား ကူညီစောင့်မ, ရန် တာဝန်ယူထားတော်မူလေသည်၊ ၎င်းအလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်ကိုနာခံမှုလည်းပါဝင်မူ, စ၍ ရေရိကွာအတွက်လည်း တာဝန်ယူတော်မူပေမည်။

ရဝါဟ်ဟိုအစ်ဗ်နို့ အဒီ။

ဟာဒီးသ်တော်တွင် လာသည်မှာ... သား, သမီးရှိသူ၏ နမာဇ်နှစ်ရကအတ်ဖတ်ခြင်းသည် အိမ်ထောင်မပြုသူ၏ နမာဇ် (၈၂) ရကအတ်ထက် သာမြတ်လေသည်။

အခြားဟာဒီးသ်တော်မြတ်တွင် (၈၂) ရကအတ် အစား ရကအတ် (၇၀) 'ဟူ၍ လာရှိပေသည်၊ သို့ရှိရာ အလိုသဘောမှာ (၇၀) သာ မြတ်သည်ဆိုရာ၌ သားမယားကို ကျွေးမွေးစောင့်ရှောက်သူအတွက် ဖြစ်ပြီးလျှင် (၈၂) ဆသာမြတ်သူမှာ သားမယားကို လိုသည်ထက်ပို၍ ကျွေးမွေးပြုစုကာ ကောင်းစွာဆက်ဆံသူအတွက် ဖြစ်လေသည်။

ဟာဒီးသ်တော်တွင်လာရှိသည်မှာ.... ခင်ပွန်းသယ်သည် ဇနီးမယားအား ပြုစုရမည့် ဝတ္တရားများ ပျက်ကွက်ပါက အမှန်ပင် ၎င်းသူသည် အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ကြီးစွာသော ဂိုနာဟ်ကို ကျူးလွန်သူဖြစ်လေသည်။ ကာန်ဇွလ်အမ်မာလ်ကျမ်း။

ဟာဒီးသ်တော်တွင်လာရှိသည်မှာ....ယောကျ်ားများသည်မိန်းမများအတွက်ကြောင့် ပျက်စီးကြလေသည်၊ စိတ်သေလျက် အလ္လာဟ် ရစူလ်၏ အမိန့်များကိုပင် အလေးမမူတော့ဘဲ ဖြစ်သွားတတ်ကြလေသည်၊ ထို့ကြောင့် ရှရီအတ်တရားတော်မြတ်နှင့် ဆန့်ကျင်ဘက် အလုပ်များ လုပ်ရသည့်အထိ မိန်းမများကို အချစ်မထားကြလေ်နှင့်၊ ဥပမာ.... ယောကျ်ား၏အဆင့်အတန်းထက်ပို၍ 'အဝတ်အစားများကိုတောင်းဆိုလျှင် 'အချစ်ဇော မှန်၍ ငွေရရေးကို အဓိကထားကာ လာဘ်မယူနှင့်၊ မလိမ်မကောက်နှင့်၊ အလ္လာဟ်အသျှင်မြတ်ပေးသနားတော်မူသော သန့်ပြန့်စင်ကြယ်သည့် 'ဟလာလ်ရိဇ်ဇ်' ဖြင့်သာ ကျွေးမွေးပြုစုကုန်၊ အမျိုးသမီးများကိုအမြဲတစေ သွန်သင်ဆုံးမ, နေကုန်၊ ဤကြောင်းမဲ့ ကာအတင့်ရဲသောသူမများ ဖြစ်မသွားစေနှင့်၊ အမျိုးသမီးတို့မှာ ဉာဏ်အမြော်အမြင် နည်းကြသည်၊ ထို့ကြောင့် ကရုဏာစိုက် သွန်သင်ဆုံးမ, ကြရန် ထိုက်ပေသည်။ မွတ်စလိင်မ်ကျမ်း။

ဟာဒီးသ်တော်တွင်လာရှိသည်မှာ... တစ်ဦးတစ်ယောက်သည် နေကာဟ်ပြုရန် ကမ်းလှမ်းထားလျှင် မိန်းကလေးရှင်များကလည်း သဘောတူမည့် အသွင်ရှိနေပါက အခြားတစ်ဦးသည် ထိုမိန်းကလေးအား ကမ်းလှမ်းခြင်းမပြုရ' ဟုတ်ပါ၏၊ အကယ်၍ မိန်းကလေးရှင်များက ငြင်းပယ်လိုက်လျှင်သော် လည်းကောင်း၊ သဘောတူမည့်အသွင် မရှိလျှင်သော်လည်းကောင်း၊ ကမ်းလှမ်းသူကိုယ်တိုင်က နောက်ဆုတ်သွားလျှင်သော်လည်းကောင်း ထိုအခါ အခြားတစ်ဦးသည် နေကာဟ်ပြုရန် ကမ်းလှမ်းစေ့စပ်နိုင်လေသည်။

ရောင်းဝယ်ဖောက်ကားရာတွင်လည်း ဤအမိန့်အတိုင်းပင် ဖြစ်လေသည်၊ တစ်ဦးတစ်ယောက်က ဝယ်ချမ်းရာတွင်ဈေးဆစ်နေလျှင် အခြားသူကဝင်၍ဈေးမဆစ်ရ၊ ၎င်းသူနှင့် ကိစ္စပြီးပြတ်သွားမှသာ ဈေးနှုန်းစကားကို ပြောဆိုရမည်။

ရောင်းဝယ်ရာတွင် ကာဖွင်ရှ်ဘာသာခြားများနှင့်လည်း အံမိန့်အတူတူပင် ဖြစ်လေသည်၊ ကာဖွင်ရှ် တစ်ဦးတစ်ယောက်က ဝယ်ချမ်းရန်ဈေးနှုန်းစကား ပြောနေလျှင် ၎င်းနှင့်မပြီးပြတ်မီ မွတ်စလင်မ် တစ်ဦးသည် ကြားဖြတ်၍ မိမိပေးလိုသော ဈေးနှုန်းကို မဖော်ထုတ်ရပေ။

ဟဒီးသ်တော်တွင် လာရှိသည်မှာ အမျိုးသမီးနှင့် နေကာဟ် လက်ထပ်ရာတွင် ဘာသာ,သာသနာရေးကို လိုက်စားသူ၊ ဥစ္စာဓနကြွယ်ဝသူ၊ ရုပ်ချော်လှပသူဟူ၍ အသီးသီး ရွေးချယ်ကြလေသည်၊ သို့ရှိရာ သင်တို့သည် ဘာသာရေးလိုက်စားသူကို ရွေးချယ်ကြကုန် သင်၏လက် မြေလူးပါစေ။ မွတ်စလင်မ်နှင့် တွာဗ်ရာနီကျမ်း။

နှုရဂူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဘာသာ,သာသနာရေးကို လိုက်စားဆောက်တည်သော အမျိုးသမီးကို အသာဆုံး ရွေးချယ်ကြရန်မှာ မြတ်သည်ဟု မိန့်မြွက်ထားတော်မူလေသည်၊ သို့သော် ဘာသာရေးလိုက်စားသော လက်ထပ်မည့် သူမသည် အရုပ်ဆိုး အကြည်းတန်လေရာ လက်ထပ်ပါက စိတ်ချမ်းသာမည်မဟုတ်၊ ဝတ္တရားကိုလည်း ကျေပွန်အောင် ဆောင်ရွက်နိုင်မည်မဟုတ်ဘဲ မသင့်မတင့် ဖြစ်နေမည်ကို စိုးရိမ်ရပါက မရွေးချယ် လက်မထပ်ဘဲ နေနိုင်လေသည်။

သင်၏လက် မြေလူးပါစေသည်၊ အာရဗီဝေါဟာရတစ်ခုဖြစ်သည်၊ အချို့အချို့နေရာများတွင်သုံးနှုန်းကြလေသည်၊ ဤနေရာတွင် ဘာသာရေးရာကို လေးစားဆောက်တည်သော မိန်းမကို နှစ်သက်ရွေးချယ်ရန် သုံးနှုန်းခြင်း ဖြစ်လေသည်။

အဘူဒါဝူးဒ်နှင့် နေစာအီကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... ဇနီးမယားထက်၊အသာမြတ်ဆုံး မိန်းမသည် ခင်ပွန်းသည်က တတ်နိုင်သည်ခန့် မဟ်ရ် ပေးရသော မိန်းမများ ဖြစ်လေသည်။

တွာဗ်ရာနီကျမ်း။

ယခုခေတ် အခါသမယတွင် မဟ်ရ်များစွာတောင်းကြ, ပေးကြရသော အလေ့အထ တစ်ခုဖြစ်နေသည်၊ ဤဆိုးရွားသောဓလေ့မှ ရှောင်ကြဉ်ကြရန် ထိုက်ပေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ — မိမိတို့ သား,သမီးများ ကောင်းရန်အတွက် ကောင်းမွန်သော သူမများကို ရွေးချယ်ကြကုန်၊ အဘယ့်ကြောင့်ဆိုသော် မိန်းမများသည် မိမိ၏နှမများကဲ့သို့ ကလေးမွေးဖွားကြလေသည်။

နေကာဟ် လက်ထပ် အိမ်ထောင်ပြုရာတွင် မွန်မြတ်သော ဣန္ဒြေသိက္ခာရှိသော အမျိုးသမီးများကိုရွေးချယ်ကြရပေမည်၊ သား,သမီးများသည် အမိ၏အသွင်ကိုဆောင် တတ်ကြလေသည်၊ အဘ, ဘက်လည်းလိုက်ကြသည် သို့သော် ဤတင်ပြပါ ဟဒီးသ်တော် မြတ်အရ အမိဘက်သို့ပို၍ တူသည်ဟုသိရပေသည်၊ အမိသည်စာရိတ္တမကောင်းသူ၊ ဘာသာ ရေးမလိုက်စားသူ၊ ဣန္ဒြေကင်းမဲ့သူဖြစ်ပါကသား,သမီးသည်လည်းၾင်းကဲ့သို့မွေးဖွားလာ ပေမည်၊ အမိသည်မွန်မြတ်သော အမျိုးသမီးဖြစ်ပါက သား,သမီးလည်း မွန်မြတ်သော ဂုဏ်အင်္ဂါနှင့် လျော်ညီကြပေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... လူသားတို့အနက် အကြီးဆုံးသော ဝတ္တရား သည် လင်ယောကျ်ားအပေါ်တွင် ဇနီးမယားအား ပြုစုရမည့် ဝတ္တရားပင် ဖြစ်သည်၊ ၎င်းလူသားတို့အနက် အကြီးဆုံးသောဝတ္တရားသည် သားက မိခင်အား ပြုစုရမည့်ဝတ္တရား များ ဖြစ်သည်။

အလ္လာဟ်ရစူလ်၏ အမိန့်တော်မြတ်ကို ကျေပွန်ရမည့် ဝတ္တရားများအပြင် လင် ယောကျ်ားအပေါ် ကြီးမားသည့် ဝတ္တရားသည် ဇနီးမယားအပေါ်ထားရမည့်ဝတ္တရား ပင် ဖြစ်လေသည်၊ ဇနီး၏မိဘထက်ပင် လင်ယောကျ်ားက ဇနီးကိုပိုင်ဆိုင်လေသည်။

အလ္လာဟ်ရစူလ်၏ အမိန့်တော်မြတ်ကို ကျေပွန်ရမည့် ဝတ္တရားများအပြင် သား အပေါ် အကြီးမားဆုံး ဝတ္တရားသည် မိခင်အား ပြုစုရမည့် ဝတ္တရားပင်ဖြစ်လေသည်၊ ဤဟဒီးသ်တော်မြတ်အရ အမိ၏ ဝတ္တရားသည် ဖခင်၏ ဝတ္တရားထက် သာကြောင်း သိရလေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ ဤသင်တို့အနက် တစ်ဦးတစ်ယောက်သည် ဇနီး မယားနှင့် ပေါင်းသင်း ဆက်ဆံတော့မည်ပြုလျှင် ဤဒိုအာကို ရွတ်ဆိုကြကုန်။

بِسْمِ اللّٰهِ اَللّٰهُمَّ جَنِّبْنَا الشَّيْطٰنَ وَجَنِّبِ الشَّيْطٰنَ مَا رَزَقْتَنَا

ဗစ်မစ်လ္လာဟေ့၊ အလ္လာဟုမ်မ၊ဂျန်နစ်ဗ်နရှ်ရှိုင်တွာန၊ဝဂျန်နေ့ ဗစ်ရှ်ရှိုင်တွာန၊ မာရဇပ်က်တနာ။

အဓိပ္ပါယ်ကား...ကျွန်တော်မျိုး အလ္လာဟ်အသျှင်မြတ်၏နာမတော်ဖြင့်အဦးအစ ပြုပါ၏၊ အို....အသျှင် ကျွန်တော်မျိုးတို့အား ရှိုင်စွာန် မိစ္ဆာ၏ နှောင့်ယှက်မှုများမှ စောင့်မ,ထိန်းသိမ်းတော်မူပါ၊ ၎င်းကျွန်တော်မျိုးတို့အား ပေးသနားတော်မူသော ရိဇ် (သား,သမီး) များမှရှိုင်တွာန်မိစ္ဆာ၏နှောင့်ယှက်မှုများမှစောင့်မ,ထိန်းသိမ်းတော်မူပါ။

ဤဆုဒိုအာကို မြွက်ဆို၍ ပေါင်းသင်းမှုပြုပြီး သန္ဓေတည်ခဲ့သော် ၎င်းကလေးကို ရှိုင်တွာန်မိစ္ဆာသည် နှောင့်ယှက်ဖြားယောင်းနိုင်မည် မဟုတ်ပေ။ အဟ်မဒ်ကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... ရစူလွလ္လာဟ် (ဆွလ်လ္လာဟု) ကိုယ်တော်က အဗ်ဒွရ်ရဟ်မာန်ဗင်နိအောင်ဖ် (ရဒ်သွ) သခင်အား မိန့်တော်မူသည်မှာ.... ဆိတ်တစ်ကောင်နှင့်ပင် ဖြစ်စေ ဝလီမဟ်ကျွေးမွေးကုန်။ ဘိုခါရီနှင့်မွတ်စလင်မ်ကျမ်း။

နေကာဟ်ပြုပြီးနောက် အနည်းငယ်မျှ တတ်နိုင်သည်ဖြစ်စေ ကျွေးမွေးရန် သင့်ပေသည်၊ အာလင်မ်အများစုက နေကာဟ်ပြုပြီးလျှင် ကျွေးမွေးက ပိုင်သည်ဟု မိန့်ကြပေသည်၊ သို့သော် ဇနီးမယားနှင့် ပေါင်းသင်း ဆက်ဆံပြီးမှ ကျွေးမွေးလျှင် သာ၍မြတ်ပေသည်၊ ဝလီမဟ်ကျွေးခြင်းသည် မွတ်စ်တဟဗ်ဖြစ်လေသည်။

## တွလာက် ကွာရှင်းမှုကို ရှုတ်ချခြင်း အကြောင်း

ဟဒီးသ်တော်တွင် လာရှိသည်မှာ....

أَبْغَضُ الْحَلَالِ إِلَى اللهِ الطَّلَاقُ

လုပ်ပိုင်သည့် အရာများ အနက် မကောင်းဆုံးသော ယုတ်မာသည့် အရာသည် အလ္လာဟ်အသျှင်မြတ်ထံတော်တွင် တွလာက် ဖြစ်သည်။

ဟာကင်မ်နှင့်အဘူဒါဝူးဒ်ကျမ်း။

တွလာက် ကွာရှင်း ပြတ်စဲမှုသည် လိုအပ်လာလျှင် ပိုင်သော်လည်း မလိုအပ်ဘဲ ကွာရှင်းလျှင် အလွန်ပင် ဆိုးယုတ်လေသည်။

နေကာဟ်ပြု လက်ထပ် ထိမ်းမြားခြင်းသည် ဇနီးမောင်နှံနှစ်ဦး ချစ်ခင်မြတ်နိုးစိတ်ကြည်နူးကြစေရန်အတွက်ဖြစ်သည်၊ ၎င်းတွလာက် ကွာရှင်းခြင်းသည် ဤသည်သော အချက်များနှင့် ဆန့်ကျင်ဘက်ဖြစ်လေသည်၊ အလ္လာဟ်အသျှင်မြတ်၏ ရဟ်မတ်တော်ကို ကျေးဇူးကမ်းရာရောက်သည်၊ တစ်ဦးနှင့်တစ်ဦး မုန်းတီး စက်ဆုပ်ဖွယ်ဖြစ်သည်၊ ထိုသို့ကွာရှင်းမှုကြောင့် ဇနီးနှင့် ၎င်း၏ဆွေမျိုးများနှင့် မုန်းတီးရန် ဖန်တီးမှုဖြစ်သည်၊ ဖြစ်နိုင်လျှင် အလျဉ်း ဤသို့သောကွာရှင်းမှုမှ ရှောင်ကြဉ်ကြရန် ထိုက်လေသည်။

ဇနီးမောင်နှံ နှစ်ဦးသည် တစ်ဦးနှင့်တစ်ဦး သင့်တင့်မျှတအောင်သည်းခံ၍ဆက်ဆံကြဖို့လိုပေသည်၊ နောက်ဆုံး မည်သို့မျှပေါင်းသင်းနေ၍မဖြစ်နိုင်ကြလျှင်ကား တွလာက်ကွာရှင်းနိုင်ပေသည်၊ ကောင်းစွာ မှတ်သားကြကုန်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... နေကာဟ် ပြုကြကုန်၊ (အကြောင်းမဲ့) တွလာက်ကွာရှင်းခြင်းမပြုကြနှင့်၊ အလ္လာဟ်အသျှင်မြတ်သည် များစွာအရသာခံကြသော ယောကျ်ား မိန်းမများကိုနှစ်သက်တော်မမူပေ။ တွာဗ်ရာနီကျမ်း။

အလ္လာဟ်အသျှင်မြတ်သည် အကြောင်းမဲ့ ယောကျ်ား, မိန်းမ နောက်အိမ်ထောင်ပြုကြခြင်းကို နှစ်သက်တော်မမူပေ၊ ဟုတ်ပါ၏၊ အကယ်၍ မသင့်မတင့်ကြ၍ ပေါင်းသင်းနေထိုင်၍ မဖြစ်ကြလျှင်ကား ကွာရှင်းလျှင် ကိစ္စမရှိပေ။

ဟဒီးသ်တော်တွင်လာရှိသည်မှာ.... မိန်းမများကို တလာက်မပေးကြနှင့်၊ သို့သော် အကျင့် ဖေါက်ပြန်မှသာ ကွာရှင်းကြကုန်၊ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်သည် များစွာအရသာခံသော မိန်းမ, ယောကျ်ားများကို နှစ်သက်တော်မမူပေ။

ဤဟဒီးသ်တော်မြတ်အရ သိရသည်မှာ ဇနီးမယားဖြစ်သူသည် အကျင့်စာရိတ္တ ဖေါက်ပြန်ပါက ကွာရှင်းနိုင်ပေသည်၊ အခြားအကြောင်းများကြောင့် ကွာရှင်းလိုလျှင်လည်း ကွာရှင်းနိုင်ပေသည်။ (ဇနီးမယားကို အပြစ်မရှိဘဲ အကြောင်းမဲ့သာ ကွာရှင်းမှုကို တရားတော်မြတ်က တားမြစ်ထားလေသည်)။

ဟဒီးသ်တော်တွင်လာရှိသည်မှာ.... နေကာဟ် လက်ထပ်ထိမ်းမြားခြင်းပြုကြကုန်၊ တလာက်ကွာရှင်းမှုမပြုကြနှင့်၊ အဘယ့်ကြောင့်ဆိုသော် တလာက်ပေးခြင်းမှ အရ်ရှ်တော်တုန်လှုပ်လေသည်။ အစ်ဗ်နိ့ အဒီ။

ဟဒီးသ်တော်တွင် လာရှိသည်မှာ... ရှိုင်တွာန်မိစ္ဆာသည် ရေပြင်ပေါ်တွင် ပလ္လင်ခင်း၍ထိုင်လေသည်၊ ထိုနေရာမှ မိမိရဲဘော်ရဲဘက်များကိုစေလွှတ်လေသည်၊ လူတို့အား နှောင့်ယှက် ဖြားယောင်းနိုင်ဆုံးသော သူကို နှစ်သက် ချစ်ခင်လေသည်၊ တစ်ဦးသော ရှိုင်တွာန်ကလေးက ဤဤထိုထိုသော နှောင့်ယှက်မှုများ ပြုခဲ့ပါသည်ဟု လျှောက်ရာ သင်သည် ပြောပဘွယ်လုပ်ငန်းကိုမလုပ်ခဲ့ဟု ရှိုင်တွာန်ကပြောလေသည်၊ အခြားရှိုင်တွာန်ကလေးက မည်သည့်လင်မယားနှစ်ဦးကို ကွဲအောင်လုပ်ခဲ့ပါသည်ဟုလျှောက်ရာ သင်ကား အကောင်းဆုံး အလုပ်ကို လုပ်ခဲ့သည်ဟု ပြောကာ ရှိုင်တွာန်ကြီးမှာ ဝမ်းသာ၍ ၎င်းရှိုင်တွာန်ကလေးကို ပွေ့ဖက်လေသည်။ မွှာ်စလင်မ်နှင့်အဟ်မဒ်ကျမ်း။

ဇနီး မောင်နှံ နှစ်ဦး ကွဲကွာအောင် နှောင့်ယှက်မှုကို ရှိုင်တွာန်သည် လွန်စွာဝမ်းမြောက်ဝမ်းသာဖြစ်လေသည်၊ ထို့ကြောင့်မွတ်စလင်မ်တို့သည်တတ်နိုင်သမျှရှိုင်တွာန်ကို ပျော်ရွှင်အောင် မလုပ်သင့်ကြပေ။

ဟဒီးသ်တော်တွင်လာရှိသည်မှာ .. အကြွင်အမျိုးသမီးသည် ပြင်းပြသောလိုအပ်မှု မရှိဘဲ တလာက်ကွာရှင်းပေးရန် တောင်းဆိုလျှင် ဂျန္နတ် ဥယျာဉ်ဘုံနန်း၏ အနံ့ အသက်သည် ထိုသူမအပေါ်၌ ဟရာမ်ဖြစ်လေသည်။ အဟ်မဒ်နှင့်ဟာကင်မ်ကျမ်း။

ဆိုလိုတော်မူသည်မှာ .. ဂိုနာဟ်ကြီးစွာခံရမည်၊ မွတ်စလင်မ်အဖြစ်နှင့် သေဆုံးပါကအပြစ်ဒဏ်များကို ခံရပြီးနောက် ဂျန္နတ်သို့ရောက်မည်ပင်ဖြစ်သည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ... မွန်တဇေ့အာတ်၊ မွခ်တဖလ့အာတ်၊ မို့နာဖွေ့ကာတ်ပြုခြင်းသည် ဂိုနာဟ်ဂါရ် ဖြစ်သည်။ နေစာအီကျမ်း။

မွန်တဇေ့အာတ် ဆိုသည်မှာ အမျိုးသမီးများသည် လင်ယောက်ျား စိတ်ဆိုး၍ တွလာက်ပေးအောင် အမျိုးမျိုးသော အပြုအမူများ ပြုလုပ်ခြင်းဖြစ်သည်။

မွခ်တဖလ့အာတ် ဆိုသည်မှာ လင်ယောက်ျားထံမှ အကြောင်းမဲ့ ခိုလအ် ကွာရှင်းပေးရန် တောင်းဆိုခြင်းဖြစ်သည်။

မို့နာဖွေ့ကာတ် ဆိုသည်မှာ အပြင်တစ်မျိုး၊ အတွင်းတစ်မျိုး စိတ်ထားကြသည်၊ နေကာဟ် လက်ထပ်ခြင်းသည် အမြဲထာဝရအတွက် ဖြစ်သည်ကို ကွဲကွာအောင် ဖန်တီးပြုမူကြခြင်း ဖြစ်သည်၊ ထို့ကြောင့် ကာဖွင်ရ် မဖြစ်ငြားသော်လည်း ဂိုနာဟ်ဂါရ်များ ဖြစ်ကြသည်။

# ကုရ်အာန် ကျမ်းတော်မြတ် ဖတ်ရွတ်ခြင်း၏ ထွတ်မြတ်ခြင်း အကြောင်း

ဟဒီးသ်တော်တွင်လာရှိသည်မှာ... သင်တို့အနက် မည်သူသည် အလ္လာဟ်အသျှင်မြတ်နှင့် စကားပြောလိုလျှင် ကုရ်အာန်ကျမ်းမြတ်ကို ဖတ်ရွတ်ကုန်။

ဒိုင်လမီကျမ်း။

ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ခြင်းသည် အလ္လာဟ်အသျှင်မြတ်နှင့် စကားပြောရသည့် ပမာ ဖြစ်လေသည်။

ကုရ်အာန်ကျမ်းတော်မြတ်ကိုကိုင်သူ အလ္လာဟ်အသျှင်မြတ်က စိတ်တွင်း၌ကုရ်အာန်ကျမ်းတော်ကို ထားခြင်းခံရသူများသည် လူတို့တွင် အချမ်းသာဆုံးသူဖြစ်လေသည်။

အစ်ဗ်နို့ အစာကင်ရ်။

ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်၍ ကုရ်အာန်ကျမ်းတော်မြတ်အတိုင်း လိုက်နာဆောက်တည်သောသူများသည် ကြွယ်ဝသူများ ဖြစ်ကြလေသည်၊ ကုရ်အာန် အတိုင်းဆောက်တည် လိုက်နာသဖြင့် အတွင်းစိတ်ဓါတ် ကြွယ်ဝခြင်းကို ပေးသနားတော်မူသည်၊ ပြင်ပမှာလည်း လုံလောက်ပြည့်စုံမှု ရရှိလေသည်။

အေမာမ်ဟာစ်ဇတ်စ္စိရီ (ရဟမတွလ္လာဟ်) သခင်က ဆင့်ပြန်ခဲ့သည်၊ ပုဂ္ဂိုလ်တစ်ဦးသည် အုမရ် (ရသွေ့) သခင့်ထံ လောကီရေးရာ စားဝတ်နေရေး အတွက် လာရောက်လေ၏၊ အုမရ်(ရသွေ့)သခင်က ကုရ်အာန် ကျမ်းတော်မြတ် ဖတ်ရွတ်နေရန် မိန့်၍ လွှတ်လိုက်လေ၏၊ ၎င်းပုဂ္ဂိုလ်သည် ထွက်သွားပြီး နောက် လုံးဝ မပေါ်လာတော့ချေ၊ ရက်အတန်ကြာမှ တွေ့ရလေရာ၊ အုမရ်(ရသွေ့)သခင်က မလာရောက်သဖြင့် အပြစ်တင်

လေ၏၊ အမြဲလာနေကျသူတစ်ဦးသည် မလာတော့ဘဲ ဖြတ်တောက်ထားလျှင် ဘာ့ကြောင့် မလာပါသနည်းဟူ၍ စိတ်သောကရောက်တတ်စမြဲပင်ဖြစ်လေ၏၊ ၎င်းပုဂ္ဂိုလ်က လျှောက်သည်မှာ ကျွန်ုပ်တော်သည် အလ္လာဟ်အသျှင်မြတ်၏ကျမ်းတော်ကို များမြောင်စွာ ဖတ်ရွတ်နေလေရာ အုမ္မရ်ိသခင်၏တံခါးဝမှ ရလိုမှုကို ဂရုမစိုက်ရတော့ဟု ပြောလေသည်။

အစ်ဗ်နို့အဗီအရှိုင်ဗဟ်ကျမ်း။

ကုရ်အာန်ကျမ်းတော်မြတ် အာယတ်တော်များ၏ ဘရ်ကတ်ဖြင့် လူတို့ထံမှ လက်ဖြန့်မှုသည် ပျောက်ကွယ်သွားကာ အလ္လာဟ်အသျှင်မြတ်အား လုံးဝ ယုံပုံကိုးစားမှု ဖြစ်ထာသည်၊ သခင့်ထံတွင် လောကီအတွက် လာရောက်ရလေရာ ယခုလာ၍ ဘာလုပ်တော့မည်နည်း ဟူ၍ ဖြစ်လေသည်။

ကုရ်အာန်ကျမ်းတော်၏ အာယတ်တော်များဟူရာ၌ ဤသို့သော အာယတ်တော် ဖြစ်လေသည်။

وَفِي السَّمَاءِ رِزْقُكُمْ وَمَا تُوعَدُونَ

သင်တို့အတွက် ရိုဇီရိက္ခာနှင့် သင်တို့အား ထားသောကတိများသည် မိုးကောင်းကင်၌ ရှိလေသည်။ ကုရ်အာန်။

သင်တို့အတွက်ရှိ ဇီရိက္ခာစားရေးသောက်ရေးတို့သည် ငါအသျှင်မြတ်၏ ရုံးတော်မှပင် စီမံခန့်ခွဲသမှုပြုလေ့သည်၊ ဟိုဟိုသည်သည်ရှန်းကန်နေ၍ ရမည်မဟုတ်ဟူ၍ ဆိုလိုရင်းဖြစ်လေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ .... အေဗာဒတ်များ အနက် အမြတ်ဆုံးသည် ကုရ်အာန်ကျမ်းတော်မြတ် ရွတ်ဖတ်ခြင်း ဖြစ်လေသည်။

ကန်ဇွလ်အမ္မာလ်ကျမ်း။

ဆိုလိုတော်မူသည်မှာ....ဖွရ်ိသွ်များအပြင် အမြတ်ဆုံးအေဗာဒတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ခြင်း ဖြစ်လေသည်။

ဟဒီးသ်တော်မြတ်တွင် လာရှိသည်မှာ,... သင်တို့အနက် အမြတ်ဆုံးသော သူသည် ကုရ်အာန်ကျမ်းတော်မြတ်ကို အမြဲဖတ်သူ၊ ၎င်း သင်ပြပို့ချသူဖြစ်သည်။

ဒိုင်လမီကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... ကုရ်အာန်ကျမ်းတော်မြတ်ကို ရိုသေစွာ ဂုဏ်ပေး၍ အာဂုံဆောင်ထားသူကို ရိုသေကြကုန်၊ သို့ရှိရာ အမှန်ပင် ထိုသူအား ရိုသေခြင်းသည်ငါရစူလ်အားရိုသေသကဲ့သို့ပင်ဖြစ်သည်။ အစ်ဗ်နို့မရ်ဒဝိယဟ်။

ရစူလွ်လ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား ရိုသေလေးစားခြင်းသည် ဝါဂျစ်ဗ် ဖြစ်လေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ—အကြင်သူသည် ကုရ်အာန် ကျမ်းတော်မြတ်ကို ဖတ်ရွတ်သရဇ္ဈာယ်၍ ထိုအတိုင်းပြုမူဆောက်တည်လျှင် ထိုသူ၏မိဘနှစ်ပါးကို ကေယာမတ်နေ့၌အလ္လာဟ်အသျှင်မြတ်က မကိုဋ်ဆောင်းပေးတော်မူမည်၊ ထိုမကိုဋ်သည် လောကဠ်သင်တို့အိမ်ထဲတွင် သူရိယနေ ထွက်ပြူသည့်အလား ထိုထက် လင်းဝင်းတောက်ပနေမည်ဖြစ်သည်၊ သို့ရှိရာ ထိုသို့လိုက်နာဆောက်တည်သူ၏ ကုသိုလ်သဝါဗ် အဆင့်အတန်းသည် မည်မျှ မြင့်မားသည်ကို သင်တို့ မမှန်းဆနိုင်ကြချေ၊ ထိုသို့ပြုမူခြင်း၏ သဟဲဖြင့် ထိုသူ၏ မိဘသည် ဤသို့မြင့်မားသော အဆင့်အတန်းကို ရရှိလေသည်။

အဘူဒါဝူးဒ်ကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... အာလင်မ် ပညာရှင်များ ကုရ်အာန်ကျမ်းတော်မြတ်ကို နားလည် တတ်ကျွမ်းသော ပုဂ္ဂိုလ်များသည် လောကရှိ ပစ္စည်းစည်းစိမ်အားလုံးထက် ကုရ်အာန်ကျမ်းတော်မြတ်ကို အသာမြတ်ဆုံးထားကြရမည်၊ ကုရ်အာန်ထက် တစ်ခုခုကို သာမြတ်သည်ဟု ယူဆလျှင် အလ္လာဟ်အသျှင်မြတ်က ကြီးကျယ်မွန်မြတ်သည့်ဟု မိန့်မြွက်ထားသည်ကို သေးသိမ်စေရာ ရောက်သဖြင့် အလွန်ပင် အပြစ်ဂိုနာဟ်ကြီးလေသည်။

၎င်းကုရ်အာန်ကျမ်းတော်ကို နားလည်တတ်ကျွမ်းသောပုဂ္ဂိုလ်တို့သည် လူတို့အား ရိုင်းပြစွာ မဆက်ဆံရ၊ ကုရ်အာန်ကျမ်းတော်၏ ကြီးကျယ် မြတ်ထွတ်ခြင်း အတွက်ကြောင့် တစ်ဦးတစ်ယောက်က ရိုင်းပြစွာ ဆက်ဆံလျှင် ထိုရိုင်းပြမှုကို သဘောထားကြီးစွာ ခွင့်လွှတ်ကြရမည်။ ရဝါဟ်ွလ်ခတွ်ီးဗ်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ....

عَنِ ابْنِ عَمْرٍو مَرْفُوْعًا بِلَفْظِ الْقُرْاٰنِ اَحَبُّ اِلَى اللّٰهِ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ وَمَنْ فِيْهِنَّ

အလ္လာဟ်အသျှင်မြတ်သည် မိုးများမြေများ၌ ရှိသော အရာများ၊ ၎င်းထိုမိုးမြေများ၌ရှိသူများ အရပ်ပဲသိမ်းထက် ကုရ်အာန်ကျမ်းတော်မြတ်ကို နှစ်သက်ချစ်ခင်တော်မူလေသည်။

ကုရ်အာန်ကျမ်းတော်မြတ်သည် ရှိရှိသမျှ 'မခ်လူးက်' အပေါင်းထက် သာမြတ်လေသည်၊ ၎င်းအလ္လာဟ်အသျှင်မြတ် နှစ်သက် အချစ်ခင်ဆုံးသည် ကုရ်အာန်ကျမ်းတော်မြတ် ဖြစ်လေသည်။

ဟဒီးသ်တော်တွင်လာရှိသည်မှာ....အကြင်သူသည် ဗန္ဒဟ်လူသားတစ်ယောက်အား ကုရ်အာန်ကျမ်းတော်မြတ်၏ အာယတ်တော်တပိုဒ် သင်ပေးလျှင် သင်ပြသူသည် သင်ယူသူ၏ ဆရာသခင်ဖြစ်လေသည်၊ ဆရာသခင်အား ကူညီသင့်သောနေရာတွင် မကူညီလျှင် ဆရာသခင်ထက် အဆင့်အတန်းမမြင့်သူကို ဆရာထက်အသာပေးခြင်းပြုလျှင် ထိုသူသည် အစ္စလာမ် သာသနာတော်၏ စည်းမျဉ်းများအနက် စည်းမျဉ်းတစ်ခုကို ချိုးဖောက်သူ ဖြစ်လေသည်။ တွာဗ်ရာနီကျမ်း။

ဤသို့ မဖွယ်ရာပြုမူသဖြင့် အစ္စလာမ်သာသနာတော်၏ ကြီးမားသော အမိန့်ကို ဖီဆန်ရာရောက်သဖြင့် ဒွန္နယာအာခေရတ်တွင် ကြီးမားသော အပြစ်ဂိုနာဟ် ခံရမည်ကို စိုးရိမ်ရလေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ....

عَنْ عُبَادَةَ بْنِ الصَّامِتِ أَنَّ رَسُوْلَ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ قَالَ لَيْسَ مِنْ أُمَّتِيْ مَنْ لَمْ يُبَجِّلْ كَبِيْرَنَا وَيَرْحَمْ صَغِيْرَنَا وَيَعْرِفْ لِعَالِمِنَا حَقَّهُ

အကြင်သူသည် လူကြီးများကို မရိုသေလျှင်၊ ငယ်ရွယ်သူများကို မညှာတာလျှင် အာလင်မ်များအပေါ် ထားရမည့် ဝတ္တရားမကျေပွန်လျှင် ထိုသူသည် ငါရစူလ်၏ အုမ္မတ်သားများထဲမှမဟုတ်။

အဟ်မဒ်နှင့် တွာဗ်ရာနီကျမ်း။

အာလင်မ်ဟု ဆိုရာ၌ ကုရ်အာန် ကျမ်းတော်မြတ်ကို တတ်ကျွမ်းသူ၊ သင်ပြသူများလည်း ပါဝင်သွားလေသည်၊ အထက်ပါ ချို့ယွင်းချက်ရှိသူများ၏ အီမာန်သည် လျော့နည်းသွားလေသည်၊ ထို့ကြောင့် ကျွန်ုပ်တို့သည် သက်ရွယ် ကြီးသူများကို ဂုဏ်ပေးခြင်း၊ ကိုယ့်ထက်ငယ်သူများကို သနားညှာတာခြင်း အာလင်မ်ဓမ္မပညာရှင်များကို ရိုသေ ဝတ်ကြီး ဝတ်ငယ်ပြုကြရန် ထိုက်ပေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ....အကြင်သူသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်သည်၊ အကျယ်ဖွင့်ဆိုချက်နှင့် အဓိပ္ပါယ်ယတ္တများကို နားလည်ပြီးနောက် ထိုအတိုင်း မလိုက်နာမပြုမူလျှင် ထိုသူ၏ ဌာနစခန်းသည် ဂျဟန္နမ် အပေါ်ငရဲဘုံ ပင် ဖြစ်လေသည်။

ရဝါယ်တို့အဘူနအီးမ်။

ကုရ်အာန်ကျမ်းတော်ကို ဖတ်ရွတ်သရဇ္ဈာယ်၍၊ လိုက်နာပြုမူ ဆောက်တည်ခြင်း မပြုသူသည် ကြီးမားစွာသော 'ဂိုနာဟ်' ကို ခံရမည်ဖြစ်လေသည်၊ ဤနေရာတွင် မတတ်ကျွမ်းသူများကား ပျော်နေရန်မဟုတ်ပေ၊ ကျွန်ုပ်တို့ ကုရ်အာန်ကိုနားမလည်၍ အမ်လ်မပြုလျှင် ဂိုနာဟ် ဖြစ်မည်မဟုတ်ဟု မထင်မမှတ်ကြလေနှင့်၊ မတတ်ကျွမ်းသူများသည့် 'ဂိုနာဟ်' နှစ်ဆခံကြရမည်၊ ဘာသာရေးကို မလိုက်စား မသင်ယူသည်ကတပြစ်၊ မလုပ်ဆောင်သည်က တပြစ်ဖြစ်လေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ....မည်သူသည် ညတွင် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်၍ အာရုံတက်အချိန်တွင် သူတစ်ပါးပစ္စည်းကို ခိုးဝှက်ပါသည်ဟုတစ်ဦးသောပုဂ္ဂိုလ်က ရစူလွလ္လာဟ် ( ဆွလလ္လာဟုဲ ) ကိုယ်တော်အား လျှောက်တင်ရာ မကြာမီကုရ်အာန်က ခိုးဝှက်မှုကို တားမြစ်လိမ့်မည်ဟု ကိုယ်တော်က မိန့်တော်မူလေ၏။

ကုရ်အာန် ကျမ်းတော်မြတ်ဖတ်ရွတ်ခြင်း၏ ဘရ်ကတ်ဖြင့် ဒုစရိုက်မှုများပပျောက်သွားလိမ့်မည် ဖြစ်ပေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ... အလီ ( ရဒွေ့ ) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်လျှင် ၎င်းအာဂုကျက်ထားလျှင် ဟလာလ်ကို ဟလာလ်ဟုယုံကြည်၍ ဟရာမ်ကို ဟရာမ်ဟု ယုံကြည်လျှင် ထိုသူကို အလ္လာဟ်အသျှင်မြတ်က ဂျန္နတ်ဥယျာဉ်ဘုံ နန်းသို့ပို့တော်မူမည်၊ ၎င်းဆွေမျိုးများထဲမှဂျဟန္နမ်ကျမည့်သူ (၁၀)ယောက်အား (ရှဖွာအတ်) လွှတ်ငြိမ်းချမ်းသာခွင့် တောင်းပေးနိုင်မည်ဖြစ်သည်။

အဟ်မဒ်တင်ရ်မေသီနှင့် အစ်ဗ်နို့မာဂျဟ်ကျမ်း။

ဟဒီးသ်တော်တွင် လာရှိသည်မှာ ...အကြင်သူသည် စိုသ္ဓုသန့်စင်စွာဖြင့် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယတ်တော်တစ်ပိုဒ်ကို နားထောင်လျှင် ကုသိုလ်သဝါဗ် (၁၀)ဆ ရလေသည်၊ ဂိုနာဟ် (၁၀) ခုကို ခွင့်လွှတ်တော်မူသည်၊ အဆင့်အတန်း(၁၀)ဆ တိုးမြှင့်ပေးသနားတော်မူသည်။

အကြင်သူသည် နမာဇ်တွင်း၌ထိုင်လျက် ကုရ်အာန် ကျမ်းတော်မြတ်၏ အက္ခရာတစ်လုံးကိုဖတ်လျှင် ကုသိုလ်သဝါဗ် အဆ (၅၀) ရေးမှတ်တော်မူသည်၊ဂိုနာဟ် (၅၀) ပယ်ဖျက် ခွင့်လွှတ်တော်မူသည်၊ အဆင့်အတန်း အဆ(၅၀)တိုးမြှင့် ပေးတော်မူသည်၊

(ထိုင်လျက်ဟု ဆိုရာ၌ နမာဇ်ကို အကြောင်းမဲ့ ထိုင်၍ဖတ်ခြင်းမပိုင်ပေ၊ အသင်ရှိအခွင့်ရှိမှသာ ထိုင်၍ဖတ်ခြင်း ပိုင်ခလသည်။)

နဖ်လ် နမာဇ်ကိုလည်း အွဉ်ရ် အကြောင်းရှိ၍ ထိုင်ဖတ်လျှင် ရပ်၍ဖတ်သော အကျိုးသ၀ါဗ်ရလေသည်၊ (အကြောင်းမဲ့ထိုင်လျှင် သ၀ါဗ် တစ်ဝက်သာရသည်။)

အကြင်သူသည် ကုရ်အာန် ကျမ်းတော်မြတ်၏ အက္ခရာတစ်လုံးကို ရပ်လျက် နမာဇ်တွင် ဖတ်လျှင် ကုသိုလ်သ၀ါဗ် အဆ (၁၀၀) ရေးမှတ်တော်မူသည်၊ ဂိုနာဟ် (၁၀၀) ပယ်ဖျက် ခွင့်လွှတ်တော်မူသည်၊ အဆင့်အတန်း (၁၀၀) တိုးမြှင့် ပေးသနားတော်မူသည်။

၎င်းအကြင်သူသည် ကုရ်အာန် ကျမ်းတော်မြတ်ကို စ,ဆုံး ဖတ်လျှင် အလ္လာဟ် အသျှင်မြတ်က မိမိဘက်တော်မှ လျှင်မြန်စွာ လက်ခံ (ကဗူလ်) ပြုမည့်ဒိုအာဆုမွန်တစ်ခု ရေးမှတ်တော်မူလေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ အကြင်သူသည် ကုရ်အာန် ကျမ်းတော်မြတ်ကို ဖတ်ရွတ်၍ အလ္လာဟ်အသျှင်မြတ်ကို ချီးကျူးလျှင်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အပေါ်၊ ဒရူးဒ် မေတ္တာပို့လျှင် မွေးမြူ ဖန်ဆင်းတော်မူသော အလ္လာဟ် အသျှင်မြတ် ထံတော်မှ (မဂ်ဖေ့ရတ်) ချမ်းသာဆုမွန်တောင်းဆိုလျှင် သို့ရှိရာ ထိုသူသည် သင့်လျော်သောကောင်းမှုကို တောင်းဆိုလိုက်ခြင်းပင် ဖြစ်လေသည်။

ဒိုအာ လက်ခံ ကဗူလ် ဖြစ်နိုင်သော နည်းလမ်းဖြင့် တောင်းဆိုသောကြောင့် လျှင်မြန်စွာ လက်ခံ သဘောတူတော်မူပေမည်၊ အလ္လာဟ်အသျှင်မြတ်ကို ချီးကျူးရာ၌ အလ်ဟမ်ဒို လစ်လ္လာဟ် ဆိုသည်ဖြစ်စေ၊ အခြား အလားတူ စာလုံးကို ဆိုသည်ဖြစ်စေ ကုရ်အာန် ကျမ်းတော်ကို ဖတ်ရွတ်ပြီးနောက် သီးခြားသော ဒိုအာ တောင်းဆိုလျှင် ကဗူလ်ပြု လက်ခံတော်မူပေမည်။

ဗိုင်ဟကီကျမ်း။

ဟဒီးသ်တော်တွင်လာရှိသည်မှာ ... မိမိတို့မိန်းမများကို စူရဟ်၀ါကေအဟ် သင်ပြကြကုန်၊ အဘယ့်ကြောင့်ဆိုသော် အမှန်ပင် ထိုစူရဟ်သည် ကြွယ်ဝစေသည်။

ဗိုင်လမီကျမ်း။

ထို စူရဟ်၀ါကေအဟ် ဖတ်ခြင်းဖြင့် ကြွယ်ဝသည်၊ စားရေး သောက်ရေး ချောင်လည်သည်၊ အတွင်းစိတ်ဓာတ် ကြွယ်ဝပျော်ရွှင်စေသည်။

အခြား ဟဒီးသ်တော်တစ်ရပ်လာရှိသည်မှာ.... အကြင်သူသည် ညစဉ် စူရဟ်ဝါ ကေအဟ်ကို ဖတ်လျှင် ရိုဇီ စားရေးသောက်ရေး ကျဉ်းကျပ်မည်မဟုတ်။

အမျိုးသမီး တို့သည် စိတ်အားငယ်တတ်ကြလေသည်၊ အနည်းငယ် ကျပ်တည်းမှုဖြင့် စိတ်ရှုပ်သွားတတ်ကြသည်၊ ထို့ကြောင့်သီးခြား၍ အမျိုးသမီးတို့ကို ဖတ်စေရန် မိန့်မြွက်ထားတော်မူခြင်းဖြစ်လေသည်၊ ထိုစူရဟ်သည်ကား ယောကျ်ား,မိန်းမတို့ အတွက် အကျိုးတူ သက်ရောက်လေသည်။

ဟဒီးသ်တော်မြတ်တွင် လာရှိသည်မှာ.... ကောင်းသောသူများအနက် အကောင်းဆုံးသူသည် ကုရ်အာန်ကျမ်းတော်မြတ်ကိုဖတ်ရာ၌ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့နေသောအဖြစ်နှင့် ဖတ်သူဖြစ်လေသည်။

ကန်ဇုလ်အမ်မာလ်ကျမ်း။

ကုရ်အာန်ကျမ်းတော်မြတ် ဖတ်ရွတ်နေသူသည် အခြားသူတို့က အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့နေကြောင်း မြင်နေကြစေရန် ဖြစ်သည်၊ ကြောက်ရွံ့၍ အသျှင်မြတ် ရှေ့တော်မှောက်တွင် မလျော်သောအပြုအမူ မပြုမိစေရန် ဂရုပြု၍ ဖတ်ရွတ်ကြရမည်။

ကုရ်အာန်ကျမ်းတော်မြတ်ဖတ်ရန် အကောင်းဆုံးနည်းလမ်းမှာ....

ဝိုသ္ဇူရေသန့်စင်၍ ကစ်ဗ်လဟ် အနောက်ဘက်သို့ မျက်နှာမူပြီး ထိုင်ကာ တစ်ရှိတစ်သေ ဖတ်ရမည်။ အလ္လာဟ်အသျှင်မြတ်နှင့် စကားပြောနေသည်ဟု စိတ်က ထင်နေရမည်၊ အကယ်၍ အဓိပ္ပါယ်ကို နားလည်လျှင် စဉ်းစား၍ဖတ်ရမည်၊ အလ္လာဟ် အသျှင်မြတ်က ရဟ်မတ်တော် ပေးသနားမည် ဟူသော အာယတ်တော်ကို ဖတ်သောအခါ အလ္လာဟ် အသျှင်မြတ်က 'ရဟ်မတ်' ပေးသနားတော်မူပါရန် ဒိုအာ ဆုမွန်တောင်းဆိုရမည်၊ အကြင် နေရာတွင် အသာဗ် ပြစ်ဒဏ်ခတ်တော်မူမည် ဟူသော အာယတ်တော်ကို ဖတ်သောအခါ, အသာဗ် ပြစ်ဒဏ်မှ လွတ်ကင်းရန် ဆုဒိုအာ တောင်းရမည်။

၎င်းဖတ်ရွတ်ပြီးလျှင် အလ္လာဟ် အသျှင်မြတ်ကို ချီးကျူး၍ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်အား ဒရူးဒ်မေတ္တာပို့ပြီးလျှင် မိမိအတွက် မဂ်ဖွေရတ် ချမ်းသာ

ဆုနှင့် အခြား မိမိ လိုရာ ဆု ဒိုအာမျှားကို တောင်းဆိုရမည်၊ ပြီးနောက် ဆက်၍ ဒရုုးဒ်ဖတ်ရမည်၊ ကုရ်အာန်ဖတ်နေစဉ် အခြား လောကီရေးရာများ စိတ်ကူးမထည့်ရ၊ တတ်နိုင်သမျှရှောင်ရမည်၊ အကယ်၍ စိတ်ကူးရောက်လာလျှင် စိတ်မစိုက်ဘဲနေက အလိုလို ပ,ပျောက်သွားပေမည်၊ ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်သော အခါ အဝတ်ကိုလည်း သန့်ပြန့်စွာ ဝတ်ဆင်ရမည်။

# မတ်စ်အလဟ်များ

## ( ၁ )

တွလာက်ကွာရှင်းရန် လိုအပ်လာလျှင် တွလာက်ပေးနည်း သုံးမျိုးရှိလေသည်။

၁။ အကောင်းဆုံးသော တွလာက်။

၂။ ကောင်းသောတွလာက်။

၃။ ဗိဒအတ် ဟရာမ်ဖြစ်သော တွလာက်။

အကောင်းဆုံးသော တွလာက်ကွာရှင်းနည်းမှာ ဓမ္မတာရာသီမှသန့်ပြန့်နေသော အခါ ထိုသန့်ပြန့်မှုတွင် သံဝါသမပြုဘဲ တွလာက်တစ်ကြိမ်ပေးရမည်၊ အစ်ဒတ်ရက် ကုန်လွန်သည်အထိ တွလာက်မပေးဘဲထားရမည်၊ အစ်ဒတ်ရက်ကုန်ဆုံးသွားလျှင် ပြတ်စဲသွားပြီ ဖြစ်လေသည်၊ ထို့ကြောင့် တွလာက်တစ်ကြိမ်နှင့်ပြီးပြတ်သည်ဖြစ်၍ အကြိမ်များစွာ ပေးနေရန် မလိုပေ။

ကောင်းသော တွလာက်မှာ ဟိုက်သွ် ရာသီ(၃)ကြိမ်၌ တစ်ကြိမ်, တစ်ကြိမ်လျှင် တွလာက် တစ်ကြိမ်ကျပေးရမည်၊ ထိုသန့်ပြန့်သောရက်များတွင်လည်း သံဝါသမှုမပြုရ။

ဗိဒအတ်နှင့် ဟရာမ်ဖြစ်သောတွလာက်မှာ အထက်ပါအချက်များနှင့် ကွဲလွဲသည်၊ ဥပမာ....တွလာက်သုံးကြိမ်တစ်ခါတည်းပေးခြင်း၊ဟိုက်သွ် ရာသီပန်းပွင့်နေခိုက်ပေးခြင်း၊ ဆန့်ပြန့်နေသောရက်ပိုင်းတွင် သံဝါသမှုပြုသည်၊ ထိုသန့်ပြန့်မှုမှာပင် တွလာက်ပေးခြင်း။

ဤနောက်ဆုံးအဆိုတွင် တွလာက်ကွာရှင်းမှု မြောက်သွားသော်လည်း ကြီးသော ဂိုနာဟ်ဖြစ်လေသည်၊ ကောင်းစွာ မှတ်သားကြကုန်။

အထက်ပါအမိန့်များသည် ဇနီးမယားနှင့် သံဝါသမှုပြုပြီးမှဖြစ်သည်၊ မပေါင်းသင်းရသေးမီ တလာက်ပေးက ထိုအကြောင်း အောက်တွင် လာရှိပေသည်။

အမျိုးသမီးတစ်ယောက်နှင့် နေကာဟ်ပြုသည်၊ သို့သော် သံဝါသမှု လုံးဝမပြုရသေးလျှင် ဤသို့သော မိန်းမကို ဟိုက်သ္မ် ရာသီလာနေသည်ဖြစ်စေ၊ သန့်ပြန့်နေသည်ဖြစ်စေ တလာက် ကွာရှင်းနိုင်သည်၊ သို့သော် တလာက်တစ်ကြိမ်သာလျှင် ပေးရမည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၃၆။

# ဤတွင်၍ကား ဘဟာစ်ရှိတီ ဇေဝရ်ဟာရ်ကျမ်း စတုတ္ထတွဲပြီး၏။

မုဟမ္မဒ်မူစာ (မဇွာဟေရီ)
30-10-1964
သောကြာနေ့။

## အလ်ဟာဂျီ မောင်လာနာ မုဟမ္မဒ်မူစာ [မဇ္ဇာဟေရီ]
## ရေးသား ထုတ်ဝေပြီးသော ကျမ်းစာအုပ်များ စာရင်း

( လစဉ်ထုတ် အစ္စလာမ် ယဉ်ကျေးမှု စာစောင် ၃၃-အုပ် ထုတ်ဝေခဲ့သည် )

၁။ ဟာဂျီလမ်းစဉ်
၂။ နေကာဟ် ထိမ်းမြားမင်္ဂလာ
၃။ ရှဗေ့ဘရာအတ်
၄။ ငလျှင်လှုပ်ခြင်း၏ သဘောတရား
၅။ တမန်တော်၏ ထေရုပ္ပတ္တိ
၆။ တမန်တော်၏ ဒုက္ခတော်များ
၇။ ခွတ္တဗဟ်နဗာတဟ် (ပထမ ၆-လ)
၈။ တဖ်စီးရ်စူရဟ်ယာစီန်
၉။ ။ စူရတွရ်ရဟ်မာန်
၁၀။ ။ စူရဟ်တဗာရကလ်လသီ
၁၁။ မုအ်ဂျေဇဟ်တန်ခိုးတော်များ
၁၂။ လွယ်ကူစွာ ကုရ်အာန်ဖတ်နည်း
၁၃။ ဘဟာစ်ရှ်တီဇေဝရ်ကျမ်း(ပထမပိုင်း)
၁၄။ တဗ်လီးဂ် ဟူသည်
၁၅။ နမာဇ် အလင်းပြကျမ်း
၁၆။ ဘဟာစ်ရှ်တီဇေဝရ် (ဒုတိယပိုင်း)
၁၇။ ဂျန္နတ် ကောင်းကင်ဘုံနန်း
၁၈။ ဝိညာဉ်လောက
၁၉။ ကေယာမတ်ကမ္ဘာ့နိဂုံး
၂၀။ ဒရူးဒ်ရှရီးဖ်
၂၁။ အာဒါဘွလ်မဆာဂျစ်ဒ်
၂၂။ ဂျဟန္နမ်အပါယ်ငရဲဘုံ
၂၃။ ခြေဗာ့တင်ပညတ်တော်(၆)ပါး
၂၄။ ဖွသ္သာအေ့လေ့ တဗ်လီးဂ်
၂၅။ ။ နမာဇ်
၂၆။ ။ ကုရ်အာန်
၂၇။ ။ သစ်က်ရ်
၂၈။ ။ ရမသွာန်
၂၉။ တဖ်စီရ်မူသွေ့ ဟွလ်ကုရ်အာန် (အတွဲ-၆)
၃၀။ ။ (အတွဲ-၅)
၃၁။ ဟေကာယာတေ့ ဆွဟာဗဟ်
၃၂။ မှားယွင်း နေသော ကာဒရာနီ ဝါဒ
၃၃။ ကလေမဟ်(ခုနစ်ပုဒ်)
၃၄။ အလွယ်ကူဆုံး နမာဇ်ဖတ်နည်း
၃၅။ စွန္နတ်တော်နည်းအရ သင်္ဂြိုဟ်နည်း
၃၆။ မိဘအပေါ် ထားရှိရမည့်ဝတ္တရားများ
၃၇။ အကောင်းဆုံး လက်ဆောင်မွန်
၃၈။ ကုရ်ဘာနီနှင့်အီးဒ်နမာဇ်ဝတ်ပြုနည်း
၃၉။ မိုဒ်ဒါနေ့ ဟာရှရ် ကမ္ဘာ့တရားခွင်
၄၀။ ကေယာမတ်စွဂ်ရာ
ကမ္ဘာချုပ်ငြိမ်းမှုနိဒါန်း
၄၁။ ဆုပန်ဒိုအာပြုနည်း
၄၂။ အမှားဝန်ခံ တောင်ဗဟ်ပြုနည်း
၄၃။ လွတ်ငြိမ်းချမ်းသာဂိုနာဟ်ချွတ်နည်း
၄၄။ ဖွသ္သာအေ့လေ့ ဟဂျ်
၄၅။ မို့နဗ်ဗဟာဇ် ဩဝါဒနီတိကျမ်း
၄၆။ ဆွဒကာတ်ကျမ်း (ပထမပိုင်း)
၄၇။ သားသမီးဝတ္တရား
၄၈။ မိဘဝတ္တရား
၄၉။ ဇနီးမောင်နှံဝတ္တရား
၅၀။ ဆွေမျိုးသားချင်းဝတ္တရား
၅၁။ အိမ်နီးနားချင်းဝတ္တရား
၅၂။ မွတ်စလင်မ်အချင်းချင်းဝတ္တရား
၅၃။ စားပိုင်မစားပိုင် သတ္တဝါများ
၅၄။ ဇကာတ်ဥပဒေများ
၅၅။ အမြတ်ဆုံးအွမ္မတ်
၅၆။ ဂျန္နတ်ပေးမည့် ကတိတော်
၅၇။ အကျိုးမဲ့ အကုသိုလ်
၅၈။ ဦးစွာပထမ အစ္စလာမ်မှာ
၅၉။ အစ္စလာမ့် ယုံကြည်ချက်
၆၀။ ဖွေကဟ်အတက်ဗရ်
၆၁။ ဆွဒကာတ်ကျမ်း (ဒုတိယပိုင်း)




# ဘဟစ်ရှတီဇေဝရ်ကျမ်း

## ပဥ္စမတွဲ

### ရောင်းဝယ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ် ဤပစ္စည်းကို မည်မျှဈေးနှုန်းဖြင့် ရောင်းပါသည်ဟုတစ်ဦးကပြော၍ အခြားတစ်ဦးက ကျွန်ုပ်ယူလိုက်ပြီဟုပြောလျှင် ထိုပစ္စည်းသည် ရောင်းပြီး ဖြစ်သွားလေသည်၊ ဝယ်ယူသူသည် ထိုပစ္စည်းကို ပိုင်ဆိုင်သွားသည်၊ ဤသို့ ရောင်းမှုစကားကို ပြောဆိုကြပြီးနောက် ရောင်းသူက ကျွန်ုပ်မရောင်းတော့၊ ဝယ်သူက လည်း မဝယ်တော့ ဟူ၍ ပြောဆိုခွင့် မရှိချေ၊ ပြောလည်း ပြောရုံပင်ရှိမည်၊ ရောင်း ဝယ်မှုကား အတည်မြောက်သွားပေ၏၊ ရောင်းသူက ပြောထားသော ဈေးနှင့် ရောင်းကို ရောင်းရမည်၊ ဝယ်သူကလည်း ဝယ်ကိုဝယ်ရမည်၊ ဤသို့ ရောင်းဝယ်မှုကို 'ဗိုင်အ်'ဟု ခေါ်လေသည်။ ဂျော်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၈။

၂။ မတ်စ်အလဟ်ပြဿနာ။ ဤပစ္စည်းကို ၂-ပြားဖြင့် သင်၏လက်သို့ ရောင်း ပါသည်ဟုတစ်ဦးကပြောရာ၊ အခြားသူက ကျွန်တော်လက်ခံသည်၊ သို့မဟုတ် ဤဈေး နှုန်းဖြင့် ကျွန်တော်သဘောတူသည်၊ ကောင်းပြီ၊ ကျွန်တော်ယူလိုက်ပြီဟူ၍ ပြောဆိုကြ ပါက ထိုပစ္စည်းသည် ရောင်းပြီး ဖြစ်သွားလေသည်၊ ယခု ထိုပစ္စည်းကို ရောင်းသူက မရောင်းတော့ဟု မပြောပိုင်၊ ဝယ်သူကလည်းမဝယ်တော့ဟု မပြောပိုင်ပေ။

ဤသို့ ရောင်းဝယ်မှုစကားကို တစ်နေရာတည်းတွင် ပြောဆိုကြမှသာလျှင် ရောင်းဝယ်မှုပိုင်လေသည်၊ အကယ်၍တစ်ဦးတစ်ယောက်က ဤပစ္စည်းကို ၄-ပြားဖြင့်ရောင်းပါသည်ဟုပြောရာ၊ ဝယ်မည့်သူက၊ ဈေးနှုန်းသိရပြီး ဘာမျှမပြော၊ ထသွားသည်၊ အခြားတစ်ဦးနှင့် သွား၍တိုင်ပင်သည်၊ သို့မဟုတ် အလုပ်တစ်ခုခုအတွက်ကြောင့် ထသွားသည်၊ နေရာ ရွှေ့သွားသည်၊ ထို့နောက်မှ ဝယ်သူက ကောင်းပြီ ထိုပစ္စည်းကို ၄-ပြားဖြင့် ကျွန်တော်ဝယ်ပါသည်ဟုပြောလျှင် အရောင်းအဝယ် မဖြစ်သေးပေ။

ဟုတ်ပါ၏၊ အကယ်၍ ရောင်းသူက ကျွန်ုပ် ပေးလိုက်ပြီ၊ သို့မဟုတ် ယူပါဟု ပြောမှသာလျှင် ရောင်းဝယ်မှု အထမြောက်လေသည်။

ဤသို့ပင် ရောင်းသူက ဈေးပြောပြီးနောက် ဝယ်သူနှင့် စကားမပြတ်မီ ရောင်းသူကထသွားသည်၊ အလုပ်တစ်ခုခုနှင့် သွားသည်၊ ထို့နောက်မှ ဝယ်သူက ကျွန်တော် ယူပါသည်ဟုပြောလျှင် ရောင်းဝယ်မှု အထမမြောက်သေးပေ။

အချုပ်စကားမှာတစ်နေရာတစ်ထိုင်ထည်းရောင်းဝယ်မှုစကားကို အပြတ်ပြောကြမှ သာလျှင် ရောင်းဝယ်မှု အထမြောက်လေသည်။

ဟေဒါယာဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ-၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ဤပစ္စည်းကို ပိုက်ဆံတစ်ပြားနှင့်ပေးပါဟုတစ်ဦးက ပြောရာ၊ အခြားတစ်ဦးက ကျွန်ုပ်ပေးမည်ဟုပြောလျှင် အရောင်းအဝယ်မဖြစ်သေးပေ၊ သို့သော် ဝယ်သူက ပြီးနောက် ဆက်၍ ကျွန်ုပ် ယူလိုက်ပြီဟုပြောလျှင် အရောင်းအဝယ် ဖြစ်သွားလေ၏။

အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၄။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးက ဤပစ္စည်းကို ပိုက်ဆံတစ်ပြားနှင့်ကျွန်ုပ် ယူမည်ဟုပြောရာ၊ ပိုင်ရှင်က ယူပါဟုပြောလျှင် ရောင်းဝယ်မှု အထမြောက်သွားသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၁၂။

၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးကတန်ဘိုးအဖြစ်ငွေအချို့ပိုင်ရှင်၏လက်သို့ ပေး၍ ထိုပစ္စည်းကိုယူလိုက်သည်၊ ပိုင်ရှင်က ကျေနပ်စွာ ငွေကိုယူသည်၊ မည်မျှငွေ ရမှဟု မပြော၊ ဝယ်သူက ကျွန်ုပ် ဤမျှနှင့် ဝယ်ပါသည်ဟု မပြောကြသော်လည်း ရောင်းပြီး ဖြစ်သွား၍ အရောင်းအဝယ် ပိုင်သွားလေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၁၄။

၆။ မတ်စ်အလဟ် ပြဿနာ။ မာလကာသီးရောင်းသူ လာသဖြင့် တောင်းထဲမှ ကြီးသောမာလကာသီး ၄-လုံးကိုယူလိုက်ပြီး ပိုက်ဆံတစ်ပြား ရောင်းသူလက်သို့ပေးလိုက်ရာ ရောင်းသူက မည်သို့မျှမပြောဘဲ ကျေနပ်စွာယူလိုက်လျှင် နှစ်ဦးနှစ်ဝ မည်သို့မျှမပြောကြသော်လည်း အရောင်းအဝယ် ပိုင်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၁၄။

၇။ မတ်စ်အလယ်ပြဿနာ။ တစ်ဦးတစ်ယောက်ကပုလဲပုတီးကုန်းကို ၁၀-ပြား နှင့် ရောင်းမည်ဟု ပြောရာ၊ ဝယ်သူက ပုတီးကုန်းမှ ပုလဲ၅-လုံးကို ယူမည်၊ သို့မဟုတ် တစ်ဝက်ကို ယူမည်ဟုပြောလျှင် ရောင်းသူ သဘောမတူသေးပါက ရောင်းဝယ်မှု အထ မမြောက်သေးပေ။

အဘယ်ကြောင့်ဆိုသော် ရောင်းသူက ပုလဲတစ်ကုန်းလုံး၏ ဈေးကို ဆိုနေသည်၊ ရောင်းသူက သဘောမတူသေးပါက ဝယ်သူသည် အချို့အဝက်ကို ယူပိုင်ခွင့် မရှိပေ၊ အကယ်၍ ယူလိုပါက ပုလဲတစ်ကုန်းလုံးကိုယူရမည်။ ဟုတ်ပါ၏၊အကယ်၍ ရောင်းသူက ပုလဲကုန်းမှ ပုလဲတစ်လုံးလျှင်ပိုက်ဆံတစ်ပြားဟုပြော၍ ဝယ်သူကပုလဲကုန်းမှ ပုလဲ၅-လုံးကို ဝယ်ပါသည်ဟုဆိုလျှင် ပုလဲ၅-လုံးသည် ရောင်းပြီးဖြစ်သွားလေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၆။

၈။ မတ်စ်အလယ်ပြဿနာ။ တစ်ဦးထံတွင်နားတောင်းတစ်မျိုး၊နားဆွဲ ဘယက် တံဆာတစ်မျိုး၊ နားဆွဲ စသည့်(၄)မျိုးရှိသည်၊ ထိုသူကဤ(၄)မျိုးကို တမတ်နှင့်ရောင်း မည်ဟုပြောရာ၊ရင်းသဘောမတူဘဲ ဝယ်သူက အချို့ကိုယူ၍ အချို့ကိုမယူဘဲ မထားပိုင် ချေ၊ ရောင်းသူကအားလုံးကိုရောင်းလိုနေ၍ဖြစ်သည်။ ဟုတ်ပါ၏၊ အကယ်၍ ပစ္စည်း တစ်ခုတစ်ခု၏ ဈေးနှုန်းကို သီးခြားပြောလျှင် ထို(၄)မျိုးအနက် မိမိလိုအပ်သောပစ္စည်း တစ်ခုကိုယူနိုင်ပေသည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၉။

၉။ မတ်စ်အလယ်ပြဿနာ။ ရောင်းဝယ်ရာ၌ အရေးကြီးသော အချက်မှာ ဝယ်ယူမည့်ပစ္စည်းကို သေချာကျနစွာ စစ်ဆေးကြည့်ရှုရမည်၊ ငြင်းခုံ ရှုပ်ထွေးမှု မဖြစ် စေရန် အစစအရာရာ ရှင်းလင်းသေချာအောင် ပြုရမည်၊ ဤသို့ပင် ဈေးနှုန်းကိုလည်း ရှင်းလင်း သေချာအောင် ပြောကြရမည်၊ နှစ်ဘက်စလုံးဘက်မှ တစ်ခုခု မသေမချာဖြစ်ခဲ့ လျှင်ရောင်းဝယ်မှုမပိုင်ပေ။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၉။

၁၀။ မတ်စ်အလယ်ပြဿနာ။ တစ်ဦးက ပြား၊ ၎င်း တစ်ကျပ်ဖြင့် ပစ္စည်းကို ဝယ်ယူသည်၊ ရောင်းသူက ငွေအလျှင်ပေး၍ ပစ္စည်းယူရမည်၊ ဝယ်သူကလည်းပစ္စည်း အလျှင်ပေးရမည်ဟု ဆိုနေကြလျှင် ပထမဝယ်ယူသူက ငွေအလျှင် ပေးရမည်၊ ငွေပေး ပြီးမှ ပစ္စည်းကိုယူရမည်၊ ရောင်းသူကငွေမပေးသဖြင့် ပစ္စည်းမပေးဘဲနေနိုင်သည်။

အကယ်၍ နှစ်ဘက်စလုံးမှ ငွေချည်း သော်လည်းကောင်း၊ ပစ္စည်းချည်းသော် လည်းကောင်း ဖြစ်နေလျှင် ဥပမာ - ကျပ်ပြားကို အနုတ်လဲသည်၊ အထည်ကိုအထည်နှင့် လဲသည်ဆိုပါက အလျှင်ပေးရန်အငြင်းဖြစ်သော် နှစ်ဦးစလုံးသည် ပြိုင်တူ ပစ္စည်းအပေါ် လက်ထား၍ ပေးယူကြရမည်။ ကန်ဇုဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ-၂၃၀။

# တန်ဘိုးသိထားရမည့် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်က လက်ဆုတ်၍ ကျွန်ုပ်လက်၌ ရှိသော အရာနှင့် မည်သည့်ပစ္စည်းကို ရောင်းပါသည်ဟု ဆိုသည်၊ လက်၌ အဘယ်အရာ ရှိသည်ကိုမသိရ၊ ကျပ်ပြားလော၊ ပိုက်ဆံလော၊ ရွှေဒင်္ဂါးလော၊ နှစ်ခုလော-တစ်ခုလော မသိရမှု ဤသို့သော ရောင်းဝယ်မှု မပိုင်ပေ။ ရှာမိကျမ်း အတွဲ-၄၊ စာမျက်နှာ-၃၀။

၂။ မတ်စ်အလဟ်ပြဿနာ။ မြို့ရွာဒေသတစ်ခုတွင် ပိုက်ဆံနှစ်မျိုး သုံးသည်၊ ထိုသို့သော ဒေသ၌ ဝယ်ယူသောအခါ မည်သည့်အမျိုးအစား ပိုက်ဆံနှင့်ဟု ထုတ်ဖော်ပြောဆိုရမည်၊ အကယ်၍တစ်ဦးတစ်ယောက်က မဖော်ထုတ်ဘဲ ရောင်းသူက ဤပစ္စည်းကို ပိုက်ဆံတစ်ပြားနှင့်ရောင်းသည်၊ ဝယ်သူက ကျွန်ုပ်ဝယ်ပါသည်ဟုဆိုလျှင်၊ ထိုအခါ ထိုဒေသ၌ အသုံးများသောပိုက်ဆံကို ပေးရမည်၊ သို့သော် ပိုက်ဆံနှစ်မျိုးစလုံး အညီအမျှ အသုံးတူနေလျှင် ရောင်းဝယ်မှုမပိုင်၊ ပျက်သွားပေသည်။

ဒွရ်ရေ မုခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၃၆။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးထံတွင် ပိုက်ဆံ အကြွေရှိသည်၊ ထိုသူက လက်ဆုတ်ဖွင့်၍ပြသည်၊ ဤမျှနှင့်ဤပစ္စည်းကိုရောင်းပါဟုဆိုရာ၊ ရောင်းသူက ပိုက်ဆံကို မြင်၍ ရောင်းလိုက်သည်၊ မည်မျှပိုက်ဆံဖြစ်သည်ကို မသိသော်လည်း ရောင်းဝယ်မှု ပိုင်နေလေသည်၊ ဤသို့ပင် ပိုက်ဆံများကို ရှေ့တွင်ပုံထား၍ ဝယ်လျှင် အထက်ပါအတိုင်းပင် ပိုင်လေသည်၊ ရောင်းသူက ပိုက်ဆံကိုမြင်ပြီး မည်မျှဖြစ်သည်ကို မသိမူလည်း ပိုင်၏။

အချုပ်မှာ ရောင်းသူက ပိုက်ဆံများကိုမြင်၍ မည်မျှဖြစ်ကြောင်းမသိသော်လည်း ရောင်းလိုကရောင်းလိုက်လျှင် ပိုင်၏၊ အကယ်၍ ရောင်းသူက မမြင်ရလျှင် မည်မျှခန့်နှင့် ဖြစ်သည်ကို ပြောပြရမည်၊ ပမာဆိုသော်.... ပြား ၆၀-နှင့် ဤပစ္စည်းကိုဝယ်ယူမည်ဟု ပြောရမည်၊ မမြင်ရသောအဖြစ်၌ ဈေးနှုန်းကို အတိအကျ မပြောလျှင် ရောင်းဝယ်မှု မပိုင်ပေ။

ရှာမိကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၀။

ဂျောင်ဟရုတ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ ၁၉၀။

၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်ကပြောသည်၊ သင်ဤပစ္စည်းကို ယူပါ၊ ဈေးပြောနေရန်မလို၊ ပေါက်ဈေးအတိုင်း သင့်ထံမှယူမည်၊ ကျွန်ုပ်သင့်ထံမှပို၍ ယူမည်မဟုတ်ပါ၊ သို့မဟုတ် ဤသို့ ပြောသည်၊ သင် ဤပစ္စည်းကို ယူသာယူသွားပါ ကျွန်ုပ်အိမ်မှာဈေးမေးပြီးမှပြောမည်၊ သို့မဟုတ် လူတစ်ယောက် ဤပစ္စည်းမျိုးဝယ်လာသည်၊ ၎င်းကိုမေးပြီး ထိုဈေးအတိုင်းပေးပါ၊ သို့မဟုတ် သင်သဘောအတိုင်း ပေးချင်သလောက်ပေးပါ၊ ကျွန်ုပ်မငြင်းပါ၊ လက်ခံပါမည်၊ သို့မဟုတ် ဈေးမှာမေးကြည့်ပါ၊ ပေါက်ဈေးအတိုင်းပေးပါ၊ သို့မဟုတ် မည်သူ့ကိုပြကြည့်ပါ၊ သူပြောတဲ့ဈေးပေးပါ၊ ဤအဖြစ်အားလုံးသည် 'ဗိုင်အ်ဖွာစစ်ဒ်' ဖြစ်၍သည် မပိုင်။

သို့သော် အကယ်၍ ထိုနေရာ၌ပင် စျေးအတည် ဖြစ်သွားလျှင် အစားအသီးဖြစ်နေသော ကီစ္စများ ပျက်သွားပါက ရောင်းဝယ်မှုပိုင်သည်၊ အကယ်၍နေရာပြောင်းပြီးမှ စျေးအတည် ဖြစ်သော် ပထမ ကန့်သတ်မှု ပျက်သည်၊ အသစ်တဖန် ရောင်းဝယ်မှု ပြုကြရမည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၈၈)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ ကုန်စုံဆိုင်တစ်ဆိုင် သတ်မှတ်ထားကာ လိုအပ်သောပစ္စည်းများကိုမှာယူသည်၊ ယနေ့ကွမ်းသီးတစ်ပိဿာယူ၍ နောက်နေ့တွင် နှစ်ပိဿာယူသည်၊ တစ်ဖန် နောက်ရက်တွင် ရှားသီးယူ၍၊ နောက်ရက်တွင် အုန်းဆီ အစိတ်သားယူပြန်သည်၊ စျေးနှုန်းကိုကား မမေး၊ စာရင်းရှင်းသောအခါ ကျသင့်ငွေကိုပေးမည်ဟုဆိုသည်၊ ဤသို့ယူငေ်ခြင်းများ ပိုင်လေသည်။

ဤသို့ပင် ဆေးဆရာထံမှ ဆေးယူစားနေသည်၊ အဖိုးငွေကိုမမေး၊ ကျန်းမာလာသောအခါကျမှ ကျသင့်ငွေကို ရှင်းပေးမည်ဟုဆိုလျှင် ပိုင်လေသည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၁၆)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦး၏လက်တွင် ပိုက်ဆံအကြွေ သော်လည်းကောင်း၊ ကျပ်ပြားသော်လည်းကောင်းပါသည်၊ ၎င်းက ဤကျပ်ပြားနှင့် ဤပစ္စည်းကိုဝယ်ပါသည်ဟုပြော၍ ၎င်းကျပ်ပြားပင်ပေးသည်ဖြစ်စေ၊ အခြားကျပ်ပြား ပေးသည်ဖြစ်စေ ပိုင်လေသည်၊ သို့သော် အခြားပေးသောငွေသည် အသော ဒင်္ဂါးမဖြစ်စေရ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၃၀)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူက တစ်ကျပ်ဖိုးပစ္စည်းဝယ်ရာ တစ်ကျပ်ပေးသည်ဖြစ်စေ၊ ငါးမူးစေ့ နှစ်စေ့ ပေးသည်ဖြစ်စေ၊ မတ်စေ့ လေးစေ့ ပေးသည်ဖြစ်စေ၊ ဆယ်ပြားစေ့ ဆယ်စေ့ပေးသည်ဖြစ်စေ၊ ရောင်းသူသည် ကျပ်ပြားရမှ ယူ၍ ပြောဆိုပိုင်ခွင့် မရှိပေ၊ ဟုတ်ပါ၏၊ အကယ်၍ပြားစေ့ ချည့်တစ်ကျပ်ဖိုးပေးလျှင် ရောင်းသူက ငြင်းပယ်နိုင်ခွင့်ရှိသည်၊ ပြားစေ့များကို မယူဟုဆိုက ဝယ်သူသည် ကျပ်ပြားပေးရမည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၅)

၈။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကကလောင်သေတ္တာ၊ ၎င်းရိုးရိုးသေတ္တာကိုရောင်းရာ၊ ထိုသေတ္တာ၏သော့လည်း ရောင်းပြီးဖြစ်သွားသည်၊ သော့အတွက်ငွေအပိုမယူရ၊ သော့ကို မိမိထံ ယူမထားထိုက်ပေ။

(ဂျောင်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၁၉၃)

# ကုန်ပစ္စည်းကို သိထားရမည့် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ ကောက်ပဲသီးနှံဆန်စပါးစသည်တို့ကိုအချိန်နှင့်ချိန်သော်လည်းကောင်း၊ မှန်းချေနှင့်ခွဲသော်လည်းကောင်း၊ ဝယ်ယူပိုင်သည်။ ဂျုံပိဿာ ၂၀ ကို တစ်ကျပ်နှင့် ကျွန်ုပ်ဝယ်သည်ဟုပြော၍ ဝယ်သည်ဖြစ်စေ၊ ဂျုံအပုံလိုက်ကို တစ်ကျပ်နှင့် ဝယ်သည်ဖြစ်စေ ပိုင်၏။ အပုံမှရသမျှသောဂျုံများသည် ဝယ်သူပိုင်ဖြစ်သွားလေသည်။

(ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၂၈)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ သရက်သီး၊ မာလကာသီး၊ လိမ္မော်သီးစသည်တို့ကို အလုံးအရည်နှင့်ဖြစ်စေ၊ အပုံလိုက်ဖြစ်စေ ဝယ်လျှင်ပိုင်သည်၊ အကယ်၍ တောင်းတစ်တောင်းတွင်ရှိ သရက်သီးအားလုံးကို ၁၀-ပြားနှင့် ဝယ်လိုက်သည်၊ မည်မျှရှိသည်ကို မသိသော်လည်း ပိုင်သည်၊ နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ သရက်သီးအားလုံးသည် ဝယ်သူပိုင်ဖြစ်သွားလေသည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ ဆီးသီး ရောင်းရန် လာသောအခါ ဝယ်မည့်သူက ခဲတစ်ခဲကိုကောက်၍ ဤခဲအချိန်နှင့်အညီကို ပိုက်ဆံတစ်ပြား ပေးမည်ဟု ပြောရာ ရောင်းသူက ထိုခဲဖြင့်ချိန်တွယ်ပေးလျှင် ၎င်းခဲမှာမည်မျှအချိန်ရှိသည်ကို နှစ်ဦးစလုံး မသိကြသော်လည်း ပိုင်၏။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇)

(ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၉၀)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ သရက်သီး၊ မာလကာသီး၊ လိမ္မော်သီး စသည့်တို့ကို တစ်တောင်းတစ်ကျပ်နှင့် အလုံး (၄၀၀) ရှိရမည်ဟုပြော၍ နှစ်ဦးနှစ်ဘက်သဘောတူကာ ဝယ်ယူသည်၊ တောင်းထဲမှအသီးကို ရေတွက်သောအခါ (၃၀၀) သာလျှင်ရှိမူ ဝယ်သူကမဝယ်ဘဲနေနိုင်သည်၊ အကယ်၍ယူမည်ဆိုလျှင် တစ်ကျပ်မပေးရ၊ သုံးမတ်သာလျှင် ပေးရမည်၊ အချုပ်မှာ သရက်သီးရှိသရွေ့သာ အတွက်ကျပိုက်ဆံပေးရမည်။

အကယ်၍တောင်းထဲတွင်အလုံး (၄၀၀) ထက်ပိုနေလျှင်ထိုပိုနေသည်ကို ဝယ်သူက မပိုင်၊ ရောင်းသူသို့ပြန်ပေးရမည်၊ အကယ်၍ တစ်တောင်းလုံးကိုသိမ်း၍ ဝယ်လိုက်လျှင် ပိုသည်ဖြစ်စေ၊ လျော့သည်ဖြစ်စေ ဝယ်သူသာ ပိုင်လေ၏။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၁)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ ဗာရာနသီနယ်ဖြစ် ပုဝါ၊ ၎င်း အိပ်ရာ ခင်း၊ ဘောင်းဘီ စသည့်အဝတ်အထည်ကိုဝယ်သည်၊ ထိုအထည်များကို အနည်းငယ်ဖြတ်ပစ်ပါက လျော့နည်းပျက်စီးသွားမည်၊ ဝယ်ယူသောအခါ ဤပုဝါသည် သုံးဂိုက်ရှိသည်ဟု သတ်မှတ်လိုက်သည်၊ တိုင်းကြည့်သောအခါ သုံးဂိုက်မပြည့်လျော့နေသည်၊ ထိုသို့လျော့နေသော်လည်း ဈေးနှုန်းလျော့မပေးရ၊ သတ်မှတ်ကြသောဈေးနှုန်းကို ပေးဆောင်ရမည်၊ ဂိုက်လျော့ နေသည့်အတွက် အရောင်းအဝယ် အတည်ဖြစ်ပြီးကြသော်လည်း ဝယ်ယူ

သူမှာ ယူချင်ယူ၊ မယူချင် နေနိုင်သော အခွင့်အရေးရှိလေသည်။ အကယ်၍အစမှာဝယ်သည်ထက် အနည်းငယ်မိုနေလျှင်လည်း ဝယ်သူပိုင် ဖြစ်လေသည်၊ ထိုအတွက် ငွေပို၍ မပေးရချေ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၂)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကပိုးဘောင်းဘီစနှစ်စကို ညတွင်ဝယ်သည်၊ နံနက်လင်းသောအခါ တစ်စက ပိုးဖြစ်၍ တစ်စက ချည်ဖြစ်နေလျှင် ရောင်းဝယ်မှုမပိုင်ဖြစ်သွားလေသည်၊ ပိုးစအတွက်ရော၊ ချည်စအတွက်ပါမပိုင်ပေ၊ ဤသို့ပင်လက်စွပ်နှစ်ကွင်းဝယ်ရာ ကျောက်စိမ်းနှင့်ဟု ပြောဝယ်ရာ၊ တင်ကွင်းမှာကျောက်စိမ်းနှင့်ဖြစ်ပြီး၊ ကျန်တစ်ကွင်းမှာ အခြားအရောင်ဖြစ်နေလျှင် ရောင်းဝယ်မှုမပိုင်ပေ၊ အကယ်၍ထိုပစ္စည်းများအနက် တစ်မျိုးကိုသော်လည်းကောင်း၊နှစ်မျိုးစလုံးကိုသော်လည်းကောင်းဝယ်ယူလိုမူ ထပ်မံ၍အရောင်းအဝယ်ပြုကြမှသာ ပိုင်မည်ဖြစ်လေသည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၃၀)

# အကြွေးဝယ်ခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးတစ်ယောက်ကကုန်ပစ္စည်းကို အကြွေးဝယ်လျှင် ပိုင်လေသည်၊ သို့သော် ဝယ်ယူသောအခါ ရက်ပိုင်းကန့်သတ်ရမည်၊ ဥပမာ ၁၅ ရက်၊ တစ်လ၊ သို့မဟုတ် လေးလပြည့်မှ ငွေချေမည်ဟူ၍ ကန့်သတ်ကြရမည်၊ ဤသို့မကန့်သတ်ဘဲ ကုန်ပစ္စည်းကိုဝယ်၍ ယခု ပိုက်ဆံမပါ နောက်မှပေးမည်ဟု ပြောလျှင် အရောင်းအဝယ်မပိုင်ပေ၊ ဝယ်သောအခါနှင့်ဝယ်ပြီးသောအခါ ကျသင့်ငွေကိုနောက်မှ ပေးမည်ဟုပြောလျှင်ပိုင်သည်၊ သို့သော် ကျသင့်ငွေကို ဝယ်သူက ချက်ချင်းပေးဆောင်ရမည်။

ဟတ်ပါ၏ အကယ်၍ ရောင်းသူကကျေနပ်၍ရက်ပေးလျှင်ကိစ္စမရှိပေ၊ မကျေနပ်ပါက အဖိုးငွေကို ချက်ချင်းပေးဆောင်ရမည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၄၄၊ ၅၀)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကဝယ်သောအခါ ပြောသည်မှာ မည်သည့်ပစ္စည်းကျွန်ုပ်ကိုပေးပါ၊ သူ့ကိုသုံးစွဲသောအခါ ပိုက်ဆံပေးပါမည်သို့မဟုတ် ကျွန်ုပ်အစ်ကို လာသောအခါ ပေးပါမည်၊ သို့မဟုတ် လယ်ရိတ်သိမ်းပြီးလျှင် ပေးပါမည်၊ သို့မဟုတ် ရောင်းသူက ပေးချင်သောအခါမှပေးပါဟူ၍ ပြောဆိုလျှင် အရောင်းအဝယ်မပိုင်ပေ၊ ပေးဆပ်မည့်အချိန်ကို သတ်မှတ်မှသာလျှင်အရောင်းအဝယ်ပိုင်လေသည်။

သို့သော် ပစ္စည်းကိုဝယ်ယူပြီးမှ အထက်ပါစကားများ ပြောဆိုလျှင် အရောင်းအဝယ်ပိုင်သည်၊ ရောင်းသူက ယခုချက်ချင်းကျသင့်ငွေကို တောင်းယူပိုင်ခွင့်ရှိလေသည်၊ သို့သော် လယ်ရိတ်သိမ်းပြီးမှဆိုသောမတ်စ်အလဟ်တွင် ၎င်းသူလယ်မရိတ်သေးမီတောင်း ပိုင်ခွင့်မရှိချေ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၁)

၃။ မတ်စ်အလဟ်ပြဿနာ ။ ။ ငွေလက်ငင်းဖြင့် ဂျုံပိဿာ ၂၀ ကို ၁ ကျပ် ရောင်းနေရာ၊ အကြွေးဝယ်သဖြင့် ၁ ကျပ်လျှင် ဂျုံ ၁၅ ပိဿာပေးပါက ပိုင်လေသည်။ သို့သော မဝယ်မီက အကြွေးဝယ်မည်ဟူ၍ သိထားရပေမည်။
(အာလမ်ဂီရီကျမ်း အတွဲ ၃၊ စာမျက်နှာ ၁၃၉)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ အထက်ပါ အမိန့်သည် ဝယ်သူအားအကြွေး လော၊ လက်ငင်းလောဟုမေးမှ ပိုင်လေသည်၊ ဝယ်သူက လက်ငင်းဟုပြောလျှင် ပိဿာ ၂၀ပေး၍၊ အကြွေးဟုပြောလျှင် ၁၅ ပိဿာပေးသည်၊ အကယ်၍ဝယ်သူအားလက်ငင်း ဝယ်လျှင် ၁ ကျပ်ကို ပိဿာ ၂၀၊ အကြွေးဆိုလျှင် ၁၅ ပိဿာ ဟု ပြော၍ ရောင်းလျှင် မပိုင်ပေ။
(အာလမ်ဂီရီကျမ်း အတွဲ ၃၊ စာမျက်နှာ ၁၃၉)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်လဆိုင်းဖြင့် ပစ္စည်းတစ်ခုကိုဝယ်ယူသည် တစ်လပြည့်သွားသောအခါ တောင်းပန်ပြောဆို၍ ၁၅ ရက်နေမှ ဆပ်ပါမည်ဟု ပြောရာ ရောင်းသူ ပစ္စည်းရှင်က သဘောတူလျှင် ဆပ်ချိန် ၁၅ ရက်ချလေသည်၊အကယ်၍ ပစ္စည်း ရှင်က သဘောမတူလျှင် ယခုပင် တောင်းဆိုနိုင်လေသည်။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၁၄၇)
(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၆၀)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ မိမိလက်၌ ငွေရှိပါလျက်နှင့် နက်ဖြန်လာပါ၊ တော်ကြာလာပါ၊ ယခု ငွေမအမ်းရသေးဘူး၊ အမ်းပြီးသောအခါ ပေးပါမည်၊ ဤသို့ ပြောဆိုခြင်းများသည် 'ဟရာမ်' ဖြစ်လေသည်၊ တောင်းရန်လာသောအခါ ချက်ခြင်း ငွေအမ်း၍ပေးရမည်၊ ဟုတ်ပါ၏၊ အကယ်၍ အကြွေးဝယ်ထားလျှင် သတ်မှတ်ထား သောရက်ကျမှ ပေးရပေမည်၊ သို့သော် ရက်သတ်မှတ်ထားသည်မှာ စေ့သွားပြီဖြစ် လျှင် အလီလီအခေါက်ခေါက် လာနေစေရန် မရွှေ့ဆိုင်းရ၊အကယ်၍ အမှန်တကယ်ပင် လက်ထဲ၌ ငွေမရှိကြံဖန်လို့လည်း မလွယ်လျှင် အခွင့်ရှိသည်၊ ငွေရှိသောအခါ မဆိုင်းဘဲ ဆပ်ရမည်။
(မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၀၁)

## ခေယာရ်ရှရ်တွင် မကြိုက်လျှင် ပြန်ပေးမည်ဟူ၍ ဝယ်ယူခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ ၁-ရက်၊ ၂-ရက်၊ ၃-ရက် အတွင်း ကြိုက်လျှင် ယူမည်၊ မကြိုက်လျှင်ပြန်ပေးမည်ဟူ၍ ဝယ်ယူသောအခါ ပြောလျှင်ပိုင်သည်၊ သတ်မှတ် ထားသောရက်အထိ ယူချင်လျှင်ယူ၊ မယူချင်လျှင် ပြန်ပေးနိုင်လေသည်။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၂၃)

၂။ မတ်စ်အလဟ်ပြဿနာ။ ။တစ်ဦးတစ်ယောက်က ၃-ရက်ထိပြန်ပေးနိုင်သော အခွင့်အရေးကို ယူထားပြီးနောက် ၃-ရက်ကျော်သော်လည်း စကားမပြန်ဘဲ နေခဲ့သော် ၎င်းပစ္စည်းကိုယူရမည်၊ ပြန်ပေးပိုင်ခွင့် မရှိချေ၊ ဟုတ်ပါ၏၊ အကယ်၍ ရောင်းသူက သဘောထားကြီးစွာဖြင့် ပြန်လက်ခံလျှင် ပြန်ပေးနိုင်သည်၊ ရောင်းသူ သဘောမတူဘဲ ပြန်ပေးပိုင်ခွင့် မရှိပေ။ (ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ- ၂၃၂)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ ၃-ရက်ထက်ပို၍ ရက်ကန့်သတ်ခြင်း မပိုင်ပေ၊ အကယ်၍ တစ်ဦးတစ်ယောက်က ၄-၅ ရက် သတ်မှတ်လျှင် ၃- ရက်အတွင်း စကားပြန် မပြန်ကို ကြည့်ရမည်၊ ၃-ရက်အတွင်း ပစ္စည်းကို ပြန်ပေးလိုက်လျှင် အရောင်းအဝယ် မဖြစ်ပေ၊ အကယ်၍ ကျွန်ုပ်ယူလိုက်ပြီဟုပြောလျှင် ပိုင်သွားသည်၊ ၃- ရက်ကျော်ပြီး နောက် ယူမယူမသိရသေးလျှင် ဖိုင်အ်ဖွာစစ်ဒ် အရောင်းအဝယ် ပျက်သွားလေသည်။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၂)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ဤသို့ပင် ရောင်းသူက ၃-ရက်အတွင်းရောင်း လိုက ရောင်းမည်၊ မရောင်းလိုက ပြန်ယူမည်ဟူ၍ ပြောဆိုပိုင်လေသည်။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၂)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ ဝယ်ယူသောအခါ ၃- ရက်အတွင်း မကြိုက် လျှင် ပြန်ပေးမည်ဟု ပြော၍ဝယ်ရာ နောက်နေ့တွင် ပြန်မပေးတော့ ယူတော့မည်ဟူ၍ ပြောလာလျှင် ပြန်ပေးပိုင်ခွင့်ပျက်သွားသည်၊ မကြိုက်လျှင် ၃-ရက်အတွင်း ပြန်ပေး ပိုင်ခွင့်မရှိတော့ချေ၊ ဆိုင်တွင်မဟုတ်ဘဲ ရောင်းသူ၏အိမ်သို့ ပြောလာလျှင်လည်း ပြန် မပေးနိုင်တော့ပေ၊ ရောင်းဝယ်မှုကို သဘောတူခြင်း မတူခြင်းမှာ ရောင်းသူ၏ရှေ့၌သာ ပြောပိုင်သည်၊ ၎င်း၏နောက်ကွယ်၌ ရောင်းဝယ်မှုမဖျက်ပိုင်ပေ။

(ကန်ဇွဒ်ဒကာအစ်က်ကျမ်း ၂၃၂).

၆။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦး တစ် ယောက်က ၃- ရက် အတွင်း ကျွန်တော်၏မိခင်က ကြိုက်လျှင်ယူမည်၊ မကြိုက်လျှင် ပြန်ပေးမည်ဟူ၍ ပြောဆိုလျှင် ပိုင်သည်၊ ၃-ရက်အတွင်း ဝယ်သူ ၎င်းမိခင်က ပြန်ပေးနိုင်သည်၊အကယ်၍ဝယ်သူ ၎င်း မိခင်က ပြန်မပေးဘဲ ယူတော့မည်ဟု ပြောလျှင် ပြန်မပေးနိုင်တော့ချေ။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ၂၃၂)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ အထည်အုပ် ၂-၃ အုပ်ကိုယူ၍ ၃-ရက်အတွင်း ကြိုက်သောအုပ်ကို ၁၀- ကျပ်နှင့်ယူမည်ဟု ပြောလျှင်ပိုင်သည်၊ ၃- ရက်အတွင်း ထိုအုပ်များအနက် တစ်အုပ်ကို ယူရမည်၊ အထည်အုပ် ၄ - ၅ အုပ်ကိုယူ၍ ကြိုက်သောအုပ်တစ်အုပ်ကိုယူမည်ဟုဆိုလျှင် 'ဗိုင်အ်ဖွာစစ်အ်' မပိုင်ဖြစ်လေသည်။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၃)

၈။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူက ပစ္စည်းတစ်ခုကို ၃- ရက်အတွင်း မကြိုက်လျှင် ပြန်ပေးမည်ဟု ပြောခါယူခဲ့သည်၊ ထို့နောက် ထိုပစ္စည်းကို မိမိအိမ်၌သုံးစွဲလိုက်သည်၊ ဥပမာ ခြုံထည်ကိုခြုံလိုက်သည်၊ ဝတ်ဆင်ရန်ပစ္စည်းကို ဝတ်လိုက်သည်၊ ခင်းရန်ပစ္စည်းကို ခင်းလိုက်မူ ထိုပစ္စည်းများကိုပြန်လည်မပေးနိုင်တော့ပေ။

(အာလမ်ဂီရီကျမ်း အတွဲ ၃၊ စာမျက်နှာ ၄၇)

၉။ မတ်စ်အလဟ်ပြဿနာ။ ။ ဟုတ်ပါ၏၊ အကယ်၍ သုံးစွဲခြင်းသည် စော်မစော်ကြည့်ရန်သက်သက်ဖြစ်မူ သတ်မှတ်ထားသောရက်တွင် ပြန်ပေးနိုင်သည်၊ ဥပမာ ချုပ်ပြီးသောအထည်၊ ချုံထည်အခင်းတို့ကို စော်မစော် ဝတ်ကြည့်ပြီး ချက်ချင်းပြန်ချွတ်သည်၊ ခြုံထည်ကို အကျမကျခြုံကြည့်သည်၊ အခင်းကို မိမိလိုသည်ခန့် ရှိမရှိခင်းကြည့်ခြင်းများဖြစ်ပါမူ ပြန်ပေးနိုင်လေသည်။

(အာလမ်ဂီရီကျမ်း အတွဲ ၃၊ စာမျက်နှာ-၄၇)

## မျက်မြင်မဟုတ်သောပစ္စည်းကို ဝယ်ယူခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူက ပစ္စည်းတစ်ခုကို မမြင်ရဲတဲဝယ်လိုက်လျှင်ပိုင်လေသည်၊ လက်ဝယ်သို့ရောက်သောအခါ ကြိုက်လျှင်ယူနိုင်သည်၊အပြစ်တစ်စုံတစ်ရာမရှိသော်လည်း မကြိုက်လျှင်မယူဘဲ ပြန်ပေးနိုင်သည်၊ ဝယ်စဉ်ကပြောသောအချက်များနှင့် ကိုက်ညီသော်လည်း ပြန်ပေးပိုင်သည်။

(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၃)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကမိမိပစ္စည်းကိုမကြည့်ဘဲရောင်းလိုက်သည်၊ ထိုရောင်းသူသည် မိမိပစ္စည်းကိုမြင်ပြီးနောက် မရောင်းတော့ဟူ၍ ပြောဆိုပြန်ယူခြင်းမပြုနိုင်ပေ၊ ပစ္စည်းကိုမြင်ရပြီးနောက် ယူမယူ သဘောမှာ ဝယ်သူသာလျှင်ပြုမူနိုင်ပေသည်၊ ရောင်းသူကမပြုနိုင်။ (ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၃)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကဈေးသည်ထံမှစတောဘယ်ရီသီးများကိုကြည့်ရာ တောင်းအပေါ်မှကောင်းနေသဖြင့် တစ်တောင်းလုံးကို ဝယ်လိုက်သည်။ အောက်ပိုင်းမှ မကောင်းသည်ကိုတွေ့ရလျှင် ဝယ်ပြီးနောက် ပြန်ပေးနိုင်သည်၊ အကယ်၍ အသီးအားလုံး ကောင်းနေလျှင် အပေါ်ယံဝင်ကြည့်သည်ဖြစ်စေ၊ အားလုံးကိုကြည့်သည်ဖြစ်စေ ပြန်မပေးနိုင်တော့ပေ။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၉၀)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ မာလကာသီး၊ သလဲသီး၊ လိမ္မော်သီး စသည့် အားလုံးမတူညီသောအရာကိုဝယ်ယူလျှင် အားလုံးမကြည့်ရသေးလျှင် ယူချင်မှယူရမည်၊ အနည်းငယ်ကြည့်ရုံမျှဖြင့် ယူရမည်မဟုတ်ပေ။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၉၀)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ စားသောက်ဖွယ်ပစ္စည်းများကိုကြည့်ရုံဖြင့်မလုံလောက်ပေ၊ မကြိုက်က ပြန်ပေးနိုင်သည်၊ မြည်းကြည့်ရမည်၊ မြည်းကြည့်၍မကြိုက်က ပြန်ပေးနိုင်သည်။

သို့သော် ရောင်းသူမှာ မနစ်နာသည့် စားသောက်ဖွယ်ကိုသာ မြည်းနိုင်သည်၊ နစ်နာမည့်အရာ ဥပမာ-ဖရဲသီး၊ သခွားသီး စသည်များကိုမူ မြည်းမကြည့်ရပေ။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၄)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ ပစ္စည်းတစ်ခုကိုကြည့်ထားသည်မှာ ကြာပေပြီ ဝယ်ယူသောအခါ မကြည့်ရသေးဘဲ အိမ်သို့ဝယ်ယူလာသည်၊ ကြည့်သောအခါ ပထမက မြင်ထားသည့်အတိုင်းပင်ရှိနေမူဝယ်သူသည်ကြည့်ပြီးနောက်ပြန်ပေးပိုင်ခွင့် မရှိတော့ချေ၊ ဟုတ်ပါ၏၊ အကယ်၍ မြင်ထားသည့်အချိန်ကနှင့်မတူဘဲ ကွာခြားနေသည်ကို တွေ့ရပါက ကြည့်ပြီးနောက် ယူချင်မှယူ၊ မယူချင်နေနိုင်သည်။
(အာလမ်ဂိရီကျမ်း အတွဲ ၃၊ စာမျက်နှာ ၅၉)
(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၉၀)

## ကုန်ပစ္စည်း၌ အပြစ်အနာအစာ ပေါ်ထွက်လာခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ ကုန်ပစ္စည်းတစ်ခုကို ရောင်းသောအခါအပြစ်အနာအစာရှိသည်တို့ကိုပြောပြရမည်၊ မပြောပြဘဲဖုံးအုပ်၍ လိမ်လည်ရောင်းခြင်းသည် 'ဟရာမ်' ဖြစ်လေသည်။ (ရှာမီကျမ်း အတွဲ ၄၊စာမျက်နှာ ၃၆)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ ဝယ်ပြီးနောက် ကုန်ပစ္စည်းတွင် အပြစ်အနာအစာတွေ့ရသည်၊ ဥပမာ- ပိတ်အုပ်တွင် ကြွက်ကိုက်ထားသည်များပါသည်၊ ပိုးထည်ကို ပိုးဘောက်ထားသည်၊ ထို့ပြင် အခြားသောအပြစ်များ ရှိနေပါက ဝယ်သူသည်ယူလိုကယူ မယူလိုက ပြန်ပေးနိုင်သည်၊ ယူပါက တန်ဖိုးအပြည့်ပေးဆောင်ရမည်၊ အပြစ်အနာအစာအတွက် တန်ဖိုးလျှော့ပေးပိုင်ခွင့်မရှိ၊ ဟုတ်ပါ၏၊ အကယ်၍ တန်ဖိုးလျှော့ ပေးသည်ကို ရောင်းသူက သဘောတူလျှင် လျှော့ပေးနိုင်သည်။
(ကန်ဇွဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ ၂၃၅)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူက အထည်အုပ်တစ်အုပ်ဝယ်လာသည်၊ ကလေးတစ်ယောက်က ထိုအထည်အုပ်၏အဖျားကို ဆုတ်ပစ်လိုက်သည်၊ သို့မဟုတ် ကပ်ကျေးဖြင့်ကိုက်လိုက်သည်၊ ထို့နောက်မှ အတွင်းပိုင်းကိုကြည့်ရာ ကြွက်ကိုက်ရာများ ပါရှိသည်ကိုတွေ့ရသော် ရောင်းသူအား ပြန်ပေးပိုင်ခွင့်မရှိချေ၊အဘယ့်ကြောင့်ဆိုသော် အပြစ်တစ်ခုသည် မိမိအိမ်ရောက်မှဖြစ်လာသည်၊ ရောင်းသူထံမှပါလာသောအပြစ်အတွက် စျေးနှုန်းကို သိသောသူများကိုပြ၍ ၎င်းတို့က ဆုံးဖြတ်သည့်အတိုင်း တန်ဖိုးကိုလျှော့၍ ပေးနိုင်သည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၁၀၉)

၄။ မတ်စ်အလဟ်ပြဿနာ။ ဤသို့ပင် အကယ်၍ အထည်ကိုညှပ်ပြီးမှ အပြစ်အနာအစာကို သိရလျှင် ပြန်ပေးပိုင်ခွင့်မရှိပေ၊ သို့သော် အနာအစာအတွက် တန်ဖိုးကို လျှော့၍ပေးနိုင်သည်၊ အကယ်၍ရောင်းသူကစျေးမလျှော့နိုင်၊ ညှပ်ပြီးအထည်ပြန်ပေးပါ ငွေပြန်ယူဟုတောင်းလျှင် ဝယ်သူသည် မငြင်းဆံနိုင်၊ ပြန်ပေးရမည်၊ ညှပ်ပြီးနောက် ချုပ်ပြီးသောအခါမှ အပြစ်ကိုသိရလျှင် အပြစ်အတွက် တန်ဖိုးငွေလျှော့၍ ပေးရမည်၊ အထည်ကိုချုပ်ပြီးသောအဖြစ်၌ ရောင်းသူသည် မိမိအထည်ကို ပြန်မယူနိုင်ပေ။

အကယ်၍ ဝယ်သူက ထိုအထည်ကို အခြားသူ တစ်ဦးအား ရောင်းလိုက်သည် သို့မဟုတ် မိမိ၏အရွယ်မရောက်သေးသောကလေးကို ဝတ်ပေးရန်ဆန္ဒဖြင့် ဖြတ်တောက်ပစ်လိုက်ပြီး ထိုကလေးကိုပေးရန် 'နီယတ်' ဆန္ဒထားလိုက်လျှင် ထိုအခါမှ အထည်တွင် အပြစ်အနာအစာ တွေ့ရှိရမူ တန်ဖိုးလျှော့၍ မပေးနိုင်တော့ပေ၊ အကယ်၍ အရွယ်ရောက်ပြီးသောကလေးကို ဝတ်ပေးရန် 'နီယတ်' ဖြင့် ကိုက်ဖြတ်ခဲ့မူ အပြစ်ပါလာပါက တန်ဖိုးလျှော့၍ ပေးနိုင်သည်။ (ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၆)
(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၁၁၀)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူကဥတစ်လုံးလျှင်ပိုက်ဆံတစ်ပြားနှုန်းဖြင့် ဥအချို့ကိုဝယ်သည်၊ ဥခွဲသောအခါ အားလုံးပုတ်နေလျှင် ငွေပြန်တောင်းနိုင်သည်၊ ၎င်းသူက လုံးဝမဝယ်ဟူ၍ ယူဆရမည်၊ အကယ်၍ အချို့အဝက်မှာ ပုတ်ပြီး၊ အချို့ကောင်းနေလျှင် ပုတ်သည့်အတွက်သာပြန်တောင်းနိုင်သည်၊အကယ်၍ တစ်ဦးသောသူက ဥ-၂၀၊ ၂၅ ကိုတစ်လုံးတည်းစျေးသတ်မှတ်၍ ဤဥအားလုံးကို ၂၅-ပြားနှင့် ဝယ်သည်ဟုဆို၍ယူလျှင် အပုတ်မည်မျှပါသည်ကိုကြည့်ရမည်၊ အကယ်၍ ဥ၁၀၀လျှင် ၅-လုံး ၆-လုံးခန့် အပုတ်ထွက်လာပါက ကိစ္စမရှိပေ၊ အပျက်အစီးများမှသာလျှင် ပျက်သည့်အတွက် အဖိုးငွေ ပြန်တောင်းနိုင်လေသည်။

(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၃၆)

၆။ မတ်စ်အလဟ်ပြဿနာ။ သခွါးသီး၊ ပြောင်တ်သခွါး၊ ဖရဲသီး၊ ကျောက်ဖရုံသီး၊ ဘာဒန်သီး၊ သစ်ကြားသီး စသည်များကိုဝယ်သည်၊ ခွဲသောအခါ အတွင်းမှပျက်စီးနေသည်ကို တွေ့ရမူ သုံးနိုင်သေးသလော၊ လုံး၀ လွှင့်ပစ်ရမည်ဆိုသည်ကို ကြည့်ရမည်၊ အကယ်၍ လုံး၀ မသုံးနိုင် ပျက်စီးနေလျှင် ကျွရောင်း၀ယ်မှုသည် မပိုင်ပေ၊ ထို့ကြောင့် မိမိငွေအားလုံးကို ပြန်ယူရမည်၊ ၎င်းအကယ်၍ တစ်နည်းနည်းဖြင့် ၎င်းပစ္စည်းကို သုံးနိုင်လျှင် ထိုသို့ ပျက်စီးသောပစ္စည်း ဈေး၌ မည်မျှပေါက်ဈေးရှိလျှင် ထိုဈေးအတိုင်း ပေးရမည်၊ တန်ဘိုးအပြည့်အ၀ မပေးရချေ။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၁၇။

၇။ မတ်စ်အလဟ်ပြဿနာ။ ဘာဒန်သီး ၁၀၀-၌ ၄-၅ ခု မကောင်းထွက်လာလျှင် ကိစ္စမရှိပေ၊ အကယ်၍ ပိုမို များစွာ ပျက်စီးမှုများ ပါလာလျှင် ပျက်စီးသည်ခန့် တန်ဘိုးလျော့၍ပေးနိုင်သည်၊ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၁၇။

၈။ မတ်စ်အလဟ်ပြဿနာ။ ဂျုံ ၁၅ ပိဿာ ငွေတစ်ကျပ်နှင့် ၀ယ်ယူသည်၊ သို့မဟုတ် ထောပတ် ၁-ပိဿာ၅၀-သားကို ငွေတစ်ကျပ်နှင့် ၀ယ်ယူသည်၊ ထိုသို့၀ယ်ရာ၌ အချို့မှာ ကောင်းပြီး၊ အချို့ မကောင်းဖြစ်နေလျှင် ကောင်းသည်ကိုယူပြီး မကောင်းသည်ကို ပြန်ပေးခြင်းမပြုပိုင်၊ သို့သာမက ယူလိုက အားလုံးကိုယူရမည်၊ ပြန်ပေးလိုက အားလုံးကို ပြန်ပေးရမည်၊ အကယ်၍ ရောင်းသူက ကောင်းသည်ကို ယူ၍ မကောင်းသည်ကို ပြန်ပေးရန် သဘောတူလျှင်ပိုင်သည်၊ ရောင်းသူသဘောမတူဘဲ ယူလိုသည်ကိုယူပြီး မယူလိုသည်ကို ပြန်မပေးပိုင်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၄၊ စာမျက်နှာ-၈၂။

၉။ မတ်စ်အလဟ်ပြဿနာ။ အပြစ်ပါလာသောပစ္စည်းကိုပြန်ပေးနိုင်ခြင်းသည် ထိုအပြစ်ပါသော ပစ္စည်းကို မည်သည့်နည်းနှင့်မျှ ယူရန် သဘောမတူမှ ဖြစ်လေသည်၊ အကယ်၍ ထိုအပြစ်ပါသော ပစ္စည်းကို ယူရန် သဘောတူပြီးမူ ထိုပစ္စည်းကို ပြန်လည်ပေးခြင်း မပြုပိုင်၊ သို့သော် ရောင်းသူက သဘောတူစွာ ပြန်ပေးပါဟု ပြောလျှင်သာ ပြန်ပေးနိုင်လေသည်။

ဥပမာ....တစ်ဦးသောသူက ဆိတ်၊ နွား စသည်ကို၀ယ်သည်၊ အိမ်သို့ရောက်လာသောအခါ နာနေကြောင်း သို့မဟုတ် အနာ ဒဏ်ရာ ရရှိကြောင်း တွေ့ရသည်၊ ထိုသို့ အပြစ်ကိုသိပြီးနောက် အပြစ်ပါသည်ကိုဘဲ ယူပါမည်ဟု သဘောတူလိုက်လျှင် ယခု ပြန်ပေးပိုင်ခွင့်မရှိတော့ပေ။

၎င်းအကယ်၍ နှုတ်လျှာဖြင့်သဘောတူကြောင်းကို မပြော၊ သို့သော် သဘောတူသည့် အပြုအမူများကို ပြုသည်၊ ပမာဆိုသော်.... ထိုတိရစ္ဆာန်ကို ဆေး၀ါး ကုသသည်၊ ထိုသို့အဖြစ်၌လည်း ပြန်ပေးပိုင်ခွင့် မရှိတော့ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၄၊ စာမျက်နှာ-၇၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ဆိတ်သားကိုဝယ်သည်၊ ထို့နောက် သိုးသားဖြစ်နေကြောင်းသိရမှု ပြန်ပေးနိုင်သည်။ အာလမ်ဂီရီကျမ်းအတွဲ ၄၊ စာမျက်နှာ-၇၄။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ပုလဲပုတီး သို့မဟုတ် ဘယက်တန်ဆာ တစ်ခုခုကိုဝယ်သည်၊ ၎င်းတို့ကို တစ်ချိန်မဟုတ်တစ်ချိန် ဆင်မြန်းလိုက်သည်၊ သို့မဟုတ် ဖိနပ်ကိုဝယ်သည်၊ စီး၍ဟိုဟိုဒီဒီသွားသည်၊ ထိုသို့ သုံးစွဲပြီး အပြစ်တစ်ခုခုအတွက်ကြောင့် ၎င်းပစ္စည်းများကို ပြန်ပေးပိုင်ခွင့်မရှိတော့ပေ၊ ဟုတ်ပါ၏၊ အကယ်၍ ခြေထောက်၌ တော်မတော်သိရန်အတွက် စီးကြည့်သည်၊ ခြေကို နာမနာသိရန် လျှောက်ကြည့်သည်၊ ဤသို့ စမ်းသပ်သောသဘောနှင့် စီးကြည့်လျှင် ကိစ္စမရှိပေ၊ မကြိုက်က ပြန်ပေးနိုင်သည်။

အကယ်၍ မည်သူသည် ခုတင် သို့မဟုတ် ခုံရှည်ကို ဝယ်သည်၊ လိုအပ်မှုတစ်ခုခုကြောင့် ခင်း၍ထိုင်သည်၊ ခုံရှည်ပေါ်တွင်နမာဇ်ဖတ်သည်၊ တစ်ခုခုအတွက်သုံးစွဲသည်၊ သို့ရှိလျှင် ယခု ပြန်၍ မပေးနိုင်တော့ပေ၊ ဤသို့ပင် အခုးလုံးသော အရာပစ္စည်းများကို မှတ်ယူကုန်၊ ပစ္စည်းများကို အသုံးချပြီးနောက် ထိုပစ္စည်းကို ပြန်၍ မပေးနိုင်တော့ပေ။

မှတ်ချက်။ ဆိုလိုသည်မှာ.... ဝယ်ယူသော ပစ္စည်းကို သုံးစွဲ ပြီး နောက် ဈေးတန်ဘိုးတွင်လျော့နည်းသွားပါက အပြစ်တစ်စုံတစ်ရာပါလာသည့်အတွက် ပြန်ပေးပိုင်ခွင့်မရှိ၊ သို့သော် အပြစ်အနာအဆာအလျောက် တန်ဘိုးလျော့သွားသည့်အတွက်သာလျှင် ပြန်ဘောင်းပိုင်ခွင့်ရှိသည်၊ အကယ်၍ သုံးစွဲပြီးအပြစ်ပါသည့်အတွက် ပြန်ပေးလိုရာ ဈေးတန်ဘိုး၌ လျော့မသွားပါက ပြန်ပေးနိုင်လေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၁၄။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ဝယ်ယူသောအခါ ကောင်းစွာကြည့်ရှု၍ယူပါ၊ အပြစ်တစ်စုံတစ်ရာပါခဲ့သော် ကျွန်ုပ်နှင့်မဆိုင်ဟု ရောင်းသူကပြော၍ ရောင်းလျှင် ဝယ်သူသည် ဝယ်ပြီးနောက် အပြစ်အနာအဆာ မည်မျှပါရှိစေကာမူ ပြန်ပေးပိုင်ခွင့်မရှိ၊ ဤသို့ ပွင့်ပွင့်လင်းလင်းပြော၍ရောင်းပိုင်ခွင့်ရှိသည်၊ ဤသို့ပြောဆိုပြီးနောက် ရောင်းသူကပစ္စည်းတွင် မည်သို့အပြစ်များရှိသည်ကို ဖေါ်ပြရန်မလိုပေ။

ကန်ဇုဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ- ၂၃၀။

# ဗိုင်အ်ဗာတွင်လ် နှင့် ဖွာစစ်ဒ် စသည် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကြင်အရောင်းအဝယ်သည် 'ရှရီအတ်' တရားတော်မြတ်၌ လုံးဝ အတည်မပြု၊ ၎င်းအလဟဿ ဖြစ်လျှင် ဝယ်သူက လုံးဝမဝယ်၊ ရောင်းသူက မရောင်းဟူ၍မှတ်ယူရမည်၊ ဤသည်ကို 'ဗိုင်အ်ဗာတွင်လ်' ဟု ခေါ်လေသည်။

ထိုပစ္စည်း၏ အမိန့် ဤသို့ရှိသည်၊ ဝယ်သူသည် ထိုပစ္စည်းကို ပိုင်ဆိုင်ခြင်း မရှိ၊ ထိုပစ္စည်းသည် ရောင်းသူသာ ပိုင်ဆိုင်လေသည်၊ ထို့ကြောင့် ဝယ်သူသည် ထိုပစ္စည်းကို မစားပိုင်၊ တစ်ဦးတစ်ယောက်ကိုလည်းမပေးပိုင်၊ မိမိအကျိုးအတွက် ဘာတစ်ခုမျှလည်း သုံးစွဲခြင်းမပြုပိုင်ပေ။

အကြင်အရောင်းအဝယ်တစ်ခုသည် အထမြောက်သွားသည်၊ သို့သော် ချို့ယွင်းမှု တစ်စုံတစ်ရာရှိလျှင် ထိုရောင်းဝယ်မှုကို 'ဗိုင်အ်ဖွာစစ်ဒ်'ဟု ခေါ်လေသည်၊ ထိုပစ္စည်း၏ အမိန့်ဤသို့ရှိသည်၊ မည်သည့်အခါ ထိုပစ္စည်းသည် ဝယ်ယူသူ၏လက်သို့ မရောက်သေး လျှင် ထိုပစ္စည်းသည် ဝယ်သူပိုင် မဖြစ်သေးပေ၊ လက်ဝယ် ယူလိုက်လျှင် ပိုင်ဆိုင်သွား လေသည်။

သို့သော် သန့်ပြန့်သော 'ဟလာလ်' မဖြစ်သေးပေ၊ ထို့ကြောင့် ထိုပစ္စည်းကို စားသောက်ခြင်း၊ သုံးစွဲခြင်း မပိုင်ပေ၊ သည်မျှမက ဤရောင်းဝယ်မှုကို ဖျက်ပစ်ရမည်၊ ပစ္စည်းကိုယူမည်ဆိုလျှင် အသစ်တဖန် ရောင်းဝယ်မှုပြုရမည်၊ ရောင်းဝယ်မှုကို မဖျက်ဘဲ အခြားတစ်ဦးအား တဆင့်ရောင်းလိုက်လျှင် 'ဂိုနာဟ်' အပြစ်ဖြစ်သည်၊ သို့သော် တဆင့် ဝယ်သူက ထိုပစ္စည်းကိုစားသုံးပိုင်ခွင့်ရှိသည်၊ အကယ်၍ အမြတ်အစွန်းတင်၍ ရောင်းချ ခဲ့သော် အပိုအမြတ်ငွေကို လှူဒါန်းပစ်ရန်(ဝါဂျစ်ဗ်)ထိုက်သည်၊ ကိုယ်တိုင် အမြတ်အစွန်း ကို သုံးစွဲခြင်းမပြုရ။　ဂျောင်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ ၂၀၃။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၃၈။

၂။ မတ်စ်အလဟ် ပြဿနာ။　မြေ ပိုင် ရှင် များ သည် အင်းအိုင်ရှိ ငါးများကို အပြတ်ရောင်းပစ်လေ့ရှိကြသည်၊ ဤသို့ရောင်းခြင်းသည် (ဗိုင်အ်ဗာတွင်လ်) မပိုင်ပေ၊ အင်းအိုင်ရှိငါးများကိုမဖမ်းသရွေ့ကာလပတ်လုံး ထိုငါးများကို မည်သူမျှမပိုင်ပေ၊ ဖမ်း ဆီးသူသာလျှင် ထိုငါးများကို ပိုင်လေသည်။

ဤအကြောင်း နားလည်ပြီးနောက် သိရမည်မှာ.... မြေပိုင်ရှင်သည် ထိုငါးများကို မပိုင်ဖြစ်ရကားထိုငါးများကိုမည်သို့ရောင်းပိုင်ခွင့်ရှိမည်နည်း-မရှိ။ ဟုတ်ပါ၏၊ အကယ်၍ မြေပိုင်ရှင်က ကိုယ်တိုင် ငါးများကိုဖမ်း၍ ရောင်းချလျှင် ပိုင်သည်၊ အကယ်၍ တစ်ဦး တစ်ယောက်အားဖမ်းခိုင်းလျှင် ဖမ်းသူသာပိုင်ဆိုင်သည်၊ မြေပိုင်ရှင်သည် ထိုငါးနှင့် မည် သို့မျှ မပတ်သက်ပေ၊ ဤသို့ပင် ငါးဖမ်းချင်သောသူများကိုလည်း မဖမ်းနှင့်ဟုတားမြစ် ပိုင်ခွင့်မရှိပေ။

ဤ'မတ်စ်အလဟ်'သည် ထိုအဖြစ်နှင့်သက်ဆိုင်သည်၊ အင်းအိုင်၌ ငါးများသည် အလိုအလျောက်ဖြစ်လာလျှင် သို့တည်းမဟုတ် တစ်နေရာရာကရောက်လာလျှင် မြေပိုင်ရှင် က ထိုငါးများ ပေါက်ရောက်ခြင်း ရောက်လာရန် အတွက် လုပ်ဆောင်ခြင်း မရှိလျှင် ရောက်လာခြင်းကိုလည်း တားမြစ်ခြင်း မပြုမှုသာ ဖြစ်လေသည်၊ (ဤထက် အကျယ် သိလိုက 'အင်မ်ဒါဒွလ်ဖွတာဝါ' စာမျက်နှာ-၁၅၄ တွင် ကြည့်ပါ)။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၄၆။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်၏ မြေကွက်တွင် မြက်ပင်များ အလိုအလျောက် ပေါက်လာသည်၊ ထိုသူက စိုက်ပျိုးခြင်းမဟုတ်၊ ၎င်းရေလောင်း၍ပြုစု ခြင်းလည်းမပြုပါက ထိုမြက်ပင်များသည် မည်သူ့မျှမပိုင်ပေ၊ ရိတ်လိုသူက ရိတ်ယူနိုင်သည်၊ ထိုမြက်များကို အပြတ်ရောင်းပိုင်ခွင့်မရှိ၊ ရိတ်ယူသူများကို တားမြစ်ပိုင်ခွင့်လည်းမရှိပေ။ သို့သော် အကယ်၍ ရေလောင်းကာ ပြုစုသည်၊ ဂရုစိုက် ပျိုးထောင်နေပါက ထိုမြေရှင်ပင် ပိုင်ဆိုင်လေသည်၊ ရောင်းနိုင်သည်၊ မရိတ်သိမ်းရန် လူတို့ကို တားမြစ်ပိုင် ခွင့်လည်းရှိသည်။ ရှာမီကျမ်း အတွဲ၄၊ စာမျက်နှာ-၁၅၆။

၄။ မတ်စ်အလဟ်ပြဿနာ။ တိရစ္ဆာန်၏ ဝမ်းဗိုက်ထဲ ရှိသော ကလေးကို မမွေးမီ ရောင်းခြင်းမပိုင်ပေ၊ အကယ်၍ တိရစ္ဆာန်တစ်ကောင်လုံးကိုရောင်းလျှင် ပိုင်သည်၊ သို့ရာတွင် အကယ်၍ ကျွန်ုပ်သည် ဤဆိတ်မကိုရောင်းမည်၊ ဝမ်းဗိုက်တွင်းရှိ ကလေးကို မရောင်း၊ မွေးသောအခါ ထိုကလေးမှ ကို ပြန်ပေးရမည်ဟု ပြော၍ရောင်းလျှင် ဤရောင်း ဝယ်ခြင်းသည် (ဖိုင်အ်ဖွာစစ်ဒ်) မပိုင်ပေ။

ဂျော်ဟရယ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ ၂၀၄။

၅။ မတ်စ်အလဟ်ပြဿနာ။ တိရစ္ဆာန်၏ ပြည့်နေသော နို့အုံမှနို့ကို မညှစ်မီ အပြတ်ရောင်းခြင်းမပိုင်၊ ညှစ်ယူပြီးမှရောင်းရမည်၊ ဤသို့ပင် သိုးခွန်ဗာ စသည်တို့၏ အမွေးများကို မဖြတ်သေးမီ မရောင်းပိုင်၊ ဖြတ်ပြီးမှ ရောင်းရမည်။

ဂျော်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၄။

၆။ မတ်စ်အလဟ်ပြဿနာ။ အိမ်တွင်း၌ ၎င်းအိမ်မိုးတွင်ရှိနေသော ယောက်၊ ထုတ် စသည်တို့ကိုဖြုတ်မယူမီ ရောင်းခြင်းမပိုင်ပေ။ ကိုဒူရီကျမ်း စာမျက်နှာ-၇၀။

၇။ မတ်စ်အလဟ်ပြဿနာ။ လူသား၏ အမွေးအမြှင်နှင့်အရိုး စသည်များကို ရောင်းပိုင်ခွင့်မရှိ၊ ၎င်းဆိုအရာများကို မိမိကိုယ်တိုင်လည်း သုံးစွဲပိုင်ခွင့်မရှိပေ။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၄၅။

၈။ မတ်စ်အလဟ်ပြဿနာ။ ဝက်မှတစ်ပါးအခြားသောအသေကောင်တိရစ္ဆာန် များ၏ အရိုး၊ အမွေး၊ ဦးချိုများသည် သန့်လေသည်၊ ထိုအရာများကို ကိုယ်တိုင်လည်း သုံးစွဲနိုင်သည်၊ ရောင်းပိုင်ခွင့်လည်းရှိလေသည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၄၅။

၉။ မတ်စ်အလဟ်ပြဿနာ။ သင်က ဆိတ်တစ်ကောင်သို့မဟုတ် ပစ္စည်းတစ်ခုခုကို ၅-ကျပ်ဖြင့် ဝယ်လိုက်သည်၊ ထိုဆိတ်ကိုလက်ဝယ်ယူလိုက်သည်၊ ၎င်းပိုင်ရှင်း၍ အိမ်တွင် ချိန်နှောင်ထားလိုက်သည်၊ ငွေကတော့မချေရသေး၊ အကြောင်းကြောင်းကြောင့် ထိုငွေ ကို မပေးနိုင်ခဲ့ ယခုထိုဆိတ်ကို မယူလိုခဲ့သော် သင်က ဤဆိတ်ကို ၄-ကျပ်နှင့်ပြန်ယူပါ၊ ငွေ၁-ကျပ် ကျွန်ုပ်သင့်အားပေးမည်၊ ဤသို့ ရောင်းခြင်း-ယူခြင်းမပိုင်၊ ပစ္စည်းရှင်အား ငွေပြေမပေးသမျှကာလပတ်လုံး လျော့၍ ၎င်းအားပြန်ရောင်းပိုင်ခွင့်မရှိပေ။

ကန့်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၂၄၁။

၁၀။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်ကအဆောက်အအုံကိုတစ်လ ကိုယ်တိုင် နေပြီးမှ အပ်မည်ဟု သတ်မှတ်၍ ရောင်းလျှင်၊ သို့မဟုတ် ကျွန်ုပ်ကို မည်မျှ ငွေချေးရမည်ဟုသတ်မှတ်လျှင်၊ သို့မဟုတ် အထည်ဝယ်ရာတွင် သင်ဘဲဖြတ်၍ ချုပ်ပေးရမည်ဟု သတ်မှတ်လျှင်၊ သို့မဟုတ် ကျွန်ုပ်အိမ်သို့ ပို့ပေးရမည်ဟုသတ်မှတ်လျှင် ဤသို့ပင် 'ရှရီအတ်' တရားတော်မြတ်နှင့်မညီသော သတ်မှတ်မှုများပြုလျှင် (ဗိုင်အ်ဖွာစစ်ဒ်) ရောင်းဝယ်မှုမပိုင်ပေ။ ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ၊ ၂၄၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ နို့လေးပိဿာ ထွက်သည်ဟု သတ်မှတ်၍ နွား တစ်ကောင်ဝယ်လျှင် (ဗိုင်အ်ဖွာစစ်ဒ်) မပိုင်ဖြစ်လေသည်၊ နွားမသည် နို့များများထွက်သည်ဟုပြော၍ရောင်းဝယ်လျှင်ကား ပိုင်၏။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၈၂။

၁၂။ မတ်စ်အလဟ်ပြဿနာ။ မြေ, ငှင်း ကြွေဖြင့် ပြုလုပ်ထားသော သက်ရှိ အရုပ်များ ကလေးများကစားရန် ဝယ်လျှင်၊ (ဗိုင်အ်ဗာတွင်လ်) မပိုင်ပေ၊ 'ရှရီအတ်' တရားတော်မြတ်တွင် ထိုအရုပ်များသည် တန်ဘိုးမရှိပေ၊ ထို့ကြောင့် ထိုအရုပ်အတွက် ငွေပေးရန်မလို၊ အကယ်၍တစ်ဦးတစ်ယောက်က ခွဲချိုးပစ်လိုက်လျှင် ခွဲသူကလျော်ကြေး ပေးရန် မလိုပေ။ အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၆၀။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၂၂။

၁၃။ မတ်စ်အလဟ်ပြဿနာ။ ကောက်ပဲသီးနှံ၊ ဆီ၊ ထောပတ် စသည်တို့ကို ငွေတစ်ကျပ်၈-ပိဿာ၊ သို့မဟုတ် ပေါက်ဈေးသတ်မှတ်၍ဝယ်လျှင်၊ ရောင်းဝယ်ရာ၌ သင် ငှင်းသင့်ကိုယ်စား ရှေ့တွင် ချိန်တွယ်၍ ပေးသည်၊ သို့မဟုတ် သင် ငှင်း သင့်ကိုယ်စား ရှေ့တွင်မချိန် ရောင်းသူက ချိန်ပြီးပို့လိုက်မည်ပြောလျှင်၊ သို့မဟုတ် ပထမကတည်းက ချိန်ထားသည်ကိုယူလိုက်သည်၊ ချိန်တွယ်၍မကြည့်။

ဤသည်တွင် မတ်စ်အလဟ်ပြဿနာ (၃) ရပ် ဖြစ်လာသည်၊ ပထမအချက်မှာ အိမ်သို့ယူလာပြီး ထပ်မံချိန်တွယ်ကြည့်ရန်မလို၊ ထိုပစ္စည်းကို စားသုံးရောင်းပိုင်ခွင့်ရှိသည်၊ ဒုတိယနှင့်တတိယအချက်မှာ- ကိုယ်တိုင်ချိန်တွယ်မကြည့်လျှင် ထိုပစ္စည်းကို စားသုံးရောင်း ပိုင်ခွင့်မရှိပေ၊ အကယ်၍မချိန်ဘဲ တဆင့် ရောင်းချလိုက်လျှင် (ဗိုင်အ်ဖွာစစ်ဒ်) မပိုင်ဖြစ် သည်၊ အကယ်၍ နောက်မှချိန်တွယ်ကြည့်လျှင်လည်း အရောင်းအဝယ်ကား မပိုင်ပေ။
ဒွရ်ရေ့မွခ်တာရ်ကျမ်းနှင့်ရှာမီကျမ်း။

၁၄။ မတ်စ်အလဟ်ပြဿနာ။ မဝယ်ယူမီ ရောင်းသူက သင့်အား ချိန်တွယ်၍ ပြသည်၊ သင်ကဝယ်ယူလိုက်သည်၊ ရောင်းသူက တဖန်ထပ်၍ချိန်မပြမူ၊ ထိုအဖြစ်၌ ဝယ် သူသည် ကိုယ်တိုင်ချိန်ကြည့်ရန် အရေးကြီးသည်၊ မချိန်ဘဲ စားသောက်ရောင်းခြင်း မပိုင် ပေ၊ ရောင်းသူက မဝယ်မီ ချိန်တွယ်ပြသည်မှာ တရားဝင်မဟုတ်၊ ဝယ်ယူပြီးနောက် ချိန် တွယ်ပေးရဦးမည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၂၈။

၁၅။ မတ်စ်အလဟ်ပြဿနာ။ မြေ, ရွာ, အဆောက်အအုံ စသည်မှ အပ အခြားသောပစ္စည်းများကိုဝယ်ယူပြီးနောက်လက်ငှရောက်မယူသေးဘဲရောင်းပစ်ပိုင်ခွင့်မရှိ။
ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၂၄၇။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ဆိတ်တစ်ကောင် သို့မဟုတ် ပစ္စည်း တစ်ခုခုကို ဝယ်ယူသည်၊ ရက်အတန်ကြာလူတစ်ယောက်ကလာ၍ ထိုဆိတ်၊ ၎င်းပစ္စည်းသည် ကျွန်ုပ် ပိုင်ဖြစ်သည်၊ ၎င်းသူကဖမ်းယူ၍ ရောင်းချခြင်းသာဖြစ်သည်ဟုပြောဆိုလျှင် ပိုင်ရှင်သည် မွတ်စလင်မ်တရားသူကြီးထံ သက်သေ၂-ဦး တင်ပြရမည်၊ ထိုသို့ ရုံးတွင် တင်ပြီးနောက် ၎င်းသူပိုင်ဖြစ်ကြောင်း ထင်ရှားသောအခါ ဝယ်သူသည် ၎င်းသူအား ပေးလိုက်ရမည်၊ ဆိတ်၊ ၎င်းပစ္စည်းတန်ဘိုးကို ပိုင်ရှင်ထံမှတောင်းပိုင်ခွင့်မရှိပေ၊ လာရောင်းသူတွေ့လျှင်သာ ၎င်းသူထံမှ မိမိပေးလိုက်သောအဘိုးငွေကို တောင်းယူရမည်၊ ပိုင်ရှင်ထံမှ အဘိုးငွေ လုံးဝ မရနိုင်ပေ။
ရှာမီကျမ်း အတွဲ၄၊ စမျက်နှာ-၂၂၈။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ကြက်၊ ဆိတ်၊ နွား စသည် သေဆုံးလျှင် ထို အသေကောင်များကို ရောင်းဝယ်ခြင်း(ဟရာမ်)မပိုင်ပေ၊ သည့်မျှမက ထိုအသေကောင်ကို အသေစားသူများကိုလည်း ပေးပိုင်ခွင့်မရှိ၊ သို့သော် အကယ်၍ ၎င်းတို့အား လွှင့်ပစ်ရန် ပေးလိုက်သောအခါ ၎င်းတို့ကမပစ်ဘဲ မိမိတို့သဘောနှင့် စားပစ်လိုက်လျှင် ကိစ္စမရှိ၊ ထို အသေကောင်၏ အရေကို ခွါယူ၍ ဆေးဆိုးပြီး အခြောက်လှန်းကာ ကိုယ်တိုင်သုံးစွဲခြင်း၊ ရောင်းခြင်းများ ပိုင်သည်။ (ပထမအခန်းတွင် ကျွန်ုပ်ဤအကြောင်းရေးခဲ့ပေပြီ)။
ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၄၃၊၁၅၇။

၁၈။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူက ပစ္စည်းကို ရွေးချယ်၍ ချိန် တွယ်ကာ အဘိုးသတ်မှတ်လိုက်သည်၊ ရောင်းသူကလည်းသဘောတူ၏၊ ထိုအခါ အခြား တစ်ဦးကဝင်၍ ဈေးပိုပေးကာ ကိုယ်တိုင်ယူခြင်းမပြုရ၊ ဤသို့ပင် ရောင်းသူဝယ်သူနှစ်ဦး ကြားဝင်၍ သင်မယူနှင့်၊ ကျွန်ုပ် ဤထက်ဈေးလျှော့ပေးမည်ဟု မပြောရ။
ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၈၃။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ဈေးသည်မက မာလကာသီး၄-လုံး တစ်ပြားနှင့် သင့်အားရောင်းသည်၊ ထိုအခိုက်တစ်ဦးသောသူကဝင်၍ ၅-လုံးဆစ်ကာဝယ်လျှင် သင်က ဈေးသည်မထံမှ တစ်လုံးထပ်၍တောင်းယူပိုင်ခွင့်မရှိ၊ အဓမ္မယူခြင်းသည် (ဟရာမ်) မတရား ဖြစ်သည်၊ သင်နှင့် သဘောတူထားသောအတိုင်းပင် ယူရမည်။
ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ ၃၂၀။

၂၀။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူကတစ်စုံတစ်ရာရောင်းနေသည်၊ သို့သော် သင့်အားမရောင်းလိုပါက သင်သည် အဓမ္မယူ၍တန်ဘိုးပေးခြင်းမပြုပိုင်၊ ပစ္စည်းသည် ၎င်းသူပိုင်ဖြစ်သဖြင့် ရောင်းလိုမှရောင်းမည်၊ မရောင်းလိုက မရောင်းဘဲနေမည်။

အချို့ရဲသားများသည်အဓမ္မယူကြလေ့ရှိကြသည်၊ ဤသို့ယူခြင်း(ဟရာမ်)မတရားမလုပ်ပိုင် ဖြစ်သည်၊ ရဲသား၏ ဇနီးမယားသည် မိမိယောကျ်ားယူလာသော ပစ္စည်းကို မေးပြီးမှသုံးစွဲရမည်၊ မမေးဘဲမသုံးရ။ ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၃၂၀။

၂၁။ မတ်စ်အလဟ်ပြဿနာ။ အာလူး ၈၀-သား ဝယ်သည်၊ ၃-၄လုံး အဓမ္မယူလိုက်သည် ဤသို့မယူပိုင်ပေ၊ အကယ်၍ ရောင်းသူက မိမိသဘောနှင့် အပိုထည့်ပေးလျှင်ကား ယူပိုင်သည်၊ ဤသို့ပင် ဈေးနှုန်းသတ်မှတ်ပြီးနောက် ပစ္စည်းယူပြီး ဈေးလျှော့ပေးခြင်းမပြုပိုင်၊ အကယ်၍ ရောင်းသူက မိမိသဘောဖြင့် လျှော့ယူလျှင် ပိုင်လေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၃၂၀။

၂၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူ၏အိမ်၌ပျားစွဲနေလျှင် ထိုပျားအုံကို အိမ်ရှင်ကသာပိုင်ဆိုင်သည်၊ အခြားသူတစ်ဦးတစ်ယောက်က ယူပိုင်ခွင့်မရှိ၊ ၎င်းအကယ်၍ အကြင်အိမ်၌ ငှက်က လာမွေးလျှင် ထိုငှက်ကလေးများကို အိမ်ရှင်က မပိုင်ပေ၊ ဖမ်းသူကသာ ပိုင်ဆိုင်လေသည်၊ သို့သော် ထိုငှက်ကလေးများကိုဖမ်းယူညှဉ်းဆဲခြင်းများမပြုရ၊ (ဟလာလ်စားပိုင်သော ငှက်များ၏ ကလေးများကို'သဗ်ဟ်'ပြု၍ စားပိုင်ခွင့်ရှိသည်)။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၀၃။

## အမြတ်ယူ၍ သို့မဟုတ် အရင်းအတိုင်း ရောင်းခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ပစ္စည်းတစ်ခုခုကို ကျွန်ုပ်က ငွေတစ်ကျပ်ဖြင့်ဝယ်သည်၊ သို့ရှိရာ ယခုထိုပစ္စည်းကို တစ်ဆယ်၊ နှစ်ကျပ်ဖြင့် ကျွန်ုပ်ရောင်းပိုင်ခွင့်ရှိသည်၊ ထိုသို့ရောင်းခြင်းဖြင့် မည်သည့်ဂိုနာဟ်မှ မဖြစ်ပေ၊ သို့ရာတွင် ရောင်းဝယ်ရာ၌ ဝယ်သူက ထိုပစ္စည်းကို ကျွန်ုပ်အား တစ်ကျပ်-ငါးပြား အမြတ်ယူ၍ရောင်းမါဟုပြောရာ၊ သင်ကလည်း တစ်ကျပ်-ငါးပြား အမြတ်ဖြင့် သဘောတူခဲ့လျှင် ယခု တစ်ကျပ်လျှင် ငါးပြားထက်ပို၍ အမြတ်ယူခြင်း မပိုင်ပေ။

သို့မဟုတ် အားလုံးခြုံ၍ ၂၅-ပြား အမြတ်ယူပါဟု သဘောတူခဲ့လျှင်လည်း ဝယ်ဈေးအတိအကျ ပြောပြရမည်၊ ၂၅-ပြားထက်ပို၍ အမြတ်ယူခြင်း မပိုင်ပေ၊ ဤသို့ပင် အကယ်၍ သင်က ဝယ်ဈေးအတိုင်းပေးမည်၊ အမြတ်မယူဟုပြောခဲ့လျှင် ယခု အမြတ်ယူပိုင်ခွင့်မရှိတော့ပေ၊ ဝယ်ဈေးကိုအတိအကျပြောပြရန်(ဝါဂျစ်ဗ်)ထိုက်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၁၂။

၂။ မတ်စ်အလဟ်ပြဿနာ။ ပစ္စည်းတစ်ခုကိုဝယ်ရာ၌ငွေတစ်ကျပ်လျှင်ငါးပြား အမြတ်ယူ၍ရောင်းပါဟုပြောရာ၊ ရောင်းသူက ထိုအမြတ်နှင့်ပင်ရောင်းသည်ဟုပြောသည်၊ ၎င်းသင်ကဝယ်ရင်းအတိုင်းရောင်းပါဟုပြောရာ၊ ရောင်းသူကအမြတ်မယူ၊ အရင်းအတိုင်း ပြန်ရောင်းမည်ဟု သဘောတူခဲ့သည်၊ သို့သော် ရောင်းသူက ဝယ်ဈေးကိုမပြောသေးဘဲ နေခဲ့လျှင် ကြည့်ရမည်မှာ.... ပြောသောနေရာက မထသေးမီ မိမိဝယ်ဈေးကို ပြောလျှင် ရောင်းဝယ်မှုပိုင်လေသည်၊ ၎င်းအကယ်၍ ထိုနေရာတွင် မပြောပြသေးဘဲ စာရင်းကြည့် ပြီးမှပြောမည်၊ အခြားစကားကိုပြောပါက (ဗိုင်အ်ဖွာစစ်ဒ်) ရောင်းဝယ်မှု မပိုင်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၁၃။

၃။ မတ်စ်အလဟ်ပြဿနာ။ ပစ္စည်း ယူပြီးနောက် ရောင်းသူက လိမ်လည်၍ ဝယ်ဈေးမှန်ကို မပြောကြောင်းသိရလျှင် အမြတ်မယူပါဟု ကတိပြုသော်လည်း အမြတ် ယူလိုက်လျှင် ဝယ်သူသည် တန်ဘိုးလျော့၍ ပေးပိုင်ခွင့်မရှိပေ၊ သည့်မျှမက ပစ္စည်းကို ယူလိုလျှင် ရောင်းသူပြောသောဈေးအတိုင်းပေးရမည်၊ အကယ်၍မယူလိုသော် ပစ္စည်းကို ပြန်ပေးနိုင်သည်။

၎င်းအကယ်၍ ဝယ်ယူသောဈေးအတိုင်း ရောင်းမည်ဟု ဝန်ခံ၍ အမြတ်မယူဟု ကတိပြုခဲ့သည်၊ ထို့နောက်၎င်းက ဝယ်ဈေးမှန်ကို မပြော ပို၍ပြောမူ၊ ရောင်းသူသည် ပိုပြောထားသော ငွေကို ယူပိုင်ခွင့် မရှိ၊ ဝယ်ယူသူသည် ၎င်းဝယ်ခဲ့သော ဈေးမှန်ကို ပေးရမည်၊ ပိုပြောသည်ကို မပေးဘဲ နေနိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၁၅။

၄။ မတ်စ်အလဟ်ပြဿနာ။ ပစ္စည်းတစ်ခုကိုသင်ကအကြွေးဝယ်သည်၊ တဆင့် ဝယ်သူအား အကြွေးယူလာကြောင်း မပြောသမျှကာလပတ်လုံး အရင်းအတိုင်းဖြစ်စေ၊ အမြတ်အစွန်းယူ၍ဖြစ်စေ ရောင်းချပိုင်ခွင့်မရှိ၊ သည့်မျှမက ဤပစ္စည်းကို ကျွန်ုပ်အကြွေး ဝယ်လာသည်ဟု ပြောပြပြီး အရင်းနှင့်သော်လည်းကောင်း၊ အမြတ် တင်၍သော်လည်း ကောင်း ရောင်းချပိုင်ခွင့်ရှိလေသည်၊ အကယ်၍ မိမိဝယ်လာသောဈေးနှုန်းကို မပြောပြဘဲ ပည့်မျှ အမြတ်တင် ရောင်းသော်လည်း ကိစ္စမရှိပေ။

အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၁၆၃။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၁၉။

၅။ မတ်စ်အလဟ်ပြဿနာ။ ။ အထည်စ တစ်စကို တစ်ကျပ်နှင့် ဝယ်သည်၊ ထို့နောက် ၂၅-ပြားအကုန်ခံ၍ဆေးဆိုးသည်၊ လျှော်သည်၊ ချုပ်သည်၊ သို့ရှိရာ အထည်စမှာ အရင်း ၁-ကျပ် ၂၅-ပြား ကျသွားလေသည်၊ ယခု ၁-ကျပ် ၂၅-ပြားအရင်းကျသည်ဟု ပြော၍ အမြတ်ဖြင့်ရောင်းနိုင်သည်၊ သို့သော် ၁-ကျပ် ၂၅-ပြားဖြင့် ကျွန်ုပ်ဝယ်သည်ဟု မပြောရ၊ ၁-ကျပ် ၂၅-ပြား အရင်းကျသည်ဟု ပြောရမည်၊ သို့မှသာ မုသားမဖြစ်မည်။

(ကန်ဇွဒ်ဒကာအစ်ကာကျမ်း စာမျက်နှာ ၄၄၅)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ ဆိတ်တစ်ကောင်၄-ကျပ်နှင့်ဝယ်သည်၊ တစ်လမျှထားပြီးရာ၊ အစာဖိုး ၁-ကျပ်ကုန်ကျသည်၊ ယခုဆိတ်၏တန်ဖိုး၅-ကျပ်ကျသည်ဟု ပြော၍ အမြတ်ဖြင့် ရောင်းပိုင်လေသည်၊ အကယ်၍ ဆိတ်သည် နို့ထွက်လျှင် ထွက်သောနို့၏ တန်ဖိုးကို လျှော့ပစ်ရမည်၊ ဥပမာ-တစ်လအတွင်း နို့ဖိုး ၅၀- ပြားရလျှင် ဆိတ်၏တန်ဖိုးသည် ၄-ကျပ် ၅၀-ပြားဖြစ်လေသည်၊ ထို့ကြောင့် အရင်း ၄-ကျပ် ၅၀-ပြားကျသည်ဟု ပြောရမည်။

(အာလမ်ဂီရီကျမ်း အ တွဲ၃၊ စာမျက်နှာ ၁၆၂)

## အတိုးပေးယူခြင်း အကြောင်း

အတိုးပေးယူခြင်းသည် ကြီးသော (ဂိုနာဟ်) အပြစ်ဖြစ်လေသည်၊ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးသ်တော်မြတ်များတွင် အတိုးပေးယူခြင်း၏ အလွန်ဆိုးရွားသောအကြောင်းနှင့် ၎င်းကိုရှောင်ကြဉ်ရန် မိန့်မှတ်ချက်များ လာရှိလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အတိုးပေးသောသူ၊ ၎င်းယူသောသူ၊ ကြားဝင်၍ အတိုးပေးစေသူ၊ အတိုးစာချုပ်ရေးပေးသူ၊ သက်သေလိုက်သူ စသည်များအပေါ် လအ်နတ် ကျိန်ဆဲထားတော်မူလေသည်၊ ၎င်းဆက်လက်၍ မိန့်တော်မူသည်မှာ အတိုးယူသူနှင့် ပေးသူသည် နှစ်ဦးစလုံး ဂိုနာဟ် အပြစ် အတူတူခံကြရမည်။

(မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၄၄)

ထို့ကြောင့် ဤသို့ဆိုးရွားသောအလုပ်များမှ ရှောင်ကြဉ်ရန် အလွန်အရေးကြီးပေသည်၊ ဤမတ်စ်အလဟ်သည် အလွန်ပင် နူးညံ့ပေလေရာ၊ အဆင်မသင့်က အတိုး၏ အပြစ်ထိုက်သက် သွားလေသည်၊ မသိသူ ဂရုမပြုသူများသည် အတိုးဖြစ်မှန်းမသိ ဖြစ်သွားကြသည်၊ ကျွန်ုပ်သည် အတိုး၏ အရေးကြီး လေးနက်သော မတ်စ်အလဟ်ပြဿနာရပ်များကို ဖေါ်ပြမည်၊ အပေးအယူပြုရာ၌ ထာဝရသတိပြုကြစေလိုပါကြောင်း။

၁။ မတ်စ်အလဟ်ပြဿနာ။ ။ အိန္ဒိယနိုင်ငံ၏ ထုံးစံအရ ပစ္စည်းအားလုံးသည် (၄)မျိုး ကွဲပြားကြလေသည်။

၁။ ရွှေ, ငွေစ သို့မဟုတ် ထိုပစ္စည်းဖြင့်ပြုလုပ်ထားသော ရွှေထည်, ငွေထည်များ။
၂။ ရွှေထည်, ငွေထည်အပြင် ချိန်တွယ်၍ရောင်းသော ပစ္စည်းများ၊ ဥပမာ.... ကောက်ပဲသီးနှံ၊ သံ၊ သတ္တု၊ ဝါဂွမ်း၊ ဟင်းသီးဟင်းရွက် စသည်များ။
၃။ ဂိုက်နှင့် တိုင်းထွာ၍ ရောင်းသော ပစ္စည်းများ၊ ဥပမာ.... အထည်အလိပ်။
၄။ အရည်အတွက်ဖြင့်ရောင်းသောပစ္စည်းများ၊ ဥပမာ...ဥ- သရက်သီး၊ လိမ္မော်သီး၊ ဆိတ်၊ နွား၊ မြင်း စသည်များ၊ ဤသည်သောပစ္စည်းများ၏အမိန့်ပညတ်များကို တစ်သီးတစ်ခြားစီ မှတ်ယူကြရမည်။
(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၆၁- ၇၇)
(ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်း စာမျက်နှာ ၇၇)

၅။ မတ်စ်အလဟ် ပြဿနာ။ ။ ရွှေ, ငွေကို ဝယ်သောအဖြစ်သည် အမျိုးမျိုး ရှိလေသည်၊ ပထမအမျိုးမှာ....ငွေကိုငွေနှင့်ဝယ်ခြင်း၊ ရွှေကိုရွှေနှင့်ဝယ်ခြင်း၊ ဥပမာ- ငွေစ တစ်ကျပ်ဖိုးဝယ်လိုသည်၊ သို့မဟုတ် ငါးမူးဖိုးငွေစဝယ်ရာ ငါးမူးစေ့ ပေးသည်၊ သို့မဟုတ် ရွှေဒင်္ဂါးဖြင့် ရွှေကိုဝယ်သည်၊ အချုပ်မှာ နှစ်ဖက်စလုံးမှပစ္စည်းသည် တစ်မျိုးတည်းဖြစ်နေသည်၊ ထိုအခါ အချက်နှစ်ရပ်ကိုသိထားကြရမည်၊ ပထမအချက်မှာ....နှစ်ဖက်စလုံး၏ ငွေနှင့်ရွှေသည် အညီအမျှ ဖြစ်နေရမည်၊ ဒုတိယမှာ...နှစ်ဦးနှစ်ဝ မခွဲခွာကြမီအပေးအယူ ပြီးမြောက်သွားကြရမည်၊ အကြွေး ကျန်မနေစေရ၊ အကယ်၍ ဤနှစ်ချက်အနက်ကွဲပြားမှု ဖြစ်ခဲ့သော် အတိုးဖြစ်သွားလေသည်။

ဥပမာ....သင်ကငွေတစ်ကျပ်ဖိုးငွေစဝယ်လျှင်ငွေစတစ်ကျပ်သားယူရမည်၊ အကယ်၍ တစ်ကျပ်သားထက်လျှော့၍ယူလျှင်၊ပို၍ယူလျှင်အတိုးဖြစ်သွားလေသည်၊ ဤသို့ပင်သင်က ငွေတစ်ကျပ်ပေးသည်၊ သို့သော် ထိုသူက ငွေစကိုချက်ချင်းမပေး၊ သင်နှင့်ခွဲခွာ၍ ဧကာ ကြာမှ ပေးမည်ဟု ကတိပြုလျှင်၊ထိုသို့ပင် သင်ကငွေတစ်ကျပ်မပေးသေးဘဲ ငွေစကိုအကြွေး ယူလိုက်လျှင် အတိုးဖြစ်သွားလေသည်။ (ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၇၉)
(ကန်ဇုဒ်ဒကာအစ်က်ကျမ်း ၂၆၁)

၁။ မတ်စ်အလဟ် ပြဿနာ။ ။ ဒုတိယအမျိုးမှာ....နှစ်ဖက်စလုံးမှပစ္စည်း တစ်မျိုးတည်းမဟုတ်ဘဲ၊တစ်ဖက်မှငွေဖြစ်၍ အခြားတစ်ဖက်မှရွှေဖြစ်ခဲ့သော် ထိုအရာ၏ အမိန့်မှာ....နှစ်ဖက်စလုံးမှအချိန်တူညီရန်မလိုပေ၊ငွေတစ်ကျပ်ဖြင့် ရွှေမည်မျှရသည်ဖြစ်စေပိုင်လေသည်၊ ဤသို့ပင် ရွှေဒင်္ဂါးတစ်ပြားဖြင့် ငွေစမည်မျှရသည်ဖြစ်စေပိုင်သည်၊ သို့သော်တစ်ဦးနှင့်တစ်ဦး မခွဲခွာကြမီ အပေးအယူပြီးစီးသွားရန်နှင့်အကြွေးကိစ္စမပါဝင်ရန် ဤနေရာတွင်လည်း (ဝါဂျစ်ဗ်) ထိုက်လေသည်။ (ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၇၉)
(ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၆၁)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ဈေး၌ ငွေသား၏ ဗေါက်ဈေးမှာမြင့်တက်နေလျှင် ငွေ ၁-ကျပ် ၁၀-ပြားမှ ငွေစ ၁-ကျပ်သားရလျှင် ၁-ကျပ်လျှင် ငွေစ ၁- ကျပ်သားမည်သူမျှမရောင်းလျှင် သို့မဟုတ် ငွေထည် ဘာယက်တံဆာမှာ လှပအောင် ပြုလုပ်ထားရာ ငွေစတစ်ဆယ်သားရှိလေသည်၊ သို့သော်ငင်းကို ၁၂-ကျပ်ထက်လျှော့၍မရောင်း၊ ထိုသောအခါ အတိုးမှလွတ်ကင်းရန် နည်းလမ်းမှာ ကျပ်ပြားနှင့်မဝယ်ဘဲ ပြားစေ့ဖြင့်ဝယ်ယူရမည်၊ အကယ်၍ အမြောက်အမြား ဝယ်ယူလိုသော် ရွှေဒင်္ဂါးဖြင့်ဝယ်ယူရမည်၊ ဆိုလိုသည်မှာပြားစေ့တစ်ကျပ်နှင့် ၁၀-ပြားပေး၍တစ်ကျပ်သားဝယ်ယူလျှင် (ဂိုနာဟ်)အပြစ်မဖြစ်ပေ၊ ငွေတစ်ကျပ်နှင့် ၁၀-ပြားပေး၍ မဝယ်ယူရ၊ ထိုသို့ပေးဝယ်လျှင် အတိုးဖြစ်သွားမည်။

ဤသို့ပင် ငွေစ ဂ-ကျပ်သားကို ၉-ကျပ်ဖြင့် ဝယ်ယူလိုသော် ကျပ်ပြား ၇-ပြားနှင့် ပိုက်ဆံအနုတ် ၂-ကျပ်ဖိုးပေး၍ ဝယ်ယူရမည်၊ ကျပ်ပြား ၇-ပြားဖြင့် ငွေစ ၇-ကျပ်သားဖြစ်ပြီး ကျန်ငွေစ အတွက် ပိုက်ဆံအနုတ် ၂- ကျပ်နှင့် ပြီးသွားလေသည်၊ အကယ်၍ ပြားစေ့ ၂-ကျပ်မပေးလိုလျှင် အနည်းဆုံး တစ်ကျပ် ၁၀-ပြားကိုတော့ ပြားစေ့ပေးရမည်။

ဆိုလိုသည်မှာ.... ၇- ကျပ်၊ ငင်းပြား ၉၀-နှင့်၁-ကျပ်၁၀ပြား ပြားစေ့ပေးလိုက်လျှင် ငွေစအတွက် ငွေဒင်္ဂါးပင်ဖြစ်သွား၍ ကျန်သောငွေစအတွက် ပြားစေ့များဖြင့်ထေသွားလေသည်၊ အကယ်၍ ငွေသား ဂ-ကျပ်နှင့် ပြားစေ့တစ်ကျပ်ပေးလျှင်'ဂိုနာဟ်' အပြစ်မှ မလွတ်ကင်းနိုင်။

အဘယ်ကြောင့်ဆိုသော် ငွေစ ဂ-ကျပ်သားအတွက် ငွေ ဂ-ကျပ်ပင် ဖြစ်ရမည်၊ အပိုတစ်ကျပ်က အပိုပင်ဖြစ်နေသဖြင့် အတိုးဖြစ်သွားလေသည်။

အချုပ်မှာ.... ဤအချက်ကိုသတိထားကြရမည်၊ ငွေစထက် ကျပ်ပြားကိုလျှော့၍ပေးကုန်၊ ကျန်ငွေကိုပြားစေ့ပေးကုန်၊ အကယ်၍ ၅-ကျပ် ငွေစဝယ်လိုလျှင် ကျပ်ပြား ၅-ပြားမပေးနှင့်၊ ငွေစ ၁၀-ကျပ်ဝယ်လိုလျှင် ကျပ်ပြား ၁၀-ပြားမပေးနှင့်၊ကျပ်ပြားလျှော့ပေး၍ ကျန်ငွေကို ပြားစေ့ပေးလျှင် အတိုးမဖြစ်ပေ။

ငွေစဝယ်ရာတွင် ၉-ကျပ်ဖြင့် ငွေစမည်မျှပေးပါမည်ဟု မပြောမိရန် သတိထားရမည်၊ ငွေ ၇-ကျပ်၊ ငင်းပိုက်ဆံအနုတ် ၂- ကျပ်နှင့် ရောင်းပါဟုပြောရမည်၊ ဤသို့မပြောဘဲ ဂ-ကျပ်သားကို ၉-ကျပ်နှင့် ရောင်းပါဟုပြောပါက အတိုးဖြစ်သွားလေသည်၊ ကောင်းစွာမှတ်သားထားကြကုန်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၃၁)

၅။ မတ်စ်အလ်ဟ်ပြဿနာ။ ။ အကယ်၍ ရောင်းသူဝယ်သူ နှစ်ဦးသဘောတူကြလျှင် လွယ်ကူသောအချက်တစ်ချက်မှာ ဤသို့ရှိသည်၊ ချိန်တွယ်ရာ၌ငွေစဘက်မှအလေးလျော့နေလျှင် ထိုဘက်တွင် ပြားစေ့ရောချိန်ရမည်။

ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၁၃၃။

၆။ မတ်စ်အလဟ်ပြဿနာ။ ။ ဤသည်ထက်လွယ်ကူသောအချက်တစ်ချက်မှာ ဤသို့ရှိသည်၊ ရောင်းသူဝယ်သူ နှစ်ဦးသည် နှစ်ဦးသဘောတူ ငွေနှင့် ငွေစကို ပုံထားရမည်၊ ၎င်းနှစ်ဦးစလုံးသည် မိမိအပုံဘက်တွင် ပြားစေ့တစ်စေ့စီ ထည့်ထားရမည်၊ ၎င်းကျွန်ုပ်သည် ဤငွေစနှင့် ပိုက်ဆံတို့ကို ထိုငွေ၊ ထိုပိုက်ဆံအစား ယူပါသည်ဟုပြောရမည်၊ ဤသို့ပြုခြင်းဖြင့် ရှုပ်ထွေးခြင်းများမှ လွတ်ကင်းသွားပေမည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၄၃)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ငွေစမှာပေါသည်၊ ငွေတစ်ကျပ်ဖိုးလျှင် တစ်ကျပ်ခွဲသားမျှရသည်၊ တစ်ကျပ်လျှင် တစ်ကျပ်သားဘဲယူပါက ဝယ်သူမှာနစ်နာသည်ဆိုပါက ဝယ်ရာ၌ အတိုးမှလွတ်ကင်းရန်အကြောင်းမှာ ငွေပေးရာတွင် ပြားစေ့ရော၍ ပေးရမည်၊ အနည်းဆုံး ၁၀-ပြား၊ ၅-ပြား၊၊ ပိုက်ဆံတစ်ပြားပင်ဖြစ်စေ ရော၍ ပေးရမည်။

ဥပမာ... ၁၀-ကျပ်နှင့် ငွေစ ၁၅-ကျပ်သားဝယ်လျှင် ငွေ ၉-ကျပ်နှင့် ပိုက်ဆံတစ်ကျပ်ထည့်ပေးရမည်၊ သို့မဟုတ် ပြားစေ့ ၁၀-ပြားထည့်၍ကျန်သည်ကို အနုတ်ပေးခြင်းဖြင့် ငွေစနှင့်အညီ ကျပ်ပြားပေး၍ ကျန်အနုတ်ပြားစေ့ဖြင့် ကျန်ငွေစကိုဝယ်ယူသည်ဟု ယူဆရမည်၊ ဤသို့ဝယ်ယူခြင်းဖြင့် (ဂိုနာဟ်) အပြစ်မဖြစ်ပေ။

ဤငွေဖြင့် ဤငွေစပေးပါဟု မပြောမိရန် ဂရုပြုရမည်၊ ငွေ ၉-ကျပ်နှင့် ပြားစေ့တစ်ကျပ်ဖြင့် ဤငွေစကိုရောင်းပါဟု ပြောရမည်၊ ပြားစေ့ပေးလိုသော အရည်အတွက်ကို ဝယ်သောအခါ ပေါ်လွင်အောင် ပြောပြရမည်၊ သို့တည်းမဟုတ်က အတိုးမှ မလွတ်ကင်းနိုင်ပေ။

ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၃၃)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ အသော၊ မကောင်းသောငွေစပေး၍ကောင်းသောငွေစကိုဝယ်လိုလျှင် ၎င်းထိုအသော မကောင်းသောငွေစဖြင့် ကောင်းသောငွေစမရနိုင်သော်၊ အသော၊ မကောင်းသောငွေစကိုရောင်းပစ်ပြီး၊ ရသောငွေနှင့် ကောင်းသောငွေစကို ဝယ်ယူရမည်၊ ရောင်းဝယ်ရာ၌ ပထမကရေးခဲ့သော နည်းလမ်းဥပဒေကို ဂရုပြု လိုက်နာရမည်၊ ဤနေရာတွင်လည်း နှစ်ဦးနှစ်ဝသည် ပြားစေ့တစ်ပြားစီ ရော၍ ရောင်းဝယ်ကြရမည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၅၃)

(ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း စာမျက်နှာ ၂၁၅)

၈။ မတ်စ်အလဟ်ပြဿနာ။ ။ မိန်းမများသည်အများအားဖြင့်ငွေထည်ဆိုင်မှ ငွေထည်ပစ္စည်းများကို ဝယ်ယူကြလေသည်၊ ၎င်းပစ္စည်းများသည် ငွေထည်များဖြစ်၍ အထက်ပါ မတ်စ်အလဟ်ပြဿနာများကို ဂရုစိုက်ကြရမည်၊ ငွေစကို ငွေဒင်္ဂါးနှင့် ဝယ်ကြရသဖြင့် အလွယ်ဆုံးနည်းမှာ နှစ်ဦးနှစ်ဘက်မှပြားစေ့ထည့်၍ ရောင်းဝယ်ကြရမည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၄၅)

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ငွေသားချည့်၊ ၎င်းရွှေသားချည့်သာ ပါပြီး အခြားအရာများမပါသော် ရွှေ၊ ၎င်း ငွေချည့်ပြုလုပ်ထားသော ပစ္စည်းတစ်ခုခုကို ဝယ်ယူလိုလျှင် ရွှေထည်ကို ငွေဒင်္ဂါးဖြင့်၊ ငွေထည်ကို ရွှေဖြင့် ဝယ်ယူရာ အချိန် ကွာခြားသော်လည်းပိုင်လေသည်။ သတိပြုရမည်မှာ....တစ်ဦးနှင့်တစ်ဦး ထိုနေရာ၌ပင် အပေးအယူ ပြီးဆုံးသွားစေကြရမည်၊ အကြွေးကျန် မရှိနေစေရ၊ အကယ်၍ ငွေထည်ကို ငွေဒင်္ဂါးဖြင့် ဝယ်လျှင်၊ ၎င်း ရွှေထည်ကို ရွှေဒင်္ဂါးဖြင့် ဝယ်လျှင်၊နှစ်ဘက်မှ အချိန်အတူတူဖြစ်စေရန်(ဝါဂျစ်ဗ်)ထိုက်လေ၏၊ ၎င်းအကယ်၍ တစ်ဘက်ဘက်မှ အပိုအလျော့ရှိနေလျှင် အထက်တွင်ပြဆိုသော နည်းလမ်းဥပဒေအတိုင်း လိုက်နာဆောင်ရွက်ကြရမည်။

ဟေဒါယဟ်ကျမ်းအတွဲ၃-၊ စာမျက်နှာ-ဂဂ။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ၎င်းအကယ်၍ငွေသားအပြင်အခြားသောအရာပစ္စည်းများပါလျှင် ဥပမာ....လက်မောင်းတွင်ဝတ်သော လက်ကောက်တစ်မျိုးတွင် ချိတ်ဖြည့်ထားလျှင် ဘယက်ပေါ်တွင် ကျောက်စီထားလျှင်၊ လက်စွပ်တွင် ကျောက်တပ်ထားလျှင် သို့မဟုတ် လက်မောင်းတွင်ဝတ်သော လက်ကောက်တစ်မျိုးတွင် ချိတ်တော့မပါ၊ ချည်မျှင်များ ရစ်ပတ်ထားလျှင် ထိုပစ္စည်းများကို ငွေဖြင့်ဝယ်သောအခါ ကြည့်ရမည်မှာ ထိုပစ္စည်း၌ပါသောငွေသားသည် အလေးချိန်၌ ပေးရသောငွေနှင့် တူညီသလော၊ လျော့နည်းသလော၊ သာပိုသလော အကယ်၍ ငွေဒင်္ဂါးသည် ထိုပစ္စည်း၏ ငွေသားထက်လျော့လျှင် ပိုင်လေသည်။

၎င်းအကယ်၍ တူညီနေလျှင်၊ သာပိုနေလျှင် အတိုးဖြစ်သွားလေသည်၊ ထိုအပြစ်မှ လွတ်ရန်အကြောင်း နည်းလမ်းသည် အထက်ပိုင်းတွင် လွန်ခဲ့ပေပြီ၊ 'ငွေဒင်္ဂါးကို ငွေသားပစ္စည်းထက်လျော့ပေး၍ ကျန်အတွက် ပြားစေ့ဖြည့်၍ပေးရမည်၊ ထိုသို့ရောင်းဝယ်ရာတွင်အပေးအယူတစ်ခါတည်းပြီးမြောက်သွားရန် ဤနေရာတွင်'ဝါဂျစ်ဗ်'ထိုက်လေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၃၃။

၁၂။ မတ်စ်အလဟ်ပြဿနာ။ မိမိ၏ လက်စွပ်ကို အခြားသူ၏ လက်စွပ်နှင့် အလဲ-အထပ် ပြုလုပ်မှု၊ လက်စွပ် ၂-ကွင်းစလုံးတွင် ကျောက်ပါနေက ငွေသားချင်း တူညီသည်ဖြစ်စေ၊ အပိုအလျော့ရှိသည်ဖြစ်စေ ပိုင်လေသည်၊ သို့သော် လက်ရောက်လဲကြရမည်၊ အကယ်၍ နှစ်ကွင်းစလုံးငွေသားချည့်ဖြစ်လျှင် အချိန်တူညီရန် (ရှရတ်) ထိုက်လေသည်။

အနည်းငယ်ပင်အပိုအလျော့ရှိနေလျှင် အတိုးဖြစ်သွားမည်၊ အကယ်၍ တစ်ကွင်းမှာကျောက်ပါပြီး၊ တစ်ကွင်း ငွေချည့်ရိုးရိုးဖြစ်လျှင် ငွေရိုးရိုးက ငွေသားပိုများနေလျှင် လဲထပ်ပိုင်လေသည်၊ သို့တည်းမဟုတ်ပါက(ဟာရာမ်)၎င်းအတိုးဖြစ်လေသည်၊ ၎င်းအကယ်

၍ ထိုအချိန်၌ နှစ်ဦးနှစ်ဘက်မှအပေးအယူမဖြစ်သေး၊ တစ်ဦးကချက်ချင်းပေး၍တစ်ဦးက ခဏဆိုင်းပါဦး၊ တော်ကြာနေပေးပါမည်ဟုဆိုလျှင် အတိုးဖြစ်သွားလေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၂၉။

၁၃။ **မတ်စ်အလဟ်ပြဿနာ**။ ပေးယူရာတွင် ချက်ချင်း ပေးယူကြရမည်ဟု ရေးသားခဲ့သော မတ်စ်အလဟ်ပြဿနာများ၏ ဆိုလိုရင်းမှာ ရောင်းဝယ်သူ နှစ်ဦးစလုံးသည် တစ်ဦးနှင့်တစ်ဦး မခွဲခွာမီ အပေးအယူပြုကြရမည်၊ အကယ်၍တစ်ဦးက ခွဲခွာသွားပြီးမှ အပေးအယူပြုလျှင် တရားမဝင်၊ ဤသို့ပြုခြင်းလည်း အတိုး၌ပါဝင်လေသည်။

အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၂၁၇။

ဥပမာ....

သင်က ငွေ၊ ရွှေ ၁၀-ဖိုး၊ ငွေ၊ ရွှေ ရွှေထည်တစ်ခုခုကို ပန်းထိမ်ဆရာ ထံမှ ဝယ်သည်၊ သင်သည် ငွေကို ထိုအချိန်မှာပင် ပေးလိုက်ရမည်၊ ၎င်းကလည်း ပစ္စည်းကို ထိုအချိန်မှာပင်ပေးရမည်၊ အကယ်၍ ရွှေထည်ငွေဖိုးကိုယူမလာ၊ အိမ်ပြန်ပြီး ပို့လိုက်ပါမည်ဟုဆိုလျှင် မပိုင်ပေ။

သည့်မျှမက ၎င်းသူသည် တစ်ဦးဦးကို အယူခိုင်းလိုက်ရမည်၊ ထိုသူအယူခိုင်းနေသည်အထိ ယူမည့်သူသည် ထိုနေရာ၌ စောင့်ဆိုင်းနေရမည်၊ ထိုသူ့ကိုလည်း မိမိနှင့်ခွဲခွာ မသွားစေရ၊ အကယ်၍ ၎င်းသူက ကျွန်တော်နှင့်အတူ အိမ်လိုက်ယူလှဲ့ပါဟု ဆိုလျှင် ထိုသူသွားသောနေရာတိုင်းတွင် သင်လည်း ထပ်ချပ်မကွာ လိုက်နေရမည်။

အကယ်၍ ၎င်းသူသည် အိမ်တွင်းသို့ဝင်သွားလျှင် ၎င်းတစ်နည်းနည်းဖြင့် သင်နှင့် ကွဲကွာသွားပါက (ဂိုနာဟ်) အပြစ်ဖြစ်သည်၊ ထိုအရောင်းအဝယ်လည်း ပျက်သွားလေသည်၊ ယခုထပ်မံ အသစ်ပြန်လည် ရောင်းဝယ်ကြရမည်။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ဝယ်ပြီးနောက် သင်က အိမ်တွင်းသို့ ငွေယူရန် ဝင်သွားသည်၊ သို့မဟုတ် ထိုသူက အပေါ့သွားရန် ထွက်သွားသည်၊ သို့မဟုတ် မိမိဆိုင်တွင်းသို့ဝင်သွားသည်၊ အခြားအလုပ်တစ်ခုခုအတွက် ထွက်သွားသည်၊ တစ်ဦးနှင့်တစ်ဦး ကွဲကွာသွားမှု ဤအရောင်းအဝယ်သည်မပိုင်၊ ၎င်းအတိုးဖြစ်သွားလေသည်။

အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၂၁၇။

၁၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ထိုသို့ ဝယ်ယူရာတွင် သင့်ထံ၌ ငွေမရှိ၍အကြွေးယူမည်ဆိုလျှင် ပိုင်သောနည်းလမ်းမှာ ပစ္စည်းတန်ဘိုးကို ၎င်းသူထံမှချေး၍ ပစ္စည်းဘန်ဘိုးကို ရှင်းပေးလိုက်ရမည်၊ အကြွေးငွေသာလျှင် သင့်အပေါ်တင်ရှိနေမည်၊ ထိုအကြွေးကို ချိန်းဆိုသောဥရက်တွင် ပေးဆပ်ရမည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၂၆။

၁၆။ မတ်စ်အလဟ် ပြဿနာ။ ငွေထိုးထားသောပုဝါ၊ ၎င်းဦးထုပ်ကို ၁၀-ကျပ်နှင့် ဝယ်ယူလိုလျှင် ထိုပစ္စည်းတွင် ထိုးထားသော ငွေစ မည်မျှရှိသည်ကို ကြည့်ရမည်၊ အကယ်၍ ငွေချည့်သာ တစ်ကျပ်သားရှိလျှင် ချက်ချင်း ငွေတစ်ကျပ် ပေးလိုက်ရမည်၊ ကျန်ငွေကို နောက်မှပေးလျှင် ပိုင်သည်၊ ငွေချည်ဘယက်တန်ဆာများ၌လည်း ဤအမိန့်အတိုင်းပင် ဖြစ်သည်။

ဥပမာ.... ၅-ကျပ်တန် ဘယက်တန်ဆာတစ်ခု ဝယ်ယူရာ ထိုပစ္စည်း၌ ငွေသား ၂-ကျပ်သားပါလျှင် ငွေ ၂-ကျပ်ကို ထိုအချိန်၌ ပေးလိုက်ပြီး ကျန်ငွေကို ပေးလိုသော အချိန်တွင် ပေးနိုင်လေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၂၂။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ငွေတစ်ကျပ် သို့မဟုတ် ငွေများစွာဖြင့် ပြားစေ့လဲသည်၊ သို့တည်းမဟုတ် ပြားစေ့များပေး၍ ကျပ်ပြားယူခြင်းပြုမူ နှစ်ဦးနှစ်ဝဘက်မှ ချက်ချင်းအပေးအယူပြုကြရန် အရေးမကြီးပေ၊ တစ်ဘက်မှပေးထားခြင်းဖြင့် လုံလောက်ပေသည်။

ဥပမာ....သင်က ကျပ်ပြားကိုပေးလိုက်သည်၊ သို့သော်၎င်းသူက ခဏကြာမှ ပြားစေ့ပေးသည်၊ သို့မဟုတ် ၎င်းက ပြားစေ့ပေးသည်၊ သင်က ကျပ်ပြားကို၎င်းနှင့်ခွဲခွာပြီး နောက်မှပေးလျှင်ပိုင်လေသည်၊ သို့ရာတွင်ပြားစေ့များအပြင်အနုတ် မတ်စေ့-ငါးမူးစေ့များလည်းပါဝင်လာလျှင် အပေးအယူကို ချက်ချင်းပြုလုပ်ကြရမည်။

သို့သော် ပြားစေ့နှင့်ပတ်သက်၍ သတိပြုကြရမည်မှာ.... ဆိုင်ရှင်ထံတွင် ပြားတော့ ရှိသည်၊ အကြောင်းကြောင်းကြောင့် ယခုမပေးနိုင်၊ သို့မဟုတ် အိမ်မှာရှိသည်၊ သွားယူ၍ပေးမည်၊ ၎င်းအကယ်၍ ပြားစေ့မရှိ၊ ကုန်ရောင်း၍ ပြားစေ့ရသောအခါယူပါ၊ သို့မဟုတ် ပြားစေ့အချို့ကို ယခုယူ၍ ကုန်ရောင်း၍ရမှ ကျန်ပိုက်ဆံကိုယူပါဟု ပြောဆိုလဲလှယ်ခြင်းသည် မပိုင်ပေ။

အဘယ့်ကြောင့် ဆိုသော် ပြားစေ့ မရှိခြင်းဖြင့် အကြွေး ဖြစ်သွားလေသည်၊ ထို့ကြောင့် ပြားစေ့များကိုချန်မထားရပေ၊ ၎င်းအကယ်၍ တစ်ခါတစ်ရံ ဤသို့ပြားစေ့ မရှိသောအဖြစ်နှင့် ကြုံကြိုက်ခဲ့သော် ရှိနေသော ပြားစေ့များကို အကြွေးယူ၍ ကျပ်ပြားကို အပ်ထားရမည်၊ ပြားစေ့ အပြည့်အစုံရပြီးမှ လဲလှယ်ခြင်းပြုကြရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၂၄။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၁၄၅။

၁၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရွှေဒင်္ဂါးပေး၍ ငွေယူလျှင် နှစ်ဦးနှစ်ဘက်မှ ရှေ့မျှောက်တွင် အပေးအယူ ပြုကြရမည်။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ ၂၂၄။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ငွေထည်ရွှေထည်များကို ငွေ ဒင်္ဂါး ရွှေဒင်္ဂါးဖြင့် ဝယ်ယူသောအခါ ၁-ရက်၊ သို့မဟုတ် ၃-ရက်အတွင်း ကျွန်ုပ်ယူချင်မှယူမည်၊ မယူလိုက ပြန်ပေးမည်ဟူ၍ ''ရုရှတ္ထ''သတ်မှတ်ခြင်းမပိုင်ပေ၊ ဤသို့အဖြစ်၌ ပြန်ပေးလိုက ပေးပါ ဟူသောဝန်ခံချက်ကိုမယူရပေ။ အာလမ်ဂီရီကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၁၇။

၂၀။ မတ်စ်အလဟ်ပြဿနာ။ ယခုချိန်တွယ်၍ ရောင်းချရသော ပစ္စည်းများ အကြောင်းကို မှတ်သားကြကုန်၊ ဥပမာ...ကောက်ပဲသီးနှံ၊ တိရစ္ဆာန်တို့၏အသား၊ သံ၊ ကြေးနီ၊ ဟင်းသီးဟင်းရွက်၊ ဆား စသည်များ ဤသို့ပစ္စည်းများဖြင့်အလားတူပစ္စည်းနှင့် ရောင်းလိုလဲလိုမှု၊ ဥပမာ....ဂျုံကိုပေး၍ဂျုံကိုယူလိုလျှင်၊ သီးနှံ တစ်ခုကိုပေး၍ သီးနှံ ကို ရလိုလျှင်၊ မုန့်ညက်အစား မုန့်ညက်ကိုရလိုလျှင်၊ ဤသို့ ကုန်အမျိုးတူခြင်း ဖြစ်နေပါက အချက်နှစ်ချက်ကို ဂရုပြုရန်(ဝါဂျစ်ဗ်)ထိုက်လေသည်။

၁။ နှစ်ဘက်စလုံးမှ ပစ္စည်းမှာ အညီ အမျှ ဖြစ်ရမည်၊ အနည်းငယ်မျှပင် အပိုအလျော့ မရှိစေရ၊ သို့တည်းမဟုတ်ပါက အတိုးဖြစ်သွားမည်။
၂။ လဲသောအချိန်မှာပင် အပေးအယူ ချက်ချင်း ပြုကြရမည်၊ လက်ဝယ်မှယူ နိုင်သေးလျှင် ပစ္စည်းကိုချိန်တွယ်၍ ခင်းကျင်းယူလိုသောအချိန် ယူလိုက်ပါဟု ပြောပြီးတစ်ခြားစီပုံထားလိုက်ကြရမည်၊ ဤသို့ခွဲခြားမထားဘဲတစ်ခုနှင့်တစ်ခု ရောသွားလျှင် အတိုး၏အပြစ် ဖြစ်လေသည်။
ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၄၇၊ ၂၄၀၊ ၂၄၉။

၂၁။ မတ်စ်အလဟ်ပြဿနာ။ မကောင်းသော ဂျုံကို ပေး၍ အကောင်းကို လိုချင်သည်၊ မကောင်းသော မုန့်ညက်ကိုပေး၍ ကောင်းသောမုန့်ညက်ကို လိုချင်သည်၊ သို့သော် မည်သူကမျှ တန်းတူမလဲ ဆိုပါက အတိုးအဖြစ်မှ လွတ်ကင်းရန်နည်းလမ်းမှာ ၎င်းဂျုံ၊ မုန့်ညက်များကို ပြားစေ့ဖြင့် ရောင်းလိုက်ရမည်၊ ကျွန်ုပ်သည် ဤဂျုံ၊ မုန့်ညက် ကို၁၀-ပြားနှင့်ရောင်းပါသည်၊ ထို၁၀-ပြားအတွက်ဂျုံ၊မုန့်ညက်ကိုပေးပါဟုပြောရမည်၊ ဤသို့ပြုခြင်းဖြင့် ပိုင်သွားလေသည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၅၃။

၂၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ချိန်တွယ် ရောင်းရသော ပစ္စည်းကို အမျိုးတူမဟုတ်ဘဲ လဲလှယ်လိုမှု ဥပမာ....ဂျုံနှင့်သီးနှံ၊ သို့မဟုတ် ဂျုံ သေး၊ ကုလားပဲ၊ ချပြောင်းဆံ၊ ဆား၊ အသား၊ ဟင်းသီးဟင်းရွက် စသည် တစ်ဖက်နှင့်တစ်ဖက် အမျိုးမတူ၊ တစ်မျိုးစီ ဖြစ်နေပါက နှစ်ဖက်မှ အလေးချိန်တူညီရန် (ဝါဂျစ်ဗ်) မလိုပေ၊ ဂျုံ ၈၀- ပေး၍၊ စပါး ၈-ပိဿာ စသည်ကဲ့သို့ပေးလျှင် ၁၀-သားမှုသည်ဖြစ်စေ ပိုင်လေသည်။

သို့သော်လည်း ပေးယူရာ၌ နှစ်ဦး နှစ်ဝ ရှေ့မှောက်တွင် ပြီးမြောက်သွားရန် 'ဝါဂျစ်ဗ်' ထိုက်လေ၏၊ သို့မဟုတ် အနည်းဆုံးနှစ်ဦးစလုံး၏ ပစ္စည်းများကို တစ်ခြားစီ ပုံထားကြရမည်၊ အကယ်၍ ဤသို့မပြုပါက 'ဂိုနာဟ်' အပြစ်ဖြစ်လေသည်။

(ရှာမီကျမ်းအတွဲ ၄၊ စာမျက်နှာ ၂၄၇)

၂၃။ မတ်စ်အလဟ်ပြဿနာ။ ။ ကုလားပဲ ၁၀ သားဖြင့် ဈေးသည်ထံမှဟင်းသီးဟင်းရွက်နှင့်လဲသည်၊ မပေးမီ ဂျုံထုတ်ရန် အိမ်တွင်းသို့ဝင်သွားသော် ထိုနေရာမှ တစ်ခြားဖြစ်သွားသဖြင့် အရောင်းအဝယ်ပျက်ကာ 'ဟာရာမ်' ဖြစ်သွားလေသည်၊ ထပ်မံ၍ အပေးအယူ ပြုကြရဦးမည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၄၇)

၂၄။ မတ်စ်အလဟ်ပြဿနာ။ ။ ချိန်တွယ်၍ ရောင်းရသော ပစ္စည်းကိုငွေနှင့် ဝယ်သည်၊ သို့မဟုတ် အဝတ်စသည် တိုင်းထွာရောင်းသော ပစ္စည်းနှင့်လဲသည်။ သို့မဟုတ် ရည်တွက် ရောင်းရသော ပစ္စည်းနှင့်လဲသည်၊ ဥပမာ- အသည်အုပ်တစ်အုပ်ပေး၍ ဂျုံ စသည်ယူသည်၊ သို့မဟုတ် ဂျုံ၊ ကုလားပဲပေး၍ မာလကာသီး၊ လိမ္မော်သီး၊ သစ်တော်သီး၊ ဥ စသည့် ရည်တွက်ရောင်းသောပစ္စည်းနှင့်လဲသည်၊ အချုပ်မှာ- တစ်ဘက်မှ ပစ္စည်းမှာ ချိန်၍ရောင်းရသော ပစ္စည်းဖြစ်ပြီး၊ အခြားတစ်ဘက်မှ အရည်အတွက် ၎င်းတိုင်းထွာ၍ ရောင်းရသော ပစ္စည်းဖြစ်နေမူ ပိုက်ဆံတစ်ပြားဖြင့် ဂျုံ၊ မုန့်ညက်၊ ဟင်းသီးဟင်းရွက် မည်မျှရသည်ဖြစ်စေ၊ အထည်ပေး၍ ကောက်ပဲသီးနှံ မည်မျှရသည်ဖြစ်စေ ဂျုံ၊ ကုလားပဲ စသည်ပေး၍ မာလကာသီး၊ လိမ္မော်သီး စသည်ကို မည်မျှရသည်ဖြစ်စေ၊ ထိုနေရာ၌ပင် တစ်ဆိုင်ထည်း အပေးအယူဖြစ်သွားသည်ဖြစ်စေ ခွဲခွာသွားကြသည်ဖြစ်စေပိုင်လေသည်။

(ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၂၁၅)

၂၅။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဘက်မှ ချမြိုးသော မုန့်ညက်နှင့်အခြား တစ်ဘက်မှ မချရသေးသော မုန့်ညက်၊ ၎င်းတစ်ဘက်မှ အကြမ်းနှင့် အခြားတစ်ဘက်မှ အနုလဲလှယ်သောအခါ နှစ်ဘက်စလုံးမှ အညီအမျှဖြစ်ရန် 'ဝါဂျစ်ဗ်' ထိုက်လေ၏၊ တစ်ဘက်ဘက်မှ ပိုလျော့ခြင်းမပိုင်ပေ။

အကယ်၍ လဲလှယ်ရန်လိုအပ်လာလျှင် အထက်တွင်ပြခဲ့သော နည်းလမ်းအတိုင်း လဲကြရမည်၊ အကယ်၍ တစ်ဘက်မှ ဂျုံမှုန့်၊ အခြားတစ်ဘက်မှ ကုလားပဲမှုန့် ၎င်း ပြောင်းဆံမှုန့် စသည်များဖြစ်မူ အညီအမျှဖြစ်ရန် 'ဝါဂျစ်ဗ်' မဟုတ်ပေ၊ သို့သော် လက်ရောက်လဲကြရန်ကား 'ဝါဂျစ်ဗ်' ထိုက်လေသည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၅၉)

၂၆။ မတ်စ်အလဟ်ပြဿနာ။ ။ ဂျုံကိုဂျုံမှုန့်ဖြင့်လဲခြင်းမည်သည့်နည်းနှင့်မျှ မပိုင်ပေ၊ ဂျုံ ၈၀-သားပေး၍ ဂျုံမှုန့် ၈၀-သားလဲသည်ဖြစ်စေ၊ အပိုအလျော့ရှိသည် ဖြစ်စေ မပိုင်ပေ၊ သို့ရာတွင် ဂျုံပေး၍ ဂျုံမှုန့်မယူဘဲ ကုလားပဲမှုန့် စသည်များယူလျှင် ပိုင်သည်၊ သို့သော် လက်ရောက်လဲကြရမည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၅၈)

၂၇။ မတ်စ်အလဟ်ပြဿနာ။ ။ မုညှင်းစေ့ပေး၍ မုညှင်းဆီကို ယူသည်၊ နှမ်းစေ့ပေး၍နှမ်းဆီကိုယူမှု ကြည့်ရမည်မှာ သင်ယူသောဆီသည် ပေးသောမုညှင်းစေ့၊ နှမ်းစေ့ကိုကြိတ်ပါက ၎င်းအစေ့များက ဆီပိုထွက်မည်ဖြစ်လျှင် လက်ရောက်လဲယူခြင်း ပိုင်လေသည်၊ ၎င်းအကယ်၍ အညီအမျှထွက်သည်၊လျော့၍ထွက်သည်၊ပိုမပို ဒွိဟ သံသယဖြစ်လျှင် မပိုင်သာမက အတိုးဖြစ်လေသည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၅၉)

၂၈။ မတ်စ်အလဟ်ပြဿနာ။ ။ အမဲသားကိုပေး၍ ဆိတ်သားကို ယူလျှင် နှစ်ဘက်ညီမျှနေရန် မလိုပေ၊ ပိုလျော့လျှင်လည်း ပိုင်ပေသည်၊ သို့သော် လက်ရောက်ပြုကြရမည်။

(ရှာမီကျမ်း အတွဲ၄ စာမျက်နှာ ၂၅၆)

၂၉။ မတ်စ်အလဟ် ပြဿနာ။ ။ မိမိ၏ ရောကရားကို အခြားသူ၏ ကရားနှင့် လဲသည်၊ သို့မဟုတ် ကရားနှင့်အိုး စသည် ပန်းကန်များနှင့်လဲမှု အလေးချိန်တူညီရန်နှင့် လက်ရောက်လဲကြရန် ‘ဝါဂျစ်ဗ်’ ထိုက်လေ၏၊ အနည်းငယ်မျှ အပိုအလျော့ရှိမှု အတိုးဖြစ်သွားလေသည်၊ အဘယ်ကြောင့်ဆိုသော် နှစ်ဘက်စလုံး၏ပစ္စည်းသည် ကြေးနီများဖြစ်၍ အမျိုးတစ်မျိုးတည်းဟု မှတ်ယူရမည်။

ဤသို့ပင် အကယ်၍ အချိန်မှာအတူတူဖြစ်သော်လည်း လက်ရောက်လဲမှုမပြုလျှင်လည်း အတိုးဖြစ်သည်၊ သို့ရာတွင်တစ်ဘက်မှကြေးနီအိုးဖြစ်၍ တစ်ဘက်မှသံ၊၎င်းကြေးဝါ စသည့်အမျိုးမတူဖြစ်မှု အချိန်တူညီနေရန်မလိုပေ၊ သို့သော် လက်ရောက်လဲလှယ်မှုကား ဖြစ်ရပေမည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၅၆)

၃၀။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူထံမှ ဂျုံ ၈၀-သားအကြွေးယူရာ ကျွန်ုပ်ထံဂျုံမရှိ၊ ၎င်းအစား ကုလားပဲ တစ်ပိဿာ ၆၀- သား ဆပ်ပါမည်ဟု ပြောလျှင် မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ဂျုံကိုကုလားပဲနှင့် လဲရာရောက်နေသည်၊ လဲသောအခါ ဤသို့သောပစ္စည်းများကို ရှေ့မှောက်တွင် လက်ရောက်လဲရမည်ဖြစ်လေသည်၊ ကျန်နေခြင်းများ မရှိရပေ၊ တစ်ခါတစ်ရံ ဤသို့ယူရန် ကြုံကြိုက်ခဲ့သော် ဂျုံကိုအကြွေးယူရမည်၊ ၎င်းအစား ကုလားပဲပေးမည်ဟု မပြောရ၊သည့်မျှမက နောက်တစ်ချိန်တွင်လာ၍ယူသွားသောဂျုံအစား ဤကုလားပဲကို ယူပါဟု ပြောပေးလျှင် ပိုင်သည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၄၇)

၃၁။ မတ်စ်အလဟ်ပြဿနာ။ ။ တင်ပြခဲ့သောမတ်စ်အလဟ်ပြဿနာအပေါင်းတွင် ရှေ့မှောက်၌ လက်ရောက်လဲလှယ်ကြရမည်၊ သို့မဟုတ်ထိုအချိန်၌ နှစ်ဘက်စလုံး၏ပစ္စည်းများကိုရှေ့မှောက်တွင်တစ်ပုံစီခြားထားရန် ‘ရှရတ္တ’ အဓိကတာဝန်ဖြစ်လေသည်၊ ဤသို့မပြုလျှင် အတိုးဖြစ်သွားလေသည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၄၇)

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၆၄)

၃၂။ မတ်စ်အလတ်ပြဿနာ။ ။ ချိန်တွယ်၍ရောင်းရသော ပစ္စည်းမဟုတ်ဘဲ ဂိုက်နှင့်တိုင်းထွာ၍ ၎င်းရည်တွက်၍ရောင်းရသောပစ္စည်းများ၏ အမိန့်ပညတ်ချက်မှာဤသို့ ရှိသည်၊ တစ်မျိုးတည်းပေး၍ အခြားထိုသို့အမျိုးကိုယူလျှင် ဥပမာ....မာလကာသီးပေး၍ မာလကာသီးယူလျှင်၊ လိမ္မော်သီးပေး၍လိမ္မော်သီးယူလျှင်၊ အထည်ပေး၍ ထိုသို့အထည် ကိုယူလျှင် အညီအမျှဖြစ်ရန် 'ရှရတ်' အဓိကမဟုတ်ပေ၊ အပိုအလျော့ ပိုင်လေသည်၊ သို့သော် တစ်ချိန်တည်းတွင် လက်ရောက်ပေးယူခြင်းဖြစ်ရမည်။

၎င်းအကယ်၍တစ်ဘက်နှင့်တစ်ဘက်တစ်မျိုးစီ ဖြစ်နေလျှင် ဥပမာ....မာလကာသီး ပေး၍ လိမ္မော်သီးယူလျှင်၊ဂျုံပေး၍ မာလကာသီးယူလျှင် ပိုင်လေသည်၊ ပစ္စည်းတူရန်နှင့် ထိုအချိန်၌ လက်ရောက်ပေးယူကြရန် 'ဝါဂျစ်ဗ်' မလိုပေ။

(ဟေဒါယဟ်ကျမ်း၊ အတွဲ၃၊ စာမျက်နှာ ၆၃)

၃၃၊ မတ်စ်အလတ်ပြဿနာ။ ။ အားလုံးကိုခြုံ၍ ရှေ့ရမည်ဆိုလျှင် ရွှေ၊ ငွေမှအပ နှစ်ဘက်မှပစ္စည်းမှာအမျိုးတူဖြစ်၍ ချိန်တွယ်ရောင်းရလျှင် ဥပမာ....ဂျုံအစား ဂျုံ၊ ကုလားပဲအစား ကုလားပဲ စသည်ဖြစ်မူ အချိန်တူရန် 'ဝါဂျစ်ဗ်' ထိုက်လေသည်၊ ၎င်းအကယ်၍ နှစ်ဘက်မှပစ္စည်းမှာ တစ်မျိုးတည်းဖြစ်သည်၊ သို့သော်ချိန်တွယ်၍မရောင်း၊ ဥပမာ.... မာလသီးအစား မာလကာသီး၊ လိမ္မော်သီးအစား လိမ္မော်သီး၊ အထည် ပေး၍ အမျိုးတူအထည်၊ သို့မဟုတ် တစ်ဘက်မှ တစ်မျိုးဖြစ်ပြီး အခြားတစ်ဘက်မှ တစ်မျိုးဖြစ်လျှင် သို့သော် နှစ်မျိုးစလုံး ချိန်တွယ်၍ရောင်းသည်။

ဥပမာ.... ဂျုံအစားကုလားပဲ၊ ကုလားပဲအစားပြောင်းဆံ၊ဤအဖြစ်နှစ်ရပ်စလုံး တွင် အချိန်တူညီရန် 'ဝါဂျစ်ဗ်' မဟုတ်ပေ၊ အပိုလျော့ရှိလျှင်လည်း ပိုင်လေသည်၊ သို့သော် ထိုအချိန်၌ အပေးအယူပြုကြရမည်။

၎င်းအကယ်၍ တစ်မျိုးနှင့်တစ်မျိုး မတူညီလျှင် နှစ်မျိုးစလုံးလည်း ချိန်တွယ်၍ မရောင်းသော် ထိုပစ္စည်းတွင်လည်း အပိုအလျော့ရှိက ပိုင်လေသည်၊ ထိုအချိန်၌တစ်ခါ တည်း အပေးအယူရှိကြရန်လည်း မလိုပေ၊ ဥပမာ.... မာလကာသီးပေး၍ လိမ္မော်သီး ယူခြင်းမျိုး ဖြစ်လေသည်၊ ကောင်းစွာမှတ်သားကြကုန်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၄၇)

၃၄။ မတ်စ်အလတ်ပြဿနာ။ ။ ကြေးအိုး၊ ကြေးပန်းကန်ပြားတစ်ချပ်ကိုအခြား ကြေးအိုး၊ ကြေးပန်းကန်ပြားတစ်ချပ်နှင့်လဲလိုက်သည်၊ သို့မဟုတ်ကြေးပန်းကန်အတုကိုကြေးစစ် ပန်းကန်နှင့်လဲသည်ဖြစ်မူ အညီအမျှဖြစ်ရန်မလိုပေ၊ ၂-ချပ်အစား ၁-ချပ်ယူလျှင်လည်း ပိုင်လေသည်၊ ဤသို့ပင် အပ်တစ်ချောင်း ပေး၍ အပ် ၂- ချောင်း၊ ၃- ချောင်း ၄- ချောင်း ယူလျှင်လည်း ပိုင်လေသည်၊ သို့သော် ကြေးအတုပန်းကန်နှင့် ကြေးအစစ်

ပန်းကန်ခြင်းဖြစ်မှု ရှေ့မှောက်တွင် လဲလှယ်မှုဖြစ်ရမည်၊ ၎င်းအရာကယ်၏ အမျိုးမတူ ဖြစ်လျှင် ကြေးပန်းကန်အဘူနှင့် ကြေးစစ်ပန်းကန်ဖြစ်မှု ရှေ့မှောက်တွင် လဲလှယ်မှုမရှိသော်လည်း ပိုင်လေသည်။ (ရှာဖီကျမ်းအတွဲ ၄၊ စာမျက်နှာ ၂၅၀)

၃၅။ မတ်စ်အလဟ်ပြဿနာ။ ။ သင်၏အိမ်တွင်အိမ်နီးချင်းကလာ၍ ကျွန်ုပ်ထံ ဧည့်သည်ရောက်လာသဖြင့် သင်ဖုတ်ထားသော ၁၀-သား မုန့်ကိုပေးပါ၊ ဤ ၁၀-သား ၎င်းတစ်ပိဿာမုန့်ညက်၊ ၎င်းဂျုံစေ့ ယူပါဟုပြောလျှင် ပိုင်လေသည်။ (ဟေဒါယာဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၆၉)

၃၆။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ အိမ်ဖော်ကို တစ်စုံတစ်ရာ ဝယ်ခိုင်း ယူခိုင်းလျှင် နည်းလမ်းမှန်စေရန်အတွက် ဤမတ်စ်အလဟ်များကို သင်ပြခိုင်းရမည်၊ နားမလည်ဘဲယူလာပါက အတိုးဖြစ်နေလျှင် သင်မနှင့်တကွ သား၊ သမီးများပါ 'ဟရာမ်' မပိုင်သောပစ္စည်းကိုစားသည်ဖြစ်မည်၊ သင်မကြွေးသော ဥပမာ-ခင်ပွန်းနှင့် ဧည့်သည်များအတွက် 'ဂိုနာဟ်' အပြစ်မှာ သင်မခံရပေမည်၊ ထို့ကြောင့်ဤကိစ္စကို ဂရုစိုက်ကြရမည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၉)

# ဗိုင်အ်စလမ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ လယ်မရိတ်သိမ်းမီ၊ သို့မဟုတ်ရိတ်သိမ်းပြီးနောက် တစ်ဦးတစ်ယောက်ကိုငွေ ၁၀-ပေး၍ရိတ်သိမ်းပြီးနောက်ဤကျပ်ငွေ ၁၀-အစား ၂-လ၊ ၃-လ နေလျှင် မည်သည့် လ-နေ့-ရက်တွင် ဂျုံယူမည်၊ ဈေးနှုန်းလည်းသတ်မှတ်ပြီး ၁-ကျပ်လျှင် ၁၂-ပိဿာယူမည်၊ ၎င်း ၁၆-ပိဿာယူမည်ဟု သဘောတူပြောပြီးလျှင် ဤသို့ရောင်းဝယ်ခြင်း ပိုင်လေသည်။

သတ်မှတ်ထားသောရက်တွင် ၎င်းပါက်ဈေးနည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ သတ်မှတ်ထားသော အချိန်အတိုင်း ပေးရမည်၊ ဤသို့ရောင်းဝယ်မှုကိုဗိုင်အ် 'စလမ်' ဟု ခေါ်လေသည်၊ သို့သော် ဤသို့ပြုမှုခြင်းပိုင်ရန်မှာ 'ရှရတ်' အချက်များ ရှိနေသည်၊ ၎င်းအချက်များကို ကောင်းစွာမှတ်သားထားကြကုန်။

ပထမအချက် ယူသောအခါ အငြင်းမဖြစ်ကြရန် ငွေပေးစဉ်အခါက ဂျုံစသည် မည်သည့်အမျိုးအစားဟူ၍ ရှင်းလင်းတိကျစွာ ပြောပြသတ်မှတ်ရမည်၊ ဥပမာ မည်သည့်ဂျုံအစား အလွန်အမင်းအလုံး မသေးစေရ၊ မကြီးစေရ၊ အကောင်းစားဖြစ်ရမည်၊ မညံ့စေရ၊ ကုလားပဲ၊ စတော်ပဲစသည်ရောမပါစေရ၊ ကောင်းစွာခြောက်စေရမည်၊ စိုထိုင်းမနေစေရ။

အချုပ်မှာ မိမိလိုအပ်သောအချက်များကို နောင်တွင် အရှုပ်အရှင်း မဖြစ်စေရန် ပွင့်လင်းစွာထုတ်ဖော်ပြောဆိုကြရမည်၊ အကယ်၍ ထိုသို့ငွေပေးစဉ်အချိန်က ငွေတစ်ဆယ်အတွက် ဂျုံပေးပါဟူ၍သာ ပြောဆိုလျှင် မပိုင်ပေ၊ သို့မဟုတ် ၎င်းငွေတစ်ဆယ်အတွက် စပါးပေးပါ၊ ဆန်ပေးပါဟူ၍ပြောပြီး အမျိုးအစားကို မသတ်မှတ်လျှင် အားလုံးမပိုင်ဖြစ်လေသည်။

ဒုတိယအချက်....

သီးနှံ၏ဈေးနှုန်းကိုလည်း ထိုအချိန်၌ပင် သတ်မှတ်ကြရမည်၊ တစ်ကျပ်လျှင် ၁၂-ပိဿာ၊ ၁၆-ပိဿာ ယူမည်၊ အကယ်၍ ပေးမည့်အချိန်၏ ပေါက်ဈေးအတိုင်းပေးပါ၊ သို့မဟုတ် ထိုပေါက်ဈေးထက် တစ်ပိဿာ၆၀-သား ပိုပေးပါဟုပြောဆိုလျှင် မပိုင်ပေ၊ ဈေး၏ပေါက်ဈေးကို အတည်မပြုရ၊ ငွေပေးသော အချိန်တွင် ဈေးနှုန်းကို သတ်မှတ်ရမည်၊ ပေးဆပ်ရန်ရက်ပြည့်သောအခါ သတ်မှတ်ထားသည့်ဈေးအတိုင်းယူရမည်။

တတိယအချက်....

ငွေပေးသောအခါ မည်မျှငွေဖြင့် ပစ္စည်းယူလိုကြောင်း ပြောဆိုရမည်၊ ၁၀-တိုး ၂၀-တိုးဂျုံယူမည်ဟူ၍ ထုတ်ဖော်ပြောဆိုရမည်၊ အကယ်၍ ဤသို့ ထုတ်ဖော်မပြောဘဲ ပေးသောငွေအနက် အချို့တစ်ဝက် ဂျုံယူမည်ဟူ၍ပြောလျှင် မပိုင်ပေ။

စတုတ္ထအချက်....

အပေးအယူစကား ပြောကြသော အချိန်တွင် ငွေအားလုံးကို ပေးလိုက်ရမည်၊ ပြောဆိုပြီးနောက် တစ်ခြားဖြစ်ကြပြီးမှ ပေးလျှင် ပြောဆိုမှု ပျက်သွားလေသည်၊ ယခုအသစ်တဖန်သတ်မှတ်ပြောဆိုကြရမည်၊ ဤသို့ပင် အကယ်၍ ထိုအချိန်၌ ငွေ၅-ကျပ်ကိုပေးလိုက်ပြီး ၅-ကျပ်ကို နောက်မှပေးလျှင် ၅-ကျပ်မှာ အတည်ဖြစ်ပြီး ၅-ကျပ်မှာ ပျက်သွားလေသည်။

ပဉ္စမအချက်....

မိမိယူမည့်ပစ္စည်းရက်ကို အနည်းဆုံးတစ်လသတ်မှတ်ရမည်၊ တစ်လပြီးနောက် မည်သည့်ရက်နေ့တွင် ကျွန်ုပ် ဂျုံယူမည်ဟု ပြောရမည်၊ တစ်လထက်လျော့၍ ရက်ကန့်သတ်ခြင်းမပိုင်ပေ၊ လ,မည်မျှ သတ်မှတ်သည်ဖြစ်စေ ပိုင်သည်၊ သို့သော် ပေးရမည့် ရက်နေ့ကို အတိအကျ မည်သည့်ရက်၊မည်သည့်နေ့ဟုသတ်မှတ်ရမည်၊ သို့မှသာနောက်တွင် အငြင်းမပွားပေမည်၊ ယူမည့်သူက ယခုမပေး၊ ပေးရမည့်သူက မပေးနိုင်သေးဟူ၍ အငြင်းပွားနေကြပေမည် ထို့ကြောင့်အစကတည်းက အတိအကျသတ်မှတ်ရမည်၊အကယ်၍ နေ့,ရက်,လ,ကို သတ်မှတ်ခြင်းမပြု၊ ရိတ်သိမ်းပြီးပေးလျှင် ပေးပါဟုပြောဆိုရုံဖြင့်မပိုင်ပေ။

ဆဋ္ဌမအချက်....

ပေးပို့ရမည့်နေရာကိုလည်းသတ်မှတ်ရမည်၊ ဥပမာ... မည်သည့် မြို့ရွာ အရပ်ဒေသကို ပို့ရမည်၊ သို့မဟုတ် မိမိအိမ်အရောက် ပို့ပေးရမည်၊ အချုပ်မှာ- မိမိလိုရာ ဌာနကို ပို့ပေးရန် ပြောဆိုရမည်၊ ဤသို့မသတ်မှတ်လျှင်မပိုင်ပေ၊ အကယ်၍ ပစ္စည်းသည် ပေါ့ပါးသောအရာဖြစ်လျှင် ၎င်းကိုသယ်ပိုးရာ၌ အခကြေးငွေမကုန်လျှင်၊ ဥပမာ ကတိုး၊ ပုလဲစသည်ကို ဝယ်လျှင် လက်ခံယူမည့် နေရာကို ပြောပြရန် အရေးမကြီးပေ၊ တွေ့သောနေရာတွင် ပေးနိုင်ယူနိုင်သည်၊ တင်ပြပါ အချက်များနှင့်အညီ ရောင်းဝယ်မှုပြုကြလျှင် (ဗိုင်အ်စလမ်) ပိုင်လေသည်၊ သို့တည်းမဟုတ်က မပိုင်ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၀၁၊၂၀၂။
ဟေဒါယဟ်ကျမ်းအတွဲ၃-၊ စာမျက်နှာ-၆၉။
ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ ၂၂၁။

၂။ **မတ်စ်အလဟ်ပြဿနာ။** ဂျုံ စသည့်ကောက်ပဲသီးနှံများအပြင် သတ်မှတ်၍ ရသော အငြင်းဝင်စရာမရှိသော အခြားပစ္စည်းများကိုလည်း (ဗိုင်အ်စလမ်) ပြုပိုင်လေသည်၊ ဥပမာ.... ဥ၊ အုတ်၊ အထည်အလိပ်၊ သို့သော် ပြည့်စုံစွာ သတ်မှတ်မှုပြုရမည်၊ အုတ်မှာ မည်မျှ ရှည်ရ၊ကြီးရ၊ကျယ်ရမည်၊ အထည်မှာ ချည်ဖြစ်ရမည်၊ ပါးရမည်၊ ထူရမည်၊ နိုင်ငံခြားဖြစ်၊ ပြည်တွင်းဖြစ်ဖြစ်ရမည်၊ အချုပ်မှာ....နောက်တွင် အငြင်းမပွားရစေရန် အချက်အလက်ကုန်စင်အောင် သတ်မှတ်ပြောဆိုခြင်းပြုရမည်။

ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၂၃။

၃။ **မတ်စ်အလဟ်ပြဿနာ။** တစ်ကျပ်လျှင် မှော် ၅-တောင်း၊ ၅-အိတ်ကို (ဗိုင်အ်စလမ်)အဖြစ်ယူလျှင် မပိုင်ပေ၊ အိတ်နှင့်တောင်းမှာ ကွာခြားလေသည်၊ သို့သော် သတ်မှတ်၍ အချိန်နှင့်ယူလျှင် ပိုင်လေသည်။

ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၉၄၊၉၅။

၄။ **မတ်စ်အလဟ်ပြဿနာ။** (ဗိုင်အ်စလမ်)ပိုင်ရန်နည်းလမ်း(ရှရတ်)တစ်ခုမှာ သတ်မှတ်ကြသော နေ့ကစ၍ ယူမည့်ရက်ထိ ကြားကာလတွင် ထိုပစ္စည်းသည် ဈေး၌မရရှိစေရ၊ ပစ္စည်းကွယ်ပျောက်သွားကာ တိုင်းပြည်၏ဈေးများတွင်မရှိ၊အခြားနေရာမှဒုက္ခခံ၍ မှာယူနေရလျှင် (ဗိုင်အ်စလမ်) ပျက်သွားလေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၉၅။

၅။ **မတ်စ်အလဟ်ပြဿနာ။** သတ်မှတ်ကြသောအခါ လယ်ယာ ရိတ်သိမ်းပြီး မည်သည့်လ၌ ဂျုံသစ်ယူမည်၊ သို့မဟုတ် မည်သည့်လယ်မှ ဂျုံကိုယူမည်ဟုဆိုလျှင် ဤသို့ သတ်မှတ်ခြင်း မပိုင်ပေ၊ သတ်မှတ်ထားသော ရက်တွင် ငွေယူသူသည် အဟောင်းဖြစ်စေ၊

အသစ်ဖြစ်စေ ပေးပိုင်ခွင့်ရှိလေသည်၊ အကယ်၍ သတ်မှတ်ကြသောအချိန်တွင် ဂျုံသစ်ပေါ်နေလျှင် ဂျုံသစ်ဟု သတ်မှတ်ပိုင်ခွင့်ရှိလေသည်။

ဂျောင်ဟာရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၁။

၆။ မတ်စ်အလဟ် ပြဿနာ။ သင်က ငွေတစ်ဆယ်ပေး၍ ဂျုံယူရန် သတ်မှတ်ထားခဲ့သည်၊ ရက်ပိုင်းလွန်သွားသော်လည်း ၎င်းကမပေးသေး၊ ပေးမည်ဟုလည်း မျှော်လင့်ချက်မရှိ၊ သို့ရှိရာ သင်က ဂျုံမပေးပါနှင့်တော့၊ ၎င်းအစားမည်မျှ ကုလားပဲ၊ စပါးစသည် ပေးပါဟူ၍ ပြောပိုင်ခွင့်မရှိပေ၊ ဂျုံ၏အစား အခြားပစ္စည်းများကို မယူရပေ၊ ၎င်းအား ရက်ပိုင်း ထပ်၍ ပေးရမည်၊ ၎င်းဝန်ခံပေးမည်ဟူသောရက်တွင် ဂျုံယူရမည်၊ သို့တည်းမဟုတ်က မိမိငွေကို ပြန်တောင်းနိုင်သည်။

ဤသို့(ဗိုင်အ်စလမ်)ကို သင်တို့က ဖျက်ပစ်လိုက်ကြလျှင် ဂျုံမယူတော့၊ ကျွန်ုပ်ငွေ ပြန်ပေးဟုပြောလျှင်၊ ၎င်းသင်ကမဖျက် အကြောင်းခံကြောင့်ပျက်သွားလျှင်၊ ဥပမာ ထိုပစ္စည်းသည် ဈေးတွင် မရ၊ ပြတ်သွားလျှင် သင်သည် ငွေကို ပြန်ယူနိုင်သည်၊ ထိုငွေအစား အခြားပစ္စည်းတစ်ခုခုကို တောင်းခံပိုင်ခွင့်မရှိ၊ ပထမ မိမိငွေကိုပြန်ယူရမည်၊ ပြီးနောက် ၎င်းထံမှ အခြား မိမိလိုရာပစ္စည်းကို ဝယ်ယူရမည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၉၇။

အာလမ်ဂီရီကျမ်း အတွဲ-၄၊ စာမျက်နှာ-၃၄၆။

# အကြွေး ယူခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ သင် ပြန်လည်ပေးဆပ်နိုင်သော ပစ္စည်းကို ချေးယူခြင်းပိုင်လေသည်၊ ဥပမာ.... ကောက်ပဲသီးနှံ၊ ဥ၊ အသား စသည်များ ဖြစ်ပေသည်၊ ဤသို့ပင် ပြန်ပေးဆပ်ရန်မလွယ်ကူသောပစ္စည်းကို ချေးယူခြင်းမပိုင်ပေ၊ ဥပမာ.... မာလကာသီး၊ လိမ္မော်သီး၊ ဆိတ်၊ ကြက် စသည်များ ဖြစ်လေသည်။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ကျပ်လျှင် ဂျုံ ၇-ပိဿာ ရစဉ်က သင်က ဂျုံ ၅-ပိဿာချေးခဲ့လျှင်၊ ပြီးနောက် ဂျုံပေါလာပြီး တစ်ကျပ်လျှင် ၁၆-ပိဿာ ရလာသော်လည်း သင်သည် ချေးခဲ့သော ဂျုံ ၅-ပိဿာပင် ပေးဆပ်ရပေမည်၊ ဤသို့ပင် အကယ်၍ ရှားပါးသွားသော်လည်း သင်ချေးယူခဲ့သောအချိန်ပင် ပေးဆပ်ရပေမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၃၉။

၃။ မတ်စ်အလဟ် ပြဿနာ။ သင်က ဂျုံပေးခဲ့ရာ၊ ၎င်းက ထိုထက် ကောင်းသောဂျုံကို ပေးဆပ်ပါက ယူပိုင်သည်၊ အတိုးမဖြစ်ပေ၊ သို့သော် ချေးသူကို ဤထက်

ကောင်းသောဂျုံ ပေးဆပ်ရမည်ဟုမပြောပိုင်၊ ပေးဆပ်သောအချိန် အလေးချိန်တွင်သာ ပိုခြင်း မဖြစ်စေရ၊ သင်ကပို၍ ပေးခဲ့သော် မပိုင်ပေ၊ သေချာကျနစွာ ချိန်တွယ်ပေးရမည်၊ အကယ်၍အနည်းငယ် သာသာပိုပို ချိန်ပေးလိုက်လျှင် ကိစ္စမရှိပေ။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၄၁။

၄။ မိတ်စ်အလဟ်ပြဿနာ။ တစ်ဦးတစ်ယောက်ထံမှ ငွေ၊ ၎င်းကောက်ပဲသီးနှံကို တစ်လ၊ ၎င်း၁၅-ရက်တွင်ပြန်ဆပ်မည်ဟူ၍ချေးယူရာ၊ ၎င်းသူကလည်း သဘောတူလျှင် ရက်ပိုင်းကန့်သတ်မှုသည် အချည်းနှီး ၎င်းမပိုင်ဖြစ်လေသည်၊ ချေးသူက ရက်ပိုင်းမပြည့်မီ လိုအပ်၍သော်လည်းကောင်း၊ မလိုအပ်ဘဲသော်လည်းကောင်း ၎င်းကတောင်းလျှင် သင် ပေးဆပ်ရပေမည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၃၅။

၅။ မိတ်စ်အလဟ်ပြဿနာ။ သင့်က ဂျုံ၊ ၎င်းဂျုံမှုန့် စသည် တစ်ပိဿာ ၆၀-သား ချေးယူခဲ့သည်၊ ပိုင်ရှင်က ပြန်တောင်းသောအခါ ဂျုံ၊ ဂျုံမှုန့်မရှိသေး၍ ၎င်း အစား ၁၀-ပြားယူပါဟုပြောရာ၊ ၎င်းကသဘောတူပါလျှင် ထိုအချိန်၌ပင် ပေးလိုက်ရမည်၊ အကယ်၍ ပိုက်ဆံယူရန် အိမ်တွင်းသို့ ဝင်သွားလျှင်၊ ၎င်း အကြောင်းတစ်ခုခုနှင့် ထသွားလျှင် သဘောတူညီမှုပျက်သည်၊ ထပ်မံ၍ ၎င်းအစား ၁၀-ပြားယူပါဟု ပြောဆို ပေးဆပ်ရမည်။

ရှာမီကျမ်းအတွဲ၄၊ စာမျက်နှာ-၂၄၀။

၆။ မိတ်စ်အလဟ်ပြဿနာ။ ပြားစေ့ တစ်ကျပ်ဘိုးချေးယူခဲ့သည်၊ ထို့နောက် ပြားစေ့ ဈေးမြင့်သွားလျှင် ထိုဈေးမြင့်သွားသည့်အတိုင်း ပေးဆပ်ရန်မလိုပေ၊ တစ်ကျပ် ဆပ်လိုက်ရမည်၊ ကျွန်ုပ်တစ်ကျပ်တန် ချေးသည်မဟုတ်၊ ပြားစေ့ချေးသဖြင့် ပြားစေ့ဘဲ ဆပ်ရမည်ဟုချေးယူသူကပြောဆိုပိုင်ခွင့်မရှိပေ။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၂၈။

၇။ မိတ်စ်အလဟ်ပြဿနာ။ အိမ်ရှင်မများ၏ ထုံးစံတစ်ခုမှာ အခြား အိမ်မှ မုန့်ဖုတ်ပြီး ၅-ရက် ချေးယူလာတတ်ကြသည်၊ မိမိအိမ်မှာ ဖုတ်ပြီးသော် ရည်တွက်၍ သွားဆပ်ပါက ပိုင်လေသည်။ ရှရ်ဟ္ဘတ်တန်ဝီးရ်ကျမ်းအတွဲ-၄၊ စာမျက်နှာ ၂၃၀။

## သူတစ်ပါးအတွက် တာဝန်ခံခြင်း အကြောင်း

၁။ မိတ်စ်အလဟ်ပြဿနာ။ သူတစ်ဦးထံတွင် ငွေကြေးရှိနေရာ ကြားမှ ဝင်ရောက်၍ ၎င်းကမပေးလျှင်ကျွန်ုပ်ဆပ်မည်၊ ကျွန်ုပ် ဘာသာရေးလေးစားသူတစ်ယောက်ပါ ဟူ၍ ဝန်ခံကတိပြုလျှင် ငွေရှင်ကလည်း သဘောတူခဲ့သော် ယခု ထိုငွေကို ဆပ်ရန် သင့်တာဝန် ဖြစ်သွားလေသည်၊ အကယ်၍ ချေးသူကမဆပ်လျှင် သင်ကဆပ်ရပေမည်၊ ငွေရှင်သည် မိမိတောင်းခံလိုရာသူအား တောင်းပိုင်ခွင့် ရှိလေသည်၊ ချေးသူက မဆပ်သရွေ့ သို့မဟုတ် ငွေရှင် မကျေနပ်သရွေ့ ထိုငွေမှာ သင့်တာဝန်ပင် ဖြစ်လေသည်။

၎င်းအကယ်၍ ငွေရှင်က သင့်တာဝန်ခံမှုကို ပယ်ဖျက်လိုက်လျှင်သင့်ထံမှမတောင်းခံ တော့ဟုဆိုပါက သင့်တာဝန်လွတ်သွားလေသည်၊ အကယ်၍ သင်တာဝန်ယူစဉ်အခါက ငွေရှင်ကသင့်ကိုလက်မခံလျှင် သင်၏တာဝန်ခံမှုကိုမယုံကြည်၊ ၎င်းတစ်စုံတစ်ရာပြောဆိုခဲ့သော် သင်၏တာဝန်မရှိပေ။ (ကန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၂၆၉)

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၂၂)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ သင်က တစ်ဦးတစ်ယောက်အတွက် တာဝန် ယူလိုက်သည်၊ ချေးယူသူကမဆပ်နိုင်သေးသဖြင့် သင်ကဆပ်လိုက်ရလျှင် အကယ်၍ သင်က ချေးယူသူပြောသဖြင့် တာဝန်ယူခဲ့လျှင်၊ သင်ဆပ်လိုက်ရသလောက် ချေးယူသူထံမှ တောင်းယူနိုင်သည်၊ ၎င်းအကယ်၍ သင်က မိမိသဘောဖြင့် ဝင်ရောက်တာဝန်ခံလျှင် မည်သူက ပထမလက်ခံသည်ကို ကြည့်ရပေမည်၊ အကယ်၍ ငွေချေးသူက ပထမလက်ခံ ခဲ့လျှင် သင်သည် ချေးသူက တာဝန်ခံခိုင်း၍ ခံသည်ဟုယူပြီး ပေးဆပ်ရသောငွေကို ချေးသူထံမှ တောင်းယူနိုင်သည်။

အကယ်၍ ငွေရှင်က အလျှင်သဘောတူလက်ခံခဲ့လျှင် ၎င်းသင်ကပေးဆပ်လိုက် ရပါက သင်သည် ငွေချေးယူသူထံမှ မိမိစိုက်ထုတ်ပေးဆပ်လိုက်ရသောငွေကို တောင်းယူ ပိုင်ခွင့်မရှိပေ၊ သို့သော်မက သင်က၎င်းအား ကျေးဇူးပြုသည်ဟု ယူဆရမည်၊ ငွေချေးယူ သူက မိမိသဘောနှင့် သင့်အားပေးလျှင်ကား ယူနိုင်ပေသည်။

(ရှာမီကျမ်း အတွဲ ၄ စာမျက်နှာ ၃၇၇)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ငွေရှင်ကချေးယူသူကိုတစ်လ၁၅ရက် တန်သလို အခွင့်ပေးလိုက်လျှင် ငွေရှင်သည် ထိုရက်အတွင်း တာဝန်ခံသူထံမှ တောင်းပိုင် ခွင့်မရှိပေ။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၉)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ၎င်းအကယ်၍ သင်က မိမိပစ္စည်းမှပေးမည်ဟု တာဝန်မယူ၊ သည်မျှမက ထိုချေးယူသူ၏ငွေ သင့်ထံအပ်နှံထားသည်၊ ထို့ကြောင့်သင်က ကျွန်ုပ်ထံ ထိုသူ၏ အပ်နှံထားသောငွေရှိသည်၊ ထိုငွေကိုပေးမည်ဟုပြောကာ ပေးလိုက် သည်၊ ထို့နောက် ထိုငွေမှာ သူခိုးအခိုးခံရလျှင်၊ သို့မဟုတ် တစ်နည်းနည်းနှင့် ပျောက် ပျက်သွားလျှင် သင်၏တာဝန်မဟုတ်တော့၊ သင်ကပြန်ဆပ်ရန်မလို၊ ၎င်းကလည်း သင့်ထံမှ ပြန်မတောင်းနိုင်ပေ။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၁)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်နေရာသို့သွားရန်အတွက်သင်ကမြင်းလှည်း ငှားသည်၊ တစ်ဦးသောသူကဝင်၍ဤသူပို့မပေးပါကကျွန်ုပ်ပို့ပေးမည်ဟုတာဝန်ယူလျှင် ပိုင်လေသည်၊ အကယ်၍ ၎င်းကပို့မပေးပါက တာဝန်ယူသူက လိုက်ပို့ပေးရမည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၁၀၄)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ သင်ကမိမိပစ္စည်းတစ်ခုကို တစ်ဦးတစ်ယောက်သောသူအား ရောင်းချယူခဲ့ရန်ပေးလိုက်သည်၊ ထိုသူကရောင်းတော့ရောင်းခဲ့သည်၊ သို့သော် အဖိုးငွေကို မယူခဲ့၊ ငွေဘယ်မှ မရောက်ပါ၊ ဒီအတွက် ကျွန်တော် တာဝန် ယူပါသည်၊ ဝယ်သူက မပေးလျှင် ကျွန်တော် ပေးပါမည်ဟု ပြောဆိုလျှင် ဤသို့ တာဝန်ယူခြင်း မပိုင်ပေ။ (ရှာမီကျမ်းအတွဲ ၄၊ စာမျက်နှာ ၃၇၅)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူက သင်၏ကြက်ဤလှောင်အိမ်ထဲ ဆားလိုက်ပါ၊ ကြောင်ချီသွားလျှင် ကျွန်ုပ်လျော်မည်ဟုပြောလျှင်၊ ၎င်းဆိတ်ကို စံပုလွေချီသွားလျှင် ကျွန်ုပ်လျော်မည်ဟူ၍ ပြောဆို တာဝန်ယူခြင်းများ မပိုင်ပေ။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၀)

၈။ မတ်စ်အလဟ်ပြဿနာ။ ။ အရွယ် မရောက် သေးသောယောကျ်ားလေး၊ မိန်းကလေး တို့သည် တစ်ဦးတစ်ယောက် အတွက် တာဝန်ယူမှု၊ ထိုတာဝန်ယူခြင်းသည် မပိုင်ဖြစ်လေသည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၄၉)

# ကြွေးငွေ လွှဲပြောင်းခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ 'ရှဖီအာ' က သင်မထံ အကြွေးရှိသည်၊ ၎င်း 'ရာပေအာ' ထံသင်မ၏အကြွေးရှိသည်၊ ရှဖီအာက သင်မထံ အကြွေးတောင်းသောအခါ သင်မက ရာပေအာထံအကြွေးရှိသည်၊ ထိုငွေကိုတောင်းယူလိုက်ပါ၊ ကျွန်မထံ မတောင်းပါနှင့်ဟုပြောရာ ထိုအချိန်၌ ရှဖီအာက သဘောတူသွားလျှင် ၎င်းရာပေအာကလည်း လွှဲပြောင်းမှုကို သဘောတူခဲ့သော်ရှာဖီအာ၏ကြွေးသည် သင်မအပေါ်မှ တာဝန်ကျသွားလေသည်၊ ယခုရှဖီအာသည် သင်မထံမှမတောင်းနိုင်တော့ပေ၊ ရာပေအာထံမှသာ တောင်းနိုင်ပေသည်။

၎င်းသင်မက ရှဖီအာကို လွှဲပြောင်းလိုက်သောငွေကို ရာပေအာထံမှ မတောင်းနိုင်ပေ၊ သို့သော် အကယ်၍ ရာပေအာထံ သင်မက လွှဲပြောင်းပေးသည်ထက်အကြွေးပိုရှိခဲ့သော် ထိုပိုနေသောငွေကိုသာတောင်းနိုင်သည်၊ ထို့နောက် ရာပေအာက ရှဖီအာကို ပေးဆပ်လိုက်လျှင် ကောင်းလေစွ၊ အကယ်၍ မပေးဆပ်ဘဲ သေဆုံးသွားလျှင် ကျန်ပစ္စည်းကိုရောင်းချ၍ ရှဖီအာကို ဆပ်ရမည်၊ ၎င်းအကယ်၍ အကြွေးဆပ်နိုင်လောက်အောင် ပစ္စည်းတစ်စုံတစ်ရာ မကျန်ခဲ့လျှင် သို့မဟုတ် ရှင်နေစဉ်ကပင် ကျိန်တွယ်၍၎င်းထံ အကြွေးမရှိကြောင်း ငြင်းဆိုလျှင်၊ သက်သေလည်း မပြနိုင်ပါက ရှဖီအာသည် သင်မထံမှတောင်းနိုင်သည်၊ မိမိအကြွေးကို သင်မထံမှ ယူနိုင်သည်၊ ၎င်းအကယ်၍ သင်မက

လွှဲပြောင်းပေးသည်ကို ရှဖီအာက ရာဗေအာထံမှယူရန် သဘောမတူလျှင်၊ ၎င်းရာဗေအာက ရှဖီအာကို မပေးလိုမူ ကြွေးငွေသည် သင်မအပေါ်၌ပင် တင်ရှိနေပေသည်။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၂၇၄)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ ရာဗေအာသည် သင်မ၏ကြွေးရှိသူ မဟုတ်သို့သော်လည်း သင်မက ရာဗေအာအပေါ် လွှဲပြောင်းလိုက်၍ ရာဗေအာနှင့် ကြွေးရှင်ရှဖီအာတို့က သဘောတူကြလျှင် ရှဖီအာ၏ကြွေးသည် သင်မအပေါ်မှ ကျဆင်း၍ ရာဗေအာ အပေါ်သို့ တင်သွားလေသည်၊ ထို့ကြောင့် ဤအမိန့်သည် အထက်အပိုဒ်တွင်ဖေရးခဲ့သော ဥပဒေစည်းမျဉ်းအတိုင်းဖြစ်လေသည်၊ ရာဗေအာသည် ပေးလိုက်ရသောငွေကို သင်မထံမှယူရမည်၊ မပေးဆပ်ရသေးမီ သင်မထံမှ တောင်းယူပိုင်ခွင့် မရှိပေ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၁၈)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ ရာဗေအာထံ သင်မကအပ်နှံထားသည်၊ ထို့ကြောင့် သင်မက ရှဖီအာ၏ကြွေးကို ရာဗေအာအပေါ် လွှဲပြောင်းလိုက်သည်၊ ထို့နောက် ထိုငွေသည် ပျောက်ပျက်သွားပါက ရာဗေအာ တာဝန်မရှိပေ၊ သည့်မျှမက ရှဖီအာက သင်မထံမှ တောင်းရမည်၊ ရာဗေအာထံမှ တောင်းယူပိုင်ခွင့် မရှိတော့ပေ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၄၀၇)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ရာဗေအာအပေါ်မှာရှိသောကြွေးကိုတာဝန်ယူပြီးနောက် သင်မကပင်ထိုကြွေးကို ရှဖီအာအား ဆပ်လိုက်လျှင်ပိုင်လေသည်၊ သင်မထံမှ မယူ၊ ရာဗေအာထံမှယူမည်ဟူ၍ ရှဖီအာက ပြောဆိုပိုင်ခွင့်မရှိပေ။

(ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၂၉၇)

## တစ်ဦးတစ်ယောက်အား ကိုယ်စားလှယ်လွှဲခြင်း

### အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ အကြင်အလုပ်တစ်ခုခုကိုလူသားသည်ကိုယ်တိုင်လုပ်ဆောင်နိုင်စွမ်းရှိပါလျက် ကျွန်ုပ်၏အလုပ်ကို လုပ်ပေးပါဟူ၍ ခိုင်းစေနိုင်လေသည်၊ ဥပမာဆိုသော်.... ရောင်းခြင်း၊ ဝယ်ခြင်း၊ အငှားပေးခြင်း၊ ယူခြင်း၊ လက်ထပ်ခြင်း စသည်များ ဖြစ်လေသည်၊ ဥပမာ... အိမ်ဖေါ်ကို ပစ္စည်းဝယ်ရန်ဈေးသို့ လွှတ်လိုက်သည်၊ သို့မဟုတ် အိမ်ဖော်အား ပစ္စည်းတစ်ခုခုရောင်းခိုင်းသည်၊ သို့မဟုတ် မြင်းလှည်းအငှားခိုင်းသည်၊ အလုပ်တစ်ဆင့် ခိုင်းစေခြင်းဖြင့် ရှရီအတ် တရားတော်မြတ်တွင် (ဝကီလ်) ကိုယ်စားလှယ်ဟုခေါ်လေသည်၊ အိမ်ဖော်၊ ၎င်းအစေခံကို ကုန်ပစ္စည်းဝယ်ရန်စေလွှတ်လျှင် ထိုသူသည် သင်၏ (ဝကီလ်) ကိုယ်စားလှယ်ဟု ခေါ်ဆိုရမည်။

(ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၃၀၀)

၂။ မတ်စ်အလတ်ပြဿနာ။ ။ သင်ကအိမ်ဖော်ကို အသားယူခိုင်းရာ ၎င်းက အကြွေးယူလာသည်၊ ထိုအသားဖိုးကို ပစ္စည်းရှင်က သင့်ထံမှ တောင်းပိုင်ခွင့်မရှိ၊ အိမ်ဖော်ထံမှသာ တောင်းရမည်၊ အိမ်ဖော်က သင့်ထံမှတောင်းရမည်၊ ဤသို့ပင် သင်က အိမ်ဖော်ကို ပစ္စည်းတစ်ခုခု အရောင်းခိုင်းလျှင် ငွေမပေးရသေးပါက သင်က ဝယ်သူထံမှ အဖိုးငွေကို တောင်းပိုင်ခွင့်မရှိ၊ ပစ္စည်း လာရောင်းသူက ကိုယ်တိုင် သင့်အား အဖိုးငွေပေးရမည်၊ အကယ်၍ ဝယ်သူက ကိုယ်တိုင် သင့်အား အဖိုးငွေပေးလျှင် ပိုင်သည်၊ ဆိုလိုသည်မှာ....၎င်းက ငွေကို သင့်အားမပေးလိုက သင်သည် အဓမ္မတောင်းပိုင်ခွင့်မရှိ ဟူ၏။ (ကာန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ ၃၀၁)

၃။ မတ်စ်အလတ်ပြဿနာ။ ။ အိမ်ဖော်အား သင်က ပစ္စည်းတစ်ခုခုအယူခိုင်းသည်၊ ထိုသူကယူလာပြီး သင်က ၎င်းအားငွေမပေးသေးရွေ့၊ သင့်အားပစ္စည်းမပေးသေးဘဲ နေနိုင်သည်၊ ၎င်းကငွေစိုက်ပေး၍ယူလာသည်ဖြစ်စေ၊ မပေးဘဲယူလာသည်ဖြစ်စေ အမိန့်အတူတူပင်ဖြစ်သည်၊ သို့သော် အကယ်၍ ထိုသူက ၅-ရက်၊ ၁၀ရက်ဆိုင်းဖြင့် ယူလာသော် ထိုရက်မပြည့်မီ သင့်ထံမှ အိမ်ဖော်က ငွေတောင်းပိုင်ခွင့်မရှိပေ။

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၅၅၉)

၄။ မတ်စ်အလတ်ပြဿနာ။ ။ သင်ကအသား ၈၀-သားအယူခိုင်းသည်၊ အိမ်ဖော်က ၁-ပိဿာ ၂၀-သားယူလာသည်ဖြစ်မူ သင့်မှာအားလုံးယူရန်တာဝန်မရှိ၊ မယူလိုက ကျန် ၄၀-သားကို ၎င်းကယူရမည်။ (အာလမ်ဂီရီကျမ်း အတွဲ ၄၊ စာမျက်နှာ ၅၇၄)

၅။ မတ်စ်အလတ်ပြဿနာ။ ။ သင်က တစ်ဦးတစ်ယောက်ကို မည်သူ၏ထံမှ ဆိတ်ကို ငွေ ၂-ကျပ်နှင့်ဝယ်ခဲ့ပါဟုပြောလိုက်လျှင် ထိုကိုယ်စားလှယ်သည် ထိုဆိတ်ကိုမိမိအတွက် ဝယ်ယူပိုင်ခွင့်မရှိပေ၊ အချုပ်မှာ သင်က သီးခြား၍ သတ်မှတ် ပြောလိုက်သော် ထိုပစ္စည်းကို ၎င်းကမိမိအတွက် မဝယ်ပိုင်ပေ၊ သို့သော် သင်ပြောလိုက်သောဈေးနှုန်းထက်ပို၍ကား မိမိအတွက် ဝယ်ယူနိုင်သည်၊ ၎င်းအကယ်၍ သင်ကဈေးကန့်သတ် မပေးလိုက်လျှင် မည်သည့်နည်းနှင့်မှ မိမိအတွက် ဝယ်ယူပိုင်ခွင့်မရှိပေ။

(ကာန်ဇုဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ- ၃၀၃)

(ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၅၆၀)

၆။ မတ်စ်အလတ်ပြဿနာ။ ။ သင့်က မည်သည့်ဆိတ်ဟူ၍ တစ်သီးတစ်ခြား ဖော်ပြခြင်းမပြု၊ ဆိတ်တစ်ကောင် ရလိုသည်၊ ဝယ်ပေးပါဟုပြောလျှင် မိမိအတွက်ဝယ်ယူနိုင်သည်၊ မိမိကြိုက်ရာဝယ်၍ သင့်အတွက်လည်းလိုရာဝယ်ပေးနိုင်သည်၊ အကယ်၍ ၎င်းယူရန်ဆန္ဒဖြင့်ဝယ်သော် ၎င်းပိုင်ဖြစ်၏၊ သင့်အတွက် (နိယတ်) ဆန္ဒဖြင့်ဝယ်လျှင် သင်ပိုင်ဖြစ်လေသည်၊ ၎င်းအကယ်၍ သင်ပေးလိုက်သောငွေဖြင့်ဝယ်ခဲ့သော်မည်သို့ (နိယတ်)ဆန္ဒထားသည်ဖြစ်စေ သင်ပိုင်ဖြစ်လေသည်။ (ရှာမီကျမ်းအတွဲ ၄၊ စာမျက်နှာ ၅၆၀)

၇။ မတ်စ်အလယ်ပြဿနာ။ သင့်အတွက် တစ်ဦးတစ်ယောက်က ဆိတ်ဝယ်ခဲ့သည်၊ သင့်ကို မပေးရသေးမီ ၎င်းဆိတ်သေသွားသည်၊ သူခိုးအခိုးခံရသည်ဖြစ်မူ ထိုဆိတ်တန်ဘိုးကို သင်ကပေးရပေမည်၊ အကယ်၍ သင်က ဤဆိတ်ကို ကျွန်ုပ်အတွက်ဝယ်လာသည်မဟုတ်၊ မိမိအတွက်သာ ဝယ်လာခြင်းဖြစ်သည်ဟုပြောလျှင် ကြည့်ရမည်မှာ- သင်က ၎င်းဆိတ်အတွက် ငွေပေးလိုက်ပြီးသော် ထိုဆိတ်သည်သင့်ဆိတ်ဖြစ်သည်၊ ၎င်းသင်က ငွေမပေးရသေးလျှင် ၎င်းက ငွေတောင်းသော် သင်က(ကဆမ်)ကျိန်ဆို၍၊ သင်သည် မိမိအတွက်သာ ဝယ်ခြင်းဖြစ်သည်ဟုဆိုပါက ထိုဆိတ်သည် ဝယ်လာသူပိုင်ဖြစ်သည်၊ ၎င်းအကယ်၍သင်က(ကဆမ်)ကျိန်ဆိုခြင်းမပြုနိုင်လျှင် ၎င်းပြောသည်ကို လက်ခံရမည်။
ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၆၇။

၈။ မတ်စ်အလယ်ပြဿနာ။ အစေခံအိမ်ဖော်က ပစ္စည်းတစ်ခုခုကို ဈေးကြီးပေး၍ ဝယ် လာ လျှင် အကယ်၍ အနည်းငယ် ဈေးကွာနေသော် သင် ယူရပေမည်၊ ၎င်းဈေးမှာကြီးမြင့်လွန်း၍ မည်သူမျှမဝယ်သောဈေးဖြစ်လျှင် သင်က မယူဘဲနေနိုင်သည်၊ သင် မယူပါက ဝယ်လာသူက ယူရပေမည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၅၆၁။

၉။ မတ်စ်အလယ်ပြဿနာ။ သင်က တစ်ဦးတစ်ယောက်ကိုပစ္စည်းတစ်ခုခုရောင်းချရန် ပေးလိုက်လျှင်၊ ၎င်းသူသည် သင့်အား အဘိုးငွေပေး၍ ကိုယ်တိုင်ယူဖို့ခွင့်မရှိ၊ ဤသို့ပင်မည်သည့်ပစ္စည်းဝယ်ယူခဲ့ပါဟုယူခိုင်းလိုက်သော် ၎င်းသူကမိမိထံရှိသောပစ္စည်းကို သင့်အားမပေးပိုင်၊ အကယ်၍ မိမိထံရှိသောပစ္စည်းကိုပေးလိုသော် သို့မဟုတ် ကိုယ်တိုင်ယူလိုသော် ရှင်းရှင်းပြောဆိုကြရမည်၊ ဤပစ္စည်းကို ကျွန်ုပ် ယူလိုသည် ကျွန်ုပ်ပေးပါ၊ ကျွန်ုပ်၏ပစ္စည်းကို မည်မျှဈေးဖြင့်ယူပါဟု ပြောဆိုကြရမည်၊ ဤသို့ ရှင်းလင်းစွာ မပြောဆိုဘဲ မပြုလုပ်ကြရပေ။ အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၅၇၉။

၁၀။ မတ်စ်အလယ်ပြဿနာ။ သင်ကအိမ်ဖော်အားဆိတ်သားမှာသည်၊ ၎င်းက အမဲသားယူလာမူ သင်သည် ယူလိုကယူ မယူလိုက မယူဘဲနေနိုင်သည်၊ ဤသို့ပင်သင်က အာလူးမှာသည်၊၎င်းက ရုန်းပတေသီး၊အခြားတစ်စုံတစ်ရာယူလာမူ သင်ယူချင်မှယူရမည်၊ မယူပါက၎င်းကိုယ်တိုင်ယူရမည်။ ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၅၆၃။

၁၁။ မတ်စ်အလယ်ပြဿနာ။ သင်က ပစ္စည်းတစ်ခုခုကို ပိုက်ဆံတစ်ပြားဘိုးဝယ်ခိုင်းသည်၊ ၎င်းက နှစ်ပြားဘိုးဝယ်လာပါက တစ်ပြားဘိုးသာယူပြီး ကျန်တစ်ပြားဘိုးကို ၎င်းအပေါ် ပုံချလိုက ပုံချနိုင်သည်။ အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၉၇။

၁၂။ မတ်စ်အလယ်ပြဿနာ။ သင်က ပစ္စည်းတစ်ခုခုကိုဝယ်ရန် လူ၂-ယောက်ကို လွှတ်လိုက်လျှင် ဝယ်ယူသော အခါ ၂-ယောက်စလုံး အသင့် ရှိနေကြရပေမည်၊

တစ်ယောက်တည်း ဝယ်ခြင်းမပိုင်ပေ၊ ထိုသို့ တစ်ယောက်တည်းဝယ်ယူခြင်းမှာ (ဗိုင်အ်မောင်ကူးဖ်) မတင်မကျရှိနေသည်၊ သင်က လက်ခံမှသာလျှင် ပိုင်သွားလေသည်။

အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၆၃၄။

၁၃။ မတ်စ်အလတ် ပြဿနာ။ သင်က တစ်ဦးတစ်ယောက်အား နွားတစ်ကောင်၊ ဆိတ်တစ်ကောင်၊ သို့မဟုတ် တစ်ခုခုကိုဝယ်ပေးရန်ပြောသည်၊ ၎င်းက ကိုယ်တိုင်မဝယ်ဘဲ အခြားတစ်ဦးအားတဆင့်အဝယ်ခိုင်း၍ပေးလျှင် သင့်အနေနှင့်ယူချင်မှယူရမည်၊ သို့သော် ထိုသူကိုယ်တိုင်က ဝယ်လာလျှင် ယူရပေမည်။

ကိုဒူရီကျမ်း စာမျက်နှာ-၁၀၀။

# ကိုယ်စားလှယ်ကို ဖျက်သိမ်းခြင်း အကြောင်း

(ဝကီလ်)ကိုယ်စားကို အချိန်မရွေး သင်က ပယ်ဖျက်နိုင်သည်၊ ဥပမာ.... သင်က ကျွန်ုပ် ဆိတ်တစ်ကောင်အလိုရှိသည်၊ တစ်နေရာရာမှတွေ့လျှင် ဝယ်ပေးပါဟုပြောသည်၊ ထိုနောက် မဝယ်နှင့်တော့ဟုတားမြစ်လိုက်သည်၊ ထိုအခါ ၎င်းသည် သင့်အတွက် ဝယ်ပေးပိုင်ခွင့်မရှိတော့ပေ၊ အကယ်၍ တားပါလျက် ဝယ်လာလျှင် ၎င်း၏တာဝန်ပင် ဖြစ်သည်၊ သင်က ယူရန်မလိုပေ။

၁။ မတ်စ်အလတ် ပြဿနာ။ ကိုယ်တိုင် ၎င်းသူကို မဝယ်တော့ရန်တားမြစ်ခြင်း မပြု၊ သို့သော် စာရေး၍သော်လည်းကောင်း၊ လူလွှတ်၍သော်လည်းကောင်း မဝယ်ရန် တားမြစ်လိုက်မှု ၎င်းသည် ကိုယ်စားအဖြစ် ပျက်သွားလေသည်၊ ၎င်းအကယ်၍ သင်က အကြောင်းမကြား၊ တစ်ဦးသောသူက ၎င်းဘာသာ သင့်ကို မည်သူက ကိုယ်စားအဖြစ်မှ ရပ်စဲလိုက်သည်။

၎င်းပစ္စည်းကို မဝယ်တော့နှင့်ဟုပြောမှု သို့ရှိရာ ထိုသို့ပြောသူသည် နှစ်ဦးဖြစ်စေ၊ တစ်ဦးတည်းဖြစ်စေ၊ ယုံကြည်စိတ်ချရသည့် တရားတော်ကို လေးစားကျင့်သုံးသူ ဖြစ်က ၎င်းကိုယ်စားလှယ်သည် ရပ်စဲသွားတော့သည်၊ ၎င်းအကယ်၍ ဤသို့စိတ်ချရသူမဟုတ်က ၎င်းရပ်စဲခြင်းမခံရသေး၊ ဝယ်လာသောပစ္စည်းကို သင်ယူရပေမည်။

ဟေဒါယဟ်ကျမ်းအတွဲ၃-၊ စာမျက်နှာ-၁၃၆။

သို့သော် ဤသူနှစ်ဦးသည် ရှရီအတ်တရားတော်မြတ်အရ ယုံကြည်ရသူဖြစ်ရမည်၊ အကယ်၍ သတင်းစကားပြောသူသည် ကာဖွင်ရ်၊ ၎င်း မိန်းမ၊ အစေခံကျွန်မ၊ အရွယ်မရောက်သေးသော ကလေးဖြစ်မှု ထိုသူများ၏ စကားကို မယုံကြည်ရပေ၊ (ဝကီလ်) ကိုယ်စားလှယ်သည် ကိုယ်စားလှယ်အဖြစ်ပင် တည်ရှိနေပေသည်။

ဤသို့ပင် အကယ်၍ သတင်းပေးသူသည် 'ရှရီအတ်' တရားတော်မြတ် အရ ယုံကြည်စိတ်ချရသူတစ်ယောက်ဖြစ်မှုလည်း ၎င်းသည် မိန်းမမဖြစ်စေရ၊ အရွယ်မရောက်သေးသော ကလေး၊ ၎င်းငွေဝယ်ကျွန် မဖြစ်စေရ။

# မို့သွာရဗတ်၊တစ်ဦးက ငွေပေး၍ တစ်ဦးကအလုပ်လုပ်ခြင်း အကြောင်း

၁။ **မတ်စ်အလဟ် ပြဿနာ။** သင်ကရောင်းဝယ်ရန်အတွက်တစ်ဦးတစ်ယောက်ကို ငွေရင်း ထုတ်ပေးသည်၊ ဤငွေဖြင့် ရောင်းဝယ်ကုန်၊ အမြတ်ရလျှင် ခွဲယူမည်ဟု ပြော၍ ထုတ်ပေးလျှင်ပိုင်လေသည်၊ ဤသို့တစ်ဦးက ငွေရင်းထုတ်ပေး၍ တစ်ဦးက အလုပ်လုပ်သည်ကို ရှရီအတ်တရားတော်တွင် (မို့သွာရဗတ်)ဟု ခေါ်လေသည်။

သို့သော် ဤသည်ပိုင်ရန်မှာ (ရှရတ္တ) ပညတ်ချက်များရှိသည်၊ ထိုအချက်များနှင့် ကိုက်ညီမှသာ ပိုင်သည်၊ သို့တည်းမဟုတ်က မပိုင်ပေ။

၁။ ပေးမည့်ငွေကို ပြောပြရမည်၊ ရောင်းဝယ်ရန်အတွက် ပေးလိုက်ရမည်၊ မိမိလက်ဝယ်သို့ငွေမထားရ၊ အကယ်၍ငွေကိုမပေးဘဲ မိမိလက်တွင်ပင်ထားပါက ဤသဘောတူညီမှု ပျက်လေသည်။

၂။ သင်မည်မျှယူ၍၊ ၎င်းကမည်မျှအမြတ်ရမည်ကိုခွဲဝေ သတ်မှတ်ရမည်၊ ဤသို့အတိအကျ သတ်မှတ်မှုမပြုဘဲ အမြတ်ကို ခွဲယူတာပေါ့ဟုဆိုလျှင် မပိုင်ပေ။

၃။ ခွဲဝေရာ၌ အမြတ်တွင် ၁၀-ကျပ် ကျွန်ုပ်ယူမည်၊ ကျန်အမြတ်ကို သင်ယူ၊ သို့မဟုတ် ၁၀ကျပ်ကို သင်ယူ၊ ကျန်အမြတ်ကို ကျွန်ုပ်ယူမည်ဟူ၍ သတ်မှတ်ခြင်း မပြုရ၊ အချုပ်မှာ ငွေအရည်အတွက်ဖြင့် သတ်မှတ်ခြင်းမပြုရ၊ သတ်မှတ်ရမည်မှာ အမြတ် ထက်ဝက်စီ၊ သို့မဟုတ် သုံးပုံနှစ်ပုံ ယူမည်၊ သို့မဟုတ် လေးပုံသုံးပုံ ယူမည် ဟူ၍ အပုံကျဖြင့် သတ်မှတ်ခြင်းပြုရမည်၊ သို့တည်းမဟုတ်ပါက ပျက်သွားမည်။

အကယ်၍ ရောင်းဝယ်ရာတွင် မြတ်စွန်းပါက အလုပ်လုပ်သူသည် မိမိဝေစုရမည် ဖြစ်သည်၊ အမြတ်အစွန်းမရှိခဲ့သော် လုံးဝမရပေ၊ အမြတ်အစွန်းမရှိသော်လည်း ငွေရင်းထဲမှ ကျွန်ုပ် သင့်ကို မည်မျှပေးမည်ဟု (ရှရတ္တ) သတ်မှတ်ခြင်းပြုလျှင် မပိုင်ပေ၊ ဤသို့ပင် အကယ်၍ ဆုံးရှုံးခြင်းဖြစ်မှု၊ အလုပ်လုပ်သူ၏ တာဝန်၊ သို့မဟုတ် နှစ်ဦးခံရမည်ဟု သတ်မှတ်ခြင်း ပြုလျှင်လည်း မပိုင်တော့ပေ၊ သည်မျှမက ရောင်းဝယ်ရာတွင် ဆုံးရှုံးမှုဖြစ်ပါက အလုပ်လုပ်သူနှင့်မဆိုင်၊ ငွေထုတ်သူသာ အဆုံးခံရမည် ဖြစ်သည်။

ကန်ဇွဒ်ဒကာအစ်က်ကျမ်း စာမျက်နှာ-၃၂၄။
ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၂၄၂၊၂၅၀။
ကို့ဒူရီကျမ်း စာမျက်နှာ-၁၀၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ပေး လိုက် သော ငွေ ၎င်းသူ ထံ ရှိနေသေးပြီး ပစ္စည်းမဝယ်ရသေးလျှင် ငွေထုတ်ပေးသူက ဖျက်သိမ်းပြီး ငွေကိုပြန်တောင်းယူနိုင်သည်၊ ၎င်းထိုသူက ပစ္စည်းဝယ်ပြီးနေလျှင် ဖျက်သိမ်း၍ ငွေပြန်တောင်းယူပိုင်ခွင့် မရှိတော့ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၅၀။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ သင်နှင့် အတူ ကျွန်ုပ်က သော်လည်းကောင်း၊ ကျွန်ုပ်၏လူတစ်ယောက်ကသော်လည်းကောင်း အလုပ်လုပ်မည်ဟုသတ်မှတ်ခြင်း ပြုလျှင် ပျက်လေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ-၂၄၃။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးနှင့်တစ်ဦး အပေးအယူပိုင်သွားပြီး တရားတော်မြတ်နှင့် ကွဲလွဲသည့် သတ်မှတ်မှုများ မပါရှိလျှင် ပေါ်ထွက်လာသော အမြတ်မှာ နှစ်ဦးပိုင် ဖြစ်လေသည်၊ သတ်မှတ် သဘောတူထားကြသည့်အတိုင်း ခွဲဝေ ယူကြရမည်၊ အကယ်၍အမြတ်မရ အရှုံးပေါ်လျှင် အလုပ်လုပ်သူမှာ မည်သည်မျှမရ၊ အရှုံးအတွက် ငွေထုတ်ပေးသူကို လျော်ရန်လည်း မလိုပေ။

အကယ်၍ အပေးအယူတွင် တရားတော်နှင့် ကွဲလွဲမှုရှိသဖြင့် ပျက်ပြားသွားသော် အလုပ်လုပ်သူသည် အမြတ်အစွန်းတွင် ပိုင်ဆိုင်ခွင့်မရှိ၊ ထိုသူသည် လုပ်သားတစ်ယောက်သာလျှင် ဖြစ်သွားတော့သည်၊ ဤသို့သောသူကို လစနှင့်ထားပါက မည်မျှပေးရသည်ကို ကြည့်ပြီးထိုသူ အားလခပေးလိုက်ရမည်၊ အရောင်းအဝယ်မှမြတ်သည်ဖြစ်စေ၊ မမြတ်သည်ဖြစ်စေ ၎င်းအား လခ ပေးရမည်၊ အမြတ် ပေါ်သည်များကို ငွေထုတ်ပေးသူကသာ ပိုင်ဆိုင်သည်၊ သို့ရာတွင် အကယ်၍ အမြတ်ကို ခွဲပေးရသည်ထက် လခ ပေးခြင်းမှာ ငွေပိုများနေလျှင် လခမပေးဘဲ အမြတ်မှ ခွဲပေးလိုက်ရမည်။

ကန်ဇုဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ- ၃၄၀။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။

မှတ်ချက်။ ဤသို့ ရောင်းဝယ်မှုများသည် အမျိုးသမီးများ နှင့် သက်ဆိုင်မှုနည်းပါးသည့်အတွက် ဤမျှနှင့်ပင် နိဂုံးချုပ်လိုက်ပါသည်၊ ဤသို့သော 'မတ်စ်အလဟ်' ပြဿနာများ ပေါ်ပေါက်ခဲ့သော် တတ်သိနားလည်သော 'အာလင်မ်' သာသနာ့ပညာရှင်များအား မေးမြန်း၍ ပြုမူကြကုန်။

# အပ်နှံခြင်း နှင့် သုံးစွဲခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူက သင့်ထံ တစ်စုံတစ်ရာအပ်နှံသည်၊ သင်က လက်ခံ ယူလိုက်မှု ယခု ထိုပစ္စည်းကို ထိန်းသိမ်းရန် သင့်အပေါ် (ဝါဂျစ်ဗ်) ထိုက်သက်သွားလေသည်၊ အကယ်၍ ထိန်းသိမ်း စောင့်ရှောက်ရာတွင် ပေါ့ဆမှု ပြု၍ ထိုပစ္စည်း ပျက်စီး ပျောက်ဆုံးသွားပါက လျော်ရပေမည်၊ သို့ရာတွင် ထိန်းသိမ်းရာ၌ ပျက်ကွက်မှုမရှိသော်လည်း ပျောက်ပျက်သွားသည်။

ဥပမာ.... သူခိုးအခိုးခံရသည်၊ အိမ်မီးလောင်ရာတွင်ပါသွားသည်ဖြစ်မှု အပ်သူက လျော်ကြေး မတောင်းခံနိုင်ပေ၊ သည်မျှမက အပ်သော အချိန်တွင် ပျောက်ဆုံးသွားပါကလည်း တာဝန် ယူသည်၊ လျော်မည်ဟု ဝန်ခံသော်လည်း အထက်ပါ အတိုင်း ပျောက်ဆုံးသွားပါက လျော်ကြေးတောင်းပိုင်ခွင့်မရှိပေ၊ ထိန်းသိမ်းသူက မိမိသဘောနှင့် ပေးဆပ်လျှင်ကား ယူနိုင်လေသည်။ ၂၈ ဟေဒါယာဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၂၇၁။
ကို့ဒူရီကျမ်း စာမျက်နှာ-၁၂၄။

၂။ မတ်စ်အလဟ် ပြဿနာ။ ကျွန်ုပ် သွားစရာကိစ္စရှိသဖြင့် ကျွန်ုပ်၏ ပစ္စည်းကိုခဏထားခဲ့ပါရစေဟု တစ်ဦးသောသူကပြောရာ၊ သင်က ထားပါဟုခွင့်ပေးလိုက်သည်ဖြစ်စေ၊ သို့မဟုတ် မည်သို့မျှအဖြေမပေး၊ ၎င်းက သင့်ထံထားသွားလျှင် ၎င်းပစ္စည်းသည် အပ်နှံသောပစ္စည်း ဖြစ်သွားလေသည်၊ သို့သော် အကယ်၍ သင်ကငြင်းဆန်သည်၊ တစ်ဦးဦးထံ ထားသွားပါဟု ပြောသည်၊ တစ်စုံတစ်ရာ ပြော၍ ငြင်းပယ်လိုက်သော်လည်း ၎င်းကထားသွားလျှင်၎င်းပစ္စည်းကိုထိန်းသိမ်းရန် သင့်မှာတာဝန်မရှိပေ၊ သို့သော် အကယ်၍ ၎င်းကထားသွားသည်ကို သင်ကယူ၍တစ်နေရာမှတစ်နေရာသို့ ယူထားလိုက်လျှင် အပ်နှံသောပစ္စည်းဖြစ်သွားလေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၈၁။

၃။ မတ်စ်အလဟ် ပြဿနာ။ လူအများ ထိုင်နေသည်တွင် အပ်နှံသွားလျှင် ပစ္စည်းကို ထိန်းသိမ်းရန် အားလုံးအပေါ် (ဝါဂျစ်ဗ်) ထိုက်သက်သွားလေသည်၊ အားလုံးက ပစ်၍ ထသွားကြပါက အားလုံးလျော်ကြရမည်။ အကယ်၍ အားလုံးမှာ တစ်ပြိုင်တည်း ထသွားကြခြင်းမဟုတ်ဘဲ တစ်ယောက်စီထသွားသော် နောက်ဆုံး ကျန်နေသူ၏ တာဝန်ဖြစ်သွားလေသည်၊ ၎င်းကျန်နေသူ ထသွား၍ ပျောက်ဆုံးပျက်စီးသော် ၎င်းက လျော်ရပေမည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၈၁။

၄။ မတ်စ်အလဟ် ပြဿနာ။ ပစ္စည်း အပ်နှံထားခြင်း ခံရသူသည် ကိုယ်တိုင် သိမ်းဆည်းထားနိုင်သည်၊ အမိ၊ နှမ၊ အစ်မ စသည်ဆွေမျိုးများထံလည်း ထားနိုင်သည်၊

စိတ်မချရသူထံ ထားခြင်းကား မပိုင်ပေ၊ အကယ်၍ ဤသို့စိတ်မချရသူထံ အတလိ သွားထား၍ ပျောက်ဆုံး ပျက်စီးသွားသော် ၎င်းထားသူက လျော်ရပေမည်၊ ဤဆွေမျိုးသားချင်းအပြင် အခြားသူများထံထားလိုသော် ပစ္စည်းရှင်သဘောမတူဘဲ မထားပိုင်ပေ၊ ဆွေမျိုးထံသော်လည်းကောင်း၊ သူစိမ်းထံသော်လည်းကောင်း တဆင့်ထားခဲ့၍ ပျောက်ဆုံးပျက်စီးသော် ၎င်းကလျော်ရမည်၊ သို့သော် သူစိမ်းထံ မိမိပစ္စည်းလည်းအပ်နှံထားခြင်းရှိမူ အပ်နှံသောပစ္စည်းကိုလည်း ထားနိုင်ခွင့်ရှိလေသည်။

ရှာမီကျမ်း အတွဲ-၄၊ စာမျက်နှာ-၆၈၁။

၅။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူက သင့်ထံ တစ်စုံတစ်ရာ အပ်နှံထားခဲ့သည်၊ သင်ကမေ့၍ ထိုအပ်ထားသည်ကိုထားပစ်ခဲ့လျှင် လျော်ရမည်၊ သို့မဟုတ် အခန်း၊ ၎င်းသေတ္တာ စသည်ထဲထည့်၍သော့မခတ်ဘဲမေ့သွားခဲ့လျှင်၊ ထိုနေရာ၌ အရင်းအချာ၊ သူစိမ်းများရှိသော်၊ ၎င်း ထိုပစ္စည်းသည် သော့မခတ်ဘဲ ထိန်းသိမ်း၍ မလွယ်မူ ပျောက်ဆုံးသော် သင်ကလျော်မည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၈၈။

၆။ မတ်စ်အလဟ်ပြဿနာ။ အိမ်တွင် မီးစွဲလောင်မူ၊ အပ်နှံသော ပစ္စည်းကို သူစိမ်းထံတွင်လည်း သွားထားပိုင်သည်၊ သို့သော် (အွသ်ရ်) မလွဲသာသောအဖြစ် ပြေလည်သွားပါက ချက်ချင်းသူစိမ်းထံမှပြန်ယူရမည်၊ အကယ်၍ ပြန်မယူလျှင် လျော်ရမည်၊ ဤသို့ပင် သေဆုံးချိန်တွင် အိမ်၌ မိမိအရင်းအချာ မရှိခဲ့လျှင် အိမ်နီးချင်းထံ အပ်ပိုင်ပေသည်။

ကန်ဇုဒ်ဒကာအစ်က်ကျမ်းစာမျက်နှာ-၃၄၈။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်ကငွေပိုက်ဆံများကို အပ်နှံခဲ့သော်၊ထိုငွေများအတိုင်းထိန်းသိမ်းထားရန်(ဝါဂျစ်ဗ်)ထိုက်လေသည်၊ထိုအပ်နှံသောငွေများကို မိမိငွေနှင့်မရောပိုင်၊ သုံးစွဲပစ်ခြင်းလည်းမပြုပိုင်ပေ၊ ငွေချင်းအတူတူပင်ဖြစ်သည် ဟူ၍ မမှတ်ထင်ရ၊ ၎င်းငွေကို သုံးစွဲပြီး ပြန်တောင်းသော အခါ မိမိငွေကို ပေးလိုက်မည်ဟု သဘောမပိုက်ရ။

သို့သော် အပ်နှံသူက ၎င်းငွေကို သုံးစွဲရန် ခွင့်ပေးလျှင်သာ သုံးပိုင်ခွင့်ရှိသည်၊ သင်က ထိုငွေကို တသီးတခြား ထားပါမှ အပ်နှံသည်ဟု ယူဆရမည်၊ ထိန်းသိမ်းလျက် ပျောက်ဆုံးသော် သင်လျော်ရန် မလို၊ ၎င်းသင်က အပ်သူမှ ခွင့်ယူ၍ သုံးစွဲခြင်းပြုသော် ယခု ထိုငွေသည် အကြွေးဖြစ်သွားသည်၊ အပ်နှံခြင်း မဟုတ်တော့ပေ။

ထို့ကြောင့် မည်သို့သောအဖြစ်နှင့် တွေ့ကြုံရစေကာမူ၊ ၎င်းငွေကို သင်ကလျော်ရမည်၊ ၎င်းအကယ်၍ သုံးစွဲပြီးနောက် ထိုငွေကို တသီးတခြားပြန်ထားလိုက်ပါမူလည်း ၎င်းငွေသည် အပ်နှံသောငွေမဖြစ်လာပေ၊ ထိုငွေသည် သင့်ငွေပင်ဖြစ်သည်၊ သူခိုးအခိုးခံရလျှင် သင့်ငွေပင်ဆုံးသည်၊ ၎င်းကိုကား ဆပ်ရမည်ပင် ဖြစ်ပေသည်၊ အချုပ်မှာ.... ၎င်းကိုပြန်မဆပ်ရသေးသမျှ သင့်အပေါ် တာဝန်ရှိနေပေသည်။

ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၁။

၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်ကသင့်အားငွေ ၁၀၀-အပ်နှံသည်၊ ထို၁၀၀-အနက် ၁၀-ကျပ်ကို သင်က ၎င်းထံမှခွင့်ယူ၍ သုံးစွဲလိုက်မူ ၁၀-ကျပ်သည် သင့်အပေါ် အကြွေး ဖြစ်၍ ၉၀-ကျပ်သည် အပ်နှံခြင်းဖြစ်လေသည်၊ မည်သည့်အခါ သင့်ထံ ရှိလာလျှင် အပ်နှံသော ငွေ၉၀-တွင် မရောရ၊ အကယ်၍ ရောလိုက်လျှင် ၎င်း ၉၀-ကျပ်လည်း အပ်နှံခြင်းမဟုတ် ဖြစ်သွားမည်၊ သင့်အပေါ် ငွေ၁၀၀-လုံး အကြွေး ဖြစ်သွားမည်။

အကယ်၍ ပျောက်ဆုံးပျက်စီးသွားပါက ငွေ၁၀၀-စလုံး လျော်ရမည်၊ အဘယ့်ကြောင့် ဆိုသော် အပ်နှံသောငွေကို မိမိငွေနှင့် ရောလိုက်ပါက အပ်နှံခြင်းမဖြစ်တော့၊ အကြွေးဖြစ်သွားသည်၊ မည်သို့ပင်ပျက်စီးပျောက်ဆုံးစေကာမူ သင်ကလျော်ရမည်။

ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၁။

၉။ မတ်စ်အလဟ် ပြဿနာ။ သင်က ခွင့်ယူ၍ အပ်နှံသောငွေ ၁၀၀-နှင့် မိမိငွေကိုရောလိုက်လျှင်၊ ၎င်းငွေများသည် နှစ်ဦးပိုင်ဖြစ်သွားလေသည်၊ အကယ်၍သူခိုးအခိုးခံရလျှင် နှစ်ဦးပိုင် ဆုံးခြင်းဖြစ်၍ လျော်ရန်မလိုပေ၊ ၎င်း အချို့အခိုးခံရ၍ အချို့ကျန်နေသော် ကျန်သည်ကို တစ်ဝက်စီယူကြရမည်၊ ၎င်းအကယ်၍ တစ်ဦးက ၁၀၀၊ တစ်ဦးက ၂၀၀-ရောထားခြင်းဖြစ်မူ ထိုအလိုက် ခွဲဝေယူကြရမည်။

ဥပမာ.... ၁၂-ကျပ်ပျောက်ဆုံးမူ ငွေ၁၀၀-ရှင်က ၄-ကျပ်ဆုံး၍ ငွေ၂၀၀-ရှင်က ၈-ကျပ် ဆုံးသည်၊ ဤအမိန့်သည် အပ်သူထံမှ ခွင့်ယူ၍ ရောခြင်းကိုသာ ဆိုလိုသည်၊ အကယ်၍ ခွင့်မယူဘဲ ရောခဲ့သော် အထက်တင်ပြခဲ့သော အမိန့်အတိုင်း ဖြစ်လေသည်၊ အပ်နှံထားသောငွေကို အခွင့်မယူဘဲ ရောခြင်းသည် ကြွေးဖြစ်သွားသည်၊ ထို့ကြောင့် ၎င်းငွေသည် အပ်နှံထားသည် မဟုတ်တော့၍ သင်၏ငွေသာ ဆုံးသောကြောင့် ၎င်း၏ ငွေကို ဆပ်ရမည် ဖြစ်လေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၀၅။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူက ဆိတ်၊ နွား စသည်ကိုအပ်နှံထားမူ ထိုတိရစ္ဆာန်၏နို့ကိုသောက်ခြင်း၊ ခိုင်းခြင်းများ မပြုပိုင်ပေ၊ သို့သော် အပ်သူက ခွင့်ပေးလျှင် ပိုင်သည်၊ အခွင့်မပြုဘဲ သောက်သုံးသောနို့ဘိုးများကို ပေးဆပ်ရမည်။

အာလမ်ဂီရီကျမ်းအတွဲ-၃၊ စာမျက်နှာ-၃၄၄။

၁၁။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူက အဝတ်အထည်၊ လက်ဝတ်လက်စား၊ ခုတင် စသည် အပ်နှံထားမှု အခွင့်မပြုဘဲသုံးစွဲခြင်းမပိုင်၊ အကယ်၍ ခွင့်မရှိဘဲ အဝတ်အထည်၊ လက်ဝတ်လက်စား၊ ခုတင် စသည်အပေါ်တွင် လှဲသည်၊ အိပ်သည်၊ ဤသို့ သုံးစွဲခြင်းဖြင့် အဝတ် စုတ်သွားသည်၊ သူခိုး ခိုးသွားသည်၊ လက်ဝတ်လက်စား ခုတင် စသည်ကျိုးပဲ့သွားသည်၊ သူခိုးခိုးသည်များဖြစ်မူ လျော်ရမည်၊ သို့သော်အကယ်၍ မသုံးတော့ဟု (တောဗ်ဗဟ်) အမှားဝန်ချပြီး ကောင်းစွာ ထိန်းသိမ်းထားပြီးမှ ပျောက်ပျက်သွားလျှင် လျော်ကြေးပေးရန် မလိုပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၂၅၈။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အပ်နှံထားသော အထည်ကို သေတ္တာထဲမှ ညနေသွားစရာရှိသည်တွင် ဝတ်သွားမည်ဟူ၍ ထုတ်ထားရာ၊ မဝတ်မီအလျင် ပျောက်ဆုံး ပျက်စီးသွားမှုလည်း လျော်ကြေးပေးရမည်။

ရှာမီကျမ်း အတွဲ၄၊ စာမျက်နှာ-၂၈၆။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အပ်နှံထားသောနွား၊ ဆိတ် စသည် နာနေ၍ သင်က ဆေးကုရင်း သေဆုံးသွားမူ လျော်ရမည်၊ အကယ်၍ ဆေးမကုဘဲထား၍သေဆုံးလျှင် လျော်ရန် မလိုပေ။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၃၈။

၁၄။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူက ယူထားရန် ငွေပေးသည်၊ သင်ကယူ၍ အိတ်ထဲထည့်လိုက်သည်၊ ပိုက်ဆံအိတ်ထဲထည့်သည်၊ ခါးပန်းကြိုးတွင်ချည်လိုက်သည်၊ သို့သော်ထည့်သောအခါ ထိုငွေသည် အိတ်၊ ခါးပန်းကြိုးထဲမရောက်ဘဲကျပျောက်သွားသည်၊ သင်က အိတ်ထဲတွင် ထည့်လိုက်သည်ဟု ယုံကြည်နေသည်ဖြစ်မူ ပျောက်ဆုံးသွားသည့်အတွက် လျော်ရန် မလိုပေ။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၆၈၃။

၁၅။ မက်စ်အလဟ်ပြဿနာ။ အပ်သူက ပစ္စည်းကို တောင်းလျှင် ချက်ချင်းပေးရန် (ဝါဂျစ်ဗ်)ထိုက်လေသည်၊ (အွသ်ရ်)ခွင့်မရှိဘဲ မပေးဘဲထားခြင်း၊ ဆိုင်းငံ့ခြင်းများမပိုင်ပေ၊ သင့်ထံတွင်မရှိသေး၍ နက်ဖန်မှယူပါဟုပြောရာ၊ ၎င်းက သဘောတူလျှင် ကိစ္စမရှိပေ၊ သင်ကမပေးနိုင်သေး၍ ၎င်းသည်စိတ်ဆိုးသွားပါက ထိုပစ္စည်းသည် အပ်နှံခြင်း မဟုတ်တော့ပေ၊ အကယ်၍ ထိုအဖြစ်၌ ပျောက်ဆုံးပျက်စီးသွားပါက သင်လျော်ရမည်။

ဖွတာဝါ ဟင်န်ဒိယဟ်ကျမ်းအတွဲ-၄၊ စာမျက်နှာ ၃၅၂။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ အပ်နှံသူက ကိုယ်တိုင် မလာဘဲ တစ်ဦးဦးကို ယူခိုင်းလျှင်သင့်ကိုမပေး၊ ၎င်းကိုယ်တိုင်လာမှ ပေးမည်ဟူ၍ သင့်မှာပြောဆိုပိုင်ခွင့်ရှိလေသည်၊ ၎င်းအကယ်၍ သင်ကလာယူသူကိုစိတ်ချ၍ ပေးလိုက်သည်၊ ပိုင်ရှင်က ကျွန်ုပ် ၎င်းကိုယူရန်မလွှတ် သင်အဘယ့်ကြောင့် ပေးသနည်းဟုဆိုမူ ပိုင်ရှင်က သင့်ထံမှ တောင်းယူပိုင်ခွင့်ရှိသည်၊ သင်က ပေးလိုက်သူထံမှ ပြန်တောင်းယူရမည်။

၎င်း အကယ်၍ ထိုပစ္စည်းသည် ယူသွားသူထံမှ ပျောက်ဆုံး ပျက်စီးသွားလျှင် သင်သည် ယူသွားသူထံမှ လျော်ကြေးတောင်းပိုင်ခွင့် မရှိသာမက ပိုင်ရှင်အား သင်က လျော်ကြေး ပေးဆောင်ရမည်။ (ရှာမီကျမ်း အတွဲ ၄၊ စာမျက်နှာ ၆၀၂)

# ငှားရမ်းသော ပစ္စည်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူထံမှ အဝတ်အထည်၊လက်ဝတ်လက်စား၊ခုတင်၊အိုးခွက်စသည်ကို လိုအပ်သောအချိန်ထိ သုံးစွဲပြီးပြန်ပေးမည်ဟုငှားရမ်းခြင်းဖြစ်မူ ထိုအမိန့်သည် (အမာနတ်) အပ်နှံသောပစ္စည်းကဲ့သို့ ဖြစ်လေသည်၊ ထိုငှားသော ပစ္စည်းကို ကောင်းစွာ ထိန်းသိမ်းထားရမည်၊ အကယ်၍ ထိန်းသိမ်းပါလျက် ပျောက်ဆုံးပျက်စီးမူ ပိုင်ရှင်သည် သင့်ထံမှ လျော်ကြေးယူပိုင်ခွင့် မရှိပေ။

သည်မျှမက သင်က ပျောက်ဆုံးပျက်စီးပါလျှင်လျော်မည်ဟု ဝန်ခံကတိပြုသော်ငြားလည်း ပျောက်ဆုံးပျက်စီးခြင်းအတွက် လျော်ကြေးယူပိုင်ခွင့်မရှိ၊ သို့သော်အကယ်၍ ကောင်းစွာ ထိန်းသိမ်းခြင်းမပြု၍ ပျောက်ဆုံး ပျက်စီးသော် လျော်ကြေး ပေးဆောင်ရမည်၊ ၎င်းပိုင်ရှင်က ပစ္စည်းကို မိမိလိုချင်သောအခါ ပြန်ယူနိုင်သည်၊ သင့်မှာ မပေးနိုင်သေးဟု ငြင်းဆံပိုင်ခွင့်မရှိ၊ အကယ်၍ငြင်းဆံခဲ့ပြီး ပျောက်ဆုံးပျက်စီးပါက လျော်ကြေး ပေးဆောင်ရမည်။

(ဂျောင်ဟရယ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၃-၃၄)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ ပိုင်ရှင်ကမည်သို့မည်ပုံ သုံးရန်ပေးလိုက်သည်၊ ထိုအတိုင်းသာသုံးပိုင်လေသည်၊ ထိုထက်ကျွံလွန်၍ သုံးစွဲခြင်းမပိုင်ပေ၊ အကယ်၍ ကျွံလွန်၍ သုံးစွဲခဲ့သော် ပျောက်ဆုံးပျက်စီးပါက လျော်ကြေးပေးဆောင်ရမည်၊ ဥပမာ တစ်ဦးသောသူက မြင်းရန်ပုဝါပေးသည်၊ ၎င်းက ခင်း၍အိပ်သည်၊ ထို့ကြောင့် ပျက်စီးသွားသည်၊ သို့မဟုတ် ခုတင်ပေါ်တွင် လူများစွာထိုင်သဖြင့် ကျိုးသွားသည်၊ သို့မဟုတ် ဖန်

ပန်းကန်ကို မီးဖပါတင်သဖြင့် ကွဲသွားသည်၊ ဤသို့သော ဆန့်ကျင်ဘက် အလုပ်များကို ပြုမူခြင်းဖြင့် လျော်ကြေး ပေးဆောင်ရမည်၊ ဤသို့ပင် ပစ္စည်းတစ်ခုကို ငှားလာသည်၊ ပြန်မပေးတော့ ဟူလိုက်တော့မည်ဟု ဆန္ဒပြုသော်လည်း လျော်ကြေး ပေးဆောင်ရမည်။

(ရှရိဟွတ်တန့်ဝိရိကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၅၆)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ ၁-ရက်၊ ၎င်း ၂-ရက်အတွက်ပစ္စည်းတစ်ခုကို ငှားရမ်းလျှင်ထိုပစ္စည်းကို ၁-ရက်၊ ၂-ရက်ကန့်သတ်သည့်အချိန်တွင် ပြန်ပေးရန်အရေးကြီးသည်၊ ငှားထားသောပစ္စည်းကို ပေးရမည့်ရက်တွင် မပေးဘဲထား၍ ရက်လွန်သွားပါက ပျောက်ဆုံးပျက်စီးမှုသော် လျော်ကြေးပေးဆောင်ရမည်။

(အာလမ်ဂီရိကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၁)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ပစ္စည်း ငှားရာတွင် ပိုင်ရှင်က သုံးလိုရာသုံးရန် ခွင့်ပေးလိုက်လျှင် သုံးလိုသုံး၍ အခြားသူကို တစ်ဆင့်သုံးစွဲခွင့် ပေးနိုင်သည်၊ ဤသို့ပင် အကယ်၍ ပစ္စည်းရှင်က ဖွင့်ဟ၍မပြောသို့သော်လည်း ငှားရမ်းသူနှင့် ငှားသူမှာ ၎င်းနားမှုရှိနေသဖြင့် မည်သို့မဆို သုံးစွဲနိုင်လျှင်လည်း အထွက်ပါအမိန့်အတိုင်းပင် ဖြစ်သည်၊ အကယ်၍ ပိုင်ရှင်က သင်ပင်သုံးစွဲရမည်၊ အခြားသူကို သုံးစွဲခွင့်မပေးရဟု ပွင့်လင်းစွာ တားမြစ်ခဲ့သော် ထိုအဖြစ်၌ မည်သူ့ကိုမျှ သုံးစွဲခွင့်မပေးပိုင်ပေ။

အကယ်၍ငှားရမ်းသူက ၎င်းပင်သုံးစွဲမည်ဟု ထုတ်ဖော်ပြောဆို၍ ငှားခဲ့သည်၊ ပိုင်ရှင်ကလည်း မည်သူမျှမသုံးစွဲရဟု မတားမြစ်ခဲ့သော် ကြည့်ရမည်မှာ.... ထိုပစ္စည်းကို သုံးစွဲရာ၌ အားလုံးတစ်မျိုးတည်းသုံးစွဲသည်၊ ကွဲလွဲမှုမရှိမူ ကိုယ်တိုင်လည်း သုံးစွဲနိုင်သည်၊ အခြားသူကိုလည်း သုံးစွဲခွင့်ပေးနိုင်လေသည်၊ ၎င်းအကယ်၍ ထိုပစ္စည်းမျိုးကို တစ်မျိုးတည်းမသုံးကြ အချို့က ကောင်းမွန်သေသပ်စွာသုံး၍ အချို့က မရိုမသေသုံးစွဲကြမူ ဤကဲ့သို့သောပစ္စည်းကို သင်သည် တစ်ဆင့်ငှားပိုင်ခွင့်မရှိပေ၊ ဤသို့ပင် သင်ကကျွန်တော်၏ မည်သည့်ဆွေမျိုး၊ ၎င်းမိတ်ဆွေအတွက်ဟု ပြော၍ငှားသည်၊ ပိုင်ရှင်က သင်သုံးရန် မသုံးရန်ကို ထည့်မပြောသော် ထိုအဖြစ်၌ပစ္စည်းမှာ ပထမတင်ပြခဲ့သော အမျိုးဖြစ်လျှင် သင်လည်း သုံးစွဲနိုင်သည်၊ ဒုတိယပစ္စည်းကို သင်သုံးစွဲပိုင်ခွင့်မရှိ၊ သင်က ငှားပေးသူ သာလျှင် သုံးစွဲပိုင်လေသည်။

၎င်းအကယ်၍ သင့်က မည်သူသုံးမည်ကို မပြောပြဘဲငှားသည်၊ ပိုင်ရှင်ကလည်း မမေးမူ ထိုအဖြစ်၏ အမိန့်မှာ ဤသို့ရှိသည်၊ ပထမပစ္စည်းမျိုးဖြစ်လျှင်သင်လည်း သုံးစွဲ၍ အခြားသူကို သုံးစွဲခွင့် ပေးပိုင်သည်၊ ဒုတိယပစ္စည်းမျိုးမှာ သင်သုံးစွဲနေလျှင် အခြားသူအား သုံးစွဲခွင့်မပေးပိုင်၊ အကယ်၍ သင်က အခြားသူကို သုံးစွဲခွင့်ပေးပြီးလျှင် ၎င်းပစ္စည်းကို သင်သုံးစွဲပိုင်ခွင့်မရှိပေ၊ ကောင်းစွာမှတ်သားထားကြကုန်။

(အာလမ်ဂီရိကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၆၄)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ မိဘ စသည်တို့သည်အရွယ်မရောက်သေးသော ကလေးသူငယ်များအတွက် ငွေးရမ်းပေးခြင်းမပိုင်ပေ၊ အကယ်၍ ထိုပစ္စည်း ပျောက်ဆုံး ပျက်စီးသွားလျှင် လျော်ကြေး ပေးဆောင်ရမည်၊ ဤသို့ပင် အရွယ်မရောက်သေးသော ကလေးသူငယ်ကမိမိပစ္စည်းကိုငှားလျှင်လည်း ယူ၍သုံးစွဲပိုင်ခွင့်မရှိပေ။

(ဒွရ်ရေ မုခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၅၇)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦးသောသူထံမှပစ္စည်းတစ်ခုခု ငှားယူလာသည်၊ ထို့နောက် ပိုင်ရှင်မှာသေဆုံးသွားမူ ယခုထိုပစ္စည်းမှာ ငှားသောပစ္စည်း မဟုတ်တော့သဖြင့် ထိုပစ္စည်းကို သုံးစွဲခြင်းမပိုင်တော့ပေ၊ ဤသို့ပင် ငှားသွားသူ သေဆုံးပါက ထိုပစ္စည်းဖြင့် ငှားသွားသူ၏ အမွေစားများကး အကျိုးခံစားပိုင်ခွင့်မရှိပေ။

(ဒွရ်ရေ မုခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၅၇)

# ဟေဗဟ် အလကားပေးခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ သင်က တစ်ဦးသောသူကို တစ်စုံတစ်ရာ ပေး လိုက်သည်၊ ထိုသူကလက်ခံလိုက်သည်၊ သို့မဟုတ်နှုတ်လျှာဖြင့်မပြော သင်ပေးသည်ကိုလက်ခံ ယူလိုက်သည်၊ သို့ရှိရာထိုပစ္စည်းသည် ထိုသူပိုင်ဖြစ်သွားသည်၊ သင်နှင့်မသက်ဆိုင်တော့ပေ၊ ဤသည်ကို ရှရီအတ်တရားတော်မြတ်တွင် (ဟေဗဟ်) အလကားပေးခြင်းဟုခေါ်ဆိုလေ သည်၊ သို့ရာတွင် ဤသည်ပိုင်ရန်အသွက် (ရှုရဘ) ပညတ်ချက်များ ရှိသေးသည်။

ထိုသူ့ကို လက်ဆောက်ပေးလိုက်ရမည်၊ ထိုသူက လက်ဝယ်ယူပြီး ဖြစ်ရမည်၊ အကယ်၍ သင်က ဤပစ္စည်းပေးသည်ဟုပြောရာ ၎င်းက ယူပါသည်ဟု ပြောဆိုသည်။ သို့သော် ယခု သင်က ၎င်းကိုမအပ်သေးမူ ဤသို့ပေးခြင်းမပိုင်ပေ၊ ယခုထိုပစ္စည်းသည် သင်ပိုင်ပင်ဖြစ်နေသေးသည်၊ သို့သော် ၎င်းက သင်ပေးသောပစ္စည်းကို လက်ရောက်ယူ လိုက်သော် ထိုသူပိုင်ဖြစ်သွားလေသည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၂၆၇)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ သင်ကပေးသော့ပစ္စည်းကို ၎င်း၏ရှေ့၌ယူချင် လျှင် ယူနိုင်လောက်သောနေရာ၌ ထားရှိယူပါဟု ပြောပေးလျှင် ၎င်းက ထိုပစ္စည်းကို ပိုင်သွားလေသည်၊ ၎င်းက လက်ဝယ်ယူပြီးဟု မှတ်ယူရမည်။

(ရှရိဟွတ်တန်ဝီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၅၉)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ ပိတ်ထားသော သေတ္တာမှ အဝတ်အချို့ကို ပေးသည်၊ သို့သော် ထိုသေတ္တာ၏သော့ကို မပေးသေးမူ လက်ရောက်ပေးခြင်း မဟုတ် သေးပေ၊ သော့ပေးပါမှ လက်ရောက် ပေးရာရောက်သည်၊ ထိုအခါမှ ၎င်းသည် ထိုပစ္စည်းကို ပိုင်ဆိုင်မည်ဖြစ်သည်။

(ရှရိဟွတ်တန်ဝီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၁၅၉)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ပုလင်းထဲ၌ ဆီထည့်ထားသည်၊ သို့မဟုတ်တစ်စုံ တစ်ရာထည့်ထားသည်၊ သင်က ထိုပုလင်းကို တစ်ဦးဦးအား ပေးလိုက်သည်၊ သို့သော် ဆီကိုမပေးမူ ဤသို့ပေးခြင်းမပိုင်ပေ၊ ၎င်းသူက လက်ရောက်ယူလိုက်သော်လည်း ပိုင်ဆိုင်မှု မဖြစ်ပေ၊ ဆီနှင့်အခြားအရာကို ထုတ်ပေးမှသာလျှင် ပိုင်လေသည်။

ဆီကို တစ်ဦးသောသူအား ပေးလိုက်သည်၊ သို့သော် ပုလင်းကိုမပေး၊ ၎င်းက ပုလင်းကိုပါ ယူလိုက်သည်၊ ၎င်းကဆီထုတ်ယူပြီး ပုလင်းကိုပြန်ပေးမည်ဟုပြော၍ ယူလျှင် ပိုင်လေသည်၊လက်ဝယ်ရောက်ရှိပြီးနောက်ထိုပစ္စည်းကိုပိုင်ဆိုင်သွားလေသည်၊ အချုပ်မှာ ပန်းကန်ခွက်ယောက်စသည်ပေးမူ အလွတ်ပြု၍ပေးရမည်၊ ပစ္စည်းတစ်ခုခုရှိ၍မထုတ်ယူဘဲ ပေးခြင်းမပိုင်ပေ၊ ဤသို့ပင် တစ်ဦးသောသူက အိမ်ကိုပေးမူ မိမိပစ္စည်း အားလုံးကိုယူ၍ ကိုယ်တိုင်လည်းဆင်းပေး၍ လက်ရောက်ပေးရမည် ဖြစ်လေသည်။

(အာလမ်ဂီရီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၀)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ အကယ်၍ တစ်ဦးတစ်ယောက်ကို တစ်ဝက်၊ သုံးပုံတစ်ပုံ၊ လေးပုံတစ်ပုံ ပစ္စည်းတစ်ခုခုပေးမူ ထိုပစ္စည်းသည် ခွဲဝေပြီးနောက် အသုံး ချနိုင်၊ မချနိုင်ကို ကြည့်ရပေမည်၊ အကယ်၍ ခွဲဝေပေးပြီးနောက် အသုံးမချနိုင်လျှင် ဥပမာ...ကျိတ်စက်၊ ၎င်းကိုအလယ်မှခွဲခြမ်း၍ပေးလိုက်လျှင် ကျိတ်ခွဲနိုင်ခြင်းမရှိတော့ပေ။

ခုတင်၊ ကရား၊ ပန်းကန်၊ သေတ္တာ၊ တိရစ္ဆာန် စသည်များ၊ ဤသို့ပစ္စည်းများကို တစ်ဝက်၊ သုံးပုံတစ်ပုံ ပေးလိုသလောက် ပေးနိုင်လေသည်၊ ၎င်းက သင်ပေးသည်ကိုလက် ရောက်ယူလိုက်လျှင် ၎င်းပိုင်ဖြစ်၍ ဖက်စပ်နှစ်ဦးပိုင် ဖြစ်သွားသည်။

၎င်း အကယ်၍ ထိုပစ္စည်းသည် ခွဲဝေပြီးနောက်လည်း အသုံးချနိုင်လျှင် ဥပမာ.... မြေ၊ အိမ်၊ ပိတ်အုပ်၊ မီးစိုက်ရန်ထင်း၊ ကောက်ပဲသီးနှံ၊ နို့၊ ဒိန်၊ စသည်များဖြစ်မူ မခွဲသေးဘဲ ပေးပိုင်ခွင့် မရှိပေ။

အကယ်၍ သင်ကတစ်ဦးတစ်ယောက်ကို ပန်းကန်ထဲရှိ ထောပတ်တစ်ဝက်ယူပါဟု ပြော၍ ၎င်းကယူပါသည်ဟု ပြောသော်လည်း ဤသို့ပေးခြင်းမပိုင်ပေ၊ ၎င်းကပန်းကန်ပါ လက်ရောက်ယူလိုက်သော်လည်း မပိုင်သေးပေ၊ ထောပတ်အားလုံးသည် သင်ပိုင်ပင် ဖြစ်နေသေးသည်၊ ဟုတ်ပါ၏၊ အကယ်၍ပန်းကန်ထဲမှထောပတ်ကိုတစ်ဝက်တစ်ခြားပြု၍ ပေးလိုက်လျှင် ပိုင်လေသည်။

(အာလမ်ဂီရီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၈)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ ပိတ်တစ်အုပ်၊ အိမ်တစ်ဆောင်၊ ဥယျာဉ်စသည် ကို လူနှစ်ယောက် ပေါင်းစပ်၍ဝယ်လျှင် မခွဲကြသေးမီမိမိ၏ အစုကျကိုတစ်ဦးတစ်ယောက် အား ပေးပိုင်ခွင့်မရှိပေ။ (အာလမ်ဂီရီကျမ်း အတွဲ ၄၊ စာမျက်နှာ ၃၇၈)

၇။ မတ်စ်အလဟ်ပြဿနာ။ ဖြား၅၀၊ ၎င်း၇၅ ဖြားကို လူနှစ်ယောက်အား တစ်စက်စီယူကုန်ဟုပေးလိုက်လျှင်မပိုင်ပေ၊ သည်မှုမကာ ကိုယ်တိုင်တစ်ဝက်စီခွဲ၍ပေးရမည်၊ သို့ရာတွင် အကယ်၍ ၎င်းသို့နှစ်ယောက်စလုံးသည် ဆင်းရဲသားဖြစ်လျှင် ခွဲ၍ ပေးနေရန် မလိုပေ၊ အကယ်၍ ငွေတစ်ကျပ်ပိုက်ဆံတစ်ဖြားကို လူနှစ်ယောက်အားပေးလျှင် ပေးပိုင် လေသည်။

ဗွဂ်ရီရေ့ မွန်ရှိတာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၃၆၁။

၈။ မတ်စ်အလဟ် ပြဿနာ။ ဝီးရှိသောဆိတ်၊ ၎င်းနွား စသည်တို့မှ ကလေးကို မမွေးမီ ပေးပိုင်ခွင့်မရှိ၊ သာမက မွေးပြီး ၎င်းက လက်ခံဝယ် ယူလိုက်လျှင်လည်းမပိုင်ပေ၊ အကယ်၍ ပေးလိုမူ မွေးပြီးနောက်မှ ပေးရမည်။

ဖွတ်ဟုလ် ဂါဟ်ဝိန်ဒီယတ်ကျမ်း။

၉။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူက ဝီးရှိသော ဆိတ်ကို ပေးလိုက် သည်၊ ကလေးကိုတော့မပေး၊ မွေးလျှင်ကျွန်ုပ်ကိုပေးရမည်ဟုပြောသော်လည်း ဆိတ်ရော ကလေးပါ ၎င်းသူပိုင်သွားလေသည်၊ မွေးပြီးနောက် ကလေးကို ပေးသူက တောင်းယူ ပိုင်ခွင့်မရှိပေ။

ရှုရ်ဟွလ်ဘာဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၇၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ သင်၏ပစ္စည်းတစ်ခု တစ်ဦးသောသူထံ အပ်နှံ ထားသည်၊ သင်က ၎င်းကိုပင် ထိုပစ္စည်းပေးလိုက်သည်၊ ၎င်းက ယူမည်ဟုပြောရုံဖြင့် ပိုင်သွားလေသည်၊ ထိုပစ္စည်းမှာ ၎င်းသူထံ၌ပင် ရှိနေသဖြင့် လက်ရောက် ယူနေရန် (ရှရစ္စ) မလိုတော့ပေ။

ရှရ်ဟွလ်ဘာဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၈၄။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အရွယ် မရောက်သေးသော ယောကျ်ားလေး၊ မိန်းကလေးက မိမိပစ္စည်းကို တစ်ဦးဦးအားပေးလိုက်လျှင်မပိုင်ပေ၊ ယူသူကလည်းမယူပိုင်၊ (အချို့သူတို့သည် လွယ်လွယ်နှင့် လုပ်တတ်ကြ၍ဤ 'မတ်စ်အလဟ်' ပြဿနာများကို ကောင်းစွာမှတ်သားထားကြကုန်)။ ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၅၈။

## ကလေးများကို ပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ဝိဝါဟ်မင်္ဂလာ စသည်များ၌ ကလေးများကို တစ်စုံ တစ်ခုပေးကြသည်၊ အမှန်မှာ.... ကလေးကိုပေးခြင်းမဟုတ်ဘဲ ကလေး၏ မိဘကို ပေး ခြင်းသာလျှင်ဖြစ်ပါသည်၊ ထို့ကြောင့် ထိုလက်ဆောင်ပဏ္ဏာများကို ကလေးက မပိုင်၊ မိဘကသာလျှင် ပိုင်ဆိုင်လေသည်၊ ထို့ကြောင့် မိဘများ သုံးစွဲလိုရာ သုံးစွဲနိုင်ရလသည်။

အကယ်၍တစ်ဦးတစ်ယောက်သည် သီးခြား၍ ကလေးကိုပင်ပေးလျှင် ထိုပစ္စည်းကို ကလေးကသာ ပိုင်ဆိုင်သည်၊ ကလေးမှာ အသိရှိသူ ဖြစ်လျှင် ကလေးက လက်ရောက် ယူခြင်းဖြင့် လုံလောက်လေသည်၊ အကယ်၍ ကလေးက လက်ရောက် မယူ၊ သို့မဟုတ် ယူနိုင်သော စွမ်းအား မရှိမူ၊ အဖရှိလျှင် အဖက၊ အဖ မရှိသော် အဘိုးက လက်ရောက် ယူလိုက်လျှင် ကလေးပိုင် ဖြစ်သွားလေသည်။

အကယ်၍ အဖ၊အဘိုး မရှိခဲ့သော် ကလေးကို အုပ်ထိန်းသူက လက်ရောက် ယူရမည်၊ အဖ-အဘိုးရှိလျက်နှင့် အမိ၊ အဖွားအေ စသည်တို့က လက်ဝယ်ယူခြင်း မပိုင်ပေ။

ရှရိဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၀။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အဖ၊ ၎င်းမရှိသော အခါ၌ အဘိုး (အဖ၏အဖေက)က သား၊ ၎င်းမြေးကို တစ်စုံတစ်ရာပေးလိုမူ ကျွန်ုပ်က ၎င်းကို ဤပစ္စည်း (ဟေဗဟ်) ပေးပါသည်ဟု ပြောဆိုရုံမျှဖြင့် ပိုင်သွားလေသည်၊ ၎င်းအဖ၊ အဘိုးမရှိမူ ထိုအချိန်၌ အမိ၊ ညီ၊အစ်ကို စသည်များကလည်း ကလေးကိုတစ်စုံတစ်ရာပေးလိုမူ ကလေးသည် ၎င်းတို့အုပ်ထိန်းမှု၌ရှိနေပါက ပေးပါသည်ဟုပြောရုံဖြင့် ကလေးက ပိုင်ဆိုင်သွားသည်၊ မည်သူမျှ လက်ရောက်ယူရန် မလိုပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၁၆၀။

၃။ မတ်စ်အလဟ် ပြဿနာ။ သား သမီး များကို ယောကျ်ားလေး ဖြစ်စေ၊ မိန်းကလေးဖြစ်စေ တစ်စုံတစ်ရာပေးမူ အညီအမျှပေးရမည်၊ တစ်ဦးကိုပိုပေး၍ တစ်ဦးကို လျှော့ပေးရာတွင် ၎င်းကလေး နစ်နာစေရန်မဟုတ်က တစ်ခါတစ်ရံပေးလျှင် ကိစ္စမရှိပေ၊ သို့သော် အကြောင်းမဲ့ ဤသို့အပိုအလျှော့ပေးခြင်း(မတ်က်ရူးဟ်)အပြစ်ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၀။

၄။ မတ်စ်အလဟ် ပြဿနာ။ အရွယ် မရောက်သေးသော ကလေးပိုင်ကို ၎င်း ကလေးအတွက်သာ သုံးပိုင်ခွင့်ရှိသည်၊ မိဘပင်ဖြစ်စေ၊ မည်သူမျှ ကိုယ်ကျိုးအတွက်သုံး စွဲခြင်းမပြုရ၊ အခြားကလေးများအတွက်လည်း သုံးစွဲခြင်းမပြုရ။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၇၀၄။

၅။ မတ်စ်အလဟ် ပြဿနာ။ ပေးသောပစ္စည်းကိုအဘိုးမတန်ဟုသဘောပိုက်၍ မိဘလက်သို့မပေးချင်သဖြင့် ကလေးကိုပေးလိုက်သည်၊ အမှန်မှာ မိဘကို ပေးခြင်းဖြစ်မူ ထိုပစ္စည်းကို မိဘကပိုင်ဆိုင်သည်၊ သုံးလိုရာသုံးစွဲနိုင်သည်၊ ထိုပေးသောပစ္စည်းကို တဖန် ကြည့်ရမည်မှာ မိခင်၏ဘက်က ဆွေမျိုး သင်္ဂဟများက ပေးမူ မိခင်ပိုင် ဖြစ်၍၊ ဖခင်၏ ဆွေမျိုး သင်္ဂဟများက ပေးမူ ဖခင်ပိုင် ဖြစ်လေသည်။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၇၀၄။

၆။ မတ်စ်အလဟ်ပြဿနာ။ မိမိ၏အရွယ်မရောက်သေးသော သားယောကျ်ားလေးအတွက် အဝတ်အထည်ချုပ်ပေးမှု အဝတ်အထည်ကို ကလေးကပိုင်သွားသည်၊ ၎င်းအရွယ် မရောက်သေးသော သမီးမိန်းကလေးအား ရွှေ လက်ဝတ်လက်စား ဝယ်ပေးမှု ထိုလက်ဝတ်လက်စားကို မိန်းကလေးက ပိုင်သွားသည်၊ ယခု ထိုချုပ်ပေးထားသော အဝတ်အထည်၊ ၎င်း လက်ဝတ်လက်စားကို အခြားသော ယောကျ်ားလေး၊ မိန်းကလေးတို့အား ပေးပိုင်ခွင့်မရှိပေ။

သို့ရာတွင် အကယ်၍ ချုပ်သော ပေးသောအခါ ကျွန်ုပ်ပိုင်ပင်ဖြစ်သည်၊ ငှါးသည်သဘောနှင့်ပေးသည်ဟု ပွင့်လင်းစွာပြောဆို ပေးလျှင် ပေးသူပိုင်သာဖြစ်လေသည်၊ အစ်မများက အရွယ်မရောက်သေးသော ညီမငယ်ထံမှ၊ ၎င်းမိခင်က သမီးထံမှ အဝတ်အထည်များကိုယူ၍ သုံးစွဲသော အလေ့အထများရှိလေသည်၊ ထို့ကြောင့် ထိုပေးထားသော ပစ္စည်းများကို ခေတ္တခဏ ငှါးရမ်းသုံးစွဲခြင်းပြုက ပိုင်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း -အတွဲ၄၊ စာမျက်နှာ-၁၆၀။

၇။ မတ်စ်အလဟ်ပြဿနာ။ အရွယ် မရောက်သေးသော ကလေးသည် မိမိပစ္စည်းကိုအခြားသူများအားပေးပိုင်ခွင့်မရှိသကဲ့သို့ မိဘကလည်းကလေးများ၏ပစ္စည်းကို ယူ၍ သုံးစွဲပိုင်ခွင့်မရှိပေ၊ အကယ်၍ မိဘသည် ကလေး၏ပစ္စည်းကို တစ်ဦးဦးအား ပေးလိုက်လျှင် သို့မဟုတ် ငှါးလိုက်လျှင် ယူသူက မယူပိုင်ပေ၊ သို့ရာတွင် မိဘသည် ၎င်းပစ္စည်းကို အရေးတကြီးလိုအပ်လာပြီး ၎င်းပစ္စည်းမျိုးကို ရှာဝယ်၍မရလျှင်၊ မတတ်သာသောအဆုံးတွင် မသုံးမဖြစ်က သားငယ်သမီးငယ်တို့၏ပစ္စည်းကိုယူ၍ သုံးပိုင်ခွင့်ရှိသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၁၆၀။

၈။ မတ်စ်အလဟ်ပြဿနာ။ မိဘသည် သားသမီးငယ်တို့၏ ပစ္စည်းကို တစ်ဦးတစ်ယောက်အားယူ၍ ချေးငှါးခြင်းမပြုပိုင်၊ သာမက ကိုယ်တိုင်လည်း ချေးယူသုံးစွဲခြင်းမပြုပိုင်ပေ။ (ကောင်းစွာမှတ်သားထားကြကုန်။)

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၇၀၇။

# ပေးပြီး ပြန်တောင်းယူခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ တစ်စုံတစ်ရာပေးပြီးတောင်းယူခြင်းသည် 'ဂိုနာဟ်' အပြစ်အလွန်ကြီးလေသည်၊ သို့ရာတွင် အကယ်၍ တစ်ဦးသောသူကပြန်ယူလျှင် အပေးခံရသူက မိမိသဘောနှင့်ပြန်ပေးသော် ယခု ထိုသူသည် ထိုပစ္စည်းကို ပြန်၍ပိုင်ဆိုင်သွားလေသည်၊ သို့သော် အချို့သောပစ္စည်းများကို လုံးဝ ပြန်တောင်းယူပိုင်ခွင့်မရှိပေ။

ပမာဆိုသော်... သင်က တစ်ဦးတစ်ယောက်ကို ဆိတ်တစ်ကောင်ပေးသည်၊ ၎င်းက ကောင်းစွာ ကျွေးမွေးထား၍ ဝဖြိုးနေမူ ပြန်တောင်းယူပိုင်ခွင့်မရှိ၊ ၎င်းတစ်ဦးသော်သူကို မြေပေးလိုက်သည်၊ ၎င်းက ထိုမြေတွင် အိမ်ဆောက်ထားသည်၊ ဥယျာဉ်ပြုထားသည် ဖြစ်မူ ပြန်တောင်းပိုင်ခွင့်မရှိ။ အဝတ်အထည် ပေးပြီးနောက် ၎င်းက အထည်ချုပ်လိုက်သည်၊ ဆေးဆိုးလိုက်သည်၊ ဖွပ်လျှော်လိုက်သည်ဖြစ်မူ ပြန်တောင်းပိုင်ခွင့် မရှိတော့ပေ၊

ဂျောင်ဟာရယ်နိုင်ယေရယ်ကျမ်းအတွဲ-၂ စာမျက်နှာ ၁၂၁၃။

၂။ မတ်စ်အလဟ် ပြဿနာ။ သင်က တစ်ဦးတစ်ယောက်ကို ဆိတ်မတစ်ကောင် ပေးလိုက်သည်၊ ထိုသူ့လက်ထဲ ရောက်ပြီးနောက် ဆိတ်ကလေးတစ်ကောင်၊ နှစ်ကောင် မွေးဖွားမူ၊ ပြန်တောင်းလျှင် ဆိတ်မကိုသာ တောင်းပိုင်ခွင့်ရှိပြီး၊ ဆိတ်ငယ်များကို တောင်းပိုင်ခွင့်မရှိပေ။ အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၃၈၈။

၃။ မတ်စ်အလဟ် ပြဿနာ။ ပေးပြီးနောက် အကယ်၍ ပေးသူ၊ ၎င်း ယူသူ တစ်ဦးဦးသေဆုံးသွားလျှင် ပြန်တောင်းပိုင်ခွင့်မရှိတော့ပေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၇၃။

၄။ မတ်စ်အလဟ် ပြဿနာ။ သင့်ကိုတစ်ဦးကတစ်စုံတစ်ခုပေးသည်၊ ထိုနောက် သင်က ထိုပစ္စည်းအစား၌ပစ္စည်းကိုယူပါဟုပြော၍အစားပေးလိုက်မူ၊ ၎င်းသည် အစား ယူပြီးနောက် ၎င်းပေးသည်ကို ပြန်တောင်းပိုင်ခွင့်မရှိ၊ သို့သော် အကယ်၍ သင်က ၎င်း ပေးသော ပစ္စည်းအစားဟု ပြောဆိုမပေးခဲ့သော် ၎င်းက ပေးထားသည်ကို ပြန်တောင်း ပိုင်ခွင့်ရှိပြီး၊ သင်ကလည်း မိမိပေးသည်ကို ပြန်တောင်းယူနိုင်သည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၇၄။

၅။ မတ်စ်အလဟ် ပြဿနာ။ ဇနီးက ခင်ပွန်းကို ဖြစ်စေ၊ ခင်ပွန်းက ဇနီးကို ဖြစ်စေ တစ်စုံတစ်ရာပေးမူ ပြန်တောင်းပိုင်ခွင့်မရှိ၊ ဤသို့ပင် တစ်ဦးသောသူက သွေးသား ကော်စပ်သော (နေကာဟ်)လက်ထပ်ခွင့်မရှိသည့် ဆွေမျိုးများကို တစ်စုံတစ်ရာပေးလျှင် ဥပမာ.... အစ်ကို၊ ညီ၊ အစ်မ၊ နှမ၊ တူ၊ တူမများ စသည်တို့ကိုပေးမူ၊ ပြန်တောင်းပိုင်ခွင့် မရှိပေ၊ ၎င်းအကယ်၍ ဆွေမျိုးတော်တော်သည်၊ သို့သော် (နေကာဟ်)လက်ထပ်ပိုင်သော ဆွေမျိုးဖြစ်မူ၊ ဥပမာ....မောင်နှမတစ်ဝမ်းကွဲ စသည်များ၊ ၎င်း(နေကာဟ်)လက်ထပ် ခြင်း (ဟရာမ်)မပိုင်ဖြစ်သော်လည်း သွေးသားမှမဟုတ်ဘဲ၊ နို့စို့ဘက်မောင်နှမ စသည် ဖြစ်သည်၊ သားမက်၊ ယောက္ခမ စသည်များဖြစ်မူ ထိုသူအားလုံးမှ ပြန်တောင်းယူပိုင်ခွင့် ရှိလေသည်။ အာလမ်ဂီရီကျမ်း အတွဲ-၃၊ စာမျက်နှာ-၃၈၆၊၃၈၇။

၆။ မတ်စ်အလဟ် ပြဿနာ။ ပြန် တောင်း ယူ ပိုင် သော အခွင့်အရေး ရှိသည့် များ၏အလိုသဘောမှာ....၎င်းသူကပြန်ပေးချင်မှသာပြန်တောင်းယူပိုင်ခွင့်ရှိသည်၊ အထက်တွင် တင်ပြထားသကဲ့သို့ဖြစ်သည်၊ သို့သော် ပြန်ယူခြင်း၌ (ဂိုနာဟ်)အပြစ်ကြီးလေသည်၊ ၎င်းအကယ်၍ ထိုသူကသဘောမတူ ပြန်မပေးလိုမူ (ကာသွ ိ)တရားသူကြီး၏အမိန့်မရဘဲ အတင်းအဓမ္မ တောင်းယူပိုင်ခွင့် မရှိပေ၊ ၎င်းတရားသူကြီး အမိန့်မခံဘဲ အတင်းအဓမ္မ ပြန်ယူလိုက်သော် ထိုပစ္စည်းကို ၎င်းအဓမ္မယူသူမှာ ပိုင်ဆိုင်သူမဖြစ်ပေ။

၇။ မတ်စ်အလဟ် ပြဿနာ။ 'ဟေဗဟ်' အလကား ပေးသော အကြောင်း၌ ရေးသားပြီးသည့် အတိုင်းပင် အလ္လာဟ်အသျှင်မြတ်၏ လမ်းတော်၌ 'ခိုင်ရာတ်' လှူဒါန်းခြင်းနှင့် အတူတူပင်ဖြစ်လေသည်၊ ပမာဆိုသော်.... လက်ရောက်မပေးဘဲ သူတောင်းစားသည် ပစ္စည်းကို မပိုင်ပေ၊ ခွဲဝိပ်၍ပေးရန် (ရှရတွ ိ) ထိုက်သော ပစ္စည်းကို ဤနေရာတွင်လည်း ခွဲပေးရန်(ရှရတွ ိ)ထိုက်လေသည်၊ အားလပ်အောင်ပြုပေးရန်(ရှရတွ ိ)ထိုက်သက်သည်ပင်ဖြစ်သည်၊ သို့သော် ကွဲလွဲမှုနှစ်ရပ် ရှိလေသည်။

၁။ 'ဟေဗဟ်'ပေးရာ၌ သဘောတူညီမှုဖြင့် ပြန်ယူနိုင်သည်၊ ဤလှူခြင်း၌ ပြန်ယူပိုင်ခွင့်မရှိပေ။

၂။ ပြား ၅၀၊ ၆၀၊ ၈-ကျပ်၊ ၁၀-ကျပ်ကို သူတောင်းစားနှစ်ဦးအား သင်တို့နှစ်ယောက် ခွဲယူကြဟု ပေးလိုက်လျှင် ပိုင်သည်၊ ၎င်း 'ဟေဗဟ်'ပေးရာတွင် ဤသို့ပေးခြင်း မပိုင်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၁၊၁၆၆။

၈။ မတ်စ်အလဟ် ပြဿနာ။ သူတောင်းစားတစ်ယောက်ကို ပြားစေ့ပေးရာတွင် မေ့မှား၍ ငါးမူးစေ့ပေးမိမူ၊ ထိုသူတောင်းစားထံမှ ပြန်တောင်းယူခြင်း မပိုင်ပေ။

အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၄၀၈။

# အငှား ယူခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ သင်က တစ်လတွက်အိမ်ကိုငှား၍ မိမိလက်ဝယ်ယူလိုက်မူ၊ ၎င်းအိမ်တွင် နေသည်ဖြစ်စေ၊ မနေသည်ဖြစ်စေ သတ်မှတ် အတည်ပြုထားသော အိမ်လခကို ပေးရမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၂၉၃။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၆၈။

၂။ မတ်စ်အလဟ် ပြဿနာ။ အပ်ချုပ်ဆရာကချုပ်ပြီးနောက်၊ ပင်မင်းဆရာက အရောင်ဆိုးပြီးနောက်၊ ဒိုဘီခဝါသည်က ဖွတ်လျှော်ပြီးနောက် သင့်ထံမှ အခကြေးငွေ

မရသေးဘဲ သင့်အဝတ်အထည်ကို မပေးဘဲနေက နေနိုင်သည်၊ အခမပေးဘဲ သင်က အစမ္မယူပိုင်ခွင့်မရှိ၊ ၎င်းအကယ်၍ ကူလီက သီးနှံတစ်အိတ်လျှင် ငါးပြားဖြင့် သယ်ပိုးလာရာ၊ မိမိသယ်ပိုးခအတွက် သင်၏သီးနှံကိုမပေးဘဲမနေရ၊ ပေးရမည်၊ အဘယ့်ကြောင့်ဆိုသော် သယ်ပိုးလာခြင်းဖြင့် သီးနှံတွင် ကွဲလွဲ ခြားနားမှုမဖြစ်ပေ၊ ပထမ အချက်မှာ အဝတ်အထည်သည် ပြောင်းလွဲသွားသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၉၀။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်က ကျွန်ုပ်၏အဝတ်ကို သင်ဘဲ ချုပ်ရမည်၊ ၎င်းသင်ဘဲ အရောင်ဆိုးရမည်၊ ၎င်းသင်ဘဲ ဖွပ်လျှော်ရမည်ဟု (ရှရတ္ထ) သတ်မှတ်လိုက်လျှင် ၎င်းသူသည် အခြားသူများဖြင့် လုပ်ကိုင်စေခြင်းမပိုင်ပေ၊ ၎င်း အကယ်၍ ဤသို့သတ်မှတ်ခြင်းများ မပြုလျှင်ကား မည်သူ့ကိုမဆို တဆင့်ခိုင်းနိုင်လေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၉၅။

# အေဂျာရဟ်၊ ဖွာစစ်ဒ်၊ အငှားပေးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အိမ်ငှားရမ်းသောအခါ ရက်ပိုင်းသတ်မှတ်ခြင်း မပြု၊ မည်မျှနေ့ရက်တွင် ငွေတစ်ကျပ်ပေးသည်ကိုမသိရ၊ သို့မဟုတ် လခကို မသတ်မှတ်ဘဲ ယူလိုက်သည်၊ သို့မဟုတ် အိမ်ပျက်စီးသည်ကိုပြင်မည်၊ သို့မဟုတ် အိမ်ပျက်လျှင်ပြင်ရမည်၊ ၎င်းပြင်ခြင်းပင် လခဖြစ်သည်ဟု ပြော၍ငှားလျှင် (အေဂျာရဟ်-ဖွာစစ်ဒ်) ဤသို့ငှားရမ်းခြင်း မပိုင် ဖြစ်လေသည်။

ထို့ပြင် အကယ်၍ ဤအိမ်တွင်နေကုန်၊ ပျက်စီးလျှင်ပြင်ကုန်၊ လခမယူပါဟုပြော၍ ငှားလျှင် ဤသည်မှာ ထောက်ထားညှာတာခြင်းဖြစ်၍ ပိုင်လေသည်။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၇။

အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၄၄၃။

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူကတစ်လ၂-ကျပ်ဖြင့်အိမ်ငှားလျှင် တစ်လပင်ပိုင်ဆိုင်မှုရှိသည်၊ တစ်လပြည့်သောအခါအိမ်ရှင်က မနေတော့ရန် တားမြစ် နှင်နိုင်ခွင့်ရှိသည်၊ တစ်လ ပြည့်သွားပြီး နောက်ထပ်တစ်လတွက်ပေးလိုက်လျှင် နောက်တစ်လ ပိုင်ဆိုင်မှုရှိသွားလေသည်၊ ဤသို့ပင် လ စဉ် ထပ်တလဲလဲ အသစ်ပိုင်ဆိုင်မှုဖြစ်သွားရပေမည်၊ သို့ရာတွင် အကယ်၍ ၄-လဖြစ်စေ၊ ၆-လဖြစ်စေ နေမည်ဟု သတ်မှတ်ပြောဆိုငှားရမ်းလျှင် သတ်မှတ်သော လ ပိုင်းအတိုင်း ပိုင်ဆိုင်မှု ဖြစ်သွားသည်၊ သတ်မှတ်သောလ မပြည့်မီ အိမ်ရှင်က နှင်နိုင်ခွင့် မရှိပေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၇၃။

၃။ မတ်စ်အလပ်ပြဿနာ။ ဂျုံစေ့ကိုကြိတ်ရန်ပေး၍၊ ကြိတ်ခအဖြစ် ကြိတ်ပြီးသော ဂျုံမှုန့် ၁-ပေါင် ယူပါဟုပြော၍ အပ်သည်၊ သို့မဟုတ် လယ်ယာရိတ်သိမ်းစေ၍ ရိတ်ပြီးလျှင် ရိတ်ခအဖြစ် သီးနှံ မည်မျှယူပါဟူ၍ သတ်မှတ်ပေးခြင်းတို့သည်(အဇျာရဟ်-ဖွာစစ်ဒ်) မပိုင်ဖြစ်လေသည်။

ရှရ်ဟွတ်တနဝီးရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၇၉။

၄။ မတ်စ်အလပ်ပြဿနာ။ အဇျာရဟ်-ဖွာစစ်ဒ် မပိုင်ဟူသော အမိန့်ပညတ်ချက်မှာ.... ပေးယူရန် သတ်မှတ်ထားသည်များကို မပေးဆောင်ရ၊ သာမက အလုပ်ကိုကြည့်၍ ဤမျှအလုပ်အတွက် ပေးရသော အခထုံးစံအတိုင်းနှင့် ငှားသော အိမ်အမျိုးအစားကို မည်မျှ ပေးရသော ထုံးစံ ရှိသည့် အတိုင်းသာလျှင် ပေးဆောင်ရမည်၊ သို့ရာတွင် အကယ်၍ အများ ထုံးစံထက် သတ်မှတ်ကြသည်မှာ လျော့နည်းနေသော် သတ်မှတ်သည့်အတိုင်းသာလျှင်ပေးလိုက်ရမည်၊ အချုပ်မှာ.... သတ်မှတ်သည်နှင့် ပေးရသော ထုံးစံထက် လျော့နည်းသည်ကိုသာ ပေးရမည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ-၂၀၅။

၅။ မတ်စ်အလပ်ပြဿနာ။ အတီးအမှုတ်၊ကပွဲ၊မျှောက်ပွဲ စသည့်မလုပ်ပိုင်သည်များကို ငှားယူခြင်းမပိုင်၊ လုံးဝ ပျက်လေသည်၊ ထို့ကြောင့် မည်သည့် အတိုးအခ မျှ ပေးရန် မလို။ ရှရ်ဟွလ်ဘာဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၃၀၁။

၆။ မတ်စ်အလပ်ပြဿနာ။ ဟာဖွိဇ် ဆရာတစ်ယောက်ကို မည်သည့် ကဗရ်သင်္ချိုင်းတွင် ကုရ်အာန်ဖတ်၍ ကုသိုလ်(သဝါဗ်)ကို သေသူအား ပေးရန် အခကြေးငွေပေး၍ထားခြင်းသည်မပိုင်၊ ပျက်လေသည်၊ ဤသို့အခ ပေး၍ ကုရ်အာန်ဖတ်စေခြင်းဖြင့် သေသူမှာ ကုသိုလ်(သဝါဗ်)မရ၊ ၎င်းဖတ်သူလည်း အခကြေးငွေ ရထိုက်သူမဟုတ်ပေ။

ရှာမီကျမ်းအတွဲ-၅၊ စာမျက်နှာ-၅၂။

၇။ မတ်စ်အလပ်ပြဿနာ။ ဖတ်ရွတ်ရန်အတွက် စာအုပ်ကို အခနှင့် ငှားခြင်း မပိုင် သာမက ပျက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၄၇၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၅၊ စာမျက်နှာ-၃၂။

၈။ မတ်စ်အလပ်ပြဿနာ။ ဆိတ်မ၊နွားမ၊ကျွဲမ စသည်ကို သန္ဓေတည်ပေးရန်အတွက် ဆိတ်ထီး၊နွားထီး၊ကျွဲထီးရှင် တို့က သန္ဓေတည်ပေးခ ယူသောထုံးစံ ရှိလေသည်၊ ဤသို့ယူခြင်း လုံးဝ (ဟရာမ်) အပြစ်ဖြစ်လေသည်။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၃၇။

၉။ မတ်စ်အလပ်ပြဿနာ။ ဆိတ်မ၊နွားမ၊ကျွဲမ.တို့ကို နို့သောက်ရန်အတွက် ငွေကြေးဖြင့် အငှားယူခြင်းမပိုင်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၆၉။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၅၊ စာမျက်နှာ-၈၇။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တိရစ္ဆာန်များကို အဖက်မွေးခြင်းမပိုင်၊ ဆိုလိုသည်မှာ- ကြက်၊ ဆိတ်များကို ယူသွားပြီး ကောင်းမွန်စွာမွေး၍ ပွားလာသောအကောင်များကို ကျွန်ုပ်တစ်ဝက် သင်တစ်ဝက်ယူပါဟုပြောဆိုပေးခြင်းများ မပိုင်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၁၇၆။

၁၁။ မတ်စ်အလဟ် ပြဿနာ။ မီးပဒေသာ စသည်ကိုအိမ်တွင်ဆင်ယင်ထားရန်အတွက် အတိုးအခနှင့်ငှားခြင်းမပိုင်၊ ငှားလာသော်လည်း ငှားသူမှာ အခကြေးငွေ မရထိုက်ပေ၊ သို့သော် အကယ်၍ အိမ်တွင်ထွန်းညှိရန်အတွက်ငှားရမ်းမှု ပိုင်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၇၇။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၂။

၁၂။ မတ်စ်အလဟ် ပြဿနာ။ မြင်းလှည်း စသည်ကိုငှားလျှင် ထုံးစံထက် ပို၍ လူများစီးခြင်းမပိုင်၊ ဤသို့ပင် (ဒူလီ) လူထမ်းသေးယာဉ်၌ ၎င်းထမ်းသူများထံမှ ခွင့်မယူဘဲ နှစ်ယောက်ထိုင်ခြင်းများ မပိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၆၇။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ပစ္စည်းတစ်စုံတစ်ရာပျောက်ဆုံးသွားရာ၊ ကျွန်ုပ်၏ပစ္စည်းပျောက်သည်ကို အဘယ်နေရာတွင်ရှိကြောင်း ပြောပြသူအား ပိုက်ဆံတစ်ပြားပေးမည်ဟု ပြောသဖြင့် တစ်ဦးတစ်ယောက်က ရှိသည့်နေရာကို ပြောပြလျှင်လည်း ပြောပြသူမှာ ပိုက်ဆံတစ်ပြားမရနိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ဤသည်မှာ(အေဂျာရဟ်)ငှားရမ်းခြင်းမျိုးမဟုတ်ပေ၊ ၎င်းအကယ်၍ မည်သည့်သီးခြားသောသူကိုပြောပြပါက ပိုက်ဆံပေးမည်ဟုပြောဆိုခဲ့သော်.... ထိုသူက ထိုင်လျက်ကဖြစ်စေ၊ ရပ်လျက်ကဖြစ်စေ ပြောပြပါက ၎င်းသည် ဘာမျှမရနိုင်ပေ၊ အကယ်၍သွားရှာပြီးနောက်ပြောပြမှု၊ ကတိပြုထားသောပိုက်ဆံကို ပေးရမည်။

အာလမ်ဂီရီကျမ်းအတွဲ-၄၊ စာမျက်နှာ-၄၅၄။

# လျှော်ကြေး ယူခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ဆေးဆိုးသူ၊ဒိုဘီ၊ခဝါသည်၊အပ်ချုပ်သူ စသည့်အသက်မွေးဝမ်းကြောင်းပြုသူများထံ အလုပ်အပ်၍ ထိုအပ်ထည်သည် ထိုသူ့ထံ (အမာနတ်) အပ်နှံထားသကဲ့သို့ဖြစ်လေသည်၊ အကယ်၍ သူခိုးခိုးသွားလျှင် ၎င်း မတတ်သာသောနည်းဖြင့် ပျက်စီးသွားလျှင် လျှော်ကြေးယူပိုင်ခွင့်မရှိပေ၊ သို့ရာတွင် အကယ်၍ ၎င်းက မီးကြွေတိုက်ရာတွင် စုတ်ပြဲသွားလျှင် သို့မဟုတ် အကောင်းစားပိုးထည်ကို မီးပေါင်း

လိုက်သဖြင့် ပျက်စီးသွားမှု ထိုအတွက် လျော်ကြေး တောင်းယူနိုင်ပေသည်၊ ဤသို့ပင် ထိုသူက အထည်ကိုမှားချ၍ပေးလျှင် လျော်ကြေးယူနိုင်သည်၊ ၎င်းအကယ်၍ အထည် ပျောက်သွားသည်ကို ကျွန်တော် မည်သို့ဖြစ်မှန်းမသိဟု ပြောဆိုပါက လျော်ကြေးယူနိုင် သည်၊ အကယ်၍ သူခိုး အခိုးခံရသည်ဟုပြောဆိုမူ လျော်ကြေးယူပိုင်ခွင့် မရှိပေ။

(ကိုဒူရီကျမ်း စာမျက်နှာ ၉၂)

၂။ မတ်စ်အလလဟ်ပြဿနာ။ ။ ထောပတ်၊ဆီ စသည်ကို ကူလီအထမ်းသမား အားအိမ်အပို့ ခိုင်းရာ လမ်းတွင်ဖိတ်ကျသွားသော် ထိုကူလီမှလျော်ကြေးယူပိုင်လေသည်။

(ကိုဒူရီကျမ်း စာမျက်နှာ ၉၂)

၃။ မတ်စ်အလလဟ်ပြဿနာ။ ။ ၎င်းကူလီသည် အငှားမဟုတ်ဘဲသင်၏သီးခြား သော အစေခံဖြစ်လျှင် သို့မဟုတ် ၁-ရက်၊ ၂-ရက်၊ ၄-ရက် အိမ်တွင် ငှားထားသူဖြစ်၍ ၎င်းလက်ဖြင့် ဆုံးရှုံးပျက်စီးမှုဖြစ်လျှင် ထိုသူ့ထံမှ လျော်ကြေးယူပိုင်ခွင့်မရှိပေ၊သို့ရာတွင် အကယ်၍ ၎င်းတို့က တမင်တကာ ဆုံးရှုံးပျက်စီးအောင် ပြုမူလျှင်ကား လျော်ကြေး ယူပိုင်ခွင့်ရှိသည်။

(ရှာမီကျမ်း အတွဲ ၅၊ စာမျက်နှာ ၅၉)

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၅၊ စာမျက်နှာ ၆၇)

၄။ မတ်စ်အလလဟ်ပြဿနာ။ ။ သား, သမီးတို့ကို ထိမ်းရန်ထားသော အိမ် ဖော်၏ မေ့လျော့ပေါ့ဆမှုဖြင့် ကလေး၏ လက်ဝတ်လက်စားများ ပျောက်ဆုံးပျက်စီးမှု ၎င်းအိမ်ဖော်ထံမှ လျော်ကြေး ယူပိုင်ခွင့်မရှိပေ။

(ရှာမီကျမ်း အတွဲ ၅၊ စာမျက်နှာ၅၉)

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၅၊ စာမျက်နှာ ၆၇)

## ငှားရမ်းမှုကို ဖျက်ပစ်ခြင်း အကြောင်း

၁။ မတ်စ်အလလဟ်ပြဿနာ။ ။ အိမ်တစ်အိမ်ကို လငှားနှင့်နေရာ ထိုအိမ်သည် မိုးအလွန်ယိုသည်၊ သို့မဟုတ်တစ်ပိုင်းတစ်စ ပြိုပျက်နေသည်၊သို့မဟုတ် အခြားချို့ယွင်း ချက်များရှိနေသဖြင့် ထိုအိမ်၌နေရန် မဖြစ်နိုင်၊ ခဲယဉ်းနေပါက အိမ်ငှားရမ်းမှုကို ဖျက် ပစ်နိုင်ပေသည်၊ အကယ်၍ အိမ်သည် လုံးဝပျက်စီးသွားမူ သင်ကသော်လည်းကောင်း၊ အိမ်ရှင်က သော်လည်းကောင်း၊ သဘောမတူသည်ဖြစ်စေ၊ အိမ်ငှားရမ်းမှုမှာ အလို အလျောက် ပျက်သွားလေသည်။

(ဂျောင်ဟရတ်နိုင်ယေရတ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၂၇၆- ၂၇၇)

၂။ မတ်စ်အလဟ်ပြဿနာ။ ။ မည်သည့်အခါ အိမ်ငှားသူ ရှင်၊ အိမ်ရှင်တို့ တစ်ဦးဦးသေဆုံးသွားသော် အိမ်ငှားမှုပျက်သွားလေသည်။

(ကိုဒူရီကျမ်း စာမျက်နှာ ၉၆)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ (အွှသ်ရ်) အကြောင်း တစ်စုံတစ်ရာပေါ် ပေါက်လာသော် ငှားရမ်းမှု မတတ်သာသည့်အဆုံး ဖျက်နိုင်ခွင့်ရှိသည်၊ ဥပမာ—တစ်နေရာသို့သွားရန် မြင်းလှည်းငှားသည်၊ ထို့နောက် ဆန္ဒပြောင်းသွား၍ မသွားလိုတော့မှု ငှားရမ်းမှုကို ဖျက်ပစ်နိုင်ခွင့်ရှိလေသည်။

(ရှရ်ဟွလ်မွခ်တာစွာရ်လင်လ်ဘာဂ်ဒါဒီကျမ်း အတွဲ ၁၊ စာမျက်နှာ ၂၇၇)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ ငှားရမ်းမှု ပြုသောအခါ စရံငွေ ပေးလေ့ ပေးထရှိကြသည်၊ သွားဖြစ်လျှင် ငွေပြေပေး၍ မသွားဖြစ်လျှင် စရံငွေကို မပေးတော့ပေ၊ ဤသို့ မပေးတော့ဘဲ မနေရ၊ ပြန်ပေးရမည်။

(အာလမ်ဂီရီကျမ်း အတွဲ ၄၊ စာမျက်နှာ၄၅၄)

# ခွင့်မရှိဘဲ သူတစ်ပါး၏ပစ္စည်းကို ယူခြင်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ။ သူတစ်ပါး၏ပစ္စည်းကို အတင်းအဓမ္မယူခြင်း၊ သို့မဟုတ် နောက်ကွယ်တွင် ထိုသူ့အခွင့်မရဘဲ ယူခြင်းတို့သည် (ဂိုနာဟ်) အပြစ်အလွန်ကြီးလေသည်၊ အချို့သောမိန်းမများသည် ခင်ပွန်းသည်၊ ၎င်းရင်းနှီးသူဆွေမျိုးများ၏ ပစ္စည်းကို ၎င်းတို့ခွင့်မပြုဘဲ ယူလေ့ယူထတ်ကြလေသည်၊ ဤသို့ယူခြင်း မပိုင်ပေ။

ခွင့်မပြုဘဲယူလာသောပစ္စည်းမှာ ထိုအတိုင်းရှိနေသေးလျှင် ထိုအတိုင်းပင်ပြန်ပေးလိုက်ရမည်၊ ၎င်းအကယ်၍ သုံးစွဲပစ်လိုက်မှု အမိန့်ပညတ်မှာ ဤသို့ရှိသည်၊ ယူသောပစ္စည်းသည် စျေး၌ ရသောပစ္စည်းဖြစ်လျှင် ဥပမာ.... ကောက်ပဲသီးနှံ ၊ ထောပတ်၊ ဆီ၊ ရွှေဒင်္ဂါးပြားစေ့ဖြစ်မှု ထိုကဲ့သို့ပစ္စည်းအတိုင်း ဝယ်၍ပေးရမည်၊ ၎င်းအကယ်၍ ထိုကဲ့သို့ပစ္စည်းရရန် ခဲယဉ်းသောပစ္စည်းကို ယူ၍ သုံးစွဲပစ်လိုက်လျှင် ထိုပစ္စည်း၏ တန်ဘိုးငွေကိုပေးရမည်၊ ဥပမာ....ကြက်မ၊ ဆိတ်မ၊ မာလကာသီး၊ လိမ္မော်သီး၊ သစ်တော်သီး။

(ဂျောင်ဟာရတ်နိုင်ယေရတ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၂၁)

(အာလမ်ဂီရီကျမ်း အတွဲ ၅၊ စာမျက်နှာ ၁၁၉)

၂။မတ်စ်အလဟ်ပြဿနာ။ ။ ခုတင်၏တိုင် ၎င်းဘောင် တစ်တိုင်တစ်လေ ကျိုးသွားသည်၊ သို့မဟုတ်ယူသောပစ္စည်းတစ်ခုခုမှာ ပျက်စီးချို့ယွင်းသွားသည်ဖြစ်မှု ဆုံးရှုံးသည့်ခန့် လျော်ကြေးပေးဆောင်ရမည်။ (ကိုဒူရီကျမ်း စာမျက်နှာ ၁၂၂)

၃။ မတ်စ်အလဟ်ပြဿနာ။ ။ အခြားသူ၏ငွေဖြင့် ခွင့်မရဘဲရောင်းဝယ်ရာတွင် အမြတ်အစွန်းကို မယူပိုင်ပေ၊ သာမက ငွေရှင်းကို ငွေရှင်အား ပြန်ပေး၍ အမြတ်ငွေကို အလွန်ဆင်းရဲနွမ်းပါးသူများအား လှူဒါန်းလိုက်ရမည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃- စာမျက်နှာ ၃၅၉)

၄။ မတ်စ်အလဟ်ပြဿနာ။ ။ သူတစ်ပါး၏အဝတ်အထည်ကိုစုတ်ဖြဲလိုက်သည်။ အနည်းငယ်ပင်စုတ်ပါက ထိုအတွက် ထိုက်တန်သောလျော်ကြေးပေးရမည်၊ အကယ်၍ အသုံးချနေသည့်အတိုင်း သုံး၍မရအောင် စုတ်ပစ်လိုက်မူ ဥပမာ... ခြုံထည်မှာစုတ်သွား၍ ခြုံမဖြစ်တော့ သို့ရာတွင် အင်္ကျီချုပ်၍ ဝတ်နိုင်သည်၊ ဤသို့သောအဖြစ်၌ စုတ်သူသည် ထိုအဝတ်ကိုယူ၍ တန်ဘိုးအားလုံး ကျသင့်သရွေ့ ပေးဆောင်ရမည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၃၆၃)

(ကိုဒူရီကျမ်း စာမျက်နှာ ၁၂၂)

၅။ မတ်စ်အလဟ်ပြဿနာ။ ။ တစ်ဦး၏ကျောက်ကိုယူ၍ လက်စွပ်တွင်တပ်ဆင်လိုက်သည်ဖြစ်မူ ယခု လက်စွပ်ကိုဖျက်၍ ကျောက်ပြန်ပေးရန်မလိုပေ၊ ၎င်းကျောက်၏ တန်ဘိုးငွေကို ပေးဆောင်ရမည်။ (ကိုဒူရီကျမ်း စာမျက်နှာ ၁၂၃)

၆။ မတ်စ်အလဟ်ပြဿနာ။ ။ သူတစ်ပါး၏အဝတ်အထည်ကိုယူ၍ဆေးဆိုးလိုက်မူ သဘောတူပါက ဆေးဆိုးပြီးကိုပင်ယူ၍ဆေးဆိုးခပေးရမည်၊ မလိုချင်ပါက၎င်းကို အဝတ်ပေးလိုက်ပြီး အဝတ်တန်ဘိုးကိုယူရမည်။

(အာလမ်ဂီရီကျမ်း အတွဲ ၅၊ စာမျက်နှာ ၁၂၀)

(ကိုဒူရီကျမ်း စာမျက်နှာ ၁၂၃)

၇။ မတ်စ်အလဟ်ပြဿနာ။ ။ ပစ္စည်း ပျောက်ဆုံး သွားသဖြင့် လျော်ကြေး ပေးဆောင်ပြီးနောက် ထိုပစ္စည်းပြန်ရလျှင် ကြည့်ရမည်မှာ ပိုင်ရှင်ပြောသည့်အတိုင်း လျော်ကြေးပေးရသည်ဖြစ်လျှင် ထိုပြန်ရသောပစ္စည်းသည် ၎င်းပိုင်ဖြစ်သည်၊ ပြန်ပေးရန် မလိုပေ၊ ၎င်းအကယ်၍ ပိုင်ရှင်ပြောသည်ထက် လျော့၍ပေးခဲ့မူ ပိုင်ရှင်သည် လျော်သည် ကိုပြန်ပေး၍ မိမိပစ္စည်းကို ပြန်ယူနိုင်လေသည်။

(ဟေဒါယဟ်ကျမ်း အတွဲ ၃- စာမျက်နှာ ၃၆၅)

၈။ မတ်စ်အလဟ်ပြဿနာ။ ။ သူတစ်ပါး၏ ဆိတ်မနွားမသည်မိမိအိမ်ဝင်း အတွင်းသို့ရောက်လာရာ ၎င်းတိရစ္ဆာန်၏နို့ကိုညှစ်ယူခြင်း (ဟရာမ်) အပြစ်ဖြစ်လေသည်၊ သာမက ထိုညှစ်ယူလိုက်သော နို့ဘိုးကို ပေးဆောင်ရမည်။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၅၊ စာမျက်နှာ ၁၉၈)

(အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၁၂၇)

၉။ မတ်စ်အလဟ်ပြဿနာ။　။ အပ်ချည်၊ ကွမ်း၊ ဆေး၊ ရှားစေး၊ မည်သည့်ပစ္စည်းမဆို ခွင့်မရှိဘဲယူသုံးခြင်း မပိုင်ပေ၊ ယူခဲ့လျှင်ပျက်စီးသွားသော် သုံးပစ်လိုက်သောတန်ဖိုးငွေလျော်ရန် (ဝါဂျစ်ဗ်) ထိုက်သက်လေ၏၊ သို့မဟုတ် ပိုင်ရှင်အား ပြောပြ၍ ခွင့်လွှတ်ရန် တောင်းပန်ပြောဆိုရမည်၊ မဟုဘ်ပါက (ကေယာမတ်) ကမ္ဘာ့တရားခွင်တွင်ပေးဆပ်ရမည်၊ ထိုနေ့၌ ဤသို့သောပစ္စည်းများ မရှိသည်ဖြစ်ရကား ထိုယူသော ပစ္စည်းအစား ကောင်းမှုကုသိုလ် (အမလ်) များပေးရပေမည်၊ ပေးဆပ်ရန်ကုသိုလ် (အမလ်) မရှိခဲ့သော် ၎င်းပစ္စည်းရှင်ခံရမည့် (အသာဗ်) ပြစ်ဒဏ်ရဲကို ယူသူကထိုက်သင့်သလောက်အစား ဝင်ခံရပေမည်။

(အာလမ်ဂီရီကျမ်း အတွဲ ၅၊ စာမျက်နှာ ၁၂၇)

၁၀။ မတ်စ်အလဟ်ပြဿနာ။　။ ခင်ပွန်းသည်က မိမိအတွက်အဝတ်စဝယ်လာသည်၊ ဖြတ်တောက်ပြီးနောက် ပိုသည့်အစကို ခင်ပွန်းသည်မသိအောင် ဝှက်ထားလိုက်သည်၊ ပြောပြအသိပေးခြင်းမပြုဘဲ ဤသို့ခိုးဝှက်ယူခြင်း မပိုင်ပေ၊ယူလိုလျှင် ပြောပြ၍ယူရမည်၊ ယူခွင့်မပြုလျှင် မယူလေနှင့်။

# စပ်တူပိုင်သော ပစ္စည်းအကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။　။ လူတစ်ယောက်သေဆုံးသွားပြီး ၎င်းကပစ္စည်းအချို့ထားခဲ့မူ ထိုသူ၏ပစ္စည်းများသည် အမွေဆိုင်အားလုံး စပ်တူပိုင်ဆိုင်ကြလေသည်၊ အမွေဆိုင်အားလုံး၏ ခွင့်ပြုချက်မရဘဲ မည်သူမျှ ထိုပစ္စည်းများကို သုံးစွဲခြင်းမပြုပိုင်ပေ၊ အကယ်၍ သုံးစွဲလျှင် အကျိုးခံစားလျှင် (ဂိုနာဟ်) အပြစ်ဖြစ်လေသည်။

(ကိုဒူရီကျမ်း စာမျက်နှာ ၁၀၁)
(ဟေဒါယဟ်ကျမ်းအတွဲ ၂၊ စာမျက်နှာ ၆၀၄)

၂။ မတ်စ်အလဟ်ပြဿနာ။　။ ဇနီးသည် နှစ်ဦးက စပ်တူ ပန်းကန်အချို့ကို ဝယ်လျှင် ထိုပန်းကန်တို့သည် နှစ်ဦးပိုင်ဖြစ်လေသည်၊ တစ်ဦးကိုအသိမပေးဘဲ တစ်ဦးက ထိုပန်းကန်များကို သုံးစွဲခြင်း၊ ရောင်းပစ်ခြင်း စသည်များ မပြုပိုင်ပေ။

(ကိုဒူရီကျမ်း စာမျက်နှာ ၁၀၁)
(ဟေဒါယဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၆၀၄)

၃။ မတ်စ်အလဟ်ပြဿနာ။　။ ဇနီးသည် နှစ်ဦးက မိမိတို့ငွေရော၍ စပ်တူ မာလကာသီး၊လိမ္မော်သီး၊ဆီးသီးသရက်သီး၊ သပြေသီး၊ သခွားသီး၊ ပြောင်းဖူးတ်သခွား၊ဖရဲသီး စသည့် မည်သည့်ပစ္စည်းကို အဝယ်ခိုင်းသည်၊ ထိုပစ္စည်းများ ဈေးမှရောက်လာသည်၊

ထိုအချိန်၌ တစ်ဦးသာ ရှိ၍ တစ်ဦးက အပြင်သွားနေမူ တစ်ဝက်ခွဲ၍ ကိုယ်တိုင်ယူပြီး၊ တစ်ဝက်ကို ၎င်းလာလျှင် ယူရန် ထားခြင်းမျိုးမပြုရပေ၊ စပ်တူဝယ်သူ နှစ်ဦးစလုံးမရှိဘဲ တစ်ယောက်တည်းအနေနှင့်ခွဲဝေယူခြင်းမပြုပိုင်၊ အကယ်၍ တစ်ဦးမရှိဘဲ ခွဲယူ၍ စားလိုက်လျှင် ကြီးစွာသော 'ဂိုနာဟ်' အပြစ်ဖြစ်လေသည်။

သို့ရာတွင် အကယ်၍ ဂျုံ၊ သို့မဟုတ် ကောက်ပဲသီးနှံ အချို့ကို စပ်တူ ဝယ်ခိုင်းသည်၊ တစ်ဦးမရှိ၍တစ်ဦးကခွဲဝေပြီး မိမိအစုကိုယူကာ ၎င်းလာသောအခါ ၎င်း၏အစုကို ပေးလိုက်လျှင်ပိုင်သည်၊ သို့သော် မိမိအစုကိုယူ၍ တစ်ဦး၏အစုကို မပေးရသေးမီ ၎င်း၏အစုမှ အချို့တစ်ဝက် အခိုးခံရလျှင်၊ ပျက်စီးသွားလျှင် နှစ်ဦးပိုင် ဆုံးရှုံးသည်ဟု မှတ်ယူရမည်၊ မိမိအစုထဲမှ ထက်ဝက်စီဖြစ်သွားအောင် ၎င်းကို ခွဲပေးရဦးမည်။

ရှရ်ဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၁၇။

၄။ မတ်စ်အလဟ်ပြဿနာ။ လူနှစ်ယောက်က ငွေ ၁၀၀-စီ စိုက်ထုတ်၍ ရောင်းဝယ်ကြသည်၊ အမြတ်အစွန်းရသည်ကိုတစ်ယောက်တစ်ဝက်စီယူမည်ဟုကတိပြုကြလျှင် ပိုင်လေသည်၊ အကယ်၍ ငွေရင်းမှာ ထက်ဝက်စီ မဟုတ်ဘဲ အပိုအလျော့ရှိကြသော်လည်း အမြတ်တွင် တစ်ဦးက ၂-ပုံ၊ တစ်ဦးက ၁-ပုံယူမည်ဟု သတ်မှတ်ရောင်းဝယ်လျှင်လည်း ပိုင်လေသည်။

၅။ မတ်စ်အလဟ်ပြဿနာ။ ကုန်ပစ္စည်းမဝယ်ရသေးမီ နှစ်ဦးစပ်ငွေကို သူခိုးအခိုးခံရလျှင်၊ ၎င်းနှစ်ဦး၏ငွေမှာ မရောစပ်သေးဘဲ သီးခြားစီထားကြသေး၍၊ တစ်ဦး၏ငွေမှာ သူခိုးအခိုးခံရလျှင် ဖက်စပ်လုပ်ငန်း ပျက်သွားလေသည်၊ ထပ်မံ၍ ပေါင်းစပ်ကြကာ ရောင်းဝယ်ကြရမည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၀၂။

၆။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ်၏ ငွေ၁၀၀-နှင့် သင်၏ငွေ၁၀၀ ရော၍ အဝတ်အထည် ရောင်းဝယ်ပြီး အမြတ်ကို ထက်ဝက်စီ ခွဲဝေယူမည်ဟု လူနှစ်ယောက်က ဖက်စပ်လုပ်ကြသည်၊ ထိုနောက် နှစ်ဦးအနက် တစ်ဦးက အထည်အလိပ်ကိုဝယ်လိုက်သည်၊ အခြားတစ်ဦး၏ ငွေ၁၀၀-စလုံး သူခိုးအခိုးခံရသည်ဖြစ်မူ ဝယ်လိုက်သောအထည်အလိပ်သည် နှစ်ဦးပိုင်ဖြစ်လေသည်၊ ထို့ကြောင့် အထည်အလိပ်ဝယ်သူထံမှ တန်ဘိုး တစ်ဝက် ယူနိုင်သည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ-၆၁၁။

၇။ မတ်စ်အလတ် ပြဿနာ။ ဖက်စပ် ရောင်းဝယ်ကြရာ၌ အမြတ် အစွန်းမှ ၁၀-ကျပ်၊ သို့မဟုတ် ၁၅-ကျပ် ကျွန်ုပ်ယူမည်၊ ကျန်အမြတ်ကို သင်ယူကုန်ဟု သတ်မှတ်မှု ပြုခြင်းမပိုင်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၃၊ စာမျက်နှာ-၆၁၂။

၈။ မတ်စ်အလတ် ပြဿနာ။ ရောင်းဝယ်သောပစ္စည်းမှ အချို့ သူခိုးအခိုးခံရလျှင် တစ်ဦးတည်းမခံရ၊ နှစ်ဦးပိုင်ဆုံးရှုံးခြင်းသာဖြစ်သည်၊ အကယ်၍ ဆုံးရှုံးပျက်စီးမှုဖြစ်က ကျွန်ုပ်တာဝန်၊ အမြတ်အစွန်းရလျှင် တစ်ဝက်စီခွဲဝေမည်ဟု တစ်ဦးက ဝန်ခံကတိပေးထားမှု ဤသို့ပြုမှုခြင်း မပိုင်ပေ။

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၂၀။

၉။ မတ်စ်အလတ် ပြဿနာ။ 'ရှရီအတ်' တရားတော်မြတ်အရ ဖက်စပ် ရောင်းဝယ်မှုမပိုင် ဖြစ်သွားသောအခါ အမြတ်ကို ခွဲဝေရာ၌ သတ်မှတ်ထားချက်ကို အတည်ပြုလိုက်နာကြရန် မလိုပေ။ သို့သာမက နှစ်ဦး၏ ငွေရင်းသည် ထက်ဝက် ဖြစ်ကြလျှင် အမြတ်ကိုလည်း ထက်ဝက်ပင်ခွဲဝေယူရမည်၊ အကယ်၍ အညီအမျှမဟုတ်ဘဲ အပိုအလျော့ ရင်းထားကြသော် ငွေရင်းအပိုအလျော့အတိုင်း အမြတ်ကို အချိုးကျ ခွဲဝေယူကြရမည်၊ အမြတ်ကို မည်ရွေ့ မည်မျှ ယူကြမည်ဟု သတ်မှတ် အတည်ပြုထားကြခြင်းမှာ ဖက်စပ်လုပ်ငန်း မှန်ကန်၍ ပိုင်မှသာ၊ ဖြစ်မှသာလျှင် အတည်ဖြစ်လေသည်။

ကို့ဒူရီကျမ်း စာမျက်နှာ-၁၀၃။
အာလမ်ဂီရီကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၃၅။

၁၀။ မတ်စ်အလတ် ပြဿနာ။ အမျိုးသမီးနှစ်ဦးက အနေနေရာမှ အချုပ်အပ်လာသောအထည်များကို နှစ်ဦးပေါင်း၍ချုပ်မည်၊ လက်ခကိုတစ်ဝက်စီယူမည်ဟု ဖက်စပ်လုပ်ကိုင်ကြသော် ပိုင်လေသည်၊ အကယ်၍ နှစ်ဦးလုပ်ကိုင်သော်လည်း တစ်ဦးက ၂-ပုံ၊ တစ်ဦးက ၁-ပုံယူမည်ဟုသတ်မှတ်ယူကြလျှင်လည်းပိုင်သည်၊ သို့သော်အပ်ထည်မှ တစ်မတ်၊ ရင်းငါးမူး ကျွန်မယူမည်၊ ကျန်သည်ကို သင်မယူ ဟူ၍ သတ်မှတ် လုပ်ကိုင်ကြလျှင်ကား မပိုင်ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်းအတွဲ-၃၊ စာမျက်နှာ ၆၁၂။

၁၁။ မတ်စ်အလတ် ပြဿနာ။ ထိုအမျိုးသမီးနှစ်ဦးအနက် တစ်ဦးက ချုပ်ရန်အလုပ်လက်ခံလိုက်သော် အခြားတစ်ဦးက သင်မယူပင်ချုပ်၊ ကျွန်မ မချုပ်နိုင်ဟု ပြောပိုင်ခွင့်မရှိပေ၊ သာမက နှစ်ဦးစလုံးအပေါ် ချုပ်ရန် (ဝါဂျစ်ဗ်) တာဝန် ဖြစ်သွားလေသည်၊ ၎င်းသူမက မချုပ်နိုင်ခဲ့လျှင် လက်ခံသူမက ချုပ်ရမည်၊ သို့မဟုတ် နှစ်ဦးစလုံးချုပ်ရမည်၊ အချုပ်မှာ.... ချုပ်လုပ်မှုကို ငြင်းဆိုပိုင်ခွင့်မရှိပေ။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်းအတွဲ ၁၊ စာမျက်နှာ ၂၅၁။

၁၂။ မတ်စ်အလက်ပြဿနာ။ အထည်ရှင်က လာရွေးသောအခါ လက်ခံလိုက်သော သူမ မရှိလျှင် အခြားတစ်ဦးထံတွင် တောင်းဆိုပိုင်ခွင့်ရှိသည်၊ လက်ခံ သူမ မရှိသေး၊ ကျွန်မနှင့်မဆိုင်၊ သူ့ထံမှာသာတောင်းယူပါ ဟူ၍ မပြောဆိုနိုင်ပေ။

ဖေဒါယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၆၁၃။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၉၄၀။

၁၃။ မတ်စ်အလက်ပြဿနာ။ ဤသို့ပင် ဖက်စပ် လုပ်ကြသော သူမများက ချုပ်ခကို ပိုင်ရှင်ထံမှ တောင်းယူနိုင်သည်၊ အထည်ရှင်က အပ်သူမကိုသာ ချုပ်ခပေးမည် ဟူ၍မပြောပိုင်ပေ၊ ဖက်စပ်လုပ်ကြသော သူမများအနက် မည်သူမဆို ချုပ်ခကို တောင်း ယူနိုင်သည်၊ ထိုဖက်စပ် လုပ်ကိုင်ကြသူ နှစ်ဦးအနက် တစ်ဦးဦးကို ချုပ်ခ ပေးလိုက်လျှင် အထည်ရှင်မှာ တာဝန်ကျသွားလေသည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၉၄၀။

၁၄။ မတ်စ်အလက်ပြဿနာ။ အမျိုးသမီး နှစ်ယောက်က တောတွင် သွား၍ ထင်းခွေကြပြီး ရောင်းရသည်ကို ထက်ဝက်စီ ခွဲဝေယူမည်ဟု ဖက်စပ် လုပ်ကိုင်ကြသော် မပိုင်ပေ၊ မိမိခွေ၍ရသောထင်းကို မိမိတစ်ဦးတည်းသာပိုင်ဆိုင်သည်၊ ဤကိစ္စတွင် ဖက်စပ် မလုပ်ပိုင်ပေ။ ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၂၉၁။

၁၅။ မတ်စ်အလက်ပြဿနာ။ ကျွန်ုပ်၏ ဥကို သင်၏ကြက်မဖြင့် ဖေါက်ပါ၊ ပေါက်သောအခါ တစ်ဝက်စီယူမည်ဟု ပြောဆိုလုပ်ကိုင်ခြင်း မပိုင်ပေ၊

အာလမ်ဂီရီကျမ်းအတွဲ-၂၊ စာမျက်နှာ-၉၄၄။

## စပ်တူဝယ်သောပစ္စည်းကို ခွဲဝေယူခြင်းအကြောင်း

၁။ မတ်စ်အလက်ပြဿနာ။ လူနှစ်ယောက်က ဈေးမှ ဂျုံကို ပေါင်းစပ်၍ ဝယ်ယူသည်ဖြစ်မူ ယခုခွဲဝေကြသောအခါ နှစ်ဦးစလုံး အသင့်ရှိနေရန်မလိုပေ၊ တစ်ဦး မရှိသော်ငြားလည်း မိမိအစုကို မှန်ကန်စွာချိန်တွယ်၍ ယူပြီး ၎င်းအစုကိုခွဲ ထားပိုင်လေသည်၊ မိမိအတွက် အစုခွဲပြီးသော် စားသောက် သုံးစွဲ ပေးကမ်းနိုင်သည်။ ဤသို့ပင် ထောပတ်၊ဆီ၊ဥ စသည်များကိုလည်း တစ်ဦးမရှိဘဲ ခွဲယူနိုင်သည်။ အချုပ်မှာ....မကွဲပြား သောပစ္စည်းများ၊ ဥပမာ....ဥနှင့်ဥအတူတူပင်ဖြစ်သည်၊ ဂျုံကို၂-ပုံခွဲလိုက်ရာ ၁-ပုံနှင့်၁-ပုံ အတူတူ ဖြစ်လေသည်၊ ဤသို့ မကွဲပြား မခြားနား အတူတူ ဖြစ်သည့် ပစ္စည်းများကို စပ်တူဝယ်သူ တစ်ဦး မရှိသော်လည်း မိမိအစုကို ခွဲဝေနိုင်လေသည်။

သို့သော် တစ်ဦးက မိမိအစုကိုမယူသေးဘဲ ၎င်းအစုမှာ ပျက်စီးသွားလျှင် နှစ်ဦးပိုင် ဆုံးရှုံးခြင်းပင်ဖြစ်သည်၊ လွန်ခဲ့သော စပ်တူပိုင်ပစ္စည်းအကြောင်းတွင် လွန်ခဲ့ပေပြီ၊ ၎င်း အကြပ်ပစ္စည်းများတွင် ကွဲပြားမှုရှိလျှင်၊ ဥပမာ...မာလကာသီး၊ လိမ္မော်သီး စသည်များ၏အမိန့်မှာ- စပ်တူဝယ်သူ နှစ်ဦးစလုံးမရှိလျှင် အစုကို ခွဲဝေယူခြင်းမပြုရ၊ နှစ်ဦးရှေ့မှောက်၌သာ ခွဲဝေရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၂၀၆။
ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၂၂၁။

၂။ မတ်စ်အလဟ် ပြဿနာ။ မိန်းကလေးနှစ်ယောက်က စပ်တူ မာလကာသီး၊ သရက်သီး စသည်ဝယ်ယူသည်၊ မခွဲရသေးမီတစ်ဦးက တစ်နေရာသို့ထွက်သွားမှု၊ ယခု ထိုပစ္စည်းထဲမှ ယူစားခြင်း မပြုပိုင်၊ ၎င်းသူမ ပြန်လာမှ ထိုသူမ ရှေ့တွင် အစု ခွဲရမည်၊ ထိုအခါမှစားပိုင်လေသည်၊ ဤသို့မဟုတ်ပါကကြီးစွာသော 'ဂိုနာဟ်'အပြစ်ဖြစ်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၊ စာမျက်နှာ-၂၁၈။

၃။ မတ်စ်အလဟ် ပြဿနာ။ နှစ်ဦးစပ်တူ ကုလားပဲလှော်ခိုင်းမှု၊ ခန့်မှန်းချေဖြင့် ခွဲယူခြင်းမပိုင်ပေ၊ သာမက မှန်မှန်ကန်ကန်ချိန်တွယ်၍ တစ်ဝက်စီခွဲရမည်၊ တစ်ဘက်ဘက်မှ အပိုအလျော့ဖြစ်သွားလျှင် အတိုးဖြစ်သွားပေမည်။

ဟေဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၄၁၄။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၅၊ စာမျက်နှာ ၂၀၈။

# အပေါင်ထားခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ သင်က သူတစ်ဦးထံမှ ငွေ၁၀-ချေးသည်၊ ၎င်းသူယုံကြည်စိတ်ချစေရန်အတွက် သင်ကပစ္စည်းတစ်ခုခုကိုထားပြီး၊ ကျွန်တော်ငွေပြန်ဆပ်သောအခါကျမှ ဤပစ္စည်းကိုပြန်ယူပါမည်ပြော၍ချေးလျှင် ပိုင်လေသည်၊ ဤသည်ကို အပေါင်ထားခြင်းဟု ခေါ်လေသည်၊ သို့သော် အတိုးပေးခြင်းကား လုံးဝ မပိုင်ပေ၊ ယခုခေတ်အခါသမယတွင် ချစ်တီးများသည် အတိုးယူ၍အပေါင်ခံကြလေသည်၊ ဤသို့ပြုခြင်းမပိုင်၊ အတိုးယူခြင်း-ပေးခြင်း နှစ်ရပ်စလုံး 'ဟရာမ်' ကြီးလေးသောအပြစ် ဖြစ်လေသည်။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၂၉။

၂။ မတ်စ်အလဟ် ပြဿနာ။ သင်က ပစ္စည်းတစ်ခုခုကို အပေါင်သဘော ထားလိုက်မှု ယခု ချေးငွေ မဆပ်သေးဘဲ ယခု မိမိပစ္စည်းကို ယူခြင်း-တောင်းခြင်း ပြုပိုင်ခွင့်မရှိတော့ပေ။ ရှရ်ဟွလ်ဘာဒါယဟ်ကျမ်း အတွဲ-၄၊ စာမျက်နှာ-၅၂၀။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦး တစ်ယောက်က သင့်ထံ ပစ္စည်း တစ်ခုခု အပေါင်ထားလိုက်လျှင် ယခု ထိုပစ္စည်းကို အသုံးချခြင်း၊ အကျိုးခံစားခြင်း၊ဥယျာဉ်၏ အသီးစားခြင်း၊ မြေမှသီးနှံ ကိုစားခြင်း၊ ငွေယူ၍ ငှားစားခြင်း၊ ဤကဲ့သို့ အပေါင် ထားသောအိမ်၌ နေခြင်းများ မပိုင်ပေ။

ကန်ဇ်အဟာရှိယဟ်ကျမ်း စာမျက်နှာ ၃၈၀။

၄။မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဆိတ်မ၊ နွားမ စသည် အပေါင်ထားမှု ထိုတိရစ္ဆာန်တို့၏ နို့၊ ကလေးစသည်များလည်း ပိုင်ရှင်ပိုင်ပင်ဖြစ်သည်၊ အပေါင်ခံသူက သုံးစွဲပိုင်ခွင့်မရှိ၊နို့ကိုရောင်း၍ အပေါင်ပစ္စည်း၌ထည့်ထားရမည်၊ ပိုင်ရှင်က ချေးငွေဆပ် သောအခါ အပေါင်ထားသော တိရစ္ဆာန်နှင့် နို့ဖိုးများကိုပါ ပေးလိုက်ရမည်၊ ၎င်း ကျွေးမွေးထားရသော ကုန်ကျစရိတ်ကို နှုတ်ယူလိုက်ရမည်။

ယေဒါယဟ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၅၃၉။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သင်ကချေးငွေအချို့ကို ပေးဆပ်လိုက် သော်လည်း အပေါင်ထားသောပစ္စည်းကို မယူနိုင်သေးပေ၊ ချေးငွေအားလုံး ပေးဆပ် ပြီးမှသာ အပေါင်ထားသောပစ္စည်းရမည်ဖြစ်လေသည်။

ရှရှ်ဟွလ်ဟေဒါယဟ်ကျမ်း အတွဲ ၅၊ စာမျက်နှာ ၅၂၀။

၆။ မတ်စ်အလဟ်ပြဿနာ။ သင်က ငွေ ၁၀- ချေးသည်၊ ၎င်း ၁၀- ကျပ်တန် ပစ္စည်း၊ သို့မဟုတ် ၁၅-ကျပ်၊ ၂၀-ကျပ်တန်ပစ္စည်းအပေါင်ထားလိုက်သည်၊ထို့နောက် ထိုပစ္စည်းသည် အပေါင်ထားသူထံမှ ပျောက်ဆုံးပျက်စီးသွားမှု ထိုသူကသင့်ထံမှ ချေး ငွေမတောင်းနိုင်၊ သင်ကလည်း အပေါင်ထားသောပစ္စည်းကို လျော်ကြေးမတောင်းဆို နိုင်ပေ၊ သင်၏ပစ္စည်းဆုံး၍ ၎င်း၏ချေးငွေလည်း ဆုံးသည်ဖြစ်ပေသည်၊ ၎င်းအကယ်၍ ငွေ ၁၀-ကျပ်ချေး၍ ၅-ကျပ်တန်ပစ္စည်းကို အပေါင်ထားခဲ့လျှင် ၎င်းထိုပစ္စည်းပျောက် ဆုံး ပျက်စီးပါက သင်က ငွေ၅-ကျပ် ပေးဆပ်ရမည်၊ ၅-ကျပ်မှာပျောက်ဆုံးမှု၌ ပါသွား လေသည်။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၁၊ စာမျက်နှာ ၂၃၀။

# ဝစ္စီယတ် မှာတမ်းခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ်သေပြီးနောက် မည်မျှပစ္စည်း မည်သူ့ကို ပေးပါ၊ သို့မဟုတ် မည်သည့်နေရာတွင်သုံးပါဟု ပြောဆိုမှာတမ်းခြင်းကို(ဝစ္စီယတ်)ဟု ခေါ်လေသည်၊ ကျန်းမာသောအခါ ပြောသည်ဖြစ်စေ၊ မကျန်းမာသောအခါ ပြော သည်ဖြစ်စေ၊ ထိုရောဂါ၌သေဆုံးသည်ဖြစ်စေ၊ ကျန်းမာသွားသည်ဖြစ်စေ အတူတူပင် ဖြစ်လေသည်၊ ၎င်းမိမိလက်ဖြင့် တစ်နေနေရာသို့ပေးလှူလိုက်လျှင် တစ်ဦးတစ်ယောက်၏

ကြွေးကို ခွင့်လွှတ်လိုက်ခြင်း၏အမိန့်ပညတ်မှာ ဤသို့ရှိသည်၊ ကျန်းမာနေသောအခါ မည်သို့မဆို ပြုလုပ်ပိုင်ခွင့်ရှိသည်၊ ဤသို့ပင် ရောဂါမှကျန်းမာသွားလျှင်လည်းပိုင်သည်၊ ၎င်းသေမည်ဟု အထင်များသောရောဂါ၌ ပေး၍သေဆုံးသွားလျှင် (ဝစ္စိယတ်) ဖြစ်လေသည်၊ ဤအကြောင်း ရှေ့တွင်လာပေအံ့။

ရှရ်ဟွတ်တန်ဝီရ်ကျမ်း တွဲ ၂၊ စာမျက်နှာ ၃၁၇။
မဂျ်မအွလ်အန်ဟရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၆၉၁။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်အပေါ်တွင်နမာဇ်များ၊ ရိုဇဟ်များ၊ ဇကာတ်၊ 'ကဆမ်' ကျိန်ဆို၍ ပျက်ကွက်ခဲ့မှုများ စသည့်'ကဖ်ဖွာရဟ်' ဖြည့်စွက်ရန်များ ကျန်နေခဲ့လျှင် ၎င်းဖြည့်စွက်တာဝန်ချရန် ငွေလည်းရှိမူ မသေဆုံးမီ တာဝန်ချလိုက်ကြရန် မှာတမ်း (ဝစ္စိယတ်) ပြုရန် (ဝါဂျစ်ဗ်) ထိုက်သက်အရေးကြီးလေ၏။

ဤသို့ပင် အကယ်၍တစ်ဦးတစ်ယောက်အားပေးရန်ကြွေးရှိနေလျှင်၎င်းတစ်ဦးဦး၏ အပ်နှံထားသော ပစ္စည်းရှိနေလျှင် ထိုအတွက်လည်း မှာတမ်း (ဝစ္စိယတ်) ပြုသွားရန် (ဝါဂျစ်ဗ်) ထိုက်သက်လေ၏၊ မှာတမ်းမှု မပြုခဲ့သော် (ဂိုနာဟ်ဂါရ်) အပြစ်ထိုက်သူဖြစ်သည်၊ အကယ်၍ အမွေမဆိုင်သော ဆင်းရဲသည့် ဆွေမျိုးများရှိလျှင် ၎င်းထံ၌လည်း ရွှေ့ငွေရှိနေပါက ထိုဆင်းရဲသည့် ဆွေမျိုးများကို မည်ရွှေ့မည်မျှ ပေးရန် မှာတမ်း (ဝစ္စိယတ်) ပြုခြင်း၊ မွတ်စ်တဟာဗ် ဖြစ်လေသည်၊ ကျန် မိတ်သင်္ဂဟများအတွက် မှုကား မှာလိုကမှာ မမှာလိုက နေနိုင်ခွင့် ရှိလေသည်။

ရှရ်ဟွတ်တန်ဝီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၁၇။

၃။မတ်စ်အလဟ်ပြဿနာ။ ။သေပြီးနောက် သေသူ၏ ပစ္စည်းမှ ပထမဦးစွာ ထိုသူ၏သင်္ဂြိုဟ်ရာ ကိစ္စအဝဝကို သုံးစွဲရမည်၊ ထို့နောက် ကျန်ပစ္စည်းများဖြင့်တင်ရှိနေသော ကြွေးငွေများကို ပေးဆပ်ရမည်၊ အကယ်၍ သေသူ၏ပစ္စည်းများဖြစ်အကြွေးဆပ်ရာ၌ ကုန်သွားလျှင် ကုန်အောင်ပင်ဆပ်ရမည်၊ အမွေစားများမရနိုင်ပေ၊ ထို့ကြောင့် ပေးဆပ်ရန် မှာတမ်းမှုကို အကောင်အထည် ဖော်ကြရမည်၊ အကယ်၍ ရှိပစ္စည်းအားလုံး ကြွေးဆပ်မှု၌ ကုန်သွားလျှင်လည်း ကိစ္စမရှိပေ။

ထို့ပြင် အကယ်၍ ကြွေးဆပ်ရန် မှာတမ်း(ဝစ္စိယတ်)မပြုခဲ့မူလည်းပထမကြွေးငွေကို အလျှင်ဆပ်ရမည်၊ အကြွေးအပြင် အခြားသော မှာတမ်း (ဝစ္စိယတ်) အတွက် ပစ္စည်းသုံးပုံတစ်ပုံသာ အခွင့်ရှိလေသည်။ ဆိုလိုသည်မှာ... သေသူ၏ပစ္စည်းများမှ သုံးပုံတစ်ပုံမှ အကယ်၍ မှာတမ်းမှုပြည့်စုံသွားလျှင် ဥပမာ... သင်္ဂြိုဟ်ရာကိစ္စနှင့် ကြွေးငွေဆပ်ပြီးနောက် ငွေ ၃၀၀ ကျန်သည်၊ ၎င်းငွေ ၁၀၀ နှင့် မှာတမ်းမှုပြည့်စုံသွားလျှင်မှာတမ်းမှုများကို ပြည့်စုံအောင် ပြုကြရမည်၊ သုံးပုံ တစ်ပုံထက်ပို၍ ပေးရန်အမွေစားများအပေါ်

(ဝါဂျစ်ဗ်) တာဝန်မဟုတ်ပေ၊ သုံးပုံတစ်ပုံမှ မှာတမ်းမှုများ ပြည့်စုံအောင် ပေးနိုင်လျှင် ပေးရမည်၊ ပေးရန်ကျန်နေသေးလျှင် မပေးဘဲနေနိုင်သည်၊ သို့ရာတွင် အကယ်၍ အမွေစားအားလုံးက ကျွန်ုပ်တို့အစုကိုမယူ မှာတမ်းမှုကိုပြည့်စုံအောင်ပြုပေးပါဟု သဘောတူညီစွာ ပြောကြလျှင် သုံးပုံတစ်ပုံထက် ပို၍လည်း ပေးနိုင်လေသည်၊ သို့သော် အရွယ်မရောက်သေးသူများ၏ ခွင့်ပြုချက်မှာ အရာမရောက်ပေ၊ အကယ်၍ အရွယ်မရောက်သူများက ခွင့်ပေးသော်လည်း ၎င်းတို့၏အစုကို သုံးစွဲရန် မပိုင်ပေ။

ရှရ်ဟွတ်တန်ဇီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၅၂။
ရှရ်ဟွလ်ဟေဒါယဟ်ကျမ်း အတွဲ ၄၊ စာမျက်နှာ ၆၃၈။

၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် အမွေရမည် ဖြစ်လျှင် ဥပမာ— အဘ၊အမိ၊ခင်ပွန်း၊သား စသည်များဖြစ်မူ ထိုသူတို့အတွက် ပေးကမ်းရန် မှာတမ်းခဲ့ခြင်းများ မပိုင်ပေ၊ ၎င်းဆွေမျိုးတော်သော်လည်း အမွေမဆိုင်သူများ၊ ဆွေမျိုးမတော်သူများအတွက်(ဝစ္စီယတ်)မှာတမ်းမှုပြုနိုင်လေသည်၊သို့သော်သေသူ၏ ပစ္စည်းသုံးပုံတစ်ပုံထက်ပို၍ကား ပေးပိုင်ခွင့်မရှိပေ။

အကယ်၍ တစ်ဦးတစ်ယောက်က အမွေစား မည်သူမည်ဝါကို ကျွန်ုပ်သေလျှင် မည်သည့်ပစ္စည်း၊ ၎င်းမည်မျှပေးပါဟု မှာတမ်း (ဝစ္စီယတ်) ပြုခဲ့လျှင် ၎င်းအမွေစားသည် မှာတမ်းမှုမှ တစ်စုံတစ်ရာ ရပိုင်ခွင့်မရှိပေ၊ သို့ရာတွင် အကယ်၍ ထိုမှာတမ်းခဲ့မှုကို အမွေစားအားလုံးက သဘောတူညီကြလျှင် ပေးပိုင်ပေသည်၊ ဤသို့ပင် အကယ်၍ တစ်ဦးဦးကိုပေးရန် သုံးပုံတစ်ပုံထက် ပို၍မှာတမ်းခဲ့လျှင်ထိုကိစ္စ၏အမိန့်မှာလည်း ဤသို့ရှိသည်၊ အမွေစားအားလုံးက သဘောတူလျှင် မှာတမ်းခဲ့သည့်အတိုင်းရမည်၊ သို့တည်းမဟုတ်က သုံးပုံတစ်ပုံပင်ရရှိမည်၊ ၎င်းအရွယ်မရောက်သေးသောသူများ၏ အစုများကို ၎င်းကလေးများက အခွင့်ပေးသည်ဖြစ်စေ၊ မပေးသည်ဖြစ်စေ မသုံးစွဲရ၊နေရာတိုင်းတွင် ကလေးငယ်များ၏ကိစ္စကို ဂရုစိုက်ကြရမည်၊ ကျွန်ုပ်တို့ အဖန်တလဲလဲ ရေးမနေနိုင်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၁၉။
ဂျော်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၄၆။

၅။မတ်စ်အလဟ်ပြဿနာ။ ရှိပစ္စည်း သုံးပုံတစ်ပုံကို သူတစ်ပါးအားပေးရန် မှာတမ်း(ဝစ္စီယတ်)ပြုပိုင်သည်၊သို့သော်အကောင်းဆုံးနည်းမှာသုံးပုံတစ်ပုံထက် လျှော့၍ မှာတမ်းခြင်းပြုရမည်၊ အကယ်၍ ပစ္စည်းဥစ္စာ လွန်စွာမချမ်းသာလျှင် မှာတမ်း (ဝစ္စီယတ်) မပြုခြင်းက ပိုကောင်းသည်၊ သို့မှသာ အမွေစားများ ချောင်ချောင်လည်လည် သုံးစွဲနိုင်ကြမည် ဖြစ်ပေသည်၊ အဘယ့်ကြောင့်ဆိုသော် မိမိ၏ အမွေစားများအတွက်

ချောင်လည်စွာ ထားခဲ့ခြင်းလည်း ကုသိုလ် (သဝါဗ်) ရစ်လသည်၊ သို့ရာတွင် မှာတမ်းမှု (ဝစ္စီယတ်)မှာ အရေးကြီးလျှင် ဥပမာ.... နမာဇ်ရိုဇာ်အတွက်ဖြစ်ပါက မည်သို့ဖြစ်စေ မှာတမ်းသမှုပြုခဲ့ရမည်၊ မှာတမ်းမှုမပြုပါက (ဂိုနာဟ်) အပြစ်ဒုစရိုက် ထိုက်သက်သူ ဖြစ်လေသည်။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၄၈။

၆။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ် သေပြီး နောက် ကျွန်ုပ်ပိုင် ပစ္စည်းမှ ငွေ ၁၀၀-လှူဒါန်းလိုက်ပါဟု မှာတမ်း (ဝစ္စီယတ်) ပြုခဲ့လျှင် ကြည့်ရမည်မှာထိုသူ၏သင်္ဂြိုဟ်စရိတ်၊ ၎င်းအကြွေးရှိသော် အကြွေးဆပ်ပြီးနောက် မည်မျှကျန်သနည်း၊ အကယ်၍ ငွေ ၃၀၀၊ ၎င်းထိုထက်ပို၍ ပစ္စည်းကျန်ခဲ့သော် မှာတမ်းခဲ့သည့်အတိုင်း ငွေ ၁၀၀-တိတိကို လှူဒါန်းရမည်၊ အကယ်၍ ၃၀၀-မပြည့်ဘဲ လျော့နေမှု ကျန်ပစ္စည်း ၃-ပုံ ၁-ပုံသာလျှင် လှူဒါန်းရန် ထိုက်လေသည်၊ ဟုတ်ပါ၏၊ အကယ်၍ အားလုံးသော အမွေစားများက အဓမ္မပြုကြခြင်းမရှိဘဲ မိမိတို့ သဘောဆန္ဒအလျောက် လှူရန်ခွင့်ပြုလိုက်လျှင် ကိစ္စမရှိပေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၄၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၁၉။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်တွင်အမွေစားတစ်ဦး တစ်ယောက်မှမရှိသော် မိမိပိုင်ပစ္စည်းအားလုံးကို မှာတမ်း (ဝစ္စီယတ်) ပြုခြင်းပိုင်သည်၊ အကယ်၍ ဇနီးသည် တစ်ဦးသာရှိလျှင် ၄-ပုံ ၃-ပုံ မှာတမ်းခဲ့နိုင်သည်၊ ခင်ပွန်းသည် တစ်ယောက်သာရှိမူ ထက်ဝက် မှာတမ်း (ဝစ္စီယတ်) ပြုနိုင်လေသည်။

ရရ်ဟွတ်တန်ဝီရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၁၀။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၁၉။

၈။ မတ်စ်အလဟ်ပြဿနာ။ အရွယ်မရောက်သေးသော ကလေးက မှာတမ်း (ဝစ္စီယတ်) ပြုခြင်း မပိုင်ပေ။

ဂျောင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၅၆။

၉။ မတ်စ်အလဟ်ပြဿနာ။ ကျွန်ုပ်၏ 'ဂျနာဇာဟ်' နမာဇ်ကို မည်သူဖတ်ပါစေ မည်သည့်မြို့ ကဗရ်သုသာန်၊ မည်သည့် သင်္ချိုင်းအနီး၌မြှုပ်ကုန်၊ မည်သည့်အမျိုးအစား အဝတ်ဖြင့် 'ကဖွာန်' ထုတ်ပါ၊ ကျွန်ုပ်၏ 'ကဗရ်' ကို အုတ်ဂူမှုလုပ်ပါ၊ 'ကဗရ်တွင် 'ကွဗ်ဗဟ်' မုခ်ထည့်ပါ၊ ဟာဖွိဇ်' တစ်ယောက်ကို 'ကဗရ်' တွင်ထိုင်ခိုင်းပြီး ဖတ်ရွတ်၍ ကုသိုလ်ပို့ပါ စသည့် မှာတမ်းခြင်းများပြုလျှင် ထိုမှာတမ်းချက်ကို ဖြည့်စွမ်းပေးရန်မလိုပေ၊ သာမက နောက်ဆုံးမှာတမ်းမှု ၃-ရပ်မှာ လုံးဝမပိုင်ပေ၊ လုပ်ပေးလျှင် လုပ်သူသည် (ဂိုနာဟ်ဂါရ်) အပြစ်အကုသိုလ် ကျူးလွန်သူ ဖြစ်ပေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၃၂၆။

၁၀။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သည် မှာတမ်းခြင်း ပြု၍ မိမိမှာတမ်းချက် (ဝစ္စီယယ်)ကို ဖျက်ပစ်လျှင်၊ ဆိုလိုသည်မှာ.... ယခုကျွန်ုပ်မလို လားတော့၊ ဤမှာတမ်းချက် အတည်မပြုနိုင့်တော့ဟု ပြောဆိုလျှင် ထို(ဝစ္စီယယ်) မှာ တမ်းချက်သည် ပျက်သွားလေသည်။

ဂျောင်ဟရဖ့်နိုင်ယေရဟ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၅၆။

၁၁။ မတ်စ်အလယ်ပြဿနာ။ ပစ္စည်း ၃-ပုံ၁-ပုံထက် ပို၍ မှာတမ်းခြင်း မပိုင် သကဲ့သို့ဤသို့ပင် မိမိ မမာမကျန်း ဖြစ်နေစဉ် အရေးကြီးသော အသုံးအဆောင် စား သောက်ခြင်း၊ ဆေးကုသခြင်း စသည်များမှအပ သုံးစွဲပိုင်ခွင့်မရှိပေ၊ အကယ်၍ ၃-ပုံ၁-ပုံ ထက် ပို၍ပေးလှူလိုက်လျှင် အမွေစားများ သဘောမတူပါက မပိုင်ပေ၊ ၃-ပုံ၁-ပုံထက် ပိုသောပစ္စည်းကို အမွေစားများက ယူလိုက်ပိုင်ခွင့်ရှိသည်။

အကယ်၍ အရွယ်မရောက်သေးသော ကလေးက ပိုသုံးရန် ခွင့်ပေးသော်လည်း အတည်မဖြစ်ပေ၊ ၎င်းအမွေစားတစ်ဦးဦးကို ၃-ပုံ၁-ပုံထက်လျော့၍လည်းပေးမှု အားလုံး သော အမွေစားများက သဘော မတူလျှင် မပိုင်ပေ၊ ဤအမိန့်သည် မိမိ ရှင်နေစဉ် လက်ရောက်ပေးမှု ပိုင်လေသည်။

အကယ်၍ ပေးတော့ပေးလိုက်သည်၊ သို့သော် လက်ရောက်မဖြစ်သေးလျှင် ၎င်းသူ သေဆုံးသွားသော် ပေးကမ်းမှု ပျက်သွား၍ အပေးခံရသူ မရနိုင်တော့ပေ၊ ထိုပစ္စည်း အားလုံးသည် အမွေစားများပိုင် ဖြစ်သွားသည်၊ ရောဂါဖြစ်သောအဖြစ်နှင့် အလ္လာဟ် အသျှင်မြတ် လမ်းတော်တွင် လှူဒါန်းခြင်း ကောင်းသော အလုပ်များ၌ လှူဒါန်းခြင်း များလည်း ဤအမိန့်အတိုင်းပင်ဖြစ်လေသည်၊ အချုပ်မှာ.... ၃-ပုံ၁-ပုံထက်ပို၍ မည်သည့် နည်းနှင့်မှ သုံးစွဲပိုင်ခွင့် မရှိပေ။

ဂျောင်ဟရဟ်နိုင်ယေရဟ်ကျမ်း အတွဲ-၂၊ စာမျက်နှာ ၃၄၆။

၁၂။ မတ်စ်အလယ်ပြဿနာ။ ရောဂါသည်ကို မေးမြန်းရန်အတွက် လူအချို့ ရောက်လာကြ၍ ဤအိမ်၌ပင်နေကြသည်၊ ၎င်းထိုသူတို့သည် ရောဂါသည်၏ ပစ္စည်းဖြင့် စားသောက်နေကြမှု၊ အကယ်၍ ရောဂါသည်မှာ ထိုသူများဖြင့် ဝတ်ကြီးဝတ်ငယ်အတွက် ၎င်းသူများကို မလိုအပ်ပါက ကျွေးမွေးရာတွင် ရောဂါသည်၏ ပစ္စည်း ၃-ပုံ၁-ပုံ ထက် ပို၍ကုန်သွားလျှင် မပိုင်ပေ၊ အကယ်၍ ၎င်းတို့ကို လိုအပ်မှုလည်းမရှိ၊ ၎င်းတို့သည် အမွေ စားများဖြစ်နေကြလျှင် ၃-ပုံ၁-ပုံထက် လျော့၍လည်း ၎င်းတို့အတွက် သုံးစွဲကျွေးမွေး ပိုင်ခွင့်မရှိ။ ဟုတ်ပါ၏၊ အကယ်၍ အမွေစားအားလုံးက ကျွေးမွေးမှုကို သဘောတူညီ ကြလျှင် ပိုင်လေသည်။

ရှာမီကျမ်းအတွဲ-၅၊ စာမျက်နှာ-၆၁၇။

၁၃။ မတ်စ်အလဟ်ပြဿနာ။ သေဆုံးမည့်ရောဂါ၌ ရောဂါသည်သည် မိမိရရန်ရှိသော ကြွေးငွေကိုလည်း မယူတော့ဟု ခွင့်လွှတ်ပိုင်ခွင့် မရှိပေ၊ အကယ်၍ အမွေစားအပေါ် ကြွေးကိုခွင့်လွှတ်လျှင်လည်း မပိုင်ပေ၊ အကယ်၍ အမွေစားသည် အားလုံးအရွယ်ရောက်ပြီးသူများဖြစ်၍ ခွင့်လွှတ်သည်ကိုသဘောတူကြလျှင် ပိုင်လေသည်၊ အကယ်၍ သူစိမ်းကို ကြွေးမှ ခွင့်လွှတ်လျှင် ၃-ပုံ၁-ပုံထက် ပိုသည်မှာ ခွင့်လွှတ်ရာမရောက်ပေ၊ မပိုင်၊ အများအားဖြင့် ထုံးစံတစ်ခုရှိသည်မှာ.... ဇနီးသည်,သည် သေခါနီးအချိန်၌ ခင်ပွန်းသည်အား (မဟ်ရ်) ခန်းဝင်ကြေးကို ခွင့်လွှတ်လိုက်လေ့ ရှိလေသည်၊ ဤသို့ ခွင့်လွှတ်ခြင်း မပိုင်ဖြစ်လေ၏။

ရှာမီကျမ်းအတွဲ-၄၊ စာမျက်နှာ-၇၀၉။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ကိုယ်ဝန်ဆောင် အမျိုးသမီးသည် ဝမ်းနာလာပြီးနောက် တစ်ဦးတစ်ယောက်အားတစ်စုံတစ်ရာပေးလျှင်၊ ၎င်းခင်ပွန်းသည်အား ခန်းဝင်ကြေး (မဟ်ရ်)စသည် ခွင့်လွှတ်လိုက်မှု သေမည့်ရောဂါတွင် ပေးသောအမိန့်အတိုင်းပင် ဖြစ်လေသည်၊ ဆိုလိုသည်မှာ အကယ်၍ အလ္လာဟ်အသျှင်မြတ် အလိုတော်နှင့် ထိုဝမ်းနာသောအဖြစ်၌ သေဆုံးသွားလျှင် တင်ပြပါအချက်များသည် (ဝစွိယတ်) မှာတမ်းမှု ဖြစ်သွားသည်၊ အမွေစားများအတွက် ပေးခဲ့သည်မှာ မပိုင်၊ ၎င်းသူစိမ်းများအတွက် ၃-ပုံ ၁-ပုံထက်ပိုပေးခြင်း၊ ကြွေးကိုခွင့်လွှတ်ခြင်းများ မပြုပိုင်ပေ၊ သို့ရာတွင် အကယ်၍ ချောမောစွာ သားဖွားပြီး၍ ကျန်းမာသွားပါက ထိုပေးသော-ယူသောကြွေးမှာ ခွင့်လွှတ်ခြင်းများ ပိုင်သွားလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၅၊ စာမျက်နှာ-၄၅။
ဖွတာဝါဟွာင်န်ဒီယဟ်ကျမ်းအတွဲ-၄၊ စာမျက်နှာ ၄၃။

၁၅။ မတ်စ်အလဟ်ပြဿနာ။ သေ ဆုံး ပြီး နောက် ထိုသူပိုင် ပစ္စည်းများမှ သင်္ဂြိုဟ်မှု ကိစ္စများကို သုံးစွဲရမည်၊ ကျန်ပစ္စည်းမှ ပထမဦးစွာ တင်ရှိနေသော ကြွေးကို ဆပ်ရမည်၊ ကြွေးကိုဆပ်လိုက်ပါဟု (ဝစွိယတ်)မှာတမ်းခဲ့သည်ဖြစ်စေ၊ မမှာတမ်းခဲ့သည်ဖြစ်စေ ကြွေးကို ဦးစွာပထမ ဆပ်ကြရမည်၊ ဇနီးသည်အား ပေးရသော(မဟ်ရ်)ခန်းဝင်ကြေးလည်း ကြွေး၌ပါဝင်လေသည်၊ အကယ်၍ ကြွေးမရှိလျှင်၊ ၎င်းကြွေးဆပ်ပြီးနောက် (ဝစွိယတ်)မှာတမ်းမှုများ ပြုခဲ့သည်၊ မပြုခဲ့သည်ကို ကြည့်ရမည်။

အကယ်၍ မှာတမ်းမှု ပြုခဲ့လျှင် ရှိပစ္စည်း ၃-ပုံ ၁ပုံ ထဲမှ ပေးရမည်၊ ၎င်းမှာတမ်းခြင်းမပြုခဲ့လျှင် ၎င်းမှာတမ်းမှု ပြုခဲ့သဖြင့် ပေးပြီးနောက် ကျန်သောပစ္စည်းများကို အမွေစားများက ပိုင်ဆိုင်ကြလေသည်၊ 'ရှရီအတ်' တရားတော်မြတ် အတိုင်း နားလည်သောအာလင်မ်တစ်ပါးပါးကို မေးမြန်း၍ခွဲဝေယူကြရမည်၊ လက်ဝဇ်ရသူက လစ်သလို

ယူလိုက်ကြခြင်းသည်'ဂိုနာဟ်'အပြစ်ကြီးလေသည်၊ လောက၌ဆိုင်သူကိုမပေးဘဲထားလျှင် နောင်'ကေယာမတ်' ကမ္ဘာ့တရားခွင်၌ ပေးကြရမည်၊ ထို'ကေယာမတ်'၌ ငွေပစ္စည်း အစား ကောင်းမှုကုသိုလ်(အမလ်)များ ပေးကြရမည်၊ ဤသို့ခွဲဝေရာ၌ အမျိုးသမီးများ ဝေစုကိုလည်း ပေးရန် 'ရှရီအတ်' တရားတော်မြတ်က ပြဋ္ဌာန်းထားလေသည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ-၂၊ စာမျက်နှာ-၃၅၂။

၁၆။ မတ်စ်အလဟ်ပြဿနာ။ သေသူ၏ပစ္စည်းမှ လူတို့အား ဧည့်ဝတ်ပြုခြင်း၊ လာသူများအားကျွေးမွေးခြင်း၊ ဆွဒကဟ်၊ ခိုင်ရာတ်စသည့်လှူဒါန်းမှုများပြုခြင်းမပိုင်ပေ၊ ဤသို့ပင် သေပြီးနောက်မှ မြှုပ်နှံသင်္ဂြိုဟ်သည့်အထိ (နာဂျ်) သီးနှံ စသည် ဆင်းရဲသား များကို ပေးကမ်းခြင်းတို့ကို သေသူ၏ပစ္စည်းမှပေးခြင်း (ဟရာမ်) အပြစ်ကြီးလေသည်။ ထိုသို့ပေးခြင်းဖြင့် သေသူမှာ ကုသိုလ် (သဝါဗ်) မရရှိပေ၊ သဝါဗ် ကုသိုလ် ရသည်ဟု ယူဆခြင်းသည် ကြီးစွာသော ဂိုနာဟ် အပြစ် ဖြစ်လေသည်။

အဘယ့်ကြောင့်ဆိုသော် ဤပစ္စည်း အားလုံးသည် အမွေဆိုင်တို့၏ ပစ္စည်းများ ဖြစ်သွားသည်၊ မဆိုင်သူ၏ပစ္စည်းကို ပေးခြင်းသည် သူတစ်ပါး၏ပစ္စည်းကို ခိုးယူပေးခြင်း နှင့် တူပေသည်၊ ပစ္စည်း အားလုံးကို အမွေဆိုင်များအား ခွဲဝေ ပေးရမည်၊ ၎င်း အမွေစားများသည် 'ရှရီအတ်' တရားတော် နှင့် ညီသော ( ခိုင်ရာတ် ) လှူဒါန်းမှုများ ပြုလိုက ၎င်းတို့သဘောနှင့် ပြုနိုင်ကြပေသည်၊ သည်မျှမက အမွေစားများထံမှ ကောင်း သော နေရာတွင် သုံးစွဲ လှူဒါန်းရန် ခွင့်မတောင်းခံရ၊ အဘယ့်ကြောင့် ဆိုသော် ခွင့် တောင်းသည်ကို ခွင့်မပေးက ရှက်စရာဖြစ်သည်ဟု ယူဆ၍ အပေါ်ရိုကပေးခြင်းဖြစ်သည်၊ ဤသို့ခွင့်ပေးခြင်းသည် အတည်မဖြစ်ပေ။

ရှာမီကျမ်းအတွဲ-၅၊ စာမျက်နှာ-၆၆၄။
အာလမ်ဂီရီကျမ်း အတွဲ-၆၊ စာမျက်နှာ-၂၂၉။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ဤသို့ပင် သေသူဝတ်ဆင်သော အဝတ်အထည် များကို လှူဒါန်းသောထုံးစံရှိနေသည်၊ ဤသည်လည်း အမွေစားများခွင့်မရလျှင်အလျဉ်း မပိုင်ပေ၊ ၎င်းအကယ်၍ အမွေစားများတွင် အရွယ်မရောက်သေးသူများ ပါဝင်နေပါက ခွင့်ပေးလျှင်လည်း မပိုင်ပေ၊ ပထမ အမွေခွဲကြရမည်၊ ခွဲပြီးနောက် အရွယ်ရောက်ပြီးသူ များက မိမိတို့အစုမှပေးလှူလိုရာ ပေးလှူနိုင်သည်၊ မခွဲဝေမီ ပေးလှူခြင်း မပြုကြရ။

## ဤတွင်၍ကား ဘဟစ်ရှ်တီ ဇေဝရ်ကျမ်း ပဥ္စမတွဲ ပြီး၏။

မုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ)

# စတုတ္ထတွဲနှင့် ပဥ္စမတွဲ အပေါ် လိုက်နာရန် အချက်များ

(၁) ဤနှစ်တွဲ၌ 'နေကာဟ်' လက်ထပ်မင်္ဂလာကိစ္စ၊ 'တလာက်' လင်မယား ကွာရှင်းမှု၊ ထိုကိစ္စများနှင့် သက်ဆိုင်သော မတ်စ်အလဟ် ပြဿနာ၊ ၎င်း အပေးအယူ-အရောင်းအဝယ်များ စသည့် ပြဿနာ 'မတ်စ်အလဟ်'များကို တင်ပြခဲ့လေသည်၊ အဘယ့်ကြောင့် ဆိုသော် ပေးရန် တာဝန် ရှိသူများ တာဝန်ကို ပေးဆောင်ခြင်း၊ ကုရ်အာန် ကျမ်းတော်မြတ်ကို တိကျ ပီသစွာ ဖတ်ရန် (ဝါဂျစ်ဗ်) ထိုက်သက်ကြောင်းများသည် ကုရ်အာန် ကျမ်းတော်မြတ်၌ အတိအလင်း မိန့်မြွက်ထားလေသည်၊ ထို့ကြောင့် ထိုအချက် နှစ်ရပ်ကိုလည်း တင်ပြပါ 'မတ်စ်အလဟ်' များနှင့် အတူ ထည့်သွင်း ဖေါ်ပြခဲ့သည်။

(၂) ဖေါ်ပြပါ စတုတ္ထတွဲနှင့် ပဥ္စမတွဲတွင် ပါဝင်သော မတ်စ်အလဟ် ပြဿနာများသည် အလွန်သိမ်မွေ့ ခက်ခဲလှသည်၊ အကယ်၍ အသက်ငယ်ရွယ်ခြင်း၊ ၎င်းအသိထိုင်းခြင်းတို့ကြောင့် အဖန်တစ်လဲလဲတင်ပြသော်လည်း နားမလည် ကြလျှင် တတိယတွဲ ဖတ်ပြီးနောက် ဆဋ္ဌမတွဲ စသည်တို့ကို သင်ပြကြရန် ထိုက်ပေသည်၊ နားလည်နိုင်သော အချိန်ကျမှသာ ဤနှစ်တွဲကို သင်ပြ ကြရမည်။

(၃) မတ်စ်အလဟ် ပြဿနာများကို သင်ပုန်းတွင်ရေးခြင်း၊ အကြင် မတ်စ်အလဟ် ပြဿနာများသည် ရှက်ဖွယ်ဖြစ်၍ စတုတ္ထတွဲ နောက်ဆုံးတွင် ပါရှိသည်၊ ထိုမတ်စ်အလဟ် များကို ချန်ထားပြီး အခွင့်သင့်သော အချိန်တွင် နား လည်သွားအောင် သင်ပြပေးရမည်၊ စာမေးပွဲသည်း မပြတ် ယူနေရမည်၊ ၎င်းတို့ဖတ်ပြီးသော မတ်စ်အလဟ်နှင့် ဆန့်ကျင်ဘက်ပြုမူကြလျှင် တားမြစ်၍ လုပ်နည်းမှန်ကို ပြောပြကြရမည်၊ ဤအချက်များကို ပထမတွဲ များ၌ ရှိသကဲ့သို့ ဤနှစ်တွဲ၌လည်း ဂရုစိုက်ကြရမည်။

(၄) 'နေကာဟ်' လက်ထပ် ပေးသော ဆရာသည် အကယ်၍ 'နေကာဟ်'၏ မတ်စ်အလဟ် ပြဿနာများကိုသိထားပါမူ၊ နေကာဟ်ဖတ်ပေးရာ၌ အမှား အယွင်း ရှိမည်မဟုတ်ပေ၊ ၎င်း အကြင်မိန်းမများသည် ဤမတ်စ်အလဟ် များကို သိထားပါမူ စာမတတ်၍ မသိသော ခင်ပွန်းသည်များကို ဖတ်ပြ ကြကုန်၊ သို့မှသာ ဇနီးမောင်နှံနှစ်ဦးသည် နေကာဟ်ပျက်သော အချက် များကိုသိကြပြီး၊ 'ဂိုနာဟ်'များမှ လွတ်ကင်းကြပေမည်။

(၅) သင်ယူသူများကို ကုရ်အာန်ကျမ်းတော်မြတ် တိကျပီသစွာ ဖတ်နိုင်ရန် ကြိုးစားသင်ပြကြရမည်၊ သို့မှသာ ကုရ်အာန်ကျမ်းတော်မြတ်ကို အမှား ဖတ်ခြင်း၏ ‘ဂိုနာဟ်’ အပြစ်မှ လွတ်ကင်းနေပေမည်။

(၆) ပိုင်ဆိုင်သူတို့၏တာဝန်ကိုလည်း ကျေပွန်ရာ၌လည်း ဂရုပြုသူက နည်းနေ လေသည်၊ ထို့ကြောင့် ဤသည်ကိုလည်း ဂရုစိုက်ကြရမည်။

(၇) အပေး အယူ လုပ်ငန်းများ၌ ဂရုမပြုသဖြင့် (ဟပ်က်ကွလ်အေဗာဒ်) လူလူချင်း၏တာဝန်တင်ရှိသွားလေသည်၊ ငင်းစားသောက်ဖွယ် (ရိဇ်ဇ)မှာ (ဟရာမ်)မပိုင်ဖြစ်သည်၊ ထိုသို့ ဟရာမ်ကိုစားခြင်းဖြင့် ကောင်းမှုကုသိုလ် (အမလ်) ပြုမှုရာ၌ ပျင်းရိပေါ့ဆသွားသည်၊ မကောင်းမှု အကုသိုလ်ကို ပြုချင်စိတ်ပေါ်ပေါက်လာစေသည်၊ ထို့ကြောင့် တင်ပြပါ မတ်စ်အလဟ် များကိုသင်ပြခြင်း၊ ထိုအတိုင်းပြုမူစေရန် အချက်များကို ဂရုတစ်စိုက် ကြိုးစားကြရန် ထိုက်ပေသည်၊ အိမ်၌ဖြစ်စေ၊ ရပ်ရွာ၌ဖြစ်စေ၊ မသိ နားမလည်သော စာမတတ်သူများကို ရံဖန်ရံခါ နားလည်အောင် ဖတ်ပြ ပေးခြင်းဖြင့် ကြီးစွာသော အကျိုး (သဝါဗ်) ရမည်ဖြစ်လေသည်။

## နောက်ဆက်တွဲ

# ဘဟစ်ရှ်တီဇေဝရ်ကျမ်း
# ပဥ္စမတွဲ




## ဟလာလ် သန့်ပြန့်သော ပစ္စည်းကို ရှာဖွေရန် အကြောင်း

ဟဒီးသ် ဩဝါဒတော်မြတ်တွင် လာရှိသည်မှာ (ဟလာလ်) သန့်ပြန့်သောပစ္စည်း ရှာဖွေခြင်းသည် အခြား ‘ဖွရ်သ်’ များ နောက် ဖွရ်သ် မပြုမနေရ အချက်ဖြစ်လေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၄၂။

ဆိုလိုသည်မှာ.... ဟလာလ် ပစ္စည်းကို ရှာဖွေခြင်း ဖွရ်ဒ် မပြုမနေရဖြစ်သည်၊ အခြားသော အစ္စလာမ် သာသနာတော်၏ (အရကာန်) အဓိကအချက်များ၏ နောက် ဥပမာ....နမာဇ် ဝတ်ပြုမှု 'ရိုဇဟ်' ဥပုသ် စသည်၊ ဟလာလ်ပစ္စည်းကို ရှာဖွေရန်မှာ ဖွရ်ဒ် မပြုမနေရဖြစ်သော်လည်း (အရကာန်) များ၏ နောက်ဆုံး အဆင့်ပင် ဖြစ်လေသည်၊ ၎င်းဤသို့ ဖွရ်ဒ်ဖြစ်ခြင်းသည်၊ ထိုသူအတွက်ဖြစ်လေသည်၊အကြင်သူသည် စားသောက်ရန်အတွက်မရှိလျှင်၊ မိမိအတွက်ဖြစ်စေ၊ အိမ်သူအိမ်သားများအတွက်ဖြစ်စေ၊ အတူတူပင် ဖြစ်လေသည်။

အကြင်သူထံတွင် လိုအပ်သည်ခန့် ပစ္စည်းရှိလျှင် ဥပမာ.... မြေပိုင်ရှင်ဖြစ်လျှင် တစ်နည်းနည်းဖြင့်ပစ္စည်းရလျှင်၊ ထိုသူအတွက်ပစ္စည်းရှာဖွေရန်ဖွရ်ဒ် တာဝန်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ်က လိုအပ်ချက်များမှ ကင်းဝေးအောင် လူသားကို ဖန်ဆင်းတော်မူခြင်း ဖြစ်လေသည်၊ သို့မှသာ လူသားသည် လိုအပ်သည်ခန့် ဝတ်ဆင်စားသောက်၍ အလ္လာဟ်အသျှင်မြတ်အား ခ,ဝပ်ဆည်းကပ်ကြရန် ဖြစ်လေသည်၊ အဘယ့်ကြောင့်ဆိုသော် မစားမသောက်ဘဲ (အေဗာဒတ်) ခ,ဝပ်မှုပြုရန် မဖြစ်နိုင်ပေ၊ သို့ရှိရာ ပစ္စည်းသည် အဓိကမဟုတ်ဘဲ အလ္လာဟ်အသျှင်မြတ်ကို ခ,ဝပ်ရန်သာ အဓိက ဖြစ်ပေသည်။

သို့ရှိရာ လူသားသည် လိုအပ်မှုကိုရရှိနေလျှင် လောဘဇောဖြင့် ပစ္စည်းကိုရှာဖွေနေရန်မထိုက်ပေ၊ အကြင်သူ့ထံတွင် လိုအပ်သည်ခန့် ပစ္စည်းရှိနေလျှင် ထိုသူ့အပေါ် ပစ္စည်းတိုးပွားအောင်ပြုရန် 'ဖွရ်ဒ်' မဟုတ်တော့ပေ၊ သာမက ပစ္စည်းရလိုသော လောဘဇောသည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ကို မေ့စေသည်၊ ၎င်း (ဂိုနာဟ်) အကုသိုလ်ဒုစရိုက်များ၌ နစ်မွန်းစေလေသည် ကောင်းစွာ မှတ်သားထားကြကုန်၊ ဟလာလ် ပစ္စည်းကို ရအောင်ကြိုးစားကြရမည်၊ မွတ်စလင်မ်တို့သည် ဟရာမ် ပစ္စည်းကို လုံးဝဂရုမစိုက်ကြရန် ထိုက်လေသည်၊ အဘယ့်ကြောင့်ဆိုသော် ထိုဟရာမ် ပစ္စည်းသည် 'ဘရ်ကတ်' မရှိပေ၊ ဤကဲ့သို့ဟရာမ်ကိုစားသောသူသည် လောကီလောကုတ္တရာ နှစ်ဌာနတွင် ဆုံးသိမ်ခြင်းဖြစ်၍ အလ္လာဟ်အသျှင်မြတ်၏ အမျက်တော်ရှခြင်းကို ခံနေရမည် ဖြစ်ပေသည်။

ယနေ့ခေတ် အခါသမယတွင်(ဂျာဟင်လ်) လူမိုက်များက ဟလာလ်ပစ္စည်းကိုရှာဖွေရန်မဖြစ်နိုင်ဟု ယူဆကြလေသည်၊ ဟလာလ်ပစ္စည်းရမည်ဟု မထင်မှတ်ကြခြင်းသည် လုံးဝမှားယွင်းပြီး ရှိုင်တွာန်မိစ္ဆာ၏ လှည့်ဖြားမှုသာလျှင် ဖြစ်ပေသည်၊ ကောင်းစွာမှတ်သားထားကြကုန် 'ရှရီအတ်' သာသနာတော်မြတ်ကိုလိုက်စားပြုကျင့်ခြင်းဖြင့်နောက်ကွယ်မှ ကူညီစောင်မ,မှုများ ရရှိလေသည်၊ အကြင်သူ၏ 'နီယတ်' စိတ်ဆန္ဒသည် ဟလာလ် သန့်ပြန့်သောပစ္စည်းကို စားသောက်လို၍ ဟရာမ် မသန့်ပြန့်သောပစ္စည်းမှရှောင်ရှားလိုစိတ်

ရှိမူ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က ထိုသူ လိုလားသော ရိဇ်ကီ ရိက္ခာကိုပင် ပေးသနားတော်မူလေသည်၊ ဤသို့ ပေးသနားတော်မူခြင်းမှာ မျက်မြင်ဖြစ်ကြပေသည်။

ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးသ် သြဝါဒတော် များတွင် နေရာတိုင်း၌ ဤသို့ ကတိပေးတော်မူချက်များ လာရှိသည်၊ အကြင်သူတို့သည် ဤခေတ်ဆိုး၌လည်း ဟရာမ် ပစ္စည်း ရှင်း ဒွိဟ သံသယရှိသော ပစ္စည်းများမှ မိမိကိုယ်ကို ချုပ်တည်းလျှင် ထိုသူတို့ကို မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က အကောင်းဆုံး ဟလာလ် ပစ္စည်းများကို ပေးသနားတော်မူလေသည်၊ ထိုသူတို့ကား ဟရာမ် မသန့်သောပစ္စည်းကို စားသုံးသူများထက်ပို၍ ဂုဏ်သိက္ခာဖြင့် နေထိုင်ကြလေသည်။

အကြင်သူသည် မိမိကိုယ်တိုင် သော်လည်းကောင်း၊ အခြားသူများကိုသော်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်က ဤသို့ ဟလာလ် 'ရိဇ်ကီ'ကို ချီးမြှင့်ကြောင်းမြင်သည်၊ ရှင်းကုရ်အာန်နှင့် ဟဒီးသ်တော်များတွင် ဤသို့ အကြောင်းများကို ဖတ်ရှုလျှင် ထိုသူတို့သည် ဤသို့သော ဂျာဟင်လ်တို့၏ ပြောစကားများကို ဂရုမစိုက်ကြပေ။

ရှင်း အကယ်၍ ဤသို့ ဟလာလ်ပစ္စည်းမရနိုင်ဟူသော အကြောင်းများကို ခိုင်မာသောကျမ်းများ၌တွေ့ရှိမူ ထိုအကြောင်းသည် 'ဂျာဟင်လ်'များထင်သကဲ့သို့ မဟုတ်ပေ၊ သို့ရှိရာ ထိုသို့သောအကြောင်းများတွေ့ရှိပါက ဘာသာရေးကို လေးစားလိုက်စားသော ခိုင်မာသည့် 'အာလင်မ်' သာသနာပညာရှင်များကို မေးမြန်းကြကုန်။

အင်န်ရှာအလ္လာဟုတအာလာ၊ သင်စိတ်ကျေနပ်မှု ရရှိသွားပေမည်၊ ဤအကျိုးမဲ့ ဒွိဟဖြစ်မှုများ စိတ်တွင်းမှ ကင်းစင်သွားပေမည်၊ ကောင်းစွာ မှတ်သားထားကြကုန်၊ လူတို့သည် ပစ္စည်းနှင့်ပတ်သက်၍ ဂရုစိုက်မှုများ နည်းပါးပေသည်၊ မလုပ်ပိုင်သော လုပ်ငန်းများကို လုပ်ကြသည်၊ အခြားသူတို့၏ တာဝန်ကို အလွဲသုံးစား လုပ်ကြသည်၊ ဤသို့ လုပ်ခြင်းများသည် (ဟရာမ်)ကြီးလေးသော အပြစ်ဖြစ်လေသည်။

ကောင်းစွာ မှတ်သားထားကြကုန်၊ အလ္လာဟ်အရှင်မြတ် ထံတော်တွင် မည်သည်မျှ လျော့နည်းမှုမရှိပေ၊ (တပ်က်ဒီရ်) ) သတ်မှတ်ထားသည့်အတိုင်း ရရှိနေမည် ဖြစ်ပေသည်၊ ထို့ကြောင့် လိမ်လည်လှည့်ဖြားခြင်း ရှင်း (ဂျဟန္နမ်)အပါယ်ငရဲဘုံသို့ သွားရန် ပြင်ဆင်မှုသည် ဉာဏ်ရှိသောအလုပ် မဟုတ်ပေ၊ အဘယ့်ကြောင့် ဆိုသော် လူတို့သည် 'ဟလာလ်' ပစ္စည်းရှာဖွေရန်တွင် ဂရုစိုက်မှု နည်းပါးကြသည်၊ ထို့ကြောင့် ထပ်တလဲလဲ ဤအကြောင်းကို ရေးသားခဲ့သည်။

ဒွန္နယာလောက လူသားနှင့် ဂျင်န်များကို ဖန်ဆင်းခြင်း၏ အဓိကအချက်မှာ.... လူသားနှင့်ဂျင်န်တို့သည် အလ္လာဟ်အရှင်မြတ်အား 'အေဗာဒတ်' ခ၀ပ်ဆည်းကပ်ကြရန်

ဖြစ်လေသည်၊ ထို့ကြောင့် ဤအချက်ကို နေရာတိုင်းတွင် ဂရုစိုက်ကြကုန်၊ စားသောက်ခြင်းသည် အလ္လာဟ်အသျှင်မြတ်ကို တ,သရာတွင် အားအင် ဖြစ်ရန်အတွက် ဖြစ်သည်၊ နေ့ည စည်းစိမ်ခံစားနေရန် မဟုတ်ပေ၊ ၎င်းအလ္လာဟ်အသျှင်မြတ်ကို မေ့သွားရန်နှင့် ဖီဆန်မှုပြုရန် မဟုတ်ပေ၊ အချို့ 'ဂျာဟင်လ်' များက လောကသည် စားဝတ်နေရေး ဇိမ်ခံရေးပင်ဖြစ်သည်ဟု ယူဆကြသည်၊ ဤကား လွန်စွာဘာသာရေးကို ထိခိုက်စေသည့် အချက်ဖြစ်လေသည်၊ အလ္လာဟ်အသျှင်မြတ်သည် ဤသို့ မသိမိုက်မဲသည့် အတွေးအခေါ်များကို ကင်းဝေးအောင် ပြုပေးသနားတော်မူပါစေ။

ဟဒီးသ်တော်တွင်လာရှိသည်၊ ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ... မိမိ လက်နှစ်ဘက်ဖြင့် လုပ်ကိုင်၍ စားသောက်ခြင်းထက် မြတ်သောအရာမရှိပေ၊ ၎င်းအမှန်ပင် အလ္လာဟ်အသျှင်မြတ်၏ နဗီဒါဝူးဒ်(အလိုင်ဟစ္စလာမ်)သခင်သည် မိမိလက်တော်ဖြင့် လုပ်ကိုင်၍ရသော ပစ္စည်းဖြင့် စားသုံးတော်မူလေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၄၁။

ဆိုလိုသည်မှာ.... မိမိလက်ဖြင့် လုပ်ကိုင်၍ရသောပစ္စည်းသည် အကောင်းဆုံးဖြစ်လေသည်၊ ဥပမာ.... ရောင်းဝယ်ခြင်း၊ လက်လုပ်လက်စား၊ ကူလီ စသည်များ လုပ်ကိုင်စားသောက်ခြင်း၊ အကြောင်းမဲ့ တစ်ဦးဦးအပေါ် တာဝန်ပေးရန်မထိုက်ပေ၊ လုပ်ငန်းများကို သေးသိမ်သည်ဟု မအောက်မေ့ရ၊ နဗီအန်ဗိယာ (အလိုင်ဟေ့မွတ်ဆွလာတ်ဝတ်စ်စလာမ်) သခင်များ၊ လုပ်ကိုင် စား သောက် ခဲ့ကြ ပါလျက် ထိုပုဂ္ဂိုလ် များထက် ဂုဏ်သရေမြင့်မားသူကား မည်သူရှိသေးသနည်း မရှိပေ၊ ထိုပုဂ္ဂိုလ်များနှင့် ဂုဏ်သရေ တူသူပင်မရှိပေ၊ မည်သည့် နဗီရစူလ်တမန်တော်မှ ဆိတ်မကျောင်းခဲ့သည်ဟူ၍ မရှိပေ၊ ကောင်းစွာ မှတ်သားထားကြကုန်၊ ၎င်းမိုက်မဲသော အယူအဆမှ ရှောင်ကြဉ်ကြကုန်။

အာဒမ်(အလိုဟစ္စလာမ်)သခင်သည် ကိုယ်တိုင်လယ်ယာစိုက်ပျိုးခဲ့သည်။ ကိုယ်တိုင် ရေလောင်းသည်၊ နှုတ်သည်၊ ပျိုးသည်၊ ကြိတ်သည်၊ ဖုတ်သည်၊ ထို့နောက်စားသောက်တော်မူလေသည်။

နူးဟ်(အလိုင်ဟစ္စလာမ်)သခင်သည် လယ်သမားအလုပ်ကို လုပ်ကိုင်တော်မူခဲ့သည်၊ အစ်ဒ်ရာဟီးမ် (အလိုင်ဟစ္စလာမ်) သခင်သည် အထည်ရောင်းသောအလုပ်ကို လုပ်တော်မူခဲ့သည်၊ ဒါဝူးဒ်(အလိုင်ဟစ္စလာမ်)သခင်သည်(ချပ်ဝတ်တန်ဆာ)သံကွန်ချာအင်္ကျီများ ပြုလုပ်တော်မူခဲ့သည်၊ စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်သည် စွန်ပလွံရွက်များဖြင့် ခြင်းတောင်းပြုလုပ်တော်မူခဲ့သည်၊ ၎င်းကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်

သည် ဆိတ်များ ကျောင်းတော်မူခဲ့သည်၊ ဆုဟာဗဟ် (ရသေ့) သခင်များသည် ရေကြောင်း၊ ကုန်းကြောင်း ရောင်းဝယ်မှုများ ပြုတော်မူခဲ့သည်၊ စွန်ပလွံခြံများ၌ အခစား လုပ်ကိုင်တော်မူခဲ့ကြလေသည်။

အလ်ဂျဝါဟင်ရ်ကျမ်း စာမျက်နှာ ၂၉၆။

အချို့သူတို့က ယူဆကြသည်၊ တစ်ဦးတစ်ယောက်မှာ ဟလာလ်ပစ္စည်းရှိသည်၊ သို့သော် မိမိလက်ဖြင့် ရှာဖွေထားခြင်း မဟုတ်ဘဲ အမွေရထားသည်၊ ၎င်းဟလာလ် ဖြစ်သောနည်းဖြင့် ရထားသည်ဖြစ်မှု အကြောင်းမဲ့ ပစ္စည်းရှာဖွေရန် ကြိုးစားကြလေသည်၊ ရှာဖွေရန်ကို 'အေဗာဒတ်' ခ ဝပ်ဆည်းကပ်ခြင်းထက် ပိုမြတ်သည်ဟု ယူဆကြသည်၊ ဤသည်မှာ အလွန်မှားယွင်းသော ယူဆချက်များ ဖြစ်လေသည်။

ဤသို့ပစ္စည်းရထားသူသည် 'အေဗာဒတ်' တွင် မွေ့လျော်နေရန် ထိုက်လေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က 'ရိဇ်ဇ်' စားနပ်ရိက္ခာအတွက် ပူပန်မှုမှ လွတ်ကင်းစေ၍ စိတ်အေးချမ်းမှုပေးထားလျက် အလ္လာဟ်အသျှင်မြတ်ကို ကောင်းစွာ ဆည်းကပ် တ သမှုမပြုဘဲ ပစ္စည်းတိုးပွားစေရန်မင် အားထုတ်နေခြင်းသည် ကျေးဇူး ကန်းရာ ရောက်လေသည်။

'ဟလာလ်' ပစ္စည်းသည် သေးသိမ်သောအဖြစ်နှင့် မဟုတ်ဘဲမည်သည့် နည်းနှင့် ရသည်ဖြစ်စေ အကောင်းဆုံးဖြစ်သည်၊ ၎င်းအလ္လာဟ်အသျှင်မြတ်၏ ကြီးမားသော စည်းစိမ်တော်ဖြစ်သည်၊ ထိုရသောပစ္စည်းကို ဂုဏ်ဖောရမည်၊ စည်းစနစ်နှင့် သုံးစွဲရမည်၊ အပိုဖြုန်းတီးခြင်း မပြုရ။

တင်ပြပါ ဟဒီးသ်တော်၏ ဆိုလိုရင်းမှာ လူတိုသည် တစ်ဦးတစ်ယောက် အပေါ ဝန်ထုတ်မဖြစ်စေနှင့်၊ 'ရှရီအတ်' တရားတော်မြတ်က ခွင့်ပြုထားသော မစွမ်းနိုင်သော အဖြစ်မှတစ်ပါး၊ တောင်းရမ်းစားသောက်ခြင်း မပြုနှင့် အလုပ်ကို သေးသိမ်သည်ဟု မအောက်မေ့နှင့် ဟလာလ် သန့်ပြန့်သောပစ္စည်းကို ရှာဖွေရမည်၊ လုပ်ကိုင်ခြင်းကို အပြစ်ဟု မမှတ်ထင်နှင့်၊ လူသားတို့သည် လုပ်ကိုင်စားသောက်ရခြင်းကို မတင့်တယ်ဟု မမှတ်ထင်ကြစေရန် ဤအကြောင်းကို ရေးသားခဲ့ခြင်းဖြစ်သည်၊ ရှာဖွေလုပ်ကိုင်ကြကုန်၊ ကိုယ်တိုင်လည်း စားသောက်ကြ၍ အခြားသူများကိုလည်းကျွေးမွေးကြကုန်၊ ၎င်းအလှူ အတန်းလည်း ပြုမူကြကုန်။

ဟဒီးသ်တော်မြတ်၏ ဆိုလိုရင်းမှာ... မိမိလက်ဖြင့် လုပ်ကိုင်၍ရသော ပစ္စည်းအပြင် အခြား ဟလာလ်ဖြစ်သောနည်းဖြင့် ရသောပစ္စည်းကို ဟလာလ် မဟုတ်ဟူ၍ မဟုတ်ပေ၊ လက်ဖြင့် လုပ်ကိုင်၍ရသော ပစ္စည်းနှင့်တန်းတူမဟုတ်ဟူ၍လည်း မဟုတ်ပေ၊ သည်မျှမက

အချို့ပစ္စည်းများသည် လက်ဖြင့်လုပ်ကိုင်၍ ရသည်ထက် မြတ်သည်လည်း ရှိပေသည်၊ အချို့ မသိနားမလည်သူတို့သည် အလ္လာဟ်အသျှင်မြတ်အပေါ် (တဝပ်ကကွလ်) အားထားနေသူများကို ကဲ့ရဲ့ပြစ်တင်ကြလေသည်၊ ၎င်းတို့လည်း လုပ်ကိုင်စားသောက်ကြရမည်၊ အလ္လာဟ်အသျှင်မြတ် အပေါ်ချည့် အားထားမနေရ၊ အလှူအတန်းများဖြင့်ပင် အသက်မွေးနေရန်မထိုက်ဟူ၍ တင်ပြခဲ့သော ဟဒီးသ်တော်ကို သာဓကအဖြစ် တင်ပြကြလေသည်၊ ဤသည်မှာ ထိုအပြစ်တင်ကဲ့ရဲ့သူများ၏အသိမရှိခြင်းပင်ဖြစ်ပေသည်၊ ဤသို့ ပြစ်တင်ခြင်းသည် တမန်တော် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် အပေါ်လည်း သက်ရောက်သွားလေသည်၊ ဘာသာရေးခေါင်းဆောင် သူတော်စဉ်များကို ကဲ့ရဲ့ပြစ်တင်ခြင်းဖြင့် လောကီ၊ လောကုတ္တရာ နှစ်ဌာန 'ဘလာ' ဒုက္ခကျရောက်နိုင်သည်၊ ၎င်းသူတော်စင်များကို ကဲ့ရဲ့ခြင်းများဖြင့် ပျက်စီးနိုင်သည်၊ ၎င်းထိုသူတော်စင်များကို မရိုမသေပြုခြင်းဖြင့် (အီမာန်) ယုံကြည်ချက် လျော့နည်း၍ အဆုံးတွင် ဒုက္ခတွေ့ကြုံရမည်ကို စိုးရိမ်ရလေသည်။

အလ္လာဟ်အသျှင်မြတ်က ထိုသူ့အား သူတော်စင်များကို ပြစ်တင်ခြင်းမပြုမိ နှုတ်သိမ်းသွားခြင်းကထိုသူ့အတွက်အကောင်းဆုံးဖြစ်လေသည်၊ကုရ်အာန်ကျမ်းတော်နှင့် ဟဒီးသ်တော်မြတ်ကို နက်နဲစွာ ဖတ်ရှုတ်ခြင်း တိတိကျကျ ကြည့်ရှုမည်ဆိုလျှင် အမှန်တရားတော်ကို တွေ့ရှိရမည်၊ အကြင်သူမှာ (တဝပ်ကကွလ်)၏ 'ရှရတ္တ' များရှိနေမှု ထိုသူ့အတွက် (တဝပ်ကကွလ်) ပြုခြင်းသည် ရှာဖွေခြင်းထက် အမြတ်ဆုံး ဖြစ်သည်၊ ဤသည်မှာ အဆင့်အတန်း အမြင့်မားဆုံး ဖြစ်လေသည်။

မစ်ရှကာတ်ကျမ်း အတွဲ ၂၊ စာမျက်နှာ ၄၅၂။
ဂွန်ယဟ်ကျမ်း စာမျက်နှာ ၆၅၉။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် 'တဝပ်ကကွလ်' ပြုသောပုဂ္ဂိုလ်ဖြစ်လေသည် 'တဝပ်ကကွလ်'ပြုသော ပုဂ္ဂိုလ်ရသည့်ပစ္စည်းသည်လက်ဖြင့် လုပ်ကိုင်၍ရသောပစ္စည်းထက် လွန်စွာ သာမြတ်လေသည်၊ ထိုပစ္စည်း၌ သီးခြားသော 'ဘရ်ကတ်' နှင့် သီးခြားသော 'နူးရ်' တော်ရှိလေသည်၊ အကြင်သူ့ကို အလ္လာဟ်အသျှင်မြတ်က ဤသို့သောအဆင့်အတန်းပေးတော်မူလျှင် ဉာဏ်အမြင်၊ ၎င်းနူးရ် ပေးတော်မူလျှင် ထိုပုဂ္ဂိုလ်သည် ထိုအလ္လာဟ်အသျှင်မြတ်၏ 'ဘရ်ကတ်' တော်များကို မျက်မြင်တွေ့ရှိရလေသည်။

ဤအကြောင်းကို တစ်နေနေရာတွင် အကျယ်တဝင့် ရေးမည်၊ ဤကျမ်းမှာ ကျမ်းငယ် တစ်စောင် ဖြစ်သဖြင့် ရှည်လျားသွားမည်ကို စိုးရိမ်ရသည်၊ အသိမရှိသူ အချို့၏ ကဲ့ရဲ့ပြစ်တင်ခြင်းမှာ လုံးဝအခြေအမြစ်မရှိ၊ မဟုတ်မှန်ကြောင်း သိထားဖို့ပင် လိုအပ်ပေသည်၊ ကိုယ်တိုင်မှာ ကောင်းမှုကုသိုလ်ပြု၊ တရားအားထုတ်ခြင်းမပြုဘဲ တရား

အားထုတ်သော ပုဂ္ဂိုလ်များကို ကဲ့ရဲ့ပြစ်တင်ခြင်း ပြုလျှင် တရားနည်းလမ်းမကျပေ၊ အလ္လာဟ်အသျှင်မြတ်၏ အချစ်တော်များကို ပြစ်တင် ကဲ့ရဲ့၍ အလ္လာဟ်အသျှင်မြတ်ကို မည်သို့ မျက်နှာပြုကြမည်နည်း။

'တဝပ်က်ကွလ်'၏ တင်ပြပါ အကျိုးကျေးဇူးများအပြင်ဘာသာရေးအရအကျိုးမြောက်မြားစွာ ရှိသေးသည်၊ ၎င်းထိုတဝပ်ကွလ်ပြုသော ပုဂ္ဂိုလ်များသည် လူတို့အား (ခစ်ဒ်မတ်)ပြုသော ပုဂ္ဂိုလ်များဖြစ်သဖြင့် ၎င်းတို့ စားဝတ်နေရေး လိုအပ်ချက်များကို ဖြည့်စွမ်းပေးရန် (ဖွရ်သွ်) တာဝန် ဖြစ်လေသည်၊ သို့ရှိရာ မိမိတို့၏ ရသင့်ရထိုက်သော အချက်ကို လက်ဆောင်ပဏ္ဏာဖြင့် ယူခြင်းကို အဘယ့်ကြောင့် မကောင်းဟု ထင်ကြသနည်း၊ လူသာမန် တို့သည် အခွင့်အရေးများကို ရိုက်ပုတ်၍ပင် ယူကြလေသည်၊ 'တဝပ်က်ကွလ်' ပြုသော ပုဂ္ဂိုလ်များကား အလွန် နူးညံ့ သိမ်မွေ့ကြသည်၊ လူတို့က တောင်းပန်တိုးလျှိုးပေးကြမှသာ ယူငင်ကြလေသည်၊ လက်ဆောင်ယူခြင်း၌ သေးသိမ်မှု မဖြစ်ရကား သီးခြား၍ လက်ဆောင်ပေးရာတွင် မယူပါက ပေးသူမှာ စိတ်မကောင်း ဖြစ်သွားပါက ထိုလက်ဆောင်ကို လက်ခံရန် ကောင်း၊မကောင်း စဉ်းစား ကြည့်သင့်လှပေသည်။

အမှန်မှာ အလ္လာဟ်အသျှင်မြတ်အပေါ် 'တဝပ်က်ကွလ်' အမှီသဟဲထားနေသူများသည် ဂုဏ်သရေ မြင့်မားစွာဖြင့် 'ရိဇ်ဇ်' စားနပ်ရိက္ခာကို ရရှိကြလေသည်၊ သို့ရာတွင် ထိုပုဂ္ဂိုလ်၏ 'နိယာဘ်' စိတ်ဆန္ဒနှင့် စူးစိုက် အာရုံပြုခြင်းသည် အလ္လာဟ်အသျှင်မြတ်၌သာ အားထားနေကြသည်၊ လူသားအချင်းချင်းထံမှ ရလိုစိတ် မက်မထားကြပေ။

အကြင်သူသည် လူသားတို့အား အာရုံ စူးစိုက်၍ ၎င်းတို့၏ပစ္စည်း ရလိုစိတ် မက်ထားနေလျှင် ထိုသူသည် သူတော်စင်မဟုတ် လူလိမ် လူညာဖြစ်သည်၊ ထိုသူကား ကျွန်ုပ်ရေးနေသော အကြောင်းနှင့် မသက်ဆိုင်ပေ၊ ကျွန်ုပ်ကား 'တဝပ်က်ကွလ်' အမှန်တကယ် သူတော်စင်များ အကြောင်းကိုသာ ရေးနေသည်၊ သီးခြား၍အလ္လာဟ်အသျှင့်မြတ်၏ အချစ်တော် သူတော်စင်များကို သေးသိမ်သည်ဟု ထင်မြင် ယူဆခြင်းသည် ကြီးစွာသော (ဂိုနာဟ်) အပြစ်ဖြစ်လေသည်၊ထိုသို့သော သူတော်စင်များသည်မကောင်းပြော ကဲ့ရဲ့သောသူတို့ကြောင့် ဆုံးရှုံးမှုမဖြစ်ဘဲ အကျိုးပင်ရှိလေသည်၊မကောင်းပြော ကဲ့ရဲ့သောသူတို့၏ ကောင်းမှုကုသိုလ် (အမလ်) များကို ထိုအပြောခံရသော သူတော်စင်များက 'ကေယာမတ်' နေ့တွင် ရရှိကြပေမည်၊ မကောင်းပြော ကဲ့ရဲ့ သူများသည် လောကီ,လောကုတ္တရာ နှစ်ဌာန ဆုံးရှုံးမှု ပျက်စီးမှုသာလျှင် ရှိပေသည်။

မှတ်သားရန်အချက်မှာ .. 'တဝပ်က်ကွလ်' ပြုရန် 'ရှရီအတ်' တရားတော်မြတ်က လူတိုင်းကို ခွင့်မပေးပေ၊ ဇွဲလုံ့လ စိတ်ဓာတ်ရှိရန်နှင့် (ရှုရတွ်)သတ်မှတ်ထားချက်များကို လိုက်နာရန်အတွက် အလွန်ခဲယဉ်းလေသည်၊ ထို့ကြောင့် ဤသို့ တဝပ်က်ကွလ် ပြုသည့်

သူတော်စင်များသည် မရှိသည့်ပမာ အလွန်နည်းပါးလှပေသည်၊ အကောင်းဆုံးသော အရာပစ္စည်းသည် နည်းပါးရစမြဲပင် ဖြစ်လေသည်။

ဤအကြောင်းကို အနည်းငယ် ဂရုစိုက်ခြင်းဖြင့် ကောင်းစွာ နားလည်အောင် ရေးသားနိုင်ခဲ့ခြင်းအတွက် အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်သည်၊ အလ္လာဟ် အသျှင်မြတ်သည် ကျွန်ုပ်နှင့် တကွ သင် စာရှုသူကိုပါ 'အမလ်' ကောင်းမှုပွားနိုင်သော စွမ်းအား ပေးတော်မူပါစေသတည်း၊ (အာမီန်) သဘောတူတော်မူပါ။

ဟဒီးဆ်တော်တွင်လာသည်မှာ.... အမှန်ပင် အလ္လာဟ်အသျှင်မြတ်သည် သန့်ရှင်း စင်ကြယ်တော်မူသည်၊ (ဂုဏ်တော် စွမ်းအားတော်များနှင့် ပြည့်စုံလျက်အပြစ်အပေါင်းမှ သန့်ရှင်းတော်မူသည်၊)သန့်ဖြန့်ခြင်းမှအပအခြားအရာကို လက်ခံတော်မမူပေ၊ (အလ္လာဟ် အသျှင်မြတ် သည် သန့်ပြန့်သော 'ဟလာလ်' ပစ္စည်းကိုသာလျှင် လက်ခံတော် မူလေ သည်။)
မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၄၁။

အချို့ အာလင်မ် ပညာရှင်များက မိန့်ကြသည်မှာ— ဟရာမ် မသန့်ပြန့်သော ပစ္စည်းကို (ခိုင်ရာတ်) လှူဒါန်း၍ ကုသိုလ်(သဝါဗ်)ရမည်ဟုမက်ထားခြင်းသည် 'ကွဖ်ရ်' ဖြစ်လေသည်။
လမ်အာတ်ကျမ်း။

အမှန်ပင် အလ္လာဟ်အသျှင်မြတ်က မုအ်မင်န်များကို အမိန့်ပေးတော်မူခဲ့သည့် အတိုင်း ရစူလ်သခင် များကို အမိန့်ပေးတော်မူခဲ့သည်၊ သို့ရှိရာ မိန့်တော်မူသည်မှာ.... အို ...ရစူလ်အပေါင်းတို့ ဟလာလ် သန့်ရှင်းသောပစ္စည်းကို စားသောက်ကြကုန်၊ ကောင်း သော အမလ်ကုသိုလ်များကို ပွားများကြကုန်၊အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ.... အို ...အီမာန်ယုံကြည်သက်ဝင်သူအပေါင်းတို့၊ ငါအသျှင်မြတ်က သင်တို့အား ပေးကမ်း ထားသော သန့်ရှင်းသည့်ပစ္စည်းများကို စားသောက်ကြကုန်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် ဟဂ်ျ ပြုမှုဆောင်ရွက်ရန်နှင့် (အင်လ်မ်) ဘာသာရေးပညာ ရှာဖွေဆည်းပူးရန် စသည် အတွက် ခရီးထွက်လျှင် ထိုအဖြစ်၌ ခရီး၏ဒုက္ခဖြင့် စိတ်ရှုပ်ထွေးလျက် ဖုံများလူးတင် နေသည်၊ မိုးကောင်းကင်ယံဘက်သို့ လက်မြှောက်၍ လျှောက်သည်၊ အို... မွေးမြူဖန်ဆင်း တော်မူသော အသျှင်ဟူ၍ တိုင်တည်ကာ မဟာကရုဏာသက်တော်မူ၍ လိုရာစခန်းသို့ ရောက်အောင် ပေးကူမ,ရန် တောင်းဆိုလေသည်။

အမှန်မှာ ထိုသူ၏ စားခြင်း၊ သောက်ခြင်း၊ ဝတ်ဆင်ခြင်းတို့သည် ဟရာမ်ဖြစ်၍ ၎င်းသည် ဟရာမ်ပစ္စည်းနှင့် စားသောက်ကာ လူလားမြောက်လာပေသည်၊(ဟုတ်ပါ၏၊ အကယ်၍ အကြင်သူကို မိဘက အရွယ်မရောက်မီ ဟရာမ်ပစ္စည်းနှင့် ကျွေးမွေးဆင်မြန်း ခဲ့၍ ၎င်းသူ ကြီးပြင်းလူလားမြောက်ခဲ့ရာ ကိုယ်တိုင် ဟလာလ် သန့်သော ပစ္စည်းကို

ရှာဖွေ စားသောက် ဝတ်ဆင်ခဲ့လျှင် ဤအမိန့်နှင့် မသက်ဆိုင်ပေ၊ အရွယ်မရောက်မီက ဟရာမ့် ပစ္စည်းနှင့် ကျွေးမွေးခဲ့သော အပြစ်သည် မိဘအပေါ်မှာသာ တင်ရှိပေသည်။) သို့ရှိရာ ဤသို့ ဒုက္ခအဆင်းရဲခံသော်လည်း ဟရာမ် ပစ္စည်းဖြင့် စားသောက် သုံးစွဲနေသဖြင့် ၎င်း၏ 'ဒိုအာ' ကိုအလ္လာဟ်အသျှင်မြတ်က လက်ခံသဘောတူခြင်း ပြုတော်မမူပေ၊ အကယ်၍ တစ်ခါတစ်ရံ လိုလားချက် အောင်မြင်သွားသော် ဒိုအာ တောင်းဆိုမှုကြောင့် မဟုတ်ပေ၊ သာမက 'ကာဖွင်ရ်' အီမာန်မရှိသူများ လိုအင်ဆန္ဒရရှိကြသကဲ့သို့ (တပ်က်ဒီးရ်) သတ်မှတ်ထားချက်အတွက်သာလျှင် ရရှိခြင်းဖြစ်ပေသည်။

ဒိုအာ တောင်း ဆု လက် ခံ တော် မူ ခြင်း ၏ အလို့မှာ.... မြင့် မြတ် တော် မူသော အလ္လာဟ်အသျှင်မြတ်သည် ဗန္ဒတ် လူသားအပေါ် (ရဟ်မတ်) မဟာကရုဏာ၏ အရှုဖြင့် ရှုတော်မူလျှင် ထို 'ရဟ်မတ်' တော်အတွက်ကြောင့် လိုအင်ဆန္ဒရရှိလျှင် ၎င်းထိုတောင်းဆိုမှု ဒိုအာအပေါ် 'သဝါဗ်' ကုသိုလ်ပေးသနားတော်မူခြင်းမှသာ ဖြစ်လေသည်၊ သို့ရှိရာ ဤအချက်ကို 'ရှရီအတ်' တရားတော်မြတ်အား လိုက်နာ ဆောက်တည်သူက အလ္လာဟ် အသျှင်မြတ်ထံ တောင်းဆိုမှသာလျှင် ရရှိမည် ဖြစ်လေသည်။

ဤနေရာတွင် သိရသည်မှာ ဟလာလ် ပစ္စည်းကို စားသောက်ခြင်းဖြင့် ကြီးစွာသော 'ဘရ်ကတ်' မင်္ဂလာရှိပေသည်၊ အမှန်ပင် ထိုဟလာလ်ပစ္စည်း၌ သီးခြားသော စူးရှ ထိရောက်မှု ရှိသည်၊ ၎င်း ဤသို့ ဟလာလ် ပစ္စည်းကို စားသောက်ခြင်းဖြင့်အမလ် ကောင်းမှုကုသိုလ် ပွားများဆောက်တည်နိုင်သော စွမ်းအားရရှိသည်၊ အဆစ်အပိုင်းများလည်း အသိဉာဏ်၏ အန္တ အတာခံကာ ကောင်းကျိုးပဖြ်ပြုကြမည် ဖြစ်လေသည်။

ကျွန်ုပ်တို့၏ ရှေ့ ဆောင် လမ်းပြ သခင် အဘူဟာမစ်ဒ် မုဟမ္မဒ်ဂဇာလီ (ရဟမတွလ္လာဟ်) သခင်က ကြီးကျယ်သော သူတော်စင် တစ်ပါး ဖြစ်သူ စို့ ဟိုင်လ် (ရဟမတွလ္လာဟ်) သခင်ထံမှ ဆင့်ပြန်ခဲ့သည်၊ အကြင်သူသည် ဟရာမ်ဖြစ်သည်ကို စားသောက်လျှင် အဆစ်အပိုင်းများသည် အသိဉာဏ်၏ အန္တ အတာခံမှုကို စွန့်လွှတ်ကြသည်။

ဆိုလိုသည်မှာ အသိဉာဏ်က ကောင်းမှု ကုသိုလ် 'အမလ်' ပြုလိုသော်လည်း အဆစ်အပိုင်းများကို ညွှန်ကြားမပေးနိုင်ဘဲ အဆစ်အပိုင်းများက မကောင်းမှုကို ပြုကျင့်ကြပေသည်၊ ဤအချက်များကို စိတ်၏မျက်စိ လင်းဝင်းသော သူတော်စင်များသာလျှင် သိရှိကြလေသည်၊ ၎င်းစိတ်မည်း၍ နေ့ည စည်းစိမ်ခံနေသူများသည် ဤသည်ကို မသိရှိကြပေ၊ အလ္လာဟ်အသျှင်မြတ်သည် စိတ်၏ လင်းဝင်းခြင်းနှင့် အရှုကို တည်မြဲအောင်ထားတော်မူပါစေသတည်း

ကျွန်ုပ်တို့၏ ရှေ့ဆောင်လမ်းပြ အဗ်ဒွလ္လာဟ်ဗင်န် မုဘာရစ်က်(ရဟမတွလ္လာဟ်) သခင်သည်ကြီးကျယ်သောအာလင်မ်၊ ၎င်းရှောင်ကြဉ်သောသူတော်စင်တစ်ပါးဖြစ်သည်၊ အေမာမ်အဘူဟနီဖွာဟ် (ရဟမတွလ္လာဟ်) သခင်၏ တပည့်တစ်ပါးလည်း ဖြစ်လေသည်၊

သခင်က မိန့်တော်မူသည်မှာ....ကျွန်ုပ်သည် မည်သည့်နည်းနှင့် ရသည်ဖြစ်စေ၊ သန့်မသန့် ဒွိဟဖြစ်သော (ဒရဟမ်) တစ်ပြား ပြန်ပေးရခြင်းကို (ဒရဟမ်) ငွေ၆-သိန်း လှူခြင်းထက် ပို၍ နှစ်သက်တော်မူသည်။

သန့်မသန့် ဒွိဟဖြစ်နေသော ပစ္စည်း၏တန်ဖိုး ရှိ,မရှိကို သိထားကြရန် ထိုက်လေသည်၊ ဝမ်းနည်းစရာ ကောင်းနေသည်ကား လူအချို့တို့သည် မည်သို့ရသည်ဖြစ်စေ၊ ဟရာမ်သက်သက်ကိုပင် မရှောင်ကြပေ၊ သူတော်စင်များကား ဟရာမ်ကို ဖယ်ထားဦး ဒွိဟဖြစ်သော ပစ္စည်းကိုပင် မကောင်းအဖြစ်အသိအမှတ်ပြုကြလေသည်၊ ဟရာမ်ပစ္စည်းကို ရှောင်ကြဉ်ရန် လူသားများအပေါ်တွင် တာဝန်ဖြစ်လေသည်၊ မသန့်သောပစ္စည်းကို စားသုံးခြင်းဖြင့် စိတ်တွင် မကောင်းမှုများ ပေါ်ပေါက်လာသည်၊ ဤမသန့်သောပစ္စည်းများသည် လူသားကို ဖျက်ဆီးသောအရာများ ဖြစ်ကြလေသည်။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ဟလာလ်သည် ထင်ရှားသည်၊ ဟရာမ်လည်း ထင်ရှားသည်၊ ၎င်းထိုနှစ်ရပ်၏ အကြား အလယ်၌ ဒွိဟ သံသယများ ရှိလေသည်၊ ( ဆိုလိုသည်မှာ.... ထိုပစ္စည်း၏ ဟလာလ် ၎င်းဟရာမ်ဖြစ်ခြင်းတွင်ဒွိဟရှိသည်၊) အချို့အချက်ဖြင့် ဟလာလ်ဖြစ်ကြောင်းသိရ၍ အချို့အချက်ဖြင့် ဟရာမ်ဖြစ်ကြောင်းသိရသည်၊ ဤသို့သောအချက်ကို လူသာမန်တို့မသိရ၊ မိမိပညာအပေါ်တွင် ဆောက်တည်သောအပြစ် ရှောင်ကြဉ်သည့်အာလင်မ် ပညာရှင်များသာလျှင် သိရှိကြလေသည်၊ အကြင်သူသည် ဒွိဟရှိသော ပစ္စည်းများမှ ရှောင်ကြဉ်လျှင် ထိုသူသည် မိမိကိုယ်ကို ဂျဟန္နမ် ငရဲဘုံ၏ အသဘ် ပြစ်ဒဏ်မှ လွတ်ကင်းစေသူဖြစ်သည်၊ မိမိဂုဏ်သိက္ခာကို ပြစ်တင်သူများမှ ကင်းစင်စေသူဖြစ်သည်။

အဘယ့်ကြောင့်ဆိုသော် 'ရှရီအတ်' တရားတော်မြတ်နှင့်ကဲ့လွဲစွာပြုမူသူကိုလူတို့က ပြစ်တင်ကဲ့ရဲ့ကြသည်၊ လောကီ, လောကုတ္တရာ၌ သေးသိမ်မှု ဖြစ်မည်ကို ဉာဏ်ရှိသူတိုင်း ရှောင်ကြဉ်ရန် ထိုက်လေသည်၊ အကြင်သူသည် ဒွိဟဖြစ်သောပစ္စည်း၌ နစ်မွန်းလျှင် ထိုသူသည် ဟရာမ် ပစ္စည်း၌ နစ်မွန်းမည်ဖြစ်သည်။

ဆိုလိုသည်မှာ....အကြင်သူသည် ဒွိဟမကင်းသောပစ္စည်းများကို ရှောင်ကြဉ်ခြင်း မပြုလျှင် ထိုသူသည် တစ်ဖြည်းဖြည်း ဟရာမ်ပစ္စည်းများ၌လည်း နစ်မွန်းသွားမည် ဖြစ်ပေသည်၊ (နဖ်စ်)စိတ်ခေတ်ကိုအလိုလိုက်လျှင်တစ်ဖြည်းဖြည်းမကောင်းမှုများကို ပြုလာကာ လူကိုပင် ဖျက်ဆီးလေသည်၊ ဤသို့ အဖြစ်မှ အလ္လာဟ်အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏။

သို့ရှိရာ အကြင်သူသည် ပစ္စည်းနှင့် ပတ်သက်၍ ဂရုမစိုက်ဘဲ ရသည်ကို ယူ၍ ဒွိဟဖြစ်ခြင်းကို ဂရုမစိုက်လျှင် ထိုသူသည် မကြာမီ ဟရာမ် ပစ္စည်းကိုလည်း စားပေတော့မည်၊ (နဖ်စ်) စိတ်ကို အစဉ်ထာဝရ 'ရှရီအတ်' တရားတော်မြတ်၏ ဘောင်အတွင်း၌

ထားကာ လွတ်လပ်ခွင့်မပေးရန် ထိုက်သည်၊ သို့ရှိရာ ဟလာလ်မည်မျှ၊ ဟရာမ်မည်မျှ ပါကြောင်းမသိ၊ ဒွိဟဖြစ်နေသောပစ္စည်းကို စားသောက်ခြင်းကား ပိုင်၏၊ သို့သော် (မတ်ကရူးဟ်) အပြစ်ဖြစ်လေသည်၊ တစ်ဖြည်းဖြည်း ဤသို့ ဒွိဟဖြစ်သော ပစ္စည်းကို စားခြင်းဖြင့် ဟရာမ်ပစ္စည်း၌ နစ်မွန်းသွားမည်ကို စိုးရိမ်ရလေသည်၊ ထို့ကြောင့်ဒွိဟ မကင်းသော ပစ္စည်းများမှ ရှောင်ကြဉ်ရန် ထိုက်သည်၊ အဓိက ဂရုစိုက်ရန် အချက်မှာ ဤအချက်ပင်ဖြစ်သည်၊ ကောင်းစွာ မှတ်သားထားကြကုန်။

ပမာဆိုသော်...နွားကျောင်းသားသည် မိမိနွားများကို ဘုရင်က ၎င်း၏ တိရစ္ဆာန် ကျောင်းရန် သက်သက်သာ သတ်မှတ်ထားသော ကွင်းပြင်အနီး၌ ကျောင်းနေလျှင် ထိုနွားကျောင်းသားသည် တစ်ဖြည်းဖြည်း ဘုရင့်ကွင်း၌ပင် မိမိနွားများကို ကျောင်းပေတော့မည်၊ တိရစ္ဆာန်များကို ဤထက် ရှေ့မတိုးနှင့်ဟု ပြောထားရန်မဖြစ်၊ ၎င်းနွား ကျောင်းသားကလည်း အတင့်ရဲလာကာ သတ်မှတ်ထားမှုကို ဂရုစိုက်တော့မည်မဟုတ်ပေ၊ ဤသို့ပင် (နဖ်စ်) စိတ်မှာလည်း ဂရုစိုက်မှုမရှိပေ၊ အစကတည်းက ဒွိဟကိစ္စကိုပြုမူလျှင် နောက်ဆုံး ဟရာမ်၌ နစ်မွန်းသွားပေသည်။

သိမှတ်ထားရန်အချက်မှာ....အလိုအလျောက်ပေါက်ရောက်သော မြက်ပင်များကို မြေရှင်များက ကိုယ်ပိုင် သတ်မှတ်ထားခြင်း မပြုပိုင် သာမက အခြားသူများကိုလည်း ၎င်းမြက်ပင်များတွင် ကျောင်းရန် မတားမြစ်ပိုင်ပေ၊ ဤနေရာတွင် ရေးရခြင်းမှာ ပမာတစ်ခု ပြဆိုခြင်းသာ ဖြစ်လေသည်။

သိမှတ်ထားကြကုန်၊ ဘုရင်တိုင်းတွင် သတ်မှတ်ထားသော စားကျက်ရှိသည်၊ အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားသော စားကျက်သည် ဟရာမ် လုပ်ငန်းများ ဖြစ်လေသည်၊ အကြင်သူသည် ထိုဟရာမ်၌ နစ်မွန်းလျှင် ထိုသူသည် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်ကို ဖီဆန်သူဖြစ်သည်၊ ၎င်းဘုရင်၏ အမိန့်ကို ဖီဆန်သူသည်ပုန်ကန်သူ ဖြစ်ကြောင်း ထင်ရှားလေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် သည် ဘုရင်တကာတို့၏ ဘုရင်ဖြစ်တော်မူသည်၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်၏ အမိန့် တော်ကို ဖီဆန်ခြင်းသည် အကြီးဆုံးသော ပုန်ကန်မှု ဖြစ်လေသည်၊ ထိုပုန်ကန်မှုအတွက် အပြစ်ကလည်း အလွန်ကြီးမားသည်။

သိမှတ်ကြကုန်၊ လူသား၏ ကိုယ်ကာယ၌ အသားတုံးတစ်တုံး ရှိသည်၊ ထိုအသားတုံးသည် တည်ငြိမ်ပြီး အတွင်းအပြင် ချို့ယွင်းမှုမရှိပါက တစ်ကိုယ်လုံး ဖြောင့်မတ်စွာရှိမည်၊ အကယ်၍ ချို့ယွင်းပျက်စီးနေပါက တစ်ကိုယ်လုံး ချို့ယွင်းပျက်စီး မည် ဖြစ်သည်။

သိမှတ်ကြကုန် ထိုအသားတုံးသည် စိတ်ဖြစ်လေသည်၊ စိတ်သည် ကိုယ်ကာယ တစ်ခုလုံး၏ အဓိကအချက်ဖြစ်သည်၊ စိတ်ဖြောင့်မတ် မှန်ကန်နေမှသာလျှင် တစ်ကိုယ်လုံး ဖြောင့်မတ်မှန်ကန်နေမည်၊ စိတ်သည် ဖြောင့်မတ်မှန်ကန်မှုမရှိပါကအလ္လာဟ်အသျှင်မြတ်

၏ အမိန့်တော်မြတ်များကို ဖ^ဆန်မည်ဖြစ်သည်၊ (ဂိုနာဟ်) အကုသိုလ် ပြုကျင့်ခြင်းဖြင့် စိတ်သည် အကန်း ဖြစ်သွားလေသည်၊ အချုပ်မှာ ကောင်းမှုကုသိုလ် (အမလ်) များ တည်ရှိခြင်းသည် စိတ်ဖြူစင်ဖြောင့်မတ်မှု အပေါ်တွင် မူတည်၍နေသည်၊ စိတ်ဖြူစင် ရန်အတွက် ဟလာလ် ပစ္စည်းစားသုံးရန် အလွန်အရေးကြီးလှသည်၊ သို့ရှိရာ အချုပ်မှာ ဟလာလ် ပစ္စည်းအပေါ်တွင် ဤကိစ္စရပ်များ မူတည်၍ နေလေတော့၏။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ...အလ္လာဟ်အသျှင်မြတ်သည် ယဟူဒီများကို ဖျက်ဆီးတော်မူပါစေ၊ ထိုသူတို့ အပေါ် နွား, ဆိတ် တို့၏ အဆီများကို ဟရာမ်ပြုခဲ့သည်၊ (ဤအကြောင်းကုရ်အာန်ကျမ်း တော်မြတ်တွင် ပါရှိသည်၊) သို့ရှိရာ ထိုသူတို့က ထိုအဆီများကို ချက်သည်၊ ထို့နောက် ရောင်းချကြသည်၊ (ဟီလဟ်)လီဆယ်၍ အဆီကိုကိုယ်တိုင်မစားသုံးဘဲ ထိုအဆီကိုရောင်း၍ ရသောငွေကို စားသုံးသည်၊ ၎င်းတို့ အဆီကိုစားခြင်းမဟုတ်ဟု ယူဆနေကြသည်၊ အမှန် မှာ ထိုသူတို့ကို အဆီသုံးစွဲခြင်းမပြုရန် တားမြစ်ထားတော်မူခြင်းဖြစ်သည်၊ ထိုသို့တားမြစ် ချက်အရအဆီကိုရောင်း၍ရသောငွေကိုလည်း စားသုံးခြင်းမပြုရန် ပါဝင်လေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၁၈။

ယခုခေတ်အခါသမယတွင်အချို့သောအတိုးစားသူများသည် ဤသို့ပင်(ဟီလဟ်) လီဆယ်ခြင်း ပြုကြလေသည်၊ အမြင်တွင် အတိုးမဖြစ်ဘဲ အရင်းမူလမှာ အတိုးကို စား ကြလေသည်၊ သို့သော် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် (အာလေ မွလ်ဂိုင်ဗ်) အရာခပ်သိမ်းကို သိတော်မူသောအသျှင် ဖြစ်တော်မူသည်၊ လူတို့၏စိတ်ဆန္ဒ (နိယတ်)ကို သိမြင်တော်မူသည်၊ အလျဉ်း ဤသို့သော် လီဆယ်မှုပြုရန် မပိုင်ပေ။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့် တော်မူသည်မှာ.... ဟရာမ်မသန့်ပြန့်သောနည်းဖြင့်ရှာဖွေ၍ရသောပစ္စည်းဖြင့် (ဆွဒကဟ်) လှူတန်းခြင်းပြုလျှင် အလ္လာဟ်အသျှင်မြတ်က လက်ခံတော်မမူပေ၊ မြူမှုန်ခန့်မျှပင် (သဝါဗ်) ကုသိုလ် မရရှိပေ။ မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၁၈။

အချို့အာလင်မ် ပညာရှင်များက ဟရာမ် မသန့်သော ပစ္စည်းဖြင့် လှူတန်းကာ (သဝါဗ်) ကုသိုလ်ရမည်ဟု မက်ထားခြင်းသည် 'ကွဖိရ်'ဖြစ်သည်ဟု မိန့်ထားကြပေသည်၊ ၎င်း ထိုဟရာမ်ပစ္စည်းကို လက်ခံ ရယူသော သူဆင်းရဲသည် ထိုပစ္စည်းဟရာမ်မှန်း သိပါ လျက်နှင့် ပေးသူအား (သဝါဗ်) ကုသိုလ်ရစေရန် (ဒိုအာ) ဆုတောင်းပေးလျှင် ၎င်း သူဆင်းရဲလည်း ထိုအာလင်မ် ပညာရှင်များအမိန့်အရ ကာဖွင်ရ် ဖြစ်လေသည်။

၎င်းအကယ်၍ ဤသို့သော ဟရာမ်မသန့်သောနည်းဖြင့် ရသောငွေဖြင့် သုံးစွဲလျှင် လည်း ( ဘရကတ် ) မရှိပေ၊ ၎င်းသေဆုံးသောအခါ ဟရာမ် ပစ္စည်းကို ထားခဲ့လျှင်

'ဂျဟန္နမ်' အပါယ်ငရဲသို့ ကျမည်၊ အမွေစားများက စားခဲ့ကြသော်လည်း ထိုအပြစ်ကို ထားခဲ့သူက ခံရမည်၊ အချုပ်မှာ.... ဟရာမ်ပစ္စည်း၌ ဆုံးရှုံးနစ်နာမှုအပြင် မည်သည့် အကျိုးမှုမရှိပေ။

အလ္လာဟ်အသျှင်မြတ်သည် အမှန်မုချမကောင်းမှုကို ကောင်းမှုဖြင့် ကင်းစင်စေတော်မမူပေ၊ အဘယ့်ကြောင့်ဆိုသော် ဟရာမ်ပစ္စည်းဖြင့် လှူဒါန်းခြင်းမပြုရန် တားမြစ်ထားကာ ဂိုနာဟ်ဖြစ်သည်ဟု မိန့်မှတ်ထားတော်မူရာ ထိုဂိုနာဟ်ဖြင့် အခြားသောဂိုနာဟ်များကို ကင်းစင် လွတ်ငြိမ်းချမ်းသာမှု ရအောင် မပြုနိုင်ပေ၊ သို့သော် မကောင်းကို အကောင်းဖြင့် ကင်းစင်အောင်ပြုနိုင်သည်၊ သို့ရှိရာ ဟလာလ်ပစ္စည်းကို ရှရီအတ်တရားတော်မြတ်နှင့်အညီ လှူဒါန်းခြင်းဖြင့် ဂိုနာဟ်အကုသိုလ်များကို ကင်းစင်လေသည်၊ အမှန်မှာ ဟရာမ်ပစ္စည်းဖြင့် ဂိုနာဟ်များ ကင်းစင်မှု မဖြစ်ပေ။

ဟဒီးသ်တော်တွင်လာသည်၊ ဟရာမ် ပစ္စည်းဖြင့် ကြီးထွားလာသော အသားသည် ဂျန္နတ် ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ခြင်းမပြုရ၊ ဤသို့သောအသားသည် ဂျဟန္နမ်ငရဲဘုံနှင့်သာ ထိုက်သက်လေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၁၀။

ဆိုလိုသည်မှာ.... ဟရာမ်ပစ္စည်းကို စားသုံးသူသည် အပြစ်မခံရဘဲ ဂျန္နတ်သို့ ဝင်ရောက်ရမည်မဟုတ်၊ ကာဖွင်ရ်များကဲ့သို့ ဂျန္နတ်သို့ လုံးဝမဝင်ရဟူ၍ မဟုတ်ပေ၊ သာမက ရင်းသူသည် အီမာန်ခိုင်မြဲပါလျက် ဟရာမ်ပစ္စည်းကို စားသုံး၍ သေလျှင် ခံသင့် ခံထိုက်သော အပြစ် ဂိုနာဟ်များကို ခံရပြီး နောက် ဂျန္နတ် ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ရပေမည်၊ အကယ်၍ ဟရာမ်စားသုံးပြီးနောက် မသေမီ 'တောဗ်ဟ်' အမှားဝန်ခံလျှင် လူအချင်းချင်းတင်ရှိသောတာဝန်ကို ကျေပွန်ခဲ့လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ထိုသူ၏ဂိုနာဟ်များကို ခွင့်လွှတ်ချမ်းသာပေးတော်မူပေမည်၊ တင်ပြပါ ဟဒီးသ်တော်၌ တင်ပြခဲ့သော 'အသာဗ်' ပြစ်ဒဏ်မှ ချမ်းသာရပေမည်။

ဟဒီးသ်တော်တွင် လာသည်၊ အချို့ပစ္စည်းသည် ဟလာလ် ဖြစ်၍၊ အချို့အလုပ်သည် 'မိုဗားဟ်' ရင်းပိုင်နေသော်လည်း အတွင်းကျကျ စီစစ်ပါက ဂိုနာဟ် အပြစ်မလွတ်ကင်းနိုင်မှု ဤသို့သော ဟလာလ်ပစ္စည်းကိုလည်း မစားရန်ထိုက်သည်၊ ဤသို့ ပိုင်သောအလုပ်ကိုလည်း မလုပ်ရန် ထိုက်လေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၄၃။

အဘယ့်ကြောင့် ဆိုသော် ဤအလုပ်ကို လုပ်ခြင်း၊ ဤပစ္စည်းကို စားခြင်းဖြင့် ဂိုနာဟ်အပြစ်မဖြစ်သော်ငြားလည်းထိုကိစ္စအတွက်ဂိုနာဟ်ဖြစ်မည်ကိုစိုးရသည်၊ မကောင်းသော အလုပ်ကို အစပျိုးခြင်းပင် မကောင်းဖြစ်လေသည်၊ ပမာဆိုသော်.... အကောင်း

ဆိုးသော အဝတ်အထည် အစားအသောက်၌ မွေ့လျော်နေခြင်းသည်ပိုင်သည်၊ ဟလာလ် ဖြစ်သည်၊ သို့သော်လည်း စည်းကမ်းထက် ပိုလွန်၍ စည်းစိမ်များ၌ ယစ်မူးနေခြင်းသည် ဂိုနာဟ် အပြစ် ကျူးလွန်လာမည်ကို စိုးရိမ်ရသည်၊ ထို့ကြောင့် 'တပ်က်ဝါ' ရှောင်ကြဉ်ခြင်း သဘောအရ ဤသို့သောအလုပ် နှင့် အစားမှလည်း ရှောင်ရှားကြရပေမည်၊ ၎င်း ဒွိဟပစ္စည်းကို စားသောက်ခြင်းမှာ မတ်က်ရူးဟ် အပြစ်ဖြစ်သည်၊ သို့သော် ထိုသို့ ဒွိဟဖြစ်သော အစားအစာကိုစားခြင်းဖြင့် တစ်ဖြည်းဖြည်း စိတ်ကို မချုပ်ကိုင်နိုင်တော့ဘဲ ဟရာမ်ပစ္စည်းများကိုပါစားချင်လာပေတော့မည်၊ သို့ရှိရာ ဤသို့ဖြစ်လာမည့်ပစ္စည်းများမှ ရှောင်ကြဉ်ရန် ထိုက်လေသည်။

အာဇအရှဟ် (ရသေ့)သခင်မက မိန့်တော်မူသည်၊ အဘူဘကရ် (ရသေ့)သခင်သည် ကျွန်ထံမှ ပစ္စည်းအချို့ရရှိသည်၊ (ကျွန်သည် မိမိရှာဖွေရရှိသော ပစ္စည်းများမှ သဘ်မှတ်ထားသည်ကို ဆရာသခင်အား ပေးရလေသည်၊) ထိုပစ္စည်းကို အဘူဘကရ် (ရသေ့)သခင်စားသုံးတော်မူသည်၊ တစ်နေ့သ၌ ထိုကျွန်သည် စားဖွယ်အချို့ကိုယူလာသဖြင့် သခင်က စားသုံးတော်မူသည်၊ ကျွန်က ဤပစ္စည်း အဘယ်ကရသည်ကို သိပါသလားဟု မေးရာ၊ သခင်က မသိကြောင်း မိန့်ဆို၍ ပြောပြရန် မိန့်လေသည်။

ကျွန်က မြွေသည်မှာ.... ကျွန်တော်သည် အစ္စလာမ်ဘောင်သို့ မဝင်မီ အခါက လူတစ်ယောက်အား ဗေဒင်ဟောခဲ့သည်၊ ကျွန်တော်လည်း နားလည်၍မဟုတ် အရမ်းထင်ကြေးနှင့် ပြောခဲ့ခြင်းသာဖြစ်သည်၊ ယခု ၎င်းက ကျွန်တော်ပြောသည်မှာ တိုက်ဆိုင်နေ၍ ထိုပြောခဲ့သည့် အတွက် လက်ဆောင်ပေးလိုက်သော ပစ္စည်းဖြစ်ပါသည်၊ ထိုအခါ အဘူဘကရ်(ရသေ့)သခင်သည် ပါးစပ်တွင်းသို့လက်ထိုး၍အံပစ်လိုက်သည်၊ 'တပ်က်ဝါ' ရှောင်ကြဉ်သောသဘောအရ ဝမ်းတွင်း၌ရှိသော အစားအစာ အားလုံးကို အံထုတ်ပစ်လိုက်တော်မူသည်၊ ထိုအစာတစ်ခုတည်းပင် ထုတ်မဖြစ်၍ အားလုံးကို အံထုတ်ခြင်း ဖြစ်သည်၊ အမှန်မှာ အံမထုတ်ဘဲနေလျှင်လည်း 'ဂိုနာဟ်' အပြစ်မဖြစ်ပေ။

ဟဒီးသ်တော်တွင် လာရှိသည်၊ အကြင်သူသည် ဒရမ် ၁၀-ပြားဖြင့် အဝတ်တစ်ထည်ဝယ်ရာ ထို၁၀-ပြားတွင် တစ်ပြားမှာ ဟရာမ်ပါနေပါက ထိုအထည်ကိုယ်ပေါ်၌နေသမျှ ကာလပတ်လုံး အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏ နမာဇ်ဝတ်ပြုမှုကို လက်ခံတော်မမူပေ။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၁၉ ။

ဆိုလိုသည်မှာ.... 'ဖွရ်သွ'' တာဝန်မှာကား ကျသွားသော်လည်း နမာဇ်၏အကျိုး (သဝါဗ်)ကို ပြည့်စုံစွာ မရရှိပေ၊ ဤသို့ပင် အခြား 'အမလ်' ကောင်းမှုများကိုလည်း တွက်ယူရမည်၊ အလ္လာဟ်အသျှင်မြတ်အား အမြဲထာဝရ ကြောက်ရွံ့နေရန် ထိုက်သည်။

လူတို့သည် 'အမလ်' အေဗာဒတ် ခ,ဝပ်မှု နည်းပါးရသည်အထဲ ဤသို့ 'အမလ်' လျော့နည်း ပျက်စီးမည်ဆိုလျှင် ကေယာမတ် ကမ္ဘာ့တရားခွင်တွင် အလ္လာဟ်အသျှင်မြတ်အား မည်သို့အဖြေပေးကြ၍ မည်သို့ကြောက်ခမန်းလိလိ (အသာဗ်)ဖြစ်ဒဏ်များကို ခံကြမည်နည်း။

ဟဒီးသ်တော်တွင် လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အမှန်ပင် ငါရစူလ်သည် သင်တို့အား ဂျန္နတ်နှင့် နီးကပ်စေရန်၊ ၎င်းဂျဟန္နမ်နှင့် ဝေးကွာစေရန် မတတ်နိုင်၊ သို့သော် သင်တို့ကို ငါရစူလ် ပြောပြပြီးဖြစ်သည်၊ (ဂျန္နတ်သို့ ဝင်ရောက်နိုင်သော အမလ်ကောင်းမှုနှင့် ဂျဟန္နမ်ငရဲမှ လွ[illegible]ကင်းရာ လွတ်ကင်းကြောင်း ရှောင်ကြဉ်မှုများကို ပြောပြပြီး ဖြစ်သည်၊) ၎င်း ငါရစူလ်သည် သင်တို့အား ဂျန္နတ်မှဝေးအောင်ပြု၍ ဂျဟန္နမ်ငရဲနှင့် နီးစပ်စေရန် မတတ်နိုင်။

သို့သော် ငါရစူလ်က သင်တို့အား ဂျဟန္နမ် ငရဲနှင့် နီးကပ်စေမည့် အချက်များနှင့် ဂျန္နတ်သို့ ဝင်ရောက်နိုင်သော အချက်အလက်များကို ပြောပြပြီး ဖြစ်သည်၊ ၎င်းဂျစ်ဗ်ရာအီလ်(အလိုင်ဟစ္စလာမ်)က ငါရစူလ်အား သိစေခဲ့သည်၊ မည်သူမျှ 'တပ်က်ဒီရ်' သတ်မှတ်ချက်အရ 'ရိဇ္ဇ်' စားနပ်ရိက္ခာ အပြည့်အစုံ မရသေးဘဲမသေ၊ 'ရိဇ္ဇ်'ကား မရမရှိပေ၊ သတ်မှတ်မှု 'တပ်က်ဒီရ်'ကြောင့် ဆိုင်းငံ့လျှင် ဆိုင်းငံ့နေပေမည်၊ (စိတ်ထား ကောက်ကျစ်ခြင်း၊ ၎င်း ဟရာမ်ပစ္စည်းကို ရှာဖွေခြင်းဖြင့်လည်း အမြန် မရနိုင်ပေ၊) အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ (အလ္လာဟ်အသျှင်မြတ် အပေါ် အမှီသဟဲထား၍ ထိုအသျှင်၏ ကတိ ပေးတော်မူခြင်းများ အပေါ် ယုံကြည်ကြကုန်၊ ဟရာမ် မတရားနည်းလမ်းဖြင့် ပ႒ည်း ရှာဖွေခြင်းများမှ ရှောင်ကြဉ်ကုန်၊) ပစ္စည်း ရှာဖွေရာ၌ ရောင့်ရဲမှုရှိကုန်၊ (ပစ္စည်းရှာဖွေရာ၌ပင် မေ့လျော့ခြင်း မပြုနှင့်၊ လောဘ မထားနှင့်၊ 'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲသော ရှာဖွေမှုများမှ ရှောင်ကြဉ်ကြကုန်) ရိဇ္ဇ် ပစ္စည်း အရနည်းနေသဖြင့် ဂိုနာဟ် ၎င်း ဟရာမ်ဖြစ်သော နည်းလမ်းများဖြင့် ရှာဖွေခြင်း မပြုနှင့်၊ အဘယ့်ကြောင့် ဆိုသော် အချိန် မကျရောက်မီ ရသင့်ရထိုက်သော 'ရိဇ္ဇ်' ပစ္စည်းကား မရနိုင်ပေ၊ အကြောင်းမဲ့ အရသာမရှိ၊ တန်ဘိုးမရှိသည့် ဂိုနာဟ် ဖြစ်မှု၌ နစ်မွန်းနေပေမည်၊ ၎င်းအမှန်ပင် ဟရာမ် မတရားသောနည်းဖြင့် သတ်မှတ်ထားသော 'ရိဇ္ဇ်' အပြင် အလ္လာဟ်အသျှင်မြတ်ထံတော်မှ 'ရိဇ္ဇ်'တော်ကို မရယူနိုင်ပေ။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၅၀၊ ၂၅၉။

ဟဒီးသ်တော်တွင် လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရိဇ္ဇ် ရိက္ခာ၏ ၁၀-ပုံတွင် ၉-ပုံမှာ ရောင်းဝယ်မှု၌ ရှိသည်၊ (ဆိုလိုသည်မှာ ရောင်းဝယ်မှုပြုခြင်း၌ ပစ္စည်း တိုးပွားမှုရှိသည်၊ ဤသည်ကို လုပ်ကိုင်ကြကုန်။)

ဟဒီးသ်တော်တွင် လာသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ကြိုးစားလုပ်ကိုင် စားသောက်သော မုအ်မင်နကို အချစ်ထားတော်မူသည်၊ မည်သို့သော အဝတ် ဝတ်ဆင်သည်ကို ရှုကြည့်တော်မမူပေ။

ဆိုလိုသည်မှာ.... ကြိုးပမ်း ဒုက္ခခံ၍ လုပ်ကိုင်နေရခြင်းကြောင့် အဝတ် အထည် သစ်လွင်စွာ ဝတ်ချိန်မရ၊ ဟောင်းနွမ်းညစ်ပေစွာ ဝတ်နေသည်၊ ၎င်း အကြင်သူသည် ဤသို့မဟုတ်လျှင် ရိုးရိုးအဝတ်ကို သစ်လွင်စွာ ဖွပ်လျှော် ဝတ်ဆင်ရမည်။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ငါရစူလ်သည် ရောင်းဝယ်သူတစ်ဦးဖြစ်သည်၊ ငါရစူလ်အား ပစ္စည်းစုဆောင်းရန် (ဝဟီ)ပို့၊ မိန့်မှတ်တော်မမူခဲ့၊ ငါရစူလ်အား (ဝဟီ)ပို့၊ မိန့်မှတ်တော်မူသည်မှာ.... အလ္လာဟ်အသျှင်မြတ်၏ သန့်ရှင်းတော်မူသော တတ်စ်ဗီးဟ်(အလ်ဟမ်ဒို့၊ လစ်လာဟေ့) ရွတ်ဆိုကုန်၊ ၎င်း ထိုအသျှင်မြတ်အား ချီးမွမ်းထောပနာပါသည့် (စွဗ်ဟာန်လ္လာဟေ့၊ ဝဗေ့ဟမ်ဒေ့ဟီ) ရွတ်ဆိုကုန်၊ ၎င်းနမာဇ်ကို ထာဝရဖတ်ရွတ်ကုန်၊ နမာဇ်ဖတ်သူများနှင့် တကွ ရှိကုန်၊ မိမိကို မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်ကို သေသည် အထိ အေဗာဒတ် ခ,ဝပ် ဆည်းကပ်မှုပြုကုန်။

မစ်ရှ်ကာတ်ကျမ်းစာမျက်နှာ-၁၅၂။

ဆိုလိုသည်မှာ.... လိုအပ်သည်ထက်ပို၍ လောက၏ စည်းစိမ်ရှာဖွေရာ၌ မွေ့လျော်ခြင်းမပြုနှင့်၊ အဘယ့်ကြောင့်ဆိုသော် မိမိစားဝတ်နေရေး အတွက် လုံလောက်သည်ခန့် ပစ္စည်းရှာဖွေခြင်းသည် အားလုံးအပေါ် (ဝါဂျစ်ဗ်)ထိုက်လေ၏။ ဟုတ်ပါ၏၊ အကယ်၍ 'တဝပ်က်ကွလ်' ပြုလို၍ ၎င်းတဝပ်က်ကွလ်၏ စည်းကမ်းများနှင့် ညီညွတ်သောသူသည် လုပ်ကိုင်မှုများကို စွန့်လွှတ်၍ အေဗာဒတ် ခ,ဝပ် ဆည်းကပ်မှုများ ကိုချည့် ပြုနေနိုင်ပေသည်။

ဂျာဗင်ရ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရောင်းရာ၊ ဝယ်ရာ၊ အကြွေးတောင်းရာ၌ နူးညံ့ သိမ်မွေ့စွာ ပြုမူသူအား အလ္လာဟ်အသျှင်မြတ်က သနားကရုဏာသက်တော်မူပါစေ။

ရောင်းဝယ်ခြင်းနှင့် ကြွေးတောင်းရာ၌ နူးညံ့သိမ်မွေ့စွာ ပြုမူသူ၏ အဆင့်အတန်းသည် လွန်စွာ မြင့်မားလှပေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဤသို့ နူးညံ့သိမ်မွေ့စွာ ဆက်ဆံသူအား ဒိုအာ ဆုမွန် ပြုတော်မူပေသည်၊ ရစူလ်ကိုယ်တော်၏ ဒိုအာကို အလ္လာဟ်အသျှင်မြတ်က လက်ခံတော်မူလေသည်၊ အကယ်၍ ဤသို့ နူးညံ့စွာ ဆက်ဆံခြင်းဖြင့် (သဝါဗ်)ကုသိုလ်မရငြားလည်း ရစူလ်ကိုယ်တော်၏ဒိုအာပင် လုံလောက်ပေသည်၊ အမှန်မှာ နူးညံ့သိမ်မွေ့စွာ ဆက်ဆံခြင်း၌လည်း ကုသိုလ်(သဝါဗ်)ရလေသည်။

သို့ရှိရာကုန်သည်များသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မှန်ကန်တိကျသည့် ဟဒီးသ် မိန့်ခွန်းတော်အပေါ် တသဝေမတိမ်း လိုက်နာကြရန် ထိုက်လေသည်၊ ဤသို့လိုက်နာပြုမူခြင်းဖြင့် လောကဥ္စလည်း အကျိုးများစွာရှိလေသည်၊ ဤသို့နှုတ်ချိုစွာ ဆက်ဆံမှုကောင်းသူကို လူတိုင်းကချစ်ခင်ကြသည်၊ ဝယ်ယူသူများလည်း ပေါများလာပေသည်၊ အချို့အခါ ဝယ်သူမှာ စိတ်တိုင်းကျ ဖြစ်သွား၍ ရောင်းသူကိုဒိုအာဆုမွန်ပင် ပြုပေးသွားတတ်လေသည်၊ အမှန်မှာ 'ရှရီအတ်' တရားတော်မြတ်အပေါ် လိုက်နာ ကျင့်သုံးသူသည် လောကီ၊ လောကုတ္တရာနှစ်ဌာန စည်းစိမ်ပျော်ရွှင်မှုနှင့်နေထိုင်ရမည်၊ လောကီ လောကုတ္တရာ နှစ်ဌာနတွင် အလ္လာဟ်အသျှင်မြတ် ၎င်းလူတို့ထံတွင် အချစ်ခံရသူ အဖြစ် နေထိုင်ရသူထက် ပျော်ရွှင်စရာကောင်းသည်ကား မရှိတော့ပေ။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... သင်တို့ကုန်ရောင်းရာ၌ 'ကဆမ်' ကျိန်တွယ်ပြောဆိုမှုများမှ ရှောင်ကြဉ်ကြကုန်၊ (မိမိကုန် တွင်ကျယ်စေရန်အတွက် များစွာကျိန်တွယ်ခြင်းမပြုနှင့် အဘယ့်ကြောင့်ဆိုသော် များစွာကျိန်တွယ်ခြင်းဖြင့် မှသားလည်းပါသွားမည်၊ ပစ္စည်းတွင် 'ဘရိကတ်' မင်္ဂလာမရှိဖြစ်သည်၊ အလ္လာဟ်အသျှင်မြတ်၏ နာမတော်ကိုလည်း မရိုမသေ ပြုရာရောက်လေသည်၊ ဟုတ်ပါ၏၊ အကယ်၍ တစ်ခါတစ်ရံ ကြုံကြိုက်၍ ကျိန်တွယ်ပြောဆိုရလျှင် ကိစ္စမရှိပေ၊) ထို့ကြောင့် ကျိန်တွယ်မှု များစွာပြုနေလျှင် မှားယွင်းခဲ့သော်လူအကြည်ညို ပျက်မည်၊ ပစ္စည်းတွင်လည်း 'ဘရိကတ်' မရှိဘဲဖြစ်၍ လောကီ၊ လောကုတ္တရာ နှစ်ဌာန ဆုံးရှုံးမှု ဖြစ်သွားပေမည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၂၀။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကုန်ရောင်းသူသည် မှန်ကန်သူ (ပြောဆိုရာ၌ ၎င်းဆက်ဆံရာ၌) ထိန်းသိမ်းသူသည် နဗီရစူလ်သူတော်စင်များနှင့် (ကြီးကျယ်သော သူတော်စင်များ၊ ၊ အကြင်ပုဂ္ဂိုလ်များသည် အပြောအဆို အလုပ်အကိုင်၌ အဆင့်အတန်း အမြင့်မားဆုံးဖြစ်ကြ၍ အလ္လာဟ် အသျှင်မြတ်အား အတိုင်းထက်အလွန် အေဗာဒတ် ခ၀ပ်မှုပြုသော ပုဂ္ဂိုလ်များ) ၎င်း အလ္လာဟ်အသျှင်မြတ်လမ်းတော်တွင် အသက်ပေးခဲ့သော 'ရှဟီဒ်' များနှင့်အတူရှိမည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၂၂၀။

ဆိုလိုသည်မှာ.... တင်ပြပါ အချက်များနှင့် ကိုက်ညီသော ကုန်ရောင်းသူသည် ကေယာမတ်နေ့၌ နဗီရစူလ် (အလိုင်ဟော့၊ မွတ်စ်စွလ၀ါတ် ဝတ်စ်စလာမ်) သခင်များ၊ စွစ်ဒီကီန် သူတော်စင် (ရသေ့ယလ္လာဟု၊ အန်ဟွန်မ်) သခင်များ၊ ရှိုဟဒါ(ရဟော့မ၊ ဟို့မွလ္လာဟ်) အလ္လာဟ်အသျှင်မြတ်လမ်းတော်တွင် အသက်ပေးသွားသောပုဂ္ဂိုလ်များနှင့်

အတူရှိပြီး 'ဂျဟန္နမ်' အပါယ်ငရဲဘုံမှ လွတ်ကင်းမှု ရမည်ဖြစ်လေသည်၊ အတူ ရှိမည်ဟု ဆိုရာ၌ ထိုပုဂ္ဂိုလ်များ နှင့် အဆင့် အတန်း တူညီစွာ ရမည်ဟု ဆိုလိုရင်း မဟုတ်ပေ၊ သာမကပုဂ္ဂိုလ်ကြီးများနှင့် အတူရှိသဖြင့် သီးခြားသော အဆင့်အတန်း ရမည်ဖြစ်သည်။

ပမာဆိုသော်.... ပုဂ္ဂိုလ်ကြီးတစ်ပါးအား ထမင်းစားဖိတ်ရာ ၎င်းပုဂ္ဂိုလ်ကြီးနှင့် အတူ နောက်လိုက်တပည့်များလည်း ပါသွားမည်၊ ထိုအခါ နေရာထိုင်ခင်းနှင့် စားဖွယ်များလည်း တပည့် ဖြစ်သူတို့သည် ထိုပုဂ္ဂိုလ်ကြီးအတိုင်းပင် ထိုင်ကြ၍ စားသောက်ကြရမည် ဖြစ်ပေသည်၊ သို့သော် အိမ်ရှင်မှာ ထိုပုဂ္ဂိုလ်ကြီးအား ကြည်ညို လေးစားသကဲ့သို့ တပည့်များကိုကား လေးစား ဂုဏ်ပေးမည် မဟုတ်ပေ၊ သို့ရာတွင် အတူပါလာသဖြင့် ဂုဏ်မြင့်လာခြင်း ထိုပုဂ္ဂိုလ် နှင့် တစ်အိမ်တည်း စားသောက်ရခြင်းတို့သည် ကြီးမားသော ဂုဏ်မြင့်မားလာမှုပင် ဖြစ်လေသည်။

သီးခြား၍ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် နှင့် အတူ လိုက်ပါရခြင်းပင် လျှင်ကြီးမားသော စည်းစိမ်တစ်ရပ်ပင် ဖြစ်လေသည်၊ ကိုယ်တော်နှင့် အတူ လိုက်ပါရပြီး မစားရသည်ဖြစ်စေ၊ ဂုဏ်မမြင့်မားသည်ဖြစ်စေ ကိုယ်တော်သခင်အား အချစ်ထားသူများအတွက် ကိုယ်တော်အား ဖူးမြော်ရသည်ပင် ကြီးမားသော စည်းစိမ် တစ်ရပ် ဖြစ်လေသည်၊ ဖူးမြော်ရခြင်းမှာ အဆင့်အတန်းမြင့်လွန်းသည်၊ အနီးအပါးက နေရခြင်းပင် စည်းစိမ်ကြီးတစ်ရပ်ဖြစ်သည်၊ထို့ကြောင့် မွတ်စလင်မ်တို့သည် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ ထွတ်မြတ်သော (ဒိုအာ)ကို ရရှိကြရန် ကြိုးစားသင့်ကြပေသည်။

ဟဒီးသ်တော်တွင် လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အို....ကုန်ရောင်းသူအပေါင်းတို့၊ ရောင်းဝယ်ခြင်းတွင် အများအားဖြင့် မလျော်ကန်သော စကားများ၊ ကျိန်တွယ်မှုများ ပါရှိတတ်လေသည်၊ ထို့ကြောင့် ထိုအထဲတွင် (ဆွဒကာဟ်) လှူဒါန်းမှုကို ပြုကြကုန်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၂၀။

ဆိုလိုသည်မှာ.... မလျော်ကန်သောစကားများပြောဆိုခြင်း၊ (ကဆမ်)ကျိန်တွယ်ခြင်းများသည် မကောင်းသော လုပ်ငန်းများဖြစ်လေသည်၊ ထို့ကြောင့် ထိုမလျော်ကန်သောစကားများ (ကဆမ်) ကျိန်တွယ်မှု ကင်းစင်သွားစေရန်အတွက် (ဆွဒကာဟ်) အလှူအတန်းပြုကြရန် ထိုက်လေသည်၊ ထိုသို့ လှူဒါန်းခြင်းဖြင့် စိတ်၌ပေါ်ပေါက်လာသော မြင့်မားမှုလည်း ပျပျောက်သွားပေမည်၊ မလျော်ကန်သော စကား ဟု ဆိုရာ၌ အကျိုးမဲ့ စကားများ ဖြစ်လေသည်။

ဟာဒီးသ်တော်တွင် လာသည်၊ ကုန်ရောင်းသူများသည် (ကေယာမတ်) ကမ္ဘာ့တရားခွင်နေ့၌ လူဆိုး၊ ၎င်းဂိုနာဟ်ဂါရ်ကျူးလွန်သူများအဖြစ်နှင့် ထကြရမည်၊ သို့သော် အကြင်သူသည် ကြောက်ရွံ့မှု ရှိလျှင်၊ ၎င်းမှန်ကန်မှုကို ဆိုလျှင် ဤဒုက္ခမှ လွတ်ကင်းမည် ဖြစ်ပေသည်။

မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၂၀။

ဆိုလိုသည်မှာ....ရောင်းဝယ်ဖေါက်ကားမှု၌ မည်သည့်(ဂိုနာဟ်)ပြစ်မှု မပါမရှိစေလျှင်၊ ထိုသို့မှန်ကန်စွာပြုမူသူသည် တင်ပြပါဒုက္ခများမှ လွတ်ကင်းမည်ဖြစ်ပေသည်။

ဤတွင်၍ကားဘာဟစ်ရှ်တီဂျောင်ဟရ်ကျမ်း
ပဥ္စမတွဲ ပြီး၏။

**မုဟမ္မဒ်မူစာ (မင်္ဂလာဟောရီ)**



## ဒုတိယ နောက်ဆက်တွဲ

# အကြောင်းမဲ့ ကြွေးယူမှုကို ရှုတ်ချခြင်း အကြောင်း

ဟာဒီးသ်တော်တွင်လာသည်၊ အဘူစအီးဒ်ခွုဒ်ရီ (ရသွေ့) သခင်က မိန့်သည်မှာ.... ကျွန်ုပ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဤသို့ မိန့်သည်ကို ကြားခဲ့သည်၊ အအူသို့၊ ဗစ်လ္လာဟေ့၊ မေ့နလ်၊ ကွဖ်ရေ့၊ ဝဒ်ဒိုင်န်၊ (ကျွန်ုပ်သည် 'ကာဖွင်ရ်'အဖြစ်နှင့် ကြွေးငွေမှ အလ္လာဟ်အသျှင်မြတ်ထံ ကင်းရန်ဆုပန်ပါ၏၊) ထိုအခါတစ်ဦးသောပုဂ္ဂိုလ်က ယာရစူလလ္လာဟ် ကိုယ်တော်သည် ကြွေးငွေနှင့် 'ကွဖ်ရ်'ကို အတူတူ ထားပါသလားဟု မေးလျှောက်ရာ အတူတူပင် ထားသည်ဟု မိန့်တော်မူလေ၏။

နေစာအီ နှင့် ဟာကင်မ်ကျမ်း။

ဟာဒီးသ်တော်တွင်လာသည်၊ အဗ်ဒွလ္လာဟ်ဗင်န် အုမရ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြွေးသည် ပထဝီမြေပေါ်၌ အလ္လာဟ်အသျှင်မြတ်၏အလံတင်ခုဖြစ်သည်၊ မည်သည့်အခါထိုအသျှင်က (ဗန္ဒဟ်)လူသားတစ်ဦးဦးကို သေးသိမ်အောင်ပြုလိုတော်မူလျှင် ထိုသူ၏ လည်ဂုတ်ပေါ်၌ ကြွေး၏ ဝန်ထုပ်ကို ထားတော်မူလေသည်။

နေစာအီ နှင့် ဟာကင်မ်ကျမ်း။

ဟဒီးသ်တော်တွင်လာသည်၊ အဗ်ဒွလ္လာဟ်ဗင်န် အုမရ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ကျွန်ုပ် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်သည်ကို ကြားခဲ့သည်။ ကိုယ်တော်သည် တစ်ဦးသောသူကို ဆိုဆုံးမနေတော်မူသည်၊ (ဂိုနာဟ်) အကုသိုလ်မကျူး လွန်နှင့် သို့မှသာ သင်အသေလွယ်မည်၊ အကြွေးမယူနှင့် သို့မှသာ သင်လွတ်လပ်စွာ ရှင်နေနိုင်မည်။ ဗိုင်ဟကီကျမ်း။

ဟဒီးသ်တော်တွင်လာသည်။ အဘူဟုရိုင်ရဟ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ.... အကြင်သူသည် ပြန်ဆပ်ရန် 'နီယတ်' ဆန္ဒဖြင့်ကြွေးယူလျှင် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်က ထိုသူ၏ကြွေးကို ဆပ်ပေးတော်မူသည်၊ ၎င်းအကြင်သူသည် ပြန်မပေးဘဲ စားပစ်ရန် 'နီယတ်' ဆန္ဒဖြင့်ယူလျှင် မြင့်မြတ်တော်မူတော် အလ္လာဟ်အသျှင်မြတ်က ထိုသူ့ကို ပျက်စီးစေတော်မူသည်။ ဘိုခါရီနှင့် အစ်ဗ်နို့မာဂျဟ်ကျမ်း။

ဟဒီးသ်တော်တွင်လာသည်၊ အာအေရှဟ် (ရသွေ့) သခင်မက ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ငါရစူလ်၏ 'အုမ္မတ်' နောက်လိုက်တပည့်များအနက် အကြင်သူသည် အကြွေးဝန်၌နစ်မွန်းနေလျှင် ထိုနောက် ထိုသူသည် ထိုအကြွေးကို ပေးဆပ်ရန် ကြိုးစားရှန်းကန်ယင်း မဆပ်နိုင်သေးမီ သေဆုံးသွားသော် ငါရစူလ်သည် ထိုကဲ့သို့သူအား ကူညီတော်မူသည်။

အဟ်မဒ်ကျမ်း။

ဟဒီးသ်တော်တွင်လာသည်၊ မိုင်မူနကွရ်ဒီ သခင်က မိမိဖခင်မှ ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် အမျိုးသမီးတစ်ဦးအား 'မဟ်ရ်' ခန်းဝင်ကြေး နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ အကြွေးတင်ပြီး လက်ထပ်ခဲ့သည်၊ သို့သော် စိတ်ကမပေးလိုဘဲ ညစ်လိုစိတ်ထားသည်၊ ထိုအဖြစ်၌ မပေးဘဲ သေသွားသော် ထိုသူသည် (ကေယာမတ်) ကမ္ဘာ့တရားခွင်နေ့၌ (ဇနာ) ကာမေသုကျူးလွန်သူအဖြစ်နှင့် အလ္လာဟ်အသျှင်မြတ် ရှေ့တော်မှောက်သို့ ဝင်ရောက်ရမည်ဖြစ်သည်၊ ၎င်းအကြင်သူသည် အကြွေးယူသည်၊ စိတ်က ပေးဆပ်လိုသော ဆန္ဒမရှိ သက်သက် လိမ်လည်ခြင်းသာဖြစ်သည်၊ ၎င်းသူသည် ကြွေးမဆပ်ဘဲ သေဆုံးသွားသော် ၎င်းသည် အလ္လာဟ်အသျှင်မြတ် ရှေ့တော်မှောက်သို့ သူခိုးအဖြစ်နှင့် ဝင်ရောက်ရမည်ဖြစ်လေသည်။ တွဗ်ရာနီကျမ်း။

ဟဒီးသ်တော်တွင် လာသည်၊ အုမရ်ဗင်န်ရှရီးဒ်သခင်က ဖခင်ထံမှ ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ကြွေးယူပြီး မပေးဆပ်သူ၏ပစ္စည်းနှင့် ဂုဏ်သရေသည် 'ဟလာလ်' ပိုင်သွားသည်။

တဗ်ဂီးရ်ကျမ်းစာမျက်နှာ ၃၅၂။

ဆိုလိုသည်မှာ.... အကြင်သူသည် ကြွေးယူပြီးနောက် ပေးဆပ်နိုင်ပါလျက် မပေးဆပ်မူ ကြွေးရှင်သည် ထိုသူ၏ဂုဏ်သိက္ခာကို ဖျက်ဆီးနိုင်သည်၊ မကောင်းပြောဆို သတင်းလွှင့်နိုင်သည်၊ ထိုသူ၏ ယုတ်ညံ့သော စိတ်ထားကို ပေါ်လွင်အောင် ပြုနိုင်သည်၊ ထင်ရှားစွာဖြစ်စေ၊ ဖုံးကွယ်၍ဖြစ်စေ ထိုသူထံမှ မိမိရထိုက်သောပစ္စည်းကို ရအောင်ယူနိုင်လေသည်။

ဟဒီးသ်တော်တွင် လာသည်၊ အဘူသရ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် (၃)ဦးသောသူတို့အား လွန်စွာ ရွံ့ရှာ မုန်းတီးတော်မူသည်၊ ၁။ ဇနာ-ကာမေသုကျူးလွန်သောသူအို၊ ၂။ မာန်မာနထောင်လွှားသောဆင်းရဲသား၊ ၃။ ပစ္စည်းရှိလျက်မတရားသူ၊ (ကြွေးရှင်များကို ပစ္စည်းရှိပါလျက်မပေးဘဲ ရက်ချိန်းကာ ညှဉ်းဆဲဒုက္ခပေးသူ။)

အစ်ဗ်နို့ ခိုဇိုင်မဟ်၊ အဘူဒါဝူးဒ်၊ နေစာအီ၊ တင်ရ်မေသီ၊
အစ်ဗ်နို့ ဟစ်ဗ်ဗာန်၊ ဟာကင်မ် ကျမ်းတော်များ။

# ကြွေး ပြေလည်စေရန် အတွက် ဆုမွန် ဒိုအာ အကြောင်း

ဟဒီးသ်တော်တွင်လာသည်၊ ပုဂ္ဂိုလ်တစ်ဦးသည် အလီ (ရသွေ့) သခင်ထံ လာရောက်၍ ကျွန်တော်သည် လက်ရေးလှ ရေးခိုင်းရာ၊ ထိုအတွက် ကျသင့်ငွေကို ပေးရန် မစွမ်းနိုင် ဖြစ်နေပါသည်၊ ကျွန်တော့အား ကူညီတော်မူပါဟု လျှောက်လေ၏၊ အလီ (ရသွေ့)သခင်က မိန့်တော်မူသည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က သင်ပြထားသည့် 'ဒိုအာ' ဆုမွန်ကို သင့်အား ပြောပြမည်၊ အကယ်၍ သင့်အပေါ် 'သဘီရ်' မည်သော တောင်ခန့်ပင် ကြွေးမြီတင်ရှိနေပါက အလ္လာဟ်အသျှင်မြတ်က ပေးဆပ်နိုင်သော စွမ်းအားပေးသနားတော်မူပေမည်၊ ဤဒိုအာကို ဖတ်ရွတ်ကုန်။

اَللّٰهُمَّ اَكْفِنِىْ بِحَلَالِكَ عَنْ حَرَامِكَ وَاَغْنِنِىْ بِفَضْلِكَ عَمَّنْ سِوَاكَ رواه الترمذى

အဓိပ္ပါယ်....

အို...အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးကို 'ဟလာလ်'ပစ္စည်းများ ပေးသနားတော်မူ၍၊ ဟရာမ် ပစ္စည်းများမှ ရှောင်ကြဉ်နိုင်သော စွမ်းအား ပေးသနားတော်မူပါ၊ ၎င်း ကျွန်တော်မျိုးကို မိမိအသနားတော်မြတ်ဖြင့် အခြားသူများမှ တောင့်တမူ ကင်းအောင် ပြု ပေးသနားတော်မူပါ။

တင်ရ်မေသီ နှင့် ဟာကင်မ်ကျမ်း။

ဟဒီးသ်တော်တွင်လာသည်၊ အနတ်စ်ဗင်န်မာလစ်က် (ရသွေ.) သခင်က ဆင့်မြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မုအာသ်ဗင်န်ဂျဗလ် (ရသွေ.)သခင်ကို မိန့်သည်မှာ.... ငါရစူလ်သည် သင့်အား ဤသို့သော 'ဒိုအာ'ကို ပြောပြမည်၊ ထိုဒိုအာကို ဖတ်ရွတ်ခြင်းဖြင့် အကယ်၍ သင့်အပေါ်၌ တောင်နှင့်အမျှ ကြွေးမြီ ရှိမူလည်း မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ပေးဆပ်နိုင်သောစွမ်းအား ပေးသနားတော်မူပေမည်၊ ဤဒိုအာကို ဖတ်ရွတ်ကုန်။

اَللّٰهُمَّ مَالِكَ الْمُلْكِ تُؤْتِي الْمُلْكَ مَنْ تَشَاءُ وَتَنْزِعُ الْمُلْكَ مِمَّنْ تَشَاءُ وَتُعِزُّ مَنْ تَشَاءُ وَتُذِلُّ مَنْ تَشَاءُ بِيَدِكَ الْخَيْرُ اِنَّكَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ رَحْمَانَ الدُّنْيَا وَالْاٰخِرَةِ وَرَحِيْمَهُمَا تُعْطِيْهِمَا مَنْ تَشَاءُ وَتَمْنَعُ مِنْهُمَا مَنْ تَشَاءُ اِرْحَمْنِيْ رَحْمَةً تُغْنِيْنِيْ بِهَا عَنْ رَحْمَةِ مَنْ سِوَاكَ رواه الطبرانى

အဓိပ္ပါယ်....

အို.... လောကအပေါင်းကို ပိုင်ဆိုင် စိုးပိုင်တော်မူသော အလ္လာဟ်အသျှင်မြတ်၊ ကိုယ်တော်အသျှင်သည် အလိုရှိတော်မူသောသူကို ဘုရင်အဖြစ် တိုင်းပြည် ပေးသနားတော်မူ၍၊ အလိုတော်မရှိသူထံမှ တိုင်းပြည်ကို ပြန်လည် ယူငင်တော်မူသည်၊ ၎င်းကိုယ်တော်အသျှင်အလိုရှိသောသူကို ဂုဏ်ပေးတော်မူ၍၊ အလိုတော်မရှိသောသူကို သေးသိမ်စေတော်မူသည်၊ ကိုယ်တော်အသျှင်၏ ထံတော်၌ပင် ကောင်းမှုများရှိလေသည်၊ ကိုယ်တော်အသျှင်ကား အရာ ဟူသမျှကို စွမ်းနိုင်တော်မူသည်၊ အို.... လောကီ-လောကုတ္တရာ နှစ်ဌာနတွင် သနား ညှာတာတော်မူသော အသျှင်၊ ၎င်း နှစ်လောကလုံးတွင် ကရုဏာ သက်တော်မူသောအသျှင်၊ ကိုယ်တော်အသျှင်သည် လောကီ-လောကုတ္တရာတွင် ကောင်းစားမှုကို အလိုတော်ရှိသူအား ပေးသနားတော်မူ၍ အလိုတော် မရှိသူအား နှစ်ဌာနတွင် လက်မဲ့ ဖြစ်စေတော်မူသည်၊ ကျွန်တော်မျိုးအား သနားတော်မူပါ၊ ကျွန်တော်မျိုးကို ဤကဲ့သို့သော (ရဟ်မတ်) မဟာ ကရုဏာတော်ဖြင့် ထို မဟာ ကရုဏာတော်ကြောင့် (မဘ်ခ်လူးက်) လူသားများထံမှ သနားညှာတာမှုကို မယူရအောင် ပေးသနားတော်မူပါ။

တဗ္ဗာဗ်ရာနီ နှင့် တင်ရ်မေသီကျမ်း။

ဤတွင်၍ကား ဒုတိယနောက်ဆက်တွဲ ပြီး၏။

မုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ)

❋❋❋❋❋❋❋❋ ❋❋❋❋❋❋❋❋